ညီညီသောင်း

# ဘာသာကြီးလေးခု

## အနှစ်သာရများ

ဟိန္ဒူဘာသာ

ဗုဒ္ဓဘာသာ

ခရစ်ယာန်ဘာသာ

အစ္စလာမ်ဘာသာ

ဒုတိယအကြိမ်

ညိုသောင်း

# ဘာသာကြီးလေးခု

## အနှစ်သာရများ

ဟိန္ဒူဘာသာ

ဗုဒ္ဓဘာသာ

ခရစ်ယာန်ဘာသာ

အစ္စလာမ်ဘာသာ

# မာတိကာ

# မာတိကာ

# မာတိကာ

# မာတိကာ

## စာရေးသူ၏ အမှာ

လွန်ခဲ့သည့် ရှစ်နှစ်ခန့်မှစ၍ ဘာသာရေး စာပေများနှင့် နီးစပ်မှု ရှိခဲ့ပါသည်။ သို့သော် စိတ်ဝင်စားမှု မရှိခဲ့ပါ။ အသက် အရွယ် မရသေးလို့ ထင်ပါသည်။ လွန်ခဲ့သည့် သုံးနှစ်လောက် အချိန်ကမှ အကြောင်းကိစ္စ တစ်ခုကြောင့် ဘာသာကြီးများကို လေ့လာရန် အခွင့် ကြုံခဲ့ရပါသည်။ လေ့လာကြည့်သော အခါ စိတ်ဝင်စားမှု ရှိလာသည်ကို တွေ့ရှိရပါသည်။

လေ့လာသည် ဆိုရာ၌ ထူးထူးခြားခြား တတ်မြောက်အောင် လေ့လာခြင်းမျိုးတော့ မဟုတ်ပါ။ အသင့်အတင့် သဘောကို သိလောက်ရုံ၊ နားလည်ရုံ အဆင့်သာ ရှိပါသည်။

လေ့လာရင်း စိတ်ကူးတစ်ခု ပေါ်လာခဲ့ပါသည်။ မည်သူမဆို မိမိကြိုက်နှစ်သက်ရာ ဘာသာကို ယုံကြည် ကိုးကွယ်နိုင်ခွင့် ရှိပါသည်။ လွတ်လပ်စွာ ကိုးကွယ် ယုံကြည်ခွင့် ရှိသဖြင့် နိုင်ငံတွင် ဘာသာ အမျိုးမျိုးကို ကိုးကွယ်ယုံကြည် နေကြသူများ ရှိကြပါသည်။

**စာပေဟောင်းလေးအိုးကြီး**

မည်သည့် ဘာသာဝင်မဆို မိမိကိုးကွယ် ယုံကြည် လက်ခံထား သော ဘာသာသည်သာလျှင် အကောင်းဆုံး၊ အမှန်ဆုံးဟု ယူမှတ်မြဲ ဖြစ်ပါသည်။ ထိုသို့ မှတ်ယူထားကြသဖြင့် မိမိ ကိုးကွယ်သောဘာသာမှ တစ်ပါး အခြားဘာသာများကို ပုတ်ခတ်ပြောဆို ရေးသားမှုများကိုလည်း ပြုလုပ်တတ်ကြပါသည်။ ဘာသာတရား အမျိုးမျိုးကို သက်ဝင်ယုံကြည်သူ နိုင်ငံသား အချင်းချင်း မုန်းတီး၍ စိတ်ဝမ်းကွဲပြားစရာများ ဖြစ်ပေါ် လာတတ်ပါသည်။

နိုင်ငံတစ်နိုင်ငံ၌ စည်းလုံး ညီညွတ်မှုကို ရရှိရန် အတွက် ဘာသာ တရား အမျိုးမျိုးကို ကိုးကွယ်ကြသော တိုင်းရင်းသား အချင်းချင်း တစ်ဦးအပေါ် တစ်ဦးက လေးစား၍ နားလည်မှု ရရှိရန် အလွန်ပင် အရေးကြီးပါသည်။ လူမျိုးပင် တူသော်လည်း ကိုးကွယ်ရာ ဘာသာ မတူ၍ စည်းလုံးမှု မရှိဘဲ ဒုက္ခအမျိုးမျိုး တွေ့ကြုံနေရသော နိုင်ငံ အများအပြားကို ကမ္ဘာ့သမိုင်း တစ်လျှောက်တွင် တွေ့ကြုံနိုင် ပါသည်။

ဘာသာအချင်းချင်း တစ်ဦးကိုတစ်ဦး လေးစား၍ နားလည်မှု ရှိရန်မှာ တစ်ဦးအကြောင်းကို တစ်ဦးကသိရှိထားရန် လိုအပ်မါသည်။ တစ်ဦးအကြောင်းကို တစ်ဦးက သိရှိထားခြင်းဖြင့် ရှောင်ရန်နှင့် ဆောင်ရန် ကိစ္စများကို သိရှိ နားလည် ထားနိုင်ပါသည်။ ဘာသာ အမျိုးမျိုး၏ အခြေခံ အနှစ်သာရ အချက်များကို လိုရင်းချုံ့၍ စာအုပ် တစ်အုပ်အဖြစ် ထုတ်ဝေရလျှင် တစ်နည်းတစ်လမ်းအားဖြင့် အထောက် အကူ ဖြစ်လိမ့်မည်လားဟု စိတ်ကူး ဖြစ်ပေါ်လာခဲ့ ပါသည်။

မိမိကြိုက်နှစ်သက်ရာ ဘာသာကို လွတ်လပ်စွာ ကိုးကွယ်ယုံကြည် ခွင့်ပြုထားသော နိုင်ငံများတွင် ဘာသာပေါင်း မြောက်မြားစွာ ရှိမည်သာ ဖြစ်ပါသည်။ မြန်မာနိုင်ငံတွင် ဘာသာပေါင်း မည်မျှပင်များပြားသည် ဖြစ်စေ၊ ဤစာအုပ်တွင် ဟိန္ဒူဘာသာ၊ ဗုဒ္ဓဘာသာ၊ ခရစ်ယာန် ဘာသာနှင့် အစ္စလာမ်ဘာသာ လေးခုကိုသာလျှင် ထည့်သွင်းဖော်ပြထားပါသည်။ ဤဘာသာများသည် ကမ္ဘာ့အတိုင်းအတာအရ ဖြစ်စေ၊ မြန်မာနိုင်ငံ အတိုင်းအတာအရ ဖြစ်စေ၊ ကိုးကွယ်သူအများဆုံး ရှိသော ဘာသာကြီးများ ဖြစ်ပါသည်။

ဘာသာကြီး လေးခုကို ဟိန္ဒူဘာသာ၊ ဗုဒ္ဓဘာသာ၊ ခရစ်ယာန် ဘာသာနှင့် အစ္စလာမ်ဘာသာဟူ၍ အစဉ်အတိုင်း စီစဉ် တင်ပြထားပါသည်။ ဤသို့ စီစဉ်ထားရပုံကို စကားဦး၌ ရှင်းလင်း ဖော်ပြထားပါသည်။

ဤစာအုပ်တွင် ဖော်ပြ ထားရှိသော ဘာသာများ၏ အကြောင်းအရာများသည် သက်ဆိုင်ရာ ဘာသာတွင် ကျွမ်းကျင်တတ်မြောက်ကြသော ပညာရှင်များ အတွက်ဆိုပါမူ မပြောပလောက်အောင် ကျဉ်းမြောင်းလှသည်ဟု ထင်မြင် ယူဆဖွယ် ရှိပါသည်။ သို့သော် ကျွန်တော်၏ ရည်ရွယ်ချက်ကား သက်ဆိုင်ရာ ပညာရှင်များ အတွက် မဟုတ်ဘဲ ဘာသာခြားများသိနားလည်လွယ်အောင် အရှင်းလင်းဆုံး၊ အလွယ်ကူဆုံးဖြင့် အခြေခံ သဘောများကို တင်ပြထားခြင်းသာ ဖြစ်ကြောင်း သိစေလို ပါသည်။ အမည်နာမများမှ လွဲ၍ (ဖြစ်နိုင်သရွေ့) ရိုးရိုးစကားလုံးများဖြင့် ရေးသားထားပါသည်။

ဘာသာတိုင်းတွင်ပင် အယူအဆ ရေးရာအရ သဘောကွဲလွဲသော ဂိုဏ်းအသီးသီး ရှိကြပါသည်။ မည်သည့်ဂိုဏ်း၏ အယူအဆပင် ဖြစ်စေကာမူ သက်ဆိုင်ရာ ဘာသာ၏ အယူအဆတစ်ရပ် အနေဖြင့်သာ တင်ပြခြင်း ဖြစ်ပါသည်။ တင်ပြပုံ ဆီလျော်အောင် အဆင်ပြေအောင် စီစဉ်ထားခြင်း ဖြစ်ပါသည်။ သာစေနာစေ သဘောဖြင့် ဖော်ပြခြင်း မဟုတ်ပါ၍ အမှားအယွင်းများ ပါရှိပါက ထောက်ပြကာ အကြံဉာဏ်များ ပေးစေလိုပါသည်။ စေတနာကောင်းဖြင့် အကြံဉာဏ်များ ပေးပို့လိုပါလျှင် စာအားဖြင့် ထုတ်ဝေသူမှ တစ်ဆင့် ပေးပို့ကြစေလိုပါသည်။

ဘာသာကြီး လေးခုတို့၏ အနှစ်သာရများကို ဤစာအုပ်ငယ်တွင် ဖော်ပြထားသမျှဖြင့် ပြည့်စုံပြီဟု မဆိုလိုပါ။ အရေးကြီးသော အခြားအခြေခံ အချက်များ ကျန်ရှိကောင်း ကျန်ရှိနေဦးမည်ဟု ယူဆထားပါသည်။ ဘာသာကြီး လေးခုတို့၏ အနှစ်သာရများကို ဤစာအုပ်ငယ် တစ်အုပ်ဖြင့် ပြီးပြည့်စုံမည် မဟုတ်သည့်အပြင် ဘာသာတစ်ခုတည်း၏ အနှစ်သာရများပင်လျှင် ဤစာအုပ် တစ်အုပ်ဖြင့် ပြည့်စုံမည် မဟုတ်ဟု ယူဆရပါသည်။

အကျဉ်းမျှ ငုံမိအောင် ရေးသားဖော်ပြခြင်း ဖြစ်၍ လုံလောက်ပြီဟု ဆိုဖွယ် ရှိပါ၏။ အတတ်နိုင်ဆုံး တူညီသော အခြေခံ အချက်များကို မူတည်ကာ ဖော်ပြထားပါသည်။ ကမ္ဘာလောကကြီးနှင့်တကွ လူ၊ တိရစ္ဆာန်၊ သက်ရှိသက်မဲ့တို့ စတင် ဖြစ်ပေါ်ပုံ၊ သုဂတိဘုံနှင့် ဒုဂ္ဂတိဘုံများ၊ သံသရာတွင် ကျင်လည်ခြင်း၊ လွတ်မြောက်ခြင်းတို့ အပြင် သက်ဆိုင်ရာ ဘာသာများ ပေါ်ပေါက်ခဲ့ပုံ စသည့် တူညီသော အခြေခံ အချက်များကို မူတည်ကာ ဖော်ပြထားခြင်း ဖြစ်ပါသည်။

စာပေဟောင်းလေးအိုးကြီး

မြားဆိပ်တက်နေသူအား မြားဆိပ်ပျောက်အောင် ကုသပေးရန် ပထမမူလ အဓိက လုပ်ငန်း ဖြစ်သည်။ မည်သူက ပစ်ခတ်သနည်း၊ မြားအမျိုးအစားက အဘယ်နည်း၊ မည်သည့် အရပ်မှ ပစ်ခတ်သနည်း စသော ကိစ္စများကား၊ မြားဆိပ်တက်သူကို မြားဆိပ်မှ မကယ်နိုင်၍ အဓိက လုပ်ငန်း မဟုတ်ပေ။ ထိုနည်းတူ ဗုဒ္ဓဘာသာဝင်တို့ကား သံသရာမှ လွတ်မြောက်၍ နိဗ္ဗာန် ကူးပြောင်းရေးသည် ပဓာနဖြစ်သည်။ နိဗ္ဗာန်ရောက် တရားသည်သာ လိုရင်းဖြစ်သည်။ သတ္တဝါ မည်သို့ စဖြစ်သည် စသည်တို့ကား လိုရင်း မဟုတ်ချေ။ ဤကဲ့သို့ပင် သဘော ထားကြသည်။ အရေးကြီးသော အချက်များပင် မဟုတ်ငြားသော်လည်း မှတ်သည်ထားသော အခြေခံ အချက်များ စုံလင်အောင် ပါဝင်စေရန်အတွက် သိသင့်သလောက် ဖော်ပြလိုက်ပါသည်။

ဤစာအုပ်ကို ဖြစ်မြောက်အောင် အကြံဉာဏ်များ ပြု၍ တည်းဖြတ် ပြင်ဆင် ပေးကြသော ဦးမောင်မောင်လေး၊ ဦးကျော်မြင့်နှင့် ဦးတင့်ဆွေ တို့ အပြင် အဘက်ဘက်က အကူအညီ ပေးကြသော အခြား မိတ်ဆွေ များအား ကျေးဇူး အထူး တင်ရှိပါကြောင်း မှတ်တမ်း တင်အပ် ပါသည်။

ညိုသောင်း

၁၄-၈-၇၅

## စကားဦး

ကမ္ဘာပေါ်ရှိ လူအများ ကိုးကွယ်ယုံကြည်ကြသော ဘာသာတရားတို့မှာ အလွန် များပြား၏။ သို့သော် လူအများစုတို့က လက်ခံကိုးကွယ်ကြသော ဘာသာတို့ကား မများလှချေ။

ဗုဒ္ဓဘာသာ၊ ခရစ်ယာန်ဘာသာ၊ အစ္စလာမ်ဘာသာ၊ ဟိန္ဒူဘာသာတို့မှာ လူအများဆုံး လက်ခံ၍ ကိုးကွယ်ကြသော ဘာသာတရားတို့ ဖြစ်သည်။

ဤစာအုပ်၌ ဗုဒ္ဓဘာသာဟု ဆိုလျှင် မဟာယာနဗုဒ္ဓဘာသာအကြောင်းကို သီးခြား ဖော်ပြခြင်း မပြုက ထေရဝါဒ ဗုဒ္ဓဘာသာကို ဆိုလိုခြင်း ဖြစ်ပါသည်။ မဟာယာန ဗုဒ္ဓဘာသာကို ဗုဒ္ဓဘာသာအနေဖြင့် အသိအမှတ် ပြုထားသော်လည်း ထေရဝါဒ ဗုဒ္ဓဘာသာနှင့် များစွာ ကွဲပြားသွားခဲ့ပြီး ဖြစ်သည်။

ဘာသာတရားကို နှစ်မျိုးနှစ်စား ခွဲခြားနိုင်သည်။ GOD ခေါ် ထာဝရဘုရား (ဝါ) နတ်ဘုရားကို လက်ခံသော ဘာသာနှင့် ထာဝရ

ဘုရားကို လက်မခံသော ဘာသာ ဟူ၍ ဖြစ်၏။ (ဗုဒ္ဓဘာသာမှ တစ်ပါး အခြားသော ဘာသာအားလုံးတို့သည် ထာဝရ ဘုရားကို လက်ခံသော ဘာသာများ ဖြစ်ကြသည်။) ဗုဒ္ဓဘာသာတွင်ကား ထာဝရဘုရား၏ အခန်းကဏ္ဍ မပါရှိပေ။

ထာဝရဘုရား ဟူသည်ကား ဤကမ္ဘာလောကကြီးနှင့် တကွ ရှိရှိသမျှ သက်ရှိသက်မဲ့ အရာဝတ္ထု အားလုံးတို့ကို ဖန်ဆင်းသော အနန္တ တန်ခိုးတော်ရှင်၊ အနန္တ မေတ္တာရှင်၊ အလုံးစုံကို သိတော်မူသော ဉာဏ်ရှင်ဖြစ်သည်။ ထိုအရှင်သည် စကြာဝဠာ အနန္တ၌ အနန္တ ကာလမှစ၍ အနန္တ ကာလတိုင်အောင် အစဉ်ထာဝရ တည်ရှိနေသည်။ ဖြစ်ပျက်ခြင်း သဘောတို့သည် ထိုအရှင်နှင့် မသက်ဆိုင်ချေ။

မည်သည့် အရာဝတ္ထု လူတိရစ္ဆာန်မဆို ထိုအရှင်၏ အလိုဆန္ဒ ကြောင့်သာ ဖြစ်လာရသည်။ ပျက်သွားရသည်။ ထာဝရ အရှင်သည် မည်သည့် ဝတ္ထုပစ္စည်းမှ မရှိဘဲလျက် တစ်စုံတစ်ခုကို ရှိလာအောင် စွမ်းဆောင် ဖန်တီးနိုင်သည်။ စကြာဝဠာ လောကကြီး မတည်ရှိမီကပင် ထာဝရ အရှင်မှာ ရှိနေပြီး ဖြစ်သည်။ စကြာဝဠာ ပျက်စီးသွားသော်လည်း ထိုအရှင်ကား ဆက်လက် ရှိနေပေဦးမည်။ ဤကား ထာဝရဘုရား၏ သဘောကို တင်ပြခြင်း ဖြစ်သည်။

ဗုဒ္ဓဘာသာတွင် ထာဝရဘုရား၏ နေရာသည် မရှိပေ။ ဤ အချက်ကြောင့်ပင် အနောက်တိုင်းသားအချို့က ဗုဒ္ဓဘာသာကို ဘာသာ တရား မဟုတ်ဟူ၍ ယူဆကြသည်။ လူ့ဘဝ တွေးခေါ်မြော်မြင်ရေး သဘော တရားသာ ဖြစ်သည်ဟု ဆိုသည်။ သို့သော် သံသရာမှ လွတ်မြောက်ရေးတည်း ဟူသော ဘဝလွတ်မြောက်ရေး ပါရှိသည့်

တွေးခေါ် မြော်မြင်ရေး သဘောတရားသည် ဘာသာတရားတစ်ခု ဖြစ်ကြောင်းကို သတိမပြုမိကြချေ။

အချို့ ပုဂ္ဂိုလ်တို့ ကလည်း ဗုဒ္ဓဘာသာတွင် စောစောပိုင်း ခေတ်ကာလ၌ ထာဝရ ဘုရားကို ယုံကြည်သော အယူအဆများ ရှိလေဟန် ရေးသား ပြောဆိုကြသည်။ "ယုံကြည်မှုနှင့် ပတ်သက်လျှင် တစ်ဘာသာနှင့် တစ်ဘာသာ မတူ၊ ကွဲပြားနိုင်သော်လည်း ဘာသာ တိုင်းတွင် ယုံကြည်မှု တစ်မျိုးမျိုး ရှိသည်ကို သတိထား၍ လေ့လာလျှင် သိနိုင်ပါသည်။ ဥပမာအားဖြင့် ဟီးဘရူးနှင့် ခရစ်ယာန် ဘာသာတို့က ထာဝရဘုရား တစ်ဆူတည်းသာ ရှိကြောင်း၊ ထိုဘုရားသည်လည်း ပုဂ္ဂိုလ်တစ်ဦးပင် ဖြစ်ကြောင်းကို လက်ခံယုံကြည်ကြသည်။ ဗုဒ္ဓဘာသာနှင့် ဂရိတ်ဘာသာ စသော ဘာသာများ၌ မူကား ပေါ်ထွန်းကာစတွင် ထာဝရဘုရား၏ သဘောမျိုးကို တွေ့ရသည်ဟူ၍ ရေးသား ဖော်ပြ ကြသည်။[၁]

ထေရဝါဒ ဗုဒ္ဓဘာသာသည် စတင်ပေါ်ပေါက်လာသည့် အချိန်မှ စ၍ ယခုကာလ တိုင်အောင် ထာဝရ ဘုရား၏ အယူအဆမျိုးကို လက်မခံခဲ့ပေ။ မဟာယာန ဗုဒ္ဓဘာသာသည်သာလျှင် ဘုရားပွင့်တော် မူပြီးနောက် ရာစု အတော်ကြာလာသောအခါ ဟိန္ဒူဘာသာ၏ အယူ အဆများဖြင့် ရောသွားကာ ထာဝရဘုရား အယူအဆများကို လက်ခံ လာခဲ့ကြသည်။ အချို့ပုဂ္ဂိုလ်များက မဟာယာန ဗုဒ္ဓဘာသာကို သီးခြား ဘာသာတရား တစ်ခု အဖြစ်ဖြင့်ပင် အသိအမှတ် ပြုကြ ရသည်။

၁။ Religion in Modern Life P. 14

လူသားတို့၏ ကောင်းကျိုး ဆိုးကျိုးများကို ထာဝရဘုရားသခင်က ဖန်ဆင်းခြင်း ဖြစ်သည်ဟု ထာဝရဘုရားကို လက်ခံသော ဘာသာများက ယူဆကြသည်။ ဗုဒ္ဓဘာသာကား မိမိတို့၏ အနာဂတ်ကို မိမိတို့ ကပင် ပုံသွင်းပေးသည်ဟု ယူဆသည်။ မိမိတို့၏ ယခုမျက်မှောက်တွင် ပြုလုပ်ခဲ့သော အကောင်း အဆိုး၊ ကုသိုလ်၊ အကုသိုလ်ကံ တည်း ဟူသော ကမ္မတရားကြောင့် နောင်အနာဂတ်တွင် အကျိုးတရားကို ခံစားရသည်။ ယခုဘဝတွင် ကောင်းသောအလုပ်ကို ပြုလုပ်သူသည် နောင်တမလွန် ဘဝ၌ ကောင်းကျိုးချမ်းသာကို ရရှိမည်။ မကောင်းမှုကို ပြုလုပ်သူသည် မကောင်းသော အကျိုးကို ရရှိလိမ့်မည်။ ထို့ကြောင့် နောင်ဘဝ၏ ကောင်းကျိုး ဆိုးကျိုးအတွက် မိမိပင်လျှင် တရားခံ၊ အခြား မည်သူမျှ တာဝန်မရှိ၊ မိမိပင်လျှင် နောင်ဘဝ၏ ဗိသုကာ၊ မိမိပင်လျှင် အနာဂတ်၏ ဒီဇိုင်းနာ ဖြစ်တော့သည်။ ရှေးဘဝက ကုသိုလ်ကံ အကုသိုလ်ကံအတိုင်း ယခုဘဝ၌ ဖြစ်ရသည်ကို ကြားမှ မည်သူကမျှ ဝင်တား၍ မရပေ။

ထာဝရဘုရား ဘာသာတို့တွင် ကံ၏တရားအကြောင်း လုံးဝ မရှိသည်ကား မဟုတ်ပေ၊ ရှိချေပါသေးသည်။ "မိမိတို့ စိုက်ပျိုးသည့် အတိုင်း ရိတ်သိမ်းကြရလိမ့်မည်" ဆိုသော အယူအဆ ရှိသည်။ ကံတရားကို ဖော်ဆောင်သော ဥပမာ ဖြစ်၏။ ထိုဘာသာတို့တွင် ကံတရားအကြောင်းပင် ရှိသော်ငြားလည်း ထိုကံတရားသည် မိမိအလို အလျောက် အကျိုးပေးခြင်းမျိုး မဟုတ်ဘဲ ထာဝရဘုရား၏ အလိုတော် အတိုင်း ကံတရားကို အကျိုးပေးစေသည်။ ဟိန္ဒူ ဘာသာ၌လည်း ကမ္မတရားသည် ရှိနေခဲ့ရာ ထိုကံတရားကို ဗြဟ္မာက ကြိုးကိုင်ပေးသည်။

ဗုဒ္ဓဘာသာသည် ကမ္ဘာတရားကို လုံးဝပြောင်းလဲသော အဓိပ္ပာယ်ဖြင့် ဖော်ဆောင်ခဲ့သည်။

ထာဝရဘုရား ဘာသာများနှင့် ဗုဒ္ဓဘာသာတို့၏ ကွဲပြားခြားနား ချက်တွင် အရေးကြီးသည့် အခြား အချက်တစ်ခုကား အတ္တဝါဒနှင့် အနတ္တဝါဒပင် ဖြစ်သည်။ ထာဝရဘုရား ဘာသာတိုင်းတွင် အတ္တခေါ် ဝိညာဉ်သည် ရုပ်နှင့်နာမ်တို့အပြင် အမှန်တကယ်ရှိသော ဓာတ်တစ်ပါး အဖြစ် အသိအမှတ်ပြုကြသည်။

အတ္တခေါ် ဝိညာဉ်၏ သဘောကား လူသားတိုင်း ရုပ်ခန္ဓာကိုယ် နှင့် ဝိညာဉ်တို့ တည်ရှိ၏။ ဝိညာဉ်သည် ရုပ်မဟုတ်ပေ။ လူသားများ သေဆုံးသောအခါ ဝိညာဉ်တို့သည် မိမိတို့ အသက်ရှင်နေစဉ် ပြုလုပ် ခဲ့သော ကောင်းမှု မကောင်းမှုတို့အလိုက် ဘုရားသခင်၏ စီရင်ချက်ဖြင့် သုခဘုံနှင့် ငရဲဘုံတို့သို့ သွားရောက်ကြရသည်။ လူ၏ခန္ဓာကိုယ်၌ အတ္တရှိပုံကို ဤသို့ဖော်ပြကြသည်။

'စကားပြောဆိုရာတွင် လူသည် (ငါမြင်၏) (ငါပြော၏) (ငါ သွား၏) စသည်ဖြင့် ပြောဆို၏။ ဤ(ငါ)ကား မည်သူပါနည်း၊ ဤ (ငါ)ကား ခန္ဓာမှ တခြားကွဲပြားသည်ဖြစ်ကြောင်း သိသာ၏။ လူသည် စဉ်းစားတွေးခေါ်သောအခါ အခြားသူတစ်ဦးနှင့် တိုင်ပင်သကဲ့သို့ ရှိကြောင်း ထင်ရှားသည်။ သူသည် (ငါသည်) ဤကိစ္စကို ပြုလုပ်ရမည် လော၊ သို့မဟုတ် မပြုလုပ်ရဘူးလော။ ငါသည် ဤအလုပ်ကို ပြုလုပ် လျှင် မည်သို့ အကျိုး ပေါ်ထွက်လိမ့်မည်နည်း စသည့် မေးခွန်းမျိုး မေးမြန်းသည့် အခါ၌လည်းကောင်း၊ သို့မဟုတ် အခြားအစစ်အမှန်ကို မေးမြန်းသောအခါ အကယ်၍ (ငါသည် ဤကိစ္စကို ပြုလုပ်လျှင်

ဘာများ ကန့်ကွက်စရာ ရှိပါသနည်း) စသည်ဖြင့် မေးမြန်း နှီးနှောသော အခါ အခြားသော အစစ်အမှန် သို့မဟုတ် ဤခန္ဓာမှအပ အခြားခန္ဓာနှင့် တိုင်ပင်နေကြောင်း ထင်ရှားလေသည်။ ထိုအခါ လူတွင်ရှိသော အစစ်အမှန်သည် ပြဿနာရုပ်နှင့် ပတ်သက်၍ ထိုလူအား ထင်မြင်ချက်ကို အကြောင်းကြားပေး၏။ ထို့ကြောင့် ယင်းအစစ်အမှန်သည် လူ၏ခန္ဓာမှ အပ (အခြားဖြစ်သော ငါဟူသောအတ္တ)နှင့် တိုင်ပင်၏။ အကြံဉာဏ် ထင်မြင်ချက်ကို ရယူ၏။*

ဗုဒ္ဓဝါဒကား အနတ္တဝါဒဖြစ်၏။ လူသားတို့တွင် ရုပ်နှင့်နာမ် (စိတ်)တို့မှတစ်ပါး အခြား မည်သည့်အမှန်တရားမျှ မရှိဟု ယူဆလေ သည်။ လူ၏ခန္ဓာကိုယ်ကို ခွဲခြမ်းစိတ်ဖြာ၍ အတ္တကို ရှာပါသော်လည်း ကိုယ်အင်္ဂါအစိတ်အပိုင်း ရုပ်ဝတ္ထုတို့မှလွဲ၍ အတ္တကို ရှာမတွေ့ဘဲရှိ၏။ ဤအရာကား အတ္တပင်တည်းဟူ၍ ကိုင်ပြစရာ မရှိပေ၊ ထို့ကြောင့် အနတ္တမည်ကြောင်း ပြသလေသည်။

ဗုဒ္ဓဘာသာတွင် နတ်များအကြောင်း မပါရှိသည်ကား မဟုတ်ချေ၊ ရှိ၏။ သို့သော် ထိုနတ်တို့မှာ လူသားတို့၏ ကံကြမ္မာကို ဖန်ဆင်းပေးနိုင် သူများ မဟုတ်ကြ၊ တန်ခိုးပါဝါရှိသောနတ်များ ဖြစ်ကြသော်လည်း လူတို့၏ ကံတရားကို စီမံနိုင်ခြင်း မရှိချေ။ လူသားတို့၏ ကံကြမ္မာကို ဗုဒ္ဓဘုရားသော်မှ မစီမံနိုင်ပေ။

ဤနေရာတွင် ဗုဒ္ဓဘုရားနှင့် ထာဝရဘုရားတို့၏ ခြားနားပုံကို သိမြင်နိုင်မည်ဖြစ်သည်။ ဗုဒ္ဓမှာ လူသားအထဲမှ လူသားဘုရားသာ ဖြစ်သည်။ ထာဝရဘုရားမှာ နတ်ဘုရားဖြစ်၏။ ဗုဒ္ဓဘုရား ဖြစ်လိုသော

* ကမ္ဘာ့စည်းလုံးရေးအခြေခံများကျမ်းမြန်မာပြန် (စာ၃၅၈-၃၅၉)

လူသားသည် ပါရမီရင့်က ဖြစ်နိုင်သည်။ ပွင့်တော်မူခဲ့ပြီးသော လူသား ဘုရားများလည်း မနည်းတော့ပြီ။

ထာဝရဘုရားကို အခြေပြုသော ဘာသာကြီး ၃ ခုတို့တွင် ခရစ်ယာန်ဘာသာနှင့် အစ္စလာမ်ဘာသာတို့သည် တစ်ဆူတည်းသော ထာဝရဘုရားဝါဒကို လက်ခံထားကြသည်။ ဟိန္ဒူဘာသာသည်ကား ထူးခြားနေ၏။ ထာဝရဘုရားအပြင် အခြားသော နတ်ဘုရားများလည်း ရှိသေး၏။ မီးနတ်၊ လေနတ်၊ ယာမနတ် စသည်ဖြင့် ဘုရားအများအပြား ရှိသည်။ ထို့ကြောင့် ဟိန္ဒူဘာသာ၏ ထာဝရဘုရားဝါဒသည် ခရစ်ယာန်၊ အစ္စလာမ် စသော ထာဝရဘုရားဝါဒနှင့် အနည်းငယ် ကွဲပြားခြင်း ဖြစ်သည်။

အချို့သော ပညာရှင်များက ထာဝရဘုရား ကိုးကွယ်မှု အယူအဆကို နတ်ဘုရား အများအပြား ကိုးကွယ်သော ဓလေ့မှ တစ်ဆင့်တိုး၍ ပြောင်းလဲလာသော အယူအဆဟု ထင်မြင်ကြသည်၊ နတ်ဘုရား အများအပြားကို ကိုးကွယ်သော ဓလေ့တွင် နတ်ဘုရားတိုင်း၌ သီးခြား တန်ခိုးအာဏာတစ်မျိုးစီ ရှိသည်။ ထိုနတ်ဘုရားများ၏ တန်ခိုးမျိုးစုံကို ပိုင်ဆိုင်သော အရှင်သခင် ထာဝရသခင်ကို ကိုးကွယ်သည့် အဆင့်သို့ တိုးမြှင့်ကြံစည်ခဲ့ကြသည်ဟု ယူဆကြခြင်း ဖြစ်သည်။

ဟိန္ဒူဘာသာရှိ ဘုရား အများအပြားတို့မှာ ထာဝရဘုရားက အသွင်အမျိုးမျိုးဖြင့် ဖော်ဆောင်ထားသော နတ်ဘုရားများပင် ဖြစ်သည်ဟု ယူဆကြသည်။ ဟိန္ဒူဘာသာသည် ထာဝရဘုရားဝါဒကို လက်ခံသော်လည်း နတ်ဘုရား အမျိုးမျိုး အယူအဆကို မစွန့်လွှတ်ပေ၊

* An Introduction to Indian Philosophy P.358

သို့သော် ဘုရားများ၏ တစ်သားတည်းကျသည့် ညီညွတ်မှုကို ထာဝရဘုရား အယူအဆဖြင့် ရရှိလေသည်။

ဤစာအုပ်တွင် ဘာသာကြီး ၄ ခုတို့ကို ယင်းတို့၏ သမိုင်းဖြစ်ရပ်အစီအစဉ်အတိုင်း ဖော်ပြထားပါသည်။ သမိုင်းဖြစ်ရပ် အစီအစဉ်ဆိုရာ၌ ကမ္ဘာလောကကြီးနှင့် လူသားတို့ကို စတင်ဖန်ဆင်း ဖြစ်ပေါ်လာသည်ကို ဆိုလိုခြင်း မဟုတ်ပါ။ သက်ဆိုင်ရာ ဘာသာကြီးများကို စနစ်တကျ စတင်ဖော်ထုတ်သည့် ပုဂ္ဂိုလ်ကြီးတို့၏ အသက်ထင်ရှားရာ ကာလကို ဆိုလိုပါသည်။ ဤအစီအစဉ်အရ ဟိန္ဒူဘာသာသည် ရှေးဦးစွာ ပေါ်ထွန်း၍ ဗုဒ္ဓဘာသာ၊ ခရစ်ယာန်ဘာသာနှင့် အစ္စလာမ်ဘာသာတို့ အစဉ်အတိုင်း ဖြစ်ပေါ်ခဲ့လေသည်။

ဟိန္ဒူဘာသာကို စတင်ဖော်ထုတ်သည့် အချိန်ကာလ အတိအကျကို ပြောရန် မလွယ်ကူပေ၊ ခန့်မှန်းခြေ ခုနှစ်သက္ကရာဇ်များပင်လျှင် တစ်ခုနှင့်တစ်ခု မတူညီဘဲ ကွဲပြားကြသည်ကို တွေ့ရပါသည်။ ဟိန္ဒူဘာသာ၏ အယူအဆများကို တစ်ချိန်တည်း တစ်ခါတည်းတွင် ဖော်ထုတ်ခဲ့ခြင်းလည်း မဟုတ်သဖြင့် အတိအကျ ပြောဆိုရန် မဖြစ်နိုင်ချေ။ ဟိန္ဒူဘာသာရေးကျမ်းများကို ရာစုပေါင်းများစွာ အတွင်း ရေးသားခဲ့ကြခြင်း ဖြစ်သည်။ ဟိန္ဒူဘာသာသည် ဂေါတမ ဗုဒ္ဓ၏ တရားတော်များကိုလည်း ဟိန္ဒူဘာသာ၏ အစိတ်အပိုင်း တစ်ရပ်အနေဖြင့် လက်ခံထားခဲ့ကြ၏။

ဟိန္ဒူဘာသာတွင် ထာဝရဘုရားသခင်သည် လူသားတို့ထံ၌ အဓမ္မမှုများပြားလာ၍ ဓမ္မတရားများ လွှမ်းမိုးစေလိုသောအခါ ထာဝရအရှင်သည် လူ့ဘဝ၌ လူဝင်စားအဖြစ်ကို ရယူကာ ဓမ္မတရားစိုးမိုးရေးကို

လုပ်ဆောင်၏။ ဤကမ္ဘာလောကကြီး၌ ထိုကဲ့သို့ လူဝင်စား ဘုရားပေါင်း ၁၀ ပါးပွင့်ရန် ဗျာဒိတ် ရှိသည်။ ယခုအခါ ၉ ပါးပွင့်တော်မူပြီး၍ နောက်တစ်ပါးသာ ကျန်ရှိတော့သည်။ နောက်ဆုံး ပွင့်တော်မူခဲ့ပြီးသော ဘုရားကား ဂေါတမဗုဒ္ဓပင်တည်း။

ဗုဒ္ဓဘုရားကို ထည့်သွင်းရေတွက်ခြင်း မပြုဘဲ (သီးခြား ဗုဒ္ဓဘာသာ အဖြစ် ဖော်ပြထား၍) ပွင့်တော်မူပြီးသော ဟိန္ဒူဘုရားများတို့အနက် အထင်ရှားဆုံးသော ဘုရားနှစ်ဆူတို့ကား ရာမနှင့် ကရိဿျနား တို့ဖြစ်၏။ ထိုဘုရားရှင်တို့သည် ဗုဒ္ဓဘုရား မတိုင်မီ ပွင့်တော်မူကြသော အမှတ်စဉ် (၇)နှင့် (၈)မြောက် ဘုရားများ ဖြစ်ကြသည်။ ရာမဘုရား ပွင့်တော်မူသည့် အချိန်ကာလကို ဘီစီ ၂၀၀၀ ပတ်ဝန်းကျင်ခန့်ဟု ခန့်မှန်း၍ ကရိဿျနား ဘုရားကား ဘီစီ ၁၄၀၀ ခန့်ဟု ယူဆကြသည်။ ကရိဿျနား ဘုရား လက်ထက် ဖြစ်ပွားခဲ့သော ရှေးခေတ်အိန္ဒိယနိုင်ငံ၏ အကြီးဆုံးစစ်ပွဲ မဟာဘာရတ စစ်ဖြစ်ချိန်ကို အခြေပြု၍ ခန့်မှန်းကြခြင်းဖြစ်သည်။

ကောရဗျနှင့် ပဏ္ဍဝမင်းတို့အကြား ဖြစ်ပွားသော ယင်းမဟာ ဘာရတ စစ်ပွဲတွင် ကရိဿျနား ဘုရားသည် ဓမ္မဝါဒီများကို သုတ်သင် ရှင်းလင်း နိုင်စေရန်အတွက် ဓမ္မတရားကို လက်ကိုင်ထားသော ပဏ္ဍဝ မင်းတို့ဘက်မှ ပါဝင်ခဲ့သည်။ သို့သော် ကရိဿျနားသည် တိုက်ပွဲ၌ တိုက်ရိုက်ပါဝင်ခြင်း မပြုပေ။ ပဏ္ဍဝမင်းသား အာဇုန၏ ရထားထိန်း အဖြစ်သာ ပါဝင်ခဲ့သည်။

မိမိတို့နှင့် ရင်ဆိုင်တိုက်ခိုက်ရသည့် ကောရဗျမင်းသားတို့မှာ အဓမ္မဝါဒီ တို့ပင် ဖြစ်သော်ငြားလည်း မိမိတို့နှင့် သွေးသားချင်း

၁။ Vedic Age

ဆက်စပ်နေသူများဖြစ်၍ ညီနောင်မင်းသား အချင်းချင်း သတ်ဖြတ်ကြရမည့် တိုက်ပွဲကို တိုက်သင့် မတိုက်သင့် ချင့်ချိန်တွေးတောကာ ပဏ္ဍဝမင်းသားအာဇုနမှာ တွေဝေနေလေ ၏။ ထိုအချိန်တွင် ရထားထိန်း ကရိဿျနား ဘုရားသည် ကမ္ဘာလောကကြီး၌ ဓမ္မတရား စိုးမိုးရေး အတွက် စစ်ပွဲကို တိုက်ခိုက်ရမည် ဖြစ်ကြောင်းကို အာဇုနမင်းသားအား တရားဟောလေသည်။

ထိုစစ်ပွဲတွင် ကရိဿျနားဘုရား ဟောကြားသောတရားတို့ကို ဘဂဝါ ဂီတကျမ်းတွင် ဖော်ပြထားသည်။ဘဂဝါဂီတကျမ်းသည် ဟိန္ဒူဘာသာ အယူအဆများကိုပီပီပြင်ပြင် ဖော်ပြထားသော ကျမ်းတစ်စောင် ဖြစ်သည်။ ဗုဒ္ဓဘုရားမှတစ်ပါး ပွင့်တော်မူခဲ့ပြီးဖြစ်သော ဟိန္ဒူဘုရားများအနက် နောက်ဆုံးပွင့်တော်မူသည့် ကရိဿျနားဘုရား၏ ပွင့်တော်မူခဲ့သော အချိန် ကာလကိုပင် ထောက်လျှင် ယခုဖော်ပြလတ္တံ့သော ဘာသာကြီး ၄ခုအနက် ဟိန္ဒူဘာသာသည် ရှေးအကျဆုံး ဖြစ်ကြောင်း တွေ့ရှိပေသည်။

ခရစ်ယာန်ဘာသာ ဓမ္မဟောင်းကို အခြေပြု၍ ခရစ်ယာန်ဘာသာ သည်လည်း အလွန်ရှေးကျသော ဘာသာဟု စောဒကတက်နိုင်မည် ဖြစ်သော်လည်း ခရစ်တော်သည်သာလျှင် ခရစ်ယာန် ဘာသာတရား စတင် တည်ထောင်သူ ဖြစ်သည်။ ထို့ကြောင့် ခရစ်တော်ပေါ်ထွန်းသည့် ကာလမှ စ၍ သာလျှင် ရေတွက်ရမည် ဖြစ်သည်။ ဓမ္မဟောင်းကျမ်း ကာလသည်ကား ဂျူးဘာသာ ကာလသာ ဖြစ်လေသည်။

မဟာဘာရတ စစ်ပွဲကာလကို အချို့ပညာရှင်များက ဘီစီ ၁၀၀၀ ပတ်ဝန်းကျင် ဖြစ်မည်ဟု ခန့်မှန်းကြသည်။ ဤမှန်းဆချက်သာ

မှန်ကန် နိုင်လျှင် ဘာသာကြီး ၄ခုတို့၏ တစ်ခုနှင့်တစ်ခု အချိန်ကာလ အားဖြင့် အကွာအဝေးမှာ နှစ်ပေါင်း ၅၀၀စီ ကွာခြားသည်ဟု အကြမ်း အားဖြင့် ခန့်မှန်း ပြောဆိုနိုင်ပြီ ဖြစ်သည်။ ဗုဒ္ဓလောင်းလျာ သိဒ္ဓတ္ထ မင်းသားကို ဘီစီ ၅၆၇ခုနှစ်တွင် ဖွားမြင်တော်မူ၍ ယေရှုခရစ်တော်ကို ဘီစီ ၂ခုနှစ်တွင် ဖွားမြင်ခဲ့ပြီး အစ္စလာမ်ဘာသာကို ဖော်ထုတ်သူ မုဟမ္မဒ်အား ခရစ်နှစ် ၅၇၁ခုနှစ်တွင် ဖွားမြင်ခဲ့သည်။ ဟိန္ဒူ ဘာသာ၏ နောက်ဆုံး ဘုရား ဖြစ်သော ကရိသျှနား တစ်ပါး တည်း၏ တရားဖြင့် ဟိန္ဒူဘာသာ အယူအဆများအား ပြည့်စုံဦးမည် မဟုတ်ပေ။ ကရိသျှနားမတိုင်မီ နှစ်ရာစုပေါင်း များစွာကပင် ဟိန္ဒူဘာသာ အယူအဆများကို ဖော်ထုတ်ပြီး ဖြစ်လေသည်။

ဘာသာကြီး ၄ ခုတို့ကို ပေါ်ထွန်းရာဒေသအလိုက် ခွဲခြားနိုင်၏။ ဟိန္ဒူဘာသာနှင့်ဗုဒ္ဓဘာသာတို့သည် အိန္ဒိယ၌ ပေါ်ထွန်းခဲ့သကဲ့သို့ ခရစ် ယာန် ဘာသာနှင့် အစ္စလာမ်ဘာသာတို့ကား ယခုအခေါ်အားဖြင့် အရှေ့ အလယ်ပိုင်း အရပ်တွင် ပေါ်ပေါက်ခဲ့သည်။ ဤဘာသာကြီး ၄–ခုတို့သည် ပေါ်ထွန်းရာ အရပ်၌သာ တူညီကြသည် မဟုတ်သေး၊ အယူအဆရေးရာ အရလည်း တူတန်သလောက် တူညီကြသေး၏။ ထပ်တူထပ်မျှ တူညီခြင်း မျိုးကား မဟုတ်ချေ။ လိုရင်း အဓိကအချက်တွင် တူညီသည်လည်း ရှိ၏၊ မတူညီသည်လည်း ရှိသည်။

ခရစ်ယာန်ဘာသာနှင့် အစ္စလာမ်ဘာသာတို့သည် တစ်ဆူတည်း သော ထာဝရဘုရားသခင်အယူအဆ၌ တူညီကြသော်လည်း ဟိန္ဒူ ဘာသာနှင့် ဗုဒ္ဓဘာသာတို့သည်ကား ဤကိစ္စမျိုးတွင် ကွဲပြားခြားနားသည်။ ဟိန္ဒူဘာသာသည် ထာဝရဘုရားအယူအဆကို လက်ခံသောဘာသာ ဖြစ်သော်လည်း ဗုဒ္ဓဘာသာကား ထိုအယူအဆကို လက်မခံပေ။

**တပေဟောင်းလေးအိုးကြီး**

ကမ္ဘာလောကကြီး တည်ခြင်းပျက်ခြင်းတို့တွင် ဟိန္ဒူဘာသာနှင့် ဗုဒ္ဓဘာသာတို့ အယူအဆ တူညီသယောင် ရှိသော်လည်း ဟိန္ဒူဘာသာအလိုအရကား ထာဝရ ဘုရားသခင်၏ ဖန်ဆင်းမှု ဖြစ်ကြောင်းကို ဖော်ပြထားသည်။

သတ္တဝါအများ သံသရာ၌ ကျင်လည်ရပုံတွင် ဤဘာသာနှစ်ခုတို့သည် အခြားဘာသာများဖြစ်သော ခရစ်ယာန်၊ အစ္စလာမ် ဘာသာတို့နှင့် မတူကြချေ။ အစ္စလာမ်ဘာသာနှင့် ခရစ်ယာန်ဘာသာတို့တွင် တမလွန်ဘဝရှိကြောင်း ပြဆိုသော်လည်း ဘဝအဆက်ဆက်ရှိကြောင်းကို မပြဆိုကြပေ။ ဟိန္ဒူဘာသာနှင့် ဗုဒ္ဓဘာသာတို့မူကား သံသရာတွင် ဘဝအဆက်ဆက် ကျင်လည်ရပုံတို့ကို ပြဆိုရာတွင် တူညီကြသည်။ သို့သော် လည်ပတ်ပုံချင်းကား မတူညီကြသေးချေ။

သံသရာ၌ ကျင်လည်ရာတွင် သတ္တဝါတို့သည် မိမိတို့၏ ကမ္မတရားအရ ကျင်လည် ရကြောင်းကို ဗုဒ္ဓဘာသာက ဆို၏။ ဟိန္ဒူဘာသာတွင်လည်း ကမ္မတရားကို သံသရာ၌ ကျင်လည်ရပုံတွင် ဖော်ပြကြ၏။ သို့သော် ထာဝရဘုရား၏ အလိုဆန္ဒကိုပါ ထည့်သွင်းဖော်ပြကြသည်။

ဟိန္ဒူဘာသာနှင့် ဗုဒ္ဓဘာသာတို့တွင် သံသရာကျင်လည်ရခြင်းသဘောတရားများ တူညီကြသော်လည်း အတ္တခေါ်သော ဝိညာဉ်ကိစ္စတွင် ကွဲပြားသွားကြသည်။ ဟိန္ဒူအလိုအားဖြင့် သံသရာအဆက်ဆက်ဘဝလည်ပတ်ရာတွင် သတ္တဝါ၏ ဝိညာဉ်သည် လက်ရှိခန္ဓာကိုယ်အားသေဆုံးသောအခါ စွန့်ပစ်၍ ဘဝသစ်၏ ခန္ဓာတွင် ပြန်လည်ဝင်ရောက်ရသည်။ ဗုဒ္ဓ၏အလိုကား အတ္တခေါ်သော ဝိညာဉ်သည် မရှိချေ။

သံသရာမှ လွတ်မြောက်ရေး တရားနှင့် လွတ်မြောက်သောပန်းတိုင်တို့တွင်လည်းမတူ၊ ကွဲပြားခြားနားပြန်သည်။ ဟိန္ဒူတို့၏အကျင့်မှာ ယောဂယျအားဖြင့် ပြင်းထန်သည်၊ ဗုဒ္ဓ၏ ကျင့်စဉ်ကားမဇ္ဈိမပဋိပဒါနည်း (ဝါ) အလယ် အလတ်လမ်းစဉ် ဖြစ်သည်။

ဆင်းရဲဒုက္ခမှ လွတ်မြောက်သွားပုံမှာလည်း ကွဲပြားသည်၊ ဗုဒ္ဓဘာသာတွင် နိဗ္ဗာန်သို့ ကူးပြောင်းသွားသောအခါ သတ္တဝါ၏ ဘဝမှာပြတ်သွားလေတော့သည်။ ဒုက္ခအားလုံး အေးငြိမ်းသွားတော့၏။ ဟိန္ဒူဘာသာ၏ လွတ်မြောက်မှုကား ဗြဟ္မာလောကသို့ ရောက်ရှိသွားခြင်းကိုခေါ်သည်။ ဗြဟ္မာလောကသို့ ရောက်ရှိသွားသူသည် မိမိ၏ တစ်ဦးချင်းဝိညာဉ်ဘဝကို ဆက်လက်ရယူထားနိုင်သည်။ (ဟိန္ဒူဘာသာတွင်ဝိဝါဒ ကွဲပြားသော ပညာရှင်များပြား၍ တချို့ပညာရှင်တို့၏ အလိုအရဆိုပါမူ လွတ်မြောက်ပြီးသော ဝိညာဉ်သည် ဗြဟ္မာကြီးထဲသို့ ရောက်ရှိသွားသောအခါ ဗြဟ္မာကြီးနှင့် ခွဲမရအောင် တစ်သားတည်း ဖြစ်သွားတော့သည်ဟုလည်း ယူဆကြသည်။)

ဗုဒ္ဓဘာသာတွင် သံသရာမှ လွတ်မြောက်သွားသူသည် တစ်ဖန်ဘဝ၌ မဖြစ်တော့ပေ၊ ဟိန္ဒူဘာသာ၌ လွတ်မြောက်ပြီးသော သူတို့၏ဝိညာဉ်တို့သည် ကမ္ဘာလောကကြီးသို့ ပြန်လာကာ မိမိတို့အလိုရှိသလိုခန္ဓာကိုယ်ကို ရယူ၍ လူသားများ လွတ်မြောက်ရေးအတွက် ကူညီဆောင်ရွက် ပေးကြရသည်။ ဗြဟ္မာက စေခိုင်းသော တာဝန်များကိုယာယီသဘောဖြင့် ကမ္ဘာလောကကြီးသို့ လာရောက်ကာ ထမ်းဆောင်ကြရသည်။

မည်သို့ပင်ဆိုစေကာမူ ဟိန္ဒူဘာသာနှင့် ဗုဒ္ဓဘာသာတို့သည် နီးနွယ်ဆက်စပ်မှုရှိ၏။ အခေါ်အဝေါ် အဖြစ်အပျက် အယူအဆ အားဖြင့်လည်း တူညီမှု ရှိသေး၏။ ဣန္ဒာသိကြားမင်း၊ မာတလိနတ် စသော နတ်အယူအဆများ၊ အသူရာ၊ ဂန္ဓဗ္ဗ စသည်များနှင့် အဖြစ်အပျက်တို့၏ တည်ရာ တိုင်း၊ နိုင်ငံ၊ ပြည်၊ မြို့၊ ရွာတို့၏ အမည်နာမများမှာ နှစ်ဘာသာလုံးတွင် တွေ့ရသော တူညီမှုများ ဖြစ်သည်။

ဤကဲ့သို့ပင် ခရစ်ယာန်ဘာသာနှင့် အစ္စလာမ်ဘာသာတို့တွင်လည်း တူညီမှုရှိသည်ကို တွေ့ရသည်။ ထိုဘာသာတို့၏ ထာဝရဘုရားများဖြစ်ကြသော ယေဟောဝါလနှင့် အလ္လာဟ်အရှင်မြတ်တို့မှာ အမည်ခြားနား ခေါ်ဝေါ်ကြသော်လည်း တစ်ပါးတည်းသော ဘုရားပင်ဖြစ်သည်။ ခရစ်ယာန်နှင့် အစ္စလာမ် ဘာသာတို့သာ မကသေးဘဲ ဂျူးဘာသာလည်း ပါဝင်သေး၏။

လောကကြီးကို စတင်ဖန်ဆင်း၍ ပထမဦးဆုံးသော လူသားအာဒမ်မှစ၍ ခရစ်တော် မပေါ်မီ ခေတ်ကာလတိုင်အောင် ဖြစ်သော ဓမ္မဟောင်းကျမ်း အယူအဆများကို ဂျူးဘာသာ၊ ခရစ်ယာန်ဘာသာနှင့် အစ္စလာမ် ဘာသာတို့က လက်ခံကြသည်။

ခရစ်တော် မပေါ်မီ အချိန်တွင် အပြစ်ကျူးလွန်နေကြသော လူသားများကို အပြစ်မှ ကယ်တင်ရန် ကယ်တင်ရှင်တစ်ဦးကို ထာဝရဘုရားသခင်က စေလွှတ်လိမ့်မည်ဟူသောဗျာဒိတ်စကားကို ဂျူးပရောဖက်အများက ကြိုတင် ဟောကိန်းထုတ်ထားခဲ့ကြ၏။

အေဒီ ၃၀–ပတ်ဝန်းကျင်၌ ယေရှု ခရစ်တော်သည် မိမိမှာ ထာဝရဘုရားသခင်က စေလွှတ်လိုက်သော ကယ်တင်ရှင်ဖြစ်ကြောင်း

ကြေညာကာ ခရစ်တော်၏ အယူအဆများကို ဟောပြောခဲ့သော်လည်း ဂျူးလူမျိုး အများစုတို့က ခရစ်တော်ကို ကယ်တင်ရန် အစစ်အမှန် ဖြစ်သည်ဟု မယုံကြည်ခဲ့ကြချေ။ ထို့ကြောင့် ခရစ်တော်ကို ကယ်တင်ရှင် အဖြစ် အသိအမှတ်ပြုရန် ငြင်းဆန်ကာ မိမိတို့၏ ပရောဖက်များ ကြိုတင် ဟောကိန်းထုတ်ထားသည့် ကယ်တင်ရှင်ကိုသာ စောင့်မျှော်နေခဲ့ ကြလေသည်။ ဤသို့ဖြင့် ဂျူးဘာသာ သီးခြား ကျန်ရစ်ကာ ခရစ်ယာန် ဘာသာမှာ ဘာသာတစ်ရပ်ကဲ့သို့ ပေါ်ပေါက်လာခဲ့ရလေသည်။ ဂျူးလူမျိုး တို့သည် ယေရှုခရစ်တော်ကို ကယ်တင်ရှင်ဟု အသိအမှတ် မပြုသကဲ့ သို့ပင် ခရစ်ယာန် ဘာသာကိုလည်း အသိအမှတ် မပြုခဲ့ပေ။ ခရစ်ယာန် ဘာသာသည်ကား ဂျူးတို့၏ ကျမ်းစာဖြစ်သော ဓမ္မဟောင်းကျမ်းကို မိမိတို့၏ ကျမ်းရင်းတစ်ခု အဖြစ်ပင် အသိအမှတ်ပြု၍ အသုံးပြုရ လေသည်။

ဓမ္မဟောင်းကျမ်းသည် ခရစ်တော်မပေါ်မီက ရေးသားခဲ့သော ကျမ်းဖြစ်၍ ခရစ်တော် ပေါ်ပြီးနောက် ခရစ်တော်နှင့် ပတ်သက်၍ ရေးသားခဲ့သော ကျမ်းများကို ဓမ္မသစ်ကျမ်းဟု ခေါ်သည်။

ထို့နောက် တစ်ဖန် တမန်တော် မုဟမ္မဒ်သည် အေဒီ ၆ ရာစုတွင် အစ္စလာမ်ဘာသာကို ဖော်ထုတ်ခဲ့သည်။ ဤနေရာ၌ သတိထားရန် လိုသည်။ တမန်တော် မုဟမ္မဒ်သည် အစ္စလာမ်ဘာသာကို တည်ထောင်သူ မဟုတ်ဘဲ ဖော်ထုတ်သူသာ ဖြစ်သည်။ ထာဝရဘုရားဖြစ်သော အလ္လာဟ် အရှင်မြတ်၏ တရားတော်များကို လူသားများသို့ ယူဆောင်ပေးသော တမန်တော်သာ ဖြစ်သည်ဟု အစ္စလာမ်ဘာသာဝင်များက လက်ခံကြ သည်။ မုဟမ္မဒ် သင်ကြားပေးသော အစ္စလာမ်ဘာသာ အယူအဆများကို

လက်ခံယုံကြည် လိုက်နာသူများကို အချို့က မဟာမေဒင်ဘာသာဟု ခေါ်ဝေါ်ကြသည်မှာ မှားသော အခေါ်အဝေါ်သာ ဖြစ်ကြောင်း အစ္စလာမ် ဘာသာဝင်များက ဖော်ပြကြ၏။

ခရစ်တော် ဟောကြားသော တရားများကို လက်ခံလိုက်နာသူ များကို ခရစ်ယာန်ဟု ခေါ်ကြသော်လည်း မုဟမ္မဒ်ဟောကြားသော ဘာသာကို လက်ခံယုံကြည် ကိုးကွယ်သူများကို မဟာမေဒင် ဟု မခေါ်နိုင်ချေ။ ဤသို့ခေါ်ခြင်းမျိုးသည် ခရစ်ယာန်ဘာသာကို ရှင်ပေါလု၏ ဘာသာဟု ခေါ်ဆိုသည်နှင့် တူနေလိမ့်မည်ဖြစ်၏။ အစ္စလာမ်ဘာသာ၏ တရားတို့သည် အလ္လာဟ် အရှင်မြတ်က ပေးအပ်သော တရားများသာ ဖြစ်၍ မုဟမ္မဒ်ကား တမန်တော်သာ ဖြစ်ကြောင်းကို အစ္စလာမ်ဘာသာက ပြဆိုသည်။

အစ္စလာမ်ဘာသာသည် ကမ္ဘာလောကကြီးမှစ၍ ပထမဦးဆုံး လူသား အာဒမ်ကို ဖန်တီးသည့် အချိန်မှစ၍ ဓမ္မဟောင်းကျမ်းကို လက်ခံသည်။ ယေရှုခရစ်တော်သည်လည်း တမန်တော် တစ်ပါး ဖြစ်ကြောင်းကို လက်ခံသည်။ ခရစ်ယာန် ဘာသာကိုလည်း အချို့ အယူအဆတို့မှလွဲ၍ ယေဘုယျအားဖြင့် လက်ခံထားသည်။ သို့သော် ခရစ်တော်ကို ဂျူးများက လက်မခံသကဲ့သို့ပင် အစ္စလာမ်ဘာသာကိုလည်း ခရစ်ယာန်ဘာသာက လက်မခံချေ။ ထူးခြားအံ့သြစရာ ကောင်းပေစွ။

အစ္စလာမ်ဘာသာ၏ ကုရ်အာန်ကျမ်းတွင် ကမ္ဘာဦးမှ စ၍ အေဗြာဟံခေတ်အထိ အဖြစ်အပျက် အခြေအနေများကို ဖော်ပြထားသည်။ အေဗြဟံတွင် သားနှစ်ယောက် ရှိ၏။ ဖနီး ဟာဂျရာမှရသောသား အစ္စမေလနှင့် ဆာရာမှရသောသား ဇေက်တို့ဖြစ်၏။ အစ္စမေလမှ

ဆင်းသက်လာသူများမှာ အာရပ်လူမျိုးများဖြစ်၍ တမန်တော် မုဟမ္မဒ်၏ အနွယ်တော်များ ဖြစ်လာသည်။ ဇေက်မှ ဆင်းသက်လာသူများကား အစ္စရေးလူမျိုးများ ဖြစ်လာကာ မောရှေ(မိုးဇက်)နှင့် ယေရှုခရစ်တော် တို့၏ မျိုးဆက်များ ဖြစ်လာခဲ့သည်။

ဂျူးလူမျိုးတို့သည် ခရစ်ယာန်ဘာသာကို လည်းကောင်း၊ ထိုပြီး နောက် ပေါ်ထွန်း လာသော အစ္စလာမ်ဘာသာကို လည်းကောင်း လက်မခံချေ။ ခရစ်ယာန်တို့ကလည်း မိမိတို့နောက်မှ ပေါ်ပေါက်လာသော အစ္စလာမ် ဘာသာကို လက်မခံပေ။ အစ္စလာမ်ဘာသာက အားလုံးကို လက်ခံသည်။ သို့သော် အစ္စလာမ်ဘာသာက ခရစ်ယာန်ဘာသာ၏ အယူအဆ အချို့ကို လက်မခံချေ။

ခရစ်ယာန်ဘာသာ၏ သုံးပါးတစ်ဆူ အယူအဆ၊ ယေရှုသည် ဘုရားသခင်၏ သားတော်ဖြစ်ခြင်း အယူအဆ၊ မူလအပြစ်နှင့် လူသား တို့၏ အပြစ်ကို ခရစ်တော်က ခံယူသွားခြင်း အယူအဆများတွင် အစ္စလာမ်ဘာသာက ကွဲပြားခြားနားသည်။

အစ္စလာမ်ဘာသာနှင့် ခရစ်ယာန် ဘာသာတို့သည် ကောင်းကင် တမန်များကို လက်ခံ ယုံကြည်ကြရာ၌ တူညီကြသည်။ သို့သော် ကောင်းကင်တမန်များ၏ သဘောလက္ခဏာအချို့ မတူညီကြချေ။ ခရစ်ယာန်တို့ကား ကောင်းကင်တမန်များကို ဝိညာဉ်ကောင်းများအဖြစ် ယူဆကြသော်လည်း အစ္စလမ်ဘာသာက ရုပ်သတ္တဝါအဖြစ် သဘော ထားကြသည်။ ကောင်းကင်တမန်များကား ဟိန္ဒူဘာသာနှင့် ဗုဒ္ဓဘာသာ တို့၏ နတ်ဒေဝါများနှင့် သဘောချင်း တူညီကြသည်ဟု ဆိုနိုင်မည် ဖြစ်သည်။

စာပေဟောင်းလေးအိုးကြီး

ခရစ်ယာန်ဘာသာနှင့် အစ္စလာမ်ဘာသာတို့သည် လူသားများ သေဆုံးပြီးနောက် ဘုရားသခင်၏ အထံတော်၌ မိမိလူ့ဘဝတွင် ပြုလုပ်ခဲ့သော အကြောင်းကံအတိုင်း အစစ်ဆေးခံကြရသည့် နောက်ဆုံး တရားစီရင်သောနေ့ ရှိပုံကို ယုံကြည်ကြရာတွင်လည်း တူညီမှုရှိသည်။

ဘာသာကြီးလေးခုစလုံးတွင် ဒုဂ္ဂတိဘုံနှင့် သုဂတိဘုံကို ယုံကြည်ကြရာ၌ တူညီကြသေးသည်။ သို့သော် ထာဝရဘုရားကို ကိုးကွယ်လက်ခံသော ဘာသာကြီး သုံးခုတွင် ဒုဂ္ဂတိဘုံနှင့် သုဂတိဘုံတို့၌ ခံစားရခြင်း၊ စံစားရခြင်းတို့မှာ ယေဘုယျအားဖြင့် အမြဲတမ်း ခံစား စံစားရသော သဘောရှိသည်၊ ဗုဒ္ဓဘာသာ၏ ဒုဂ္ဂတိဘုံနှင့် သုဂတိဘုံများ၌ ခံစား စံစားရပုံသည်ကား ထိုခံစား စံစားသော ပုဂ္ဂိုလ် သတ္တဝါတို့၏ ရှေးဘဝက အကြောင်းကံ ရှိသမျှသာ ခံစား စံစားရသည်။ ရှေးအကြောင်းကံ ကုန်သောအခါ အခြားသောဘုံများသို့ ပြောင်းရွှေ့ သွားကြရသော သဘောရှိသည်။

ထာဝရဘုရားက လူဝင်စား၍ လူ့ဇာတိကို ရယူသည်ဟု ယူဆသော ဘာသာတို့ကား ခရစ်ယာန်ဘာသာနှင့် ဟိန္ဒူဘာသာတို့ဖြစ်၏၊ အစ္စလာမ်ဘာသာတွင် မုဟမ္မဒ်သခင်ကား အလ္လာဟ်အရှင်၏ လူဝင်စားခြင်း မဟုတ်ဘဲ သာမန်လူသားတစ်ဦးကို တမန်တော်အဖြစ် အသိအမှတ်ပြုပေးခြင်းသာ ဖြစ်သည်ဟု ယူဆသည်။ ဗုဒ္ဓဘာသာ၌ကား ထာဝရဘုရား အယူအဆ မရှိ၍ ဤကဲ့သို့ လူဝင်စား သဘောကို မတွေ့ရှိနိုင်ချေ၊ ဗုဒ္ဓမှာ သာမန်လူသားမျှသာ ဖြစ်၏၊ ပါရမီဖြည့်ကျင့်၍ ဗုဒ္ဓအဖြစ်ကို ရရှိခြင်းဖြစ်၏၊ မည်သည့်လူသားမဆို ပါရမီဖြည့်ကျင့်နိုင်က ဗုဒ္ဓအဖြစ်ကို ရရှိနိုင်မည် ဖြစ်၏။

ခရစ်ယာန်ဘာသာတွင် ခရစ်တော် ဒုတိယအကြိမ် ကြွလာမည်ဟု ဗျာဒိတ်တော် ရှိသည်မှတစ်ပါး နောက်ထပ် ထာဝရဘုရား၏ သားတော်များ စေလွှတ်မည့်အကြောင်းကို မဆိုထားပေ။ အစ္စလာမ်ဘာသာတွင်ကား တမန်တော်မုဟမ္မဒ် နောက်ပိုင်းတွင် တခြားတမန်တော်များ မပွင့်တော့ပြီဖြစ်ကြောင်း၊ မုဟမ္မဒ်မှာ နောက်ဆုံး တမန်တော်ဖြစ်ကြောင်းကို အတိအလင်း ဆိုထားသည်၊ ဟိန္ဒူဘာသာနှင့် ဗုဒ္ဓဘာသာတို့တွင် နောက်ထပ် ဘုရားတစ်ပါးစီပွင့်ရန် ကျန်ရှိနေသေးကြောင်းကို ဟောကြား ထားရှိသည်။

အစ္စလာမ်ဘာသာ တစ်ခုသာလျှင် မိမိတို့ဘာသာဝင်များအား ဘာသာရေး အထွတ်အမြတ်ရှိရာ ဒေသသို့ သွားရောက် ဘုရားဖူးရန် တာဝန်တစ်ရပ် အနေဖြင့် သတ်မှတ်ထားရှိသဖြင့် ထူးခြား၏၊ အခြားဘာသာတို့တွင် ဤကဲ့သို့ သတ်မှတ်ပေးထားခြင်း မရှိပေ။

ဟိန္ဒူဘာသာသည် အကျင့်ကို ကျင့်ရာတွင် အပြင်းထန်ဆုံးဖြစ်သော ဘာသာဟု ဆိုနိုင်၏။ သို့သော် အစာစားသောက်ခြင်းမှ ရှောင်ကြဉ်၍ စောင့်ထိန်းရသော အကျင့်မျိုးကား ဘာသာတိုင်းတွင် ရှိသည်။

ဗုဒ္ဓဘာသာ ခရစ်ယာန်ဘာသာနှင့် အစ္စလာမ်ဘာသာတို့မှာ လူမျိုးအသီးသီးသို့ ပျံ့နှံ့သွား၍ လူမျိုး အများအပြားတို့က ကိုးကွယ်ကြသော ဘာသာများ ဖြစ်လာကြသည်။ ဟိန္ဒူဘာသာ သည်ကား ဂျူးဘာသာကဲ့သို့ပင် မူလပေါ်ထွန်းသည့် လူမျိုး တစ်စုတည်းအတွက်၌ တည်ရှိသည်။ ဂျူးလူမျိုးတို့သည် ဂျူးဘာသာကိုသာ ကိုးကွယ်ကြသည်၊ အခြားဘာသာကို မကိုးကွယ်ရချေ၊ အခြားဘာသာများကို

ပြောင်းလဲလက်ခံလျှင် ထိုလူသည် ဂျူးလူမျိုး မဟုတ်တော့ဟု ဆို၏၊ "ဂျူးလူမျိုး တစ်ယောက်သည် အခြားဘာသာ တစ်ခုကို လက်ခံယုံကြည်၍ ကိုးကွယ်နေလျှင် ထိုလူသည် ဂျူးလူမျိုး တစ်ယောက် မဟုတ်တော့ပေ၊ ထိုသူသည် ထာဝရဘုရားကို မယုံကြည်သူတစ်ဦး ဖြစ်လျှင် ဖြစ်နိုင်သေးသည်၊ သို့သော် ခရစ်ယာန်ဘာသာကို လည်းကောင်း၊ အစ္စလာမ်ဘာသာကို လည်းကောင်း လက်ခံသွားပါက ဂျူးလူမျိုး တစ်ယောက် အဖြစ်မှ ရပ်စဲသွားလေသည်"ဟူ၍ အစ္စရေးဝန်ကြီးချုပ်ဟောင်း ဒေးဗစ်ဘန်ဂူရီယံက ပြောကြားဖူးသည်။

ဟိန္ဒူဘာသာ နှင့် အစ္စလာမ်ဘာသာတို့၏ အယူအဆတွင် တူညီသော အချက်လည်း ရှိသည်၊ ကမ္ဘာပေါ်တွင် ပေါ်ထွန်းခဲ့ပြီးသော ဘာသာတရားများ အားလုံးကို မိမိတို့ဘာသာ၏ အစိတ်အပိုင်းတစ်ရပ် အနေဖြင့် အသိအမှတ်ပြုရာ၌ ဟိန္ဒူဘာသာနှင့် အစ္စလာမ်ဘာသာတို့မှာ တူညီကြသည်။ ဟိန္ဒူဘာသာသည် ကမ္ဘာပေါ်ရှိ ယုံကြည်မှု ဆိုင်ရာ ဘာသာတရား အသီးသီး စတင် တည်ထောင်ခဲ့သူ ပုဂ္ဂိုလ်တို့အား ထာဝရအရှင်၏ အသွင်တစ်မျိုးဖြင့် ဓမ္မတရား စိုးမိုးရေး အတွက် ဖော်ထုတ်လာခြင်း ဖြစ်သည်ဟု လက်ခံသည်၊ အစ္စလာမ် ဘာသာသည်လည်း အလ္လာဟ်အရှင်သည် တိုင်းနိုင်ငံနှင့် လူမျိုးအသီးသီးထံသို့ တမန်တော်များကို စေလွှတ်၍ ထိုအရှင်၏ တရားဓမ္မများကို ဖော်ထုတ်စေသည်ဟု ယုံကြည်ထားသည်။

ခရစ်ယာန် ဘာသာသည် ဂျူးဘာသာကို လက်ခံထားသဖြင့် ဂျူးတို့၏ ပရောဖက် မောရှေ (မိုးဇက်)ကိုလည်း ခရစ်ယာန်ဘာသာ၏ ပရောဖက်တစ်ဦး အဖြစ် အသိအမှတ် ပြုကြသည်။ ဤနေရာတွင်

အင်္ဂလိပ်ဘာသာမှ မြန်မာဘာသာသို့ ပြန်ဆိုသော စကားလုံးတချို့ကို ရှင်းပြရန် သင့်မည်ဟု ယူဆမိပါသည်၊ (Prophet)ဆိုသော အင်္ဂလိပ် ဘာသာ စကားလုံးကို ခရစ်ယာန်ဘာသာက မြန်မာပြန်ဆိုရာတွင် ပရောဖက်ဟူ၍ပင် ယုဒသန်က ပြန်ဆိုခဲ့ပါသည်၊ အစ္စလာမ်ဘာသာက ထိုအင်္ဂလိပ် စကားလုံးကို တမန်တော်ဟူ၍ ပြန်ဆိုထားပါသည်။

ဟိန္ဒူဘာသာနှင့် ခရစ်ယာန်ဘာသာတို့သည် ထာဝရဘုရား၏ သုံးပါးတစ်ဆူ အယူအဆကို လက်ခံထားကြသည်။ သို့သော် ကွဲပြားမှု ရှိသည်၊ ခရစ်ယာန်ဘာသာ၏ သုံးပါးတစ်ဆူ အယူအဆကား ထာဝရ ဘုရားသခင်၊ သားတော် ယေရှုခရစ်နှင့် သန့်ရှင်းသော ဝိညာဉ်တော်တို့ သုံးပါးသည် ပုဂ္ဂိုလ်အရ တစ်ပါးစီ ဖြစ်သော်လည်း ထာဝရဘုရား တစ်ဆူတည်းသာ ဖြစ်သည်ဟု ယုံကြည်မှုပင် ဖြစ်သည်။

ဟိန္ဒူဘာသာ၏ သုံးပါးတစ်ဆူ ဝါဒကား ထာဝရဘုရား၏ တန်ခိုးအာဏာကို လိုက်၍ သုံးပါးခွဲခြားထားသော စနစ်ဖြစ်သည်။ ဣဿဝရ ထာဝရ ဘုရား၏ ဖန်ဆင်းခြင်း အာဏာကို သုံးစွဲသော အရှင်ကို ဗြဟ္မာဟူ၍လည်းကောင်း၊ လူသားတို့၏ ကောင်းကျိုးချမ်းသာကို ထိန်းသိမ်းစောင့်ရှောက်သော အရှင်ကို ဗိဿနိုး ဟူ၍လည်းကောင်း၊ အဖျက်တရားနှင့် ပတ်သက်သောအရှင်ကို သိဝဟူ၍လည်းကောင်း အသီးသီး ခွဲခြားထားခြင်း သဘောပါရှိသည်။ ထို့ပြင် သူရဿတီ၊ လက္ခမီနှင့် ပါရာဝတီဟူ၍ ဣတ္ထိသဘောကို ဆောင်သော အရှင်မများ လည်း ရှိသည်။

ခရစ်ယာန်ဘာသာ နှင့် အစ္စလာမ်ဘာသာ တို့တွင် လူသား တို့မှာ ဖန်ဆင်းထားသောသူများ ဖြစ်၍ လူ့ဘဝ မတိုင်မီ ကာလက

အခြားဘဝ၌ ဖြစ်ခဲ့ရသည့် ကိစ္စမျိုးကို မတွေ့ရှိနိုင်ပေ၊ ကောင်းကင်တမန်များ၏ ဘဝနှင့် လူ့ဘဝ အဆက်အသွယ် မရှိချေ၊ ဖန်ဆင်းခြင်း အယူအဆကိုပင် လက်ခံသော ဟိန္ဒူဘာသာ၌ကား ယခင်ဘဝ အဖြစ်မျိုးကို တွေ့ရှိနိုင်သည်၊ ဟိန္ဒူဘာသာတွင် ဘဝအဆက်ဆက် ဖြစ်ပေါ်ရ၍ သံသရာ၌ လည်ရပုံကို ပြထားသည်။ ဗုဒ္ဓဝါဒနှင့် နီးစပ်သည်၊ နတ်ဒေဝါတို့၏ ဘဝမှ စုတေ၍ လူဖြစ်ရခြင်း၊ လူအဖြစ်မှ သေဆုံးခဲ့သော် တစ်ဖန် ဘဝများ၌ လည်ရခြင်းတို့ကို တွေ့ရှိနိုင်၏။

ဗုဒ္ဓဝါဒကား အနည်းငယ် ပို၍ထူးခြားသည်ဟု ဆိုနိုင်မည်ဖြစ်၏၊ သတ္တဝါအများ သံသရာ၌ ဘဝများစွာ ကျင်လည်ကျက်စားကြရာတွင် သုဂတိဘုံများနှင့် အပါယ်ငရဲတို့အပြင် တိရစ္ဆာန်ဘဝသို့လည်း ကူးပြောင်းရောက်ရှိသွားနိုင်ပုံကို ပြဆိုထားသောကြောင့် ဖြစ်သည်။

ခရစ်ယာန်ဘာသာတွင် လူသားများသည် ဘဝများစွာ၌ ကျင်လည်ဖြစ်ပျက်ရကြောင်းကို လက်ခံခြင်း မရှိသည်သာမက တိရစ္ဆာန်များမှာ လူသားတို့ အလိုကျ အသုံးပြုရန် ဖန်ဆင်းထားသော သတ္တဝါများ ဖြစ်ကြောင်းကို ပြဆိုထားသည်။

"ဘုရား"ဆိုသော စကားသည် အထက်တွင် ရေးသားခဲ့သည့်အတိုင်း ထာဝရဘုရား အယူအဆနှင့် ဗုဒ္ဓဘာသာ ဘုရားအယူအဆတို့မှာ မတူညီကြချေ၊ ထာဝရဘုရားကို လူသားတို့၏ ကံကြမ္မာတို့အပါအဝင် မည်သည့်အရာကိုမဆို ဖန်ဆင်းနိုင်သော ဘုရားဖြစ်၍ တစ်နည်းအားဖြင့် နတ်ဘုရားဟု ခေါ်ဆိုနိုင်သည်၊ ဗုဒ္ဓဘုရားသည်ကား သတ္တဝါတို့၏ ကံကြမ္မာမှအစ အရာရာကို ဖန်ဆင်းနိုင်သော ဘုရားမျိုး မဟုတ်ချေ။

သို့သော် အသိဉာဏ်တန်ခိုးဖြင့် ဖန်ဆင်းနိုင်မှုမျိုး ကိုကား ပြုလုပ်နိုင်သည်။ လူသားတို့ ကံကြမ္မာကို မိမိအလိုရှိသလိုဖြစ်အောင် ဖန်ဆင်းမှုမျိုးကား မပြုလုပ်နိုင်ပေ၊ သတ္တဝါတို့၏ ကမ္မသဘောအတိုင်းသာ မိမိတို့ ကံကြမ္မာကို မိမိ ဖန်တီးကြခြင်း ဖြစ်သည်၊ ထို့ကြောင့် ဗုဒ္ဓ၏ ဘုရားသဘောနှင့် ထာဝရဘုရားတို့၏ ဘုရား သဘောသည် ကွာခြားမှုရှိသည်။

ကျမ်းဂန်များနှင့် ပတ်သက်၍ အယူအဆတို့မှာ ထာဝရဘုရား ဘာသာနှင့် ဗုဒ္ဓဘာသာတို့မှာ အလွန်ပင် ခြားနားသည်၊ ဟိန္ဒူ၊ ခရစ်ယာန်နှင့် အစ္စလာမ်ဘာသာတို့၏ အယူအဆအရ ထိုဘာသာများ၏ ကျမ်းဂန်တို့မှာ ထာဝရဘုရားသခင်က လူသားများ လိုက်နာရန် ချပေးသော ဘုရား၏နှုတ်ကပါတ်တော်များ ဖြစ်ကြောင်းကို ယုံကြည်ကြသည်၊ ထာဝရဘုရားသည် သူတော်စင်ကြီးများ၊ ပရောဖက်များနှင့် တမန်တော်များမှ တစ်ဆင့် လူသားများထံသို့ လူသားများ အမှန်တရားကို လိုက်နာကျင့်သုံးနိုင်ကြရန် ပေးပို့ခြင်းဖြစ်ကြောင်း ဖော်ပြကြသည်။

ဗုဒ္ဓဘာသာ ကျမ်းဂန်များကား ဗုဒ္ဓ၏ ဟောကြားချက်များကို မှတ်တမ်းတင်ထားသော ကျမ်းများဖြစ်သည်၊ လောကဤ အမှန်တကယ် ရှိနေသော သစ္စာလေးပါး တရားကို မိမိကိုယ်တိုင် သိမြင်ခဲ့သည့်အတိုင်း ဖော်ထုတ် ဟောကြားချက်များကို ရေးသားထားခြင်းများ ဖြစ်သည်၊ သစ္စာတရားလေးပါးသည် သူ့အလိုလို ရှိနေသောတရား ဖြစ်၏၊ ထိုတရားကို လူသာမန်တို့က မသိနိုင်ပေ၊ ဗုဒ္ဓဘုရားသည် ကျင့်အပ်ခဲ့ပြီးသော ပါရမီအဟုန်ကြောင့် ရလာခဲ့သောဉာဏ်ဖြင့် ထိုသစ္စာလေးပါး တရားကို သိမြင်သဖြင့် သတ္တဝါအများလည်း သိမြင်နားလည်စိမ့်သောငှာ

ဟောကြားထားခဲ့သော တရားများဖြစ်သည်၊ အနန္တတန်ခိုးရှင် တစ်ပါးပါးက ဗုဒ္ဓဘုရားထံသို့ ဆက်သွယ် ပေးပို့ခဲ့သော အမှန်တရားမျိုး မဟုတ်ချေ။

သစ္စာလေးပါး တရားသည် လူသာမန်တို့ သိနိုင်ခဲသော အလွန်နက်နဲသည့် တရားဖြစ်၏၊ ထို့ကြောင့်လည်း သိဒ္ဓတ္ထမင်းသားသည် ၆–နှစ်တိုင်တိုင် ကျင့်ကြံ၍ သဗ္ဗညုတဉာဏ်ကို ရရှိပြီး သစ္စာလေးပါး တရားကို သိမြင်သောအခါ လူသားတို့အား တရားမဟောရန် ပထမတွင် စိတ်၌ ဖြစ်ပေါ်ခဲ့သေး၏၊ လူသားများ သဘော မပေါက်နိုင်သဖြင့် ပင်ပန်းရုံသာ ရှိမည်ကို တွေးတောမိ၏၊ သဟမ္ပတိဗြဟ္မာမင်းက တောင်းပန်သောကြောင့်သာ တရားဟောရန် ဆုံးဖြတ်ခဲ့ခြင်း ဖြစ်သည်၊ အလွန်ခက်ခဲ နက်နဲသော တရားပင်တည်း။

ဂေါတမဗုဒ္ဓ တစ်ပါးတည်းသာလျှင် ဤတရားကို သိမြင်နားလည်ခဲ့သည် မဟုတ်ပေ၊ ဗုဒ္ဓဘာသာ၌ မရေတွက်နိုင်သော ဘုရားတို့သည် ပွင့်တော်မူပြီး နိဗ္ဗာန်ဝင်ခဲ့ပြီး ဖြစ်သည်၊ ထိုမျှ များပြားသော ဗုဒ္ဓတို့သည် ဂေါတမဗုဒ္ဓကဲ့သို့ပင် ပါရမီဖြည့်ကာ ကျင့်၍ ဤသစ္စာလေးပါး တရားကိုပင် သိမြင်ခဲ့ကြသည်၊ တရားဟောခဲ့ကြသည်၊ သတ္တဝါ အများအပြား နိဗ္ဗာန်ကူးခဲ့ကြသည်သာ ဖြစ်လေသည်။

အစ္စလာမ် ဘာသာအရ တမန်တော်တိုင်းမှာ ထာဝရဘုရားထံမှ တရားတော်များကို ယူဆောင်လာကြသည်ချည်း မဟုတ်ကြချေ၊ တချို့ တမန်တော်များမှာ တရားတော်များကို မယူဆောင်ခဲ့ကြသော်လည်း ယခင်ရှိနေသော တရားတော်များကိုပင် လူအများက ဂရုတစိုက် ပြန်လည် လိုက်နာအောင် သွန်သင် ဆုံးမခဲ့ကြသည်။

ကျမ်းစာများတွင် သမိုင်းဖြစ်ပေါ် တိုးတက်မှုနှင့် ပတ်သက်၍ ဖော်ပြသည့် အချက်များအနက် ထူးခြားသော အဖြစ်အပျက် တစ်ခုကို ဟိန္ဒူ၊ ဂျူး၊ ခရစ်ယာန်နှင့် အစ္စလာမ် ကျမ်းစာများတွင် ဖော်ပြထားသည်ကို တွေ့ရှိရသည်၊ ထိုအဖြစ်အပျက်ကား ကမ္ဘာကြီး ရေလွှမ်းခြင်းကိစ္စပင်ဖြစ်သည်၊ ဤရေလွှမ်းမိုးခြင်းသည် ကမ္ဘာပေါ်၌ တကယ်ပင် ဖြစ်ခဲ့သည်ဟု ယူဆဖွယ်ရာ ဖြစ်သည်၊ အိန္ဒိယနှင့် အရှေ့အလယ်ပိုင်း မှတ်တမ်းများတွင် ဖော်ပြထားခြင်းကို တွေ့ရှိကြရသည်။

အရှေ့အလယ်ပိုင်းဒေသမှ ကျမ်းစာများအရ အာဒမ်မှ ဆင်းသက်လာသော လူမျိုးဆက် ၉ ဆက်မြောက် နောဧ လက်ထက်တွင် ကမ္ဘာကြီး၌ ရေလွှမ်းမိုးခြင်းကို တွေ့ကြုံကြရသည်၊ ကမ္ဘာကြီး တစ်ခုလုံးမှာ ရေကြောင့် မြုပ်သွားသည်၊ ရေလွှမ်းမိုးသောအချိန်သည် ဘီစီ ၂၄၀၀ခန့်ဟု ခန့်မှန်းကြသည်။

ဟိန္ဒူဘာသာကျမ်းများအရ အိန္ဒိယနိုင်ငံ၏ ပထမဦးဆုံးသော ဘုရင်ဖြစ်သည့် မနု လက်ထက် ဘီစီ ၃၁၀၀ ခန့်တွင် ကမ္ဘာကြီးက ရေလွှမ်းမိုးခဲ့ကြောင်း၊ ရေလွှမ်းမိုးရာတွင် မြောက်ဘက် တောင်တန်းများသို့ သင်္ဘောဖြင့် သွားရောက် ခိုအောင်း နေခဲ့ရကြောင်းများ ဖော်ပြထားသည်။

ရေလွှမ်းမိုးသည့် အချိန်ကာလကို ခန့်မှန်းခြင်းများကား အနည်းငယ် ကွာခြားမှုရှိသည်၊ ရေလွှမ်းမိုးသည့် သဘောတို့မှာ အတူတူပင်ဖြစ်သည်၊ ခရစ်ယာန်ဘာသာ ကျမ်းစာများအရ နောဧ လက်ထက် ရေလွှမ်းမိုးသောအခါ နောဧတို့ မိသားစုနှင့် တိရစ္ဆာန် တစ်မျိုးမှ တစ်စုံစီကို သင်္ဘောကြီးဖြင့် တင်ဆောင်၍သွားကြောင်း၊ ကမ္ဘာမြေပြင်

အားလုံး မြုပ်သွားကြောင်းကို ဖော်ပြထားရှိသည်၊ ဟိန္ဒူကျမ်းစာ ဖော်ပြချက်တွင် ကမ္ဘာကြီးအားလုံး မြုပ်သွားခြင်း မရှိပုံကို ဖော်ပြပါရှိသည်၊ အနည်းငယ် ကွာခြားနေသလိုရှိ၏၊ သို့သော် မကြာမီက ခရစ်ယာန် သမ္မာကျမ်းစာ သုတေသနပြုသူတို့၏ ဖော်ထုတ် ပြောဆိုချက်အရ ဆိုပါမူ နောလက်ထက် ရေလွှမ်းမိုးစဉ်က ကမ္ဘာကြီးတစ်ခုလုံး ရေလွှမ်းမိုးသွားခြင်း မရှိခဲ့ကြောင်းကို ပြောဆိုကြသည်၊ * ကွဲလွဲချက် မရှိကြောင်းကို သိရှိနိုင်သည်။

ဟိန္ဒူ ဘာသာရေးကျမ်းများကို သက္ကတ ဘာသာစကားဖြင့် ရေးသားထားရှိသည်၊ ဗုဒ္ဓဂေါတမသည် သတ္တဝါအများအား တရားဓမ္မ ဟောကြားရာတွင် မဂဓဘာသာစကားဖြင့် ဟောကြားခဲ့သည်၊ သို့သော် ဗုဒ္ဓဟောကြားခဲ့သော ကျမ်းဂန်စာပေများကို ပါဠိဘာသာဖြင့် မှတ်တမ်းတင်ထားခဲ့လေသည်။

ဗုဒ္ဓ၏ စာပေကျမ်းဂန်များကို ဟောကြားခဲ့သည့် အချိန်ကာလမှစ၍ ရဟန်းများက နှုတ်တိုက် သင်ယူ မှတ်သားခဲ့ကြသည်၊ ပထမ၊ ဒုတိယ၊ တတိယ သင်္ဂါယနာ တင်ပွဲများ ကျင်းပကာ နှုတ်ဖြင့် ရွတ်ဆို၍ ပြန်လည်စစ်ဆေးမှုများ ပြုလုပ်ခဲ့ကြသည်။

သာသနာသက္ကရာဇ် ၄၅၀ (ဘီစီ-၉၄)ခုနှစ်တွင် သီဟိုဠ်ကျွန်း၌ စတုတ္ထ သင်္ဂါယနာကို တင်ကြသောအခါ 'ပေ'ထက် အက္ခရာတင်ကြလေသည်၊ ထိုနောက် မြန်မာနိုင်ငံ မန္တလေး၊နေပြည်တော်တွင် မင်းတုန်းမင်းတရားကြီး လက်ထက် ပဥ္စမ သင်္ဂါယနာတင်ပွဲကို ကျင်းပသောအခါ နှုတ်ဖြင့်ပင် ရွတ်ဆိုကြ၍ ကျောက်ထက် အက္ခရာ တင်ခဲ့ကြသည်၊

* Time (30.12.74)

မြန်မာနိုင်ငံ လွတ်လပ်ပြီးနောက် ဆဋ္ဌမ သင်္ဂါယနာတင်ပွဲကို ကျင်းပသော အခါတွင်မူကား ဗုဒ္ဓ၏ စာပေကျမ်းဂန်များကို ပုံနှိပ်စာအုပ်များဖြင့် ရိုက်နှိပ် ထုတ်ဝေနိုင်ပြီ ဖြစ်သည်။

ခရစ်ယာန်ဘာသာ သမ္မာကျမ်းစာ၏ ဓမ္မဟောင်းကျမ်းပါ ကျမ်းစာများကို ဂျူးတို့၏ ဘာသာစကားဖြစ်သော ဟီဘရူး ဘာသာစကားဖြင့် ရေးသား ထားခဲ့ကြသည်၊ ခရစ်တော် ပေါ်ပြီးနောက် ခရစ်တော်၏ အကြောင်းနှင့် ပတ်သက်သော ဓမ္မသစ်ကျမ်းလာ ကျမ်းစာများကိုကား ဂရိဘာသာစကားဖြင့် ရေးသား ထားခဲ့ကြသည်၊ ယခုအခါ ကမ္ဘာပေါ်ရှိ ဘာသာစကား အမျိုးမျိုးသို့ ပြန်ဆိုထားကြပြီး ဖြစ်သည်။

အစ္စလာမ်ဘာသာ၏ ကျမ်းစာများကိုကား အာရဗီဘာသာစကားဖြင့် ရေးသားထားခဲ့ကြ၏၊ ကုရ်အာန်ကျမ်းကိုလည်း အာရဗီဘာသာဖြင့် ရေးသားထားရှိသည်၊ ကုရ်အာန်ကျမ်းကို ဘာသာစကား အသီးသီးသို့ အနက်အဓိပ္ပာယ်ကို ပြန်ဆိုထားပြီး ဖြစ်သော်လည်း အာရဗီ ဘာသာစကားဖြင့် ရေးသားထားသော ကျမ်းကို ဖတ်ရှုရမှ အနက်အဓိပ္ပာယ်ကို တိကျမှန်ကန်စွာ သိရှိနိုင်သည်ဟု ယူဆကြသူများလည်း ရှိသည်။

ကုရ်အာန်ကျမ်းကို ဘုရားသခင်ထံမှ လက်ခံရရှိပြီး နောက်ပိုင်းတွင် တမန်တော် မုဟမ္မဒ်၏ တပည့်သာဝကကြီးများသည် ထိုကျမ်းကို နှုတ်တိုက်ရွတ်ဆိုထားကြပြီး စာဖြင့်လည်း ရေးသားထားခဲ့ကြသည်၊ အစ္စလာမ်ဘာသာ ပေါ်ထွန်းပြီး နှစ်ပေါင်း တစ်ရာအတွင်း ကုရ်အာန်ကျမ်းကို တစ်စုတစ်ပေါင်းတည်း ရေးသားပြုစု၍ နှုတ်တိုက် အာဂုံဆောင်ထားသူများနှင့် ညှိနှိုင်းကာ မိတ္တူများပွား၍ အစ္စလာမ်နိုင်ငံအနှံ့အပြားသို့ ပေးပို့ကာ ထိန်းသိမ်း ထားခဲ့ကြသည်၊ ထိုစဉ်က

ပြုစုထားခဲ့သော ကုရ်အာန်ကျမ်းမှာ ယခုထက်တိုင် ပြုပြင်ထားခြင်း မရှိဘဲ တည်တံ့စွာ ရှိနေခဲ့သည်။

အစ္စလာမ် ဘာသာတွင် ထာဝရ ဘုရားသခင် ဖြစ်တော်မူသော အလ္လာဟ်အရှင် တစ်ပါးတည်းသာလျှင် လူသားများ ကိုးကွယ် ဆည်းကပ်ခြင်းကို ခံထိုက်သော ဘုရားအမည်ကို ခံယူနိုင်သည့် အရှင်ဖြစ်သည်၊ မုဟမ္မဒ်ကို ဘုရားအဖြစ် မကိုးကွယ်ရချေ၊ မုဟမ္မဒ်မှာ အလ္လာဟ်အရှင်၏ တမန်တော်သာ ဖြစ်သည်၊ တမန်တော် မုဟမ္မဒ်က သင်ကြား ပြသခဲ့သော အဆိုအမိန့်များနှင့် တမန်တော် ပြုမူကျင့်ကြံခဲ့သော ဓလေ့ထုံးစံ အကျင့်အကြံများကိုကား လူသားများက စံနမူနာအဖြစ် လိုက်နာဆောင်ရွက် ကြရမည်ဖြစ်သည်၊ တမန်တော်ကို ဘုရားအဖြစ် မကိုးကွယ်မိရန် အစ္စလာမ် ဘာသာဝင်များက အထူးဂရုစိုက်ကြရသည်။

ခရစ်ယာန်ဘာသာ၏ ဘုရားကား ယေဟောဝါဘုရား ဖြစ်၏၊ ထာဝရဘုရား ဖြစ်၏၊ သုံးပါးတစ်ဆူ အယူအဆအရ ယေဟောဝါ ထာဝရဘုရားအပြင် ယေရှုခရစ်တော်နှင့် သန့်ရှင်းသော ဝိညာဉ်တော်တို့သည်လည်း ဘုရားသခင် ကိုယ်တော်များပင် ဖြစ်သည်၊ ယေရှုခရစ်တော်ကို ဘုရားသခင်၏ သားတော်ဟုလည်း ခေါ်ဆိုကြသည်။

ဗုဒ္ဓဘာသာတွင်ကား ဗုဒ္ဓဘုရားများနှင့် ပစ္စေကဗုဒ္ဓါများကို ဘုရားဟူ၍ ခေါ်ဆိုကြသည်၊ ဗုဒ္ဓဘုရားများက မိမိတို့ သိမြင်သော သစ္စာတရားများကို သတ္တဝါများ သဘောပေါက်အောင် ရှင်းလင်းဟောပြောနိုင်သော ပုဂ္ဂိုလ်မျိုး ဖြစ်သည်၊ ပစ္စေကဗုဒ္ဓဘုရား တို့ကား သစ္စာတရားကို မိမိတို့ကိုယ်တိုင်ပင် သဘောပေါက် သိမြင်နိုင်ကြသော်လည်း သတ္တဝါများကို နားလည်သဘောပေါက်အောင် ဟောပြော

ရှင်းလင်းခြင်း မပြုနိုင်သော ပုဂ္ဂိုလ် အရှင်များပင် ဖြစ်သည်၊ ဗုဒ္ဓဘာသာ၏ ဘုရား ဟူသော စကားအဓိပ္ပာယ်နှင့် ထာဝရ ဘုရားဘာသာ၏ ဘုရား ဟူသော အဓိပ္ပာယ်တို့မှာ ထပ်တူ သဘောများ မပါဝင်နိုင်ပုံကို ရှင်းပြခဲ့ပြီး ဖြစ်သည်။

ဟိန္ဒူဘာသာသာသည်ကား ဘုရားအများအပြား ရှိပုံကို လက်ခံထားသော သဘောဖြစ်၍ ထာဝရ အရှင်များ ဖြစ်သော ဗြဟ္မာ၊ ဗိဿနိုးနှင့် သိဝ ဘုရားတို့အပြင် အခြားဘုရား အသီးသီးတို့လည်း ရှိကြသေးသည်၊ သို့သော် ထိုဘုရားတို့ကား ထာဝရဘုရားကိုယ်ပွားတော်များနှင့် တူညီကြသည် မဟုတ်ကြချေ၊ ထာဝရဘုရားက အသွင်အမျိုးမျိုးဖြင့် ဖန်ဆင်းထားရှိသော ဘုရားများ ဖြစ်သည်။

ထို့ပြင် ထာဝရအရှင် ဗိဿနိုးက လူ့ဇာတိကို ခံယူ၍ ဓမ္မတရား စိုးမိုးရေးကို ဆောင်ရွက်ပေးသော မြတ်စွာဘုရားများလည်း ရှိသေးသည်၊ ဟိန္ဒူဘာသာတွင် မြတ်စွာဘုရား ၁၀ ပါးရှိသည့်အနက် ၉ပါးတို့မှာ ပွင့်တော်မူခဲ့ကြပြီး ဖြစ်သည်။

ဗုဒ္ဓဘာသာအရ ဤကမ္ဘာကြီးတွင် ဘုရားလေးဆူတို့ ပွင့်တော်မူပြီး ဖြစ်သည်၊ ထိုလေးဆူအနက် ဗုဒ္ဓဂေါတမ ဘုရားကား နောက်ဆုံး ပွင့်တော်မူသော ဘုရားဖြစ်၏၊ နောက်ဆုံးတစ်ပါး ပွင့်ရန် ကျန်ရှိနေသေး၏။

ခရစ်ယာန်ဘာသာနှင့် အစ္စလာမ်ဘာသာတို့တွင် ထာဝရဘုရားကား တစ်ဆူတည်းသော အစဉ်အမြဲ တည်ရှိနေသော ဘုရားသခင်ဖြစ်၍ နောက်ထပ် ပွင့်တော်မူမည့် ပြဿနာမျိုးကို မတွေ့ရှိနိုင်ပေ၊ ပွင့်တော်မူသည်ဟူ၍ပင် ပြောဆိုရန် မဖြစ်နိုင်ချေ၊ ထိုအရှင်မှာ အစဉ်ထာဝရ

တည်ရှိပြီး ကျန်သတ္တဝါ အားလုံးတို့သည်သာ ထိုအရှင်အပေါ် အမှီပြု နေသောကြောင့် ဖြစ်သည်။

ဗုဒ္ဓဘာသာ၊ ခရစ်ယာန်ဘာသာ နှင့် အစ္စလာမ်ဘာသာတို့ ပေါ်ထွန်းလာစေရန် ဂေါတမဗုဒ္ဓ၊ ယေရှုခရစ်တော်နှင့် တမန်တော် မုဟမ္မဒ်တို့၏ ပုဂ္ဂိုလ်တစ်ဦးစီဌသော အခြေပြု တည်ရှိနေကြသော်လည်း ဟိန္ဒူဘာသာ အယူဝါဒများကိုကား ပုဂ္ဂိုလ် တစ်စုံတစ်ယောက်တည်း အပေါ်တွင် အခြေပြု ပြောဆိုရန် မဖြစ်နိုင်ချေ၊ သမိုင်းခေတ်ဦးပိုင်းမှ စ၍ ခေတ်အဆက်ဆက်တွင် ပေါ်ပေါက်ခဲ့သော ဝိညာဉ်ရေးဆိုင်ရာ ပုဂ္ဂိုလ်ကျော်များ၏ ရေးသားချက်များ၊ ထာဝရဘုရားသခင်နှင့် တိုက်ရိုက် ဆက်သွယ်ခွင့် ရရှိခဲ့သူ သူတော်စင်ကြီးများ၏ မိန့်ဆိုချက်များ အပေါ်တွင် အမှီပြုရသည်သာမက ကရိသျှနားကဲ့သို့သော လူဝင်စား ဘုရားများ၏ သွန်သင်ဆုံးမ ဩဝါဒများကိုပါ မှတ်သား နာယူရသော တရားများ ပါရှိလေသည်။

ဗုဒ္ဓဂေါတမ မြတ်စွာဘုရားသည် အမျိုးအနွယ်အားဖြင့် မင်းမျိုး ဖြစ်သည်၊ သို့သော် လောကီရေးရာ စည်းစိမ်ချမ်းသာကို ငြီးငွေ့၍ သံသရာမှ လွတ်မြောက်ကြောင်း တရားကို ရှာဖွေရန်အတွက် လူ့လောက စည်းစိမ် ချမ်းသာကို စွန့်ပစ်ခဲ့လေသည်၊ သစ္စာ တရားကို ရှာဖွေ တွေ့ရှိ၍ သိမြင် သဘောပေါက်ကာ ဘုရား ဖြစ်လာသော အခါ တွင်လည်း သံသရာမှ လွတ်မြောက်၍ နိဗ္ဗာန်ချမ်းသာသို့ ကူးပြောင်း သွားသော အချိန်ကာလ တိုင်အောင် လောကီ စည်းစိမ်ချမ်းသာကို မမက်မောတော့ဘဲ ရဟန်း ဘဝဖြင့် ရောင့်ရဲ တင်းတိမ် နေခဲ့လေ သည်။

ဟိန္ဒူဘာသာမှ မြတ်စွာဘုရားများ ဖြစ်သော ရာမနှင့် ကရိသျှနား တို့သည်လည်း ဘုရင်မင်းများပင် ဖြစ်ကြသည်၊ ဘုရင်မင်းများ အဖြစ်ကို ဆက်လက် ရယူထားကြသည်၊ အဓမ္မဝါဒီများကို နှိမ်နင်းရာတွင် ခတ္တိယမျိုးနွယ် အဖြစ်ဖြင့်ပင် တာဝန်ရှိသည့်အတိုင်း ဆောင်ရွက်ခဲ့ကြသည်၊ အနစ်နာခံရန် လိုအပ်လာလျှင်လည်း ထီးနန်းကိုစွန့်၍ ဆောင်ရွက်ခဲ့ကြလေသည်။

ခရစ်ယာန်ဘာသာကို စတင်တည်ထောင်ခဲ့သူ ယေရှုခရစ်တော်သည်ကား လူ့သားဘဝအားဖြင့်ဆိုလျှင် သာမန် လူ့အဆင့်အတန်းရှိသူ တစ်ယောက်ပင် ဖြစ်သည်၊ သို့သော် ထာဝရဘုရားသခင်က လူ့ဇာတိကို ခံယူစေရန် စေလွှတ်ခြင်း ခံရသော ဘုရားသခင်၏သားတော် တစ်ယောက်ပင် ဖြစ်သည်၊ ယေရှုခရစ်သခင်သည် ခရစ်တော် အဖြစ်ကို ရရှိပြီးနောက်တွင် မိမိမှာ ဂျူးလူမျိုးတို့၏ဘုရင်ဖြစ်ကြောင်းကို ကြေညာခဲ့လေသည်၊ ဂျူးတို့၏ အာဏာပိုင်များက ယေရှုကို တော်လှန်ပုန်ကန်သူ အဖြစ် ဖမ်းဆီး၍ စစ်ဆေးမေးမြန်းသော အခါတွင်လည်း ယေရှုသည် တကယ်ပင် ဂျူးတို့၏ ရှင်ဘုရင်ဖြစ်ကြောင်းကို ဝန်ခံပြောဆိုခဲ့သည်။

ယေရှုသခင်သည် မိမိကိုယ်ကို ဂျူးတို့၏ဘုရင်ဟု ဆိုရခြင်းကား ဘုရားသခင် နိုင်ငံတော်၏ ဘုရင် ဖြစ်ကြောင်းကို ဆိုလိုခြင်းသာ ဖြစ်နိုင်သည်၊ ရုပ်လောကကြီး၏ ဘုရင်တစ်ဆူ မဟုတ်မူဘဲ ကောင်းကင်နိုင်ငံ၏ ဘုရင်ဟု ဆိုလိုခြင်း ဖြစ်နိုင်ပေသည်၊ ဘုရားသခင်၏ ကောင်းကင်နိုင်ငံ တည်ထောင်၍ ယေရှုမှာ ဘုရင်အဖြစ် အုပ်စိုးမည်၊ ယေရှုသည် ဒုတိယအကြိမ် ကြွလာတော်မူလိမ့်မည်ဟု ဗျာဒိတ်စကား ဟောကြားချက် ရှိခဲ့သည်။

အစ္စလာမ်ဘာသာဝင်တို့ကား တမန်တော် မုဟမ္မဒ်ကို ဘုရားဟု မခေါ်ကြချေ၊ အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းသာလျှင် လူသားတို့ ကိုးကွယ်ဆည်းကပ်နိုင်သော ဘုရားဖြစ်၏၊ မုဟမ္မဒ်မှာ အလ္လာဟ် အရှင်က သူ၏ တရားတော်များကို လူသားများသို့ ပေးပို့ရာတွင် ဆက်သွယ် ပေးသော တမန်တော်သာဖြစ်သည်၊ လူသား စင်စစ်သာ ဖြစ်သည်ဟု ယုံကြည်ကြ၏။

မည်သို့ပင် ဖြစ်စေကာမူ တမန်တော် မုဟမ္မဒ်ကြောင့် အစ္စလာမ် ဘာသာ စတင် ပေါ်ထွန်းလာသည်ကိုကား ငြင်းဆိုရန် မဖြစ်နိုင်ချေ၊ မုဟမ္မဒ်သည် ရိုးသား ဖြောင့်မတ်၍ ဘုရား တရားကို ကြည်ညို လေးစားစိတ်ရှိသော သာမန် ပြည်သူတစ်ဦးသာ ဖြစ်ခဲ့၏။

အလ္လာဟ်အရှင်၏ တမန်တော်အဖြစ် အသိအမှတ်ပြုခြင်းကို ခံရပြီးနောက် အစ္စလာမ်ဘာသာ တရားများကို ဟောကြားရသောအခါ မလိုမုန်းထားသူများ၏ ဆန့်ကျင်ရန်ပြုခြင်းကို ခံရသည်၊ အစ္စလာမ် ဘာသာကို ဆန့်ကျင်ကြသော ရန်သူတို့၏ အင်အားမှာ မသေးငယ်သဖြင့် အစ္စလာမ်ဘာသာကို ခုခံကာကွယ်ရန် စစ်သည်အင်အားများကို စုဆောင်း ရလျက် အစ္စလာမ်နိုင်ငံတော်ကိုပင် ထူထောင်လာခဲ့ရသည်၊ အစ္စလာမ် ဘာသာဝင်များ၏ အလိုဆန္ဒနှင့်အညီ တမန်တော် မုဟမ္မဒ်မှာ အစ္စလာမ် နိုင်ငံ၏ အကြီးအကဲအဖြစ်ကိုပင် လက်ခံဆောင်ရွက်ခဲ့သည်။

စောစောက ဆိုခဲ့သည့်အတိုင်း ဟိန္ဒူဘာသာနှင့် ဗုဒ္ဓဘာသာ တို့သည် ကျမ်းဂန်လာရှိသော အကြောင်းအရာ ဖြစ်ရပ်အချို့နှင့် အယူ အဆအချို့တို့မှာ တူညီမှုရှိသည်ကို တွေ့ရသည်၊ ထိုနည်းတူ ခရစ်ယာန် ဘာသာနှင့် အစ္စလာမ်ဘာသာတို့တွင်လည်း တူညီမှုများ ရှိသည်။

နတ်ဒေဝါတို့၏ဘုရင် ဣန္ဒာသိကြားမင်းနှင့် စီးတော်ယာဉ်ဆင် ဧရာဝဏ်၊ မာတလိနတ် အစရှိသဖြင့် ဗုဒ္ဓဘာသာ အယူအဆများနှင့် ဟိန္ဒူဘာသာ အယူအဆများ တူညီကြသကဲ့သို့ ခရစ်ယာန်ဘာသာနှင့် အစ္စလာမ် ဘာသာတို့လည်း စာတန် မာရ်နတ် ကောင်းကင်တမန် အကြီးအမှူး ဂါဗြေလနှင့် မိခေလတို့ကို ထိုဘာသာ နှစ်ခုစလုံးတို့တွင် တွေ့ရှိရသည်။

ခရစ်ယာန်ဘာသာနှင့် အစ္စလာမ်ဘာသာတို့တွင် လူသားတို့ သေဆုံးပြီးနောက် အချိန်၏ နောက်ဆုံး ကာလ၌ ဘုရားသခင်၏ တရားဆုံးဖြတ်ခြင်းကို ခံကြရသည်၊ ထိုတရားစီရင်ရာတွင် ကောင်းမှု ကုသိုလ်များကို ပြုလုပ်ခဲ့သူများမှာ ပရဒိသုခဘုံ၌ ခံစားကြရ၍ အကုသိုလ် ဒုစရိုက်များ ကျူးလွန်ခဲ့ကြသူတို့မှာ ငရဲဘုံ၌ ရောက်ရှိသွားကြကာ ငရဲမီးထဲသို့ အစဉ်ထာဝရ ပစ်ချခြင်းကို ခံကြရမည်ဟု ယုံကြည်ကြရာတွင် တူညီမှုရှိကြသည်။

တရားစီရင်ချက် ချပြီးနောက်တွင် ပရဒိသုခဘုံသို့ ရောက်ရှိသူ များသည် အစဉ်ထာဝရ ချမ်းသာသုခကို ခံစားကြရမည်၊ ထိုပရဒိသုခဘုံ သည်လည်း ဤကမ္ဘာလောကကြီး ပြီးနောက် ဤကမ္ဘာ၌ပင် တည်ရှိ မည်ဟု ယုံကြည်၏၊ လောကသစ်ကြီး တစ်ခုကို တည်ထောင်ခြင်း ဖြစ်သည်။

ဟိန္ဒူဘာသာနှင့် ဗုဒ္ဓဘာသာတို့အရ ကမ္ဘာလောကကြီး တစ်ခု ပျက်စီး၍ ကမ္ဘာအသစ်တစ်ခုကို ပြန်လည်တည်ဆောက်သော ကာလ အတွင်းတွင် သတ္တဝါတို့၏ အခြေအနေ မည်သို့ရှိနေကြပုံကို ဖော်ပြ ကြရာ၌ ကွာခြားမှု ရှိသည်၊ ဟိန္ဒူ ဘာသာ အလိုအရ ကမ္ဘာကြီး

ပျက်စီး၍ ကမ္ဘာသစ်ကြီး တည်ဆောက်သည့် ကာလ အတွင်းတွင် ကမ္ဘာပေါ်ရှိ သတ္တဝါတို့၏ ဝိညာဉ်တို့သည် ဖန်ဆင်းရှင် ဗြဟ္မာထံသို့ ရောက်ရှိကြ၍ ခိုနားနေကြရသည်၊ တစ်နေ့လုံး ဆင်းရဲပင်ပန်းစွာ အလုပ်လုပ်ကိုင်ပြီး ညတွင် နှစ်ခြိုက်စွာ အိပ်ပျော်နေသူများကဲ့သို့ရှိသည်၊ ကမ္ဘာသစ်ကြီးကို ဖန်ဆင်းပြီးသောအခါ ထိုဝိညာဉ်တို့မှာ တစ်ဖန် ကမ္ဘာကြီးသို့ လာရောက်ကြသည်။

ဗုဒ္ဓဘာသာ အရကား ကမ္ဘာကြီးကို မီး၊ ရေ၊ လေတို့ဖြင့် ဖျက်ဆီးသောအခါ အမြင့်ဆုံး ပျက်စီးသွားသော ဗြဟ္မာတို့၏ အထက်ဘုံတို့သို့ ကမ္ဘာလောကကြီးမှ သတ္တဝါတို့မှာ ကမ္ဘာပျက်စီးခြင်းမတိုင်မီ ကာလကပင် ဘဝကူးပြောင်းရောက်ရှိနေကြရသည်၊ ကမ္ဘာကြီး ပြန်လည် တည်ရှိသောအခါ တစ်ဖန် ဗြဟ္မာဘဝမှ သေဆုံး၍ အောက်ဘုံအဆင့်ဆင့်သို့ ကူးပြောင်းရောက်ရှိလာခဲ့ကြရကြောင်း ဖော်ပြထားသည်။

ဟိန္ဒူဘာသာအရ ကမ္ဘာလောကကြီး ပျက်စီးရခြင်းကား ထာဝရဘုရားက ဖျက်ဆီးသောကြောင့် ပျက်ရခြင်း ဖြစ်သည်၊ ဗုဒ္ဓဘာသာအရကား သတ္တဝါများ တရားပျက်၍ အလိုလိုသာ ပျက်စီးရခြင်းဖြစ်၏၊ ခရစ်ယာန်ဘာသာနှင့် အစ္စလာမ်ဘာသာတို့ အလိုအရကား ထာဝရဘုရားသခင် ဖန်ဆင်းထားသော ကမ္ဘာကြီးကို ဘုရားက ဖျက်ဆီးပစ်ကြောင်းကို မဆိုပေ၊ ကမ္ဘာကြီးတွင် လူသားများဖြင့် စည်ကားစေလိုသောကြောင့် ဖန်ဆင်းခြင်းဖြစ်ကြောင်း ဆိုသည်။

အစ္စလာမ်ဘာသာတွင် လူသားတို့၏ ခန္ဓာကိုယ်ရှိ ဓာတ်တို့ကို ရုပ်နှင့်နာမ် (ဝါ)ဝိညာဉ်အားဖြင့် ခွဲခြားမှုကို အလေးမပေးပေ၊ တပေါင်းတစည်းတည်း ညီညွတ်မှု သဘော ဖြင့်သာ လက်ခံ ထားရှိသည်၊

ဥပုသ်စောင့်၍ အစာရှောင်အကျင့်ကို ကျင့်ကြရသည်မှတစ်ပါး လောကီ ချမ်းသာ ခံစားခြင်းကို ရှောင်ရှားရန် မသင်ကြားချေ၊ လောကဓ္ဓံ အကျိုးပေးသမျှ စည်းစိမ်ချမ်းသာကို ရယူခံစားကြရန်သာ အားပေး သည်၊ ပြင်းထန်စွာ ခြိုးခြံကျင့်ဆောင်ခြင်းမျိုးကို မလိုလားပေ။

ခရစ်ယာန် ဘာသာတွင်လည်း လူ့လောက စည်းစိမ်များကို ခံစားရာ၌ အပြစ်သဘော မတွေ့ရ၊ ဘုရားသခင်၏ ပညတ် တရား များကို မလိုက်နာဘဲ ကျူးလွန် ဖောက်ဖျက်မှုသာလျှင် အပြစ်ကို ရရှိ နိုင်သည်၊ လူ၏ခန္ဓာကိုယ်တွင် ရုပ်နှင့်ဝိညာဉ်တို့ ပေါင်းစပ် ထား ကြောင်းကို ပြဆိုထားသည်။

ဟိန္ဒူဘာသာတွင်လည်း ရုပ်နှင့်ဝိညာဉ်တို့ ပေါင်းစပ်၍ လူ သတ္တဝါများ ဖြစ်ပေါ်လာရကြောင်းကို ဆိုသည်၊ ဝိညာဉ် ဆိုသည်မှာ အစဉ်ထာဝရ တည်မြဲသော အသက်ရှိသတ္တဝါ ဖြစ်ကြ၏၊ အသက်မဲ့ ရုပ်ခန္ဓာထဲသို့ ဝင်ရောက်၍ လူပုဂ္ဂိုလ်အဖြစ် တည်ရှိလာကြောင်းကို ပြဆိုထားသည်၊ ဟိန္ဒူ ဘာသာတွင် ဝိညာဉ် သန့်စင်မှုကို ရရှိရေး၊ ကျူးလွန်ထားသောအပြစ် ပျောက်စေရေးတို့အတွက် ရုပ်ပိုင်းဆိုင်ရာ ချမ်းသာ သုခကို စွန့်၍ ကျင့်ကြံရန် လိုအပ်ကြောင်းများကို ပြဋ္ဌာန်း ထားရှိသည်။

ဗုဒ္ဓဘာသာ အလိုအားဖြင့်ကား လူ၏ခန္ဓာကိုယ်တွင် အသက်မဲ့ ရုပ်နှင့် သိတတ်သော နာမ် နှစ်ပါးတို့ဖြင့် ပေါင်းစပ်ဖွဲ့စည်းထားကြောင်းကို ဆိုသည်။ ခန္ဓာကိုယ်တွင် ရုပ်နှင့်နာမ် နှစ်ပါးတို့မှ တစ်ပါး အတ္တ ခေါ်သော ဝိညာဉ် မရှိကြောင်း အတိအလင်း ဟောကြားခဲ့သဖြင့် ဗုဒ္ဓဘာသာသည် မူလ ဟိန္ဒူဘာသာမှ အယူအဆများကို လုံးဝ

တော်လှန် ပြောင်းလဲ ပစ်လိုက်သော အယူဝါဒသစ် တစ်ခုအဖြစ် ပေါ်ထွန်းလာခဲ့သည်။

ဗုဒ္ဓဘာသာသည် လောကီစည်းစိမ် ချမ်းသာတို့၌ တပ်မက်မှုကို အပြစ်သဘောမြင်၏၊ အကြောင်းမူကား ထိုလောကီစည်းစိမ်ချမ်းသာတည်း ဟူသော တဏှာ၏ တပ်မက်မှုကြောင့် ပုဂ္ဂိုလ်တို့သည် သံသရာမှ မလွတ်မြောက်နိုင်ဘဲ အဆင့်ဆင့် အမျိုးမျိုးသို့ စုန်ဆန်ကူးလာ သွားရသော သံသရာခရီး ကိုသာ ရှည်စေသောကြောင့် ဖြစ်သည်၊ သံသရာမှ လွတ်မြောက်လိုသူတို့မှာ စည်းစိမ်ချမ်းသာကို ခံစား လိုသော တဏှာကို ပယ်နိုင်မှသာ နိဗ္ဗာန်ချမ်းသာကို ရရှိနိုင်သည်။

လောကီချမ်းသာသည် တကယ့်ချမ်းသာ အစစ်အမှန် မဟုတ်ချေ၊ နိဗ္ဗာန်ချမ်းသာသည်သာလျှင် အစဉ်ထာဝရ ချမ်းသာ ဖြစ်၏၊ လောကီချမ်းသာကား ခဏမျှသာ ခံစားရသော ချမ်းသာဖြစ်၏၊ ဒုက္ခအပေါင်းတို့မှ ကင်းငြိမ်းသော နိဗ္ဗာန်ချမ်းသာကိုသာလျှင် လိုလားအပ်၏။ တောင့်တအပ်၏။ လောကီချမ်းသာကို လိုချင်မှုကား အသိဉာဏ်မရှိသူများ၏ လိုချင်မှုသာ ဖြစ်၏။ အဝိဇ္ဇာခေါ် အသိဉာဏ်မဲ့မှုကြောင့် တပ်မက်ခြင်းတဏှာကို ရရှိခြင်းဖြစ်သည်၊ လူ့ဘဝဖြစ်စဉ် တစ်ရပ်လုံးသည် ဒုက္ခမျိုးစုံတို့ဖြင့် ပြည့်နှက်နေသော ဖြစ်စဉ်သာ ဖြစ်သည်။

လူတို့၏ ကိုးကွယ်မှု ယုံကြည်မှုဆိုင်ရာ ဘာသာတရားသည် သမိုင်းဦး ခေတ်အခါမှစ၍ ယနေ့ သိပ္ပံခေတ် တိုင်အောင် အစဉ်ရှင်သန်လျက်ပင် ရှိသေး၏၊ သိပ္ပံပညာ၏ ရှာဖွေ တွေ့ရှိချက်များကြောင့် အချို့ ဘာသာရေး အယူအဆများမှာ အဓိပ္ပာယ် ကင်းမဲ့

သကဲ့သို့ ဖြစ်ခဲ့ရသော်လည်း ဘာသာရေး တရားပေါ် သက်ဝင်ယုံကြည်မှု အရှိန်ကား ကောင်းနေဆဲ အချိန်ပင် ရှိသေးသည်။

လူသားတို့၏ ခေတ်အဆက်ဆက်တွင် တိုးတက်ဖွံ့ဖြိုးနေခဲ့သော ယဉ်ကျေးမှုတိုင်း၌ ဘာသာတရား၏ အခန်းသည် အလွန်အရေးပါသော နေရာမှ ပါဝင်ခဲ့သည်၊ သမိုင်းမှတ်တိုင်များနှင့် ရှေးဟောင်းသုတေသန ပြုလုပ်မှုများက များစွာ ထင်ရှားစေနိုင်မည် ဖြစ်သည်။

ဟိန္ဒူဘာသာ၊ ဗုဒ္ဓဘာသာ၊ ခရစ်ယာန်ဘာသာနှင့် အစ္စလာမ် ဘာသာတို့အပြင် ကမ္ဘာပေါ်တွင် ထင်ရှား၍ လက်ခံ ကိုးကွယ်သူ များပြားသည့် အခြားဘာသာကြီးများလည်း ရှိသေးသည်၊ ကွန်ဖြူးရှပ် ဘာသာ၊ တာအိုဘာသာ၊ ရှင်တိုဘာသာ၊ ဂျိန်းဘာသာ၊ ဇိုရိုအက်စတာ၊ ဂျူးဘာသာ တို့သည်လည်း အခြား ထင်ရှားသော ဘာသာများ ဖြစ်သည်။

ကွန်ဖြူးရှပ်ဘာသာ နှင့် တာအိုဘာသာတို့မှာ တရုတ်ပြည်ရှိ ဘာသာများဖြစ်၍ ရှင်တိုဘာသာကား ဂျပန်နိုင်ငံရှိ ဘာသာ ဖြစ်သည်၊ ဂျိမ်းဘာသာကား အိန္ဒိယနိုင်ငံတွင် ပေါ်ထွန်းခဲ့သော ဘာသာ ဖြစ်၍ ဇိုရိုအက်စတာ ဘာသာသည် ပါးရှားပြည်၌ ခရစ်မပေါ်မီ နှစ်ပေါင်း ၈၀၀ ခန့်တွင် ပေါ်ပေါက်ခဲ့သည်၊ ဂျူးဘာသာကား ခရစ်ယာန်ဘာသာ နှင့် အစ္စလာမ်ဘာသာတို့ မပေါ်ပေါက်မီ အချိန်က ရှိနေပြီးသော ဘာသာတရား ဖြစ်သည်။

မှတ်သားဖွယ်ရာကောင်းသော အချက်ကား ဤထင်ရှားသော ဘာသာကြီးအားလုံးတို့သည် အာရှတိုက်မှ စတင် ပေါ်ပေါက်လာခဲ့ ကြသော ဘာသာများ ဖြစ်သည်၊ အချို့ ဘာသာတို့မှာ မိမိတို့

ပေါ်ထွန်းရာ အရပ်ဒေသ၌ ဆိတ်သုဉ်း သွားခဲ့ပြီးနောက် အခြား အရပ်ဒေသများတွင်သာ စည်ပင်ကြီးပွားလျက် ရှိနေသည်။

ခရစ်ယာန်ဘာသာသည် အရှေ့အလယ်ပိုင်း ပါလက်စတိုင်း ဒေသရှိ ဂျူးလူမျိုးများထဲမှ စတင် ပေါက်ဖွားခဲ့သော်လည်း ဂျူးလူမျိုး တို့မှာ ယနေ့တိုင် ခရစ်တော်ကို အသိအမှတ်မပြုဘဲ ငြင်းပယ်ကာ ခရစ်ယာန်ဘာသာကိုလည်း အသိအမှတ် မပြုဘဲ ရှိနေသေးသည်၊ စတင် ပေါက်ဖွားရာ ဒေသ၌ ခရစ်ယာန် ဘာသာဝင် အနည်းငယ် မျှသာ ရှိပြီး ဥရောပတိုက်၊ တောင်နှင့်မြောက် အမေရိကတိုက်များ၌ သာလျှင် စည်ပင်ရှင်သန်လျက် ရှိနေသည်။

အာရှတိုက်တွင် ခရစ်ယာန်နိုင်ငံဟု ခေါ်နိုင်လောက်သော နိုင်ငံ မရှိ ဟူ၍ပင် ဆိုနိုင်လောက်ပေသည်၊ ဖိလစ်ပိုင်နိုင်ငံသည် ခရစ်ယာန် အများဆုံး ရှိသော အာရှနိုင်ငံ ဟု ဆိုနိုင်သော်လည်း အစ္စလာမ် ဘာသာဝင် ဦးရေလည်း များစွာရှိသည်။

အာဖရိကတိုက်တွင် အီသီယိုပီးယားနိုင်ငံနှင့် တန်ဇန်နီးယား စသော နိုင်ငံအချို့သည် ခရစ်ယာန် ဘာသာဝင် အများစုတို့ နေထိုင် သော နိုင်ငံများ ဖြစ်သည်။

အရှေ့ဥရောပ နိုင်ငံများမှာ အရှေ့အိုသိုဒေါက် ခရစ်ယာန် ဂိုဏ်းဝင် နိုင်ငံများ ဖြစ်သည်၊ အရှေ့အိုသိုဒေါက် ခရစ်ယာန်ဂိုဏ်းသည် ခရစ်နှစ် ၁၀၅၄ ခုနှစ်တွင် ရောမမြို့ရှိ အနောက်ပိုင်း ခရစ်ယာန်ဂိုဏ်း (ဝါ) ရိုမန်ကက်သလစ်ဂိုဏ်း ပုတ်ရဟန်းမင်းကြီးနှင့် မသင့်မတင့် ဖြစ်၍ ဂိုဏ်းခွဲ သွားခဲ့ကြခြင်း ဖြစ်သည်၊ အရှေ့အိုသိုဒေါက် ခရစ် ယာန် ဂိုဏ်းကြီး၏ အကြီးအကဲသည် ကွန်စတန်တိုင်နိုပိုလ်မြို့ (ယခု အီစတန်ဘူလ်မြို့)တွင် ဌာနချုပ် ဖွင့်လှစ်ထားသည်။

၁၉၆၄ခုနှစ်တွင် ရောမမြို့မှ ရိုမန်ကက်သလစ်ဂိုဏ်း သာသနာပိုင် ပုတ်ရဟန်းမင်းကြီးဖြစ်သူ ဆဋ္ဌမမြောက် ပေါလုသည် ဂျေရုစလင်မြို့သို့ ဘုရားဖူး ကြွလာခဲ့သည်။ သာသနာပိုင် ပုတ်ရဟန်းမင်းကြီးတစ်ဦးက ဂျေရုစလင်မြို့သို့ ဘုရားဖူးလာရောက်ခြင်းသည် ခရစ်ယာန်သမိုင်းတွင် ပထမဦးဆုံး အကြိမ် ဖြစ်သည်။ ထိုအချိန်တွင် အရှေ့အိုသိုဒေါက် ခရစ်ယာန်ဂိုဏ်း အကြီးအကဲ ဖြစ်သူ ပထမမြောက်အေသင်နဂိုရပ်သည်လည်း ကွန်စတန်တိုင်နိုပိုလ်မြို့မှ ဂျေရုစလင်မြို့သို့ လာရောက်ကာ ရိုမန်ကက်သလစ် ရဟန်းမင်းကြီးနှင့် တွေ့ဆုံကြသည်။ အရှေ့နှင့် အနောက် ခရစ်ယာန် ပင်မဂိုဏ်းကြီး နှစ်ခု၏အကြီးအကဲနှစ်ဦးတို့အကြား ဤတွေ့ဆုံကြမှုသည် နှစ်ပေါင်း တစ်ထောင်ခန့် အတွင်း၌ ပထမဦးဆုံးအကြိမ် တွေ့ဆုံကြမှုပင် ဖြစ်သည်။

ရိုမန်ကက်သလစ် ဂိုဏ်းဝင်နိုင်ငံတို့မှာ စပိန်၊ ပေါ်တူဂီ၊ အီတလီ၊ အိုင်ယာလန်နှင့် လက်တင်အမေရိက နိုင်ငံများ ဖြစ်သည်။ ပရိုတက်စတင့် နိုင်ငံများမှာ အနောက်ဥရောပနိုင်ငံများနှင့် မြောက်အမေရိကတိုက် နိုင်ငံများ ဖြစ်သည်။

အစ္စလာမ် ဘာသာဝင် နိုင်ငံများမှာ အယ်ဂျီးရီးယား၊ မော်ရိုကို၊ လစ်ဗျား၊ အီဂျစ်၊ ဆူဒန်၊ ဆော်ဒီအာရေဗျ၊ ဂျော်ဒန်၊ ဆီးရီးယား၊ အီရတ်၊ ကူဝိတ် စသည့် အာရပ်နိုင်ငံများနှင့် ဂီနီနိုင်ဂျား၊ ဆီနီဂေါစသည့် အာဖရိကနိုင်ငံများ အီရန်၊ ပါကစ္စတန်၊ မလေးရှား၊ အင်ဒိုနီးရှားစသည့် နိုင်ငံများ ဖြစ်သည်၊ အာဖဂန်နစ္စတန်၊ ဘင်္ဂလားဒေ့ရှ်နိုင်ငံများအပြင် အိန္ဒိယနိုင်ငံရှိ အစ္စလာမ်ဘာသာဝင် ဦးရေမှာလည်းအခြား အစ္စလာမ်နိုင်ငံ တစ်ခုခုရှိ ဦးရေထက်ပင် များပြားသည်။

လက်ဘနွန်နိုင်ငံတွင် ခရစ်ယာန် ဘာသာဝင် လူဦးရေသည် အစ္စလာမ် ဘာသာဝင်များထက် အနည်းငယ် ပို၍များသည်။

အစ္စလာမ်ဘာသာ စတင် ပေါ်ထွန်းရာဒေသ မက္ကာနှင့် မဒီနာ မြို့များ ပါဝင်သော ဆော်ဒီအာရေဗျ နိုင်ငံသည် အစ္စလာမ်ဘာသာ စည်ပင်ရှင်သန်လျက် ရှိနေသော နိုင်ငံအဖြစ် ဆက်လက်ရှိနေသည်။

ဟိန္ဒူဘာသာသည် ယင်း၏ မွေးဖွားရှင်သန်ရာ မိခင်ဒေသ အိန္ဒိယနိုင်ငံ၏ အပြင်ဘက်သို့ ကျယ်ပြန့်စွာရောက်ရှိခြင်း မတွေ့ရပေ။ အိန္ဒိယနိုင်ငံ၏ အပြင်ဘက်သို့ အနည်းငယ် ရောက်ရှိနေသူတို့မှာ ဟိန္ဒူလူမျိုးများသာဖြစ်၍ အခြားလူမျိုးများသို့ ပျံ့နှံ့သွားခြင်း မရှိပေ။

ဗုဒ္ဓဘာသာက မိမိမွေးဖွားရာ အိန္ဒိယနိုင်ငံ ဒေသတွင် အမြစ် ပြတ်လု ဖြစ်နေချေပြီ၊ ဗုဒ္ဓပွင့်တော်မူရာ အထိမ်းအမှတ် နေရာများကို ပင်လျှင် ရှေးဟောင်းယဉ်ကျေးမှု တစ်ရပ်အနေဖြင့် ပြုပြင်ထိန်းသိမ်းမှု မပြုလုပ်နိုင်သော အခြေအနေသို့ ရောက်ရှိနေသည်။

ဗုဒ္ဓဘာသာသည် အခြားအရပ်ဒေသများတွင်သာ စည်ပင တိုးပွားလျက် ရှိနေသည်။ ဟီနာယနခေါ် တောင်ပိုင်း ဗုဒ္ဓသာသနာ ဖြစ်သည့် ထေရဝါဒ ဂိုဏ်းကြီးသည် သီရိလင်္ကာ ၊ မြန်မာ ၊ ယိုးဒယား၊ ကမ္ဘောဒီးယား နိုင်ငံများတွင် ရှင်သန် ထွန်းကားနေပေသည်။

မဟာယာနခေါ် မြောက်ပိုင်း ဗုဒ္ဓဘာသာသည်ကား တိဗက်၊ တရုတ်၊ ကိုရီးယား၊ ဂျပန်နှင့် အင်ဒိုချိုင်းနား ဒေသများ၌ ပျံ့နှံ့ ထွန်းကားနေသည်။

ဘာသာကြီး လေးခုတို့၏ သာသနာရေး ကိစ္စများကို ဆောင် ရွက်ရာ အခြေခံယူနစ် အဖွဲ့အစည်းတို့သည်ကား ဘုန်းကြီးကျောင်းများ၊

တရားဇရပ်များ၊ ဘုရားရှိခိုးကျောင်းများနှင့် ဗလီဝတ်ကျောင်းတို့ပင် ဖြစ်သည်။

အစ္စလာမ်ဘာသာတွင် သာသနာ့ဝန်ထမ်းတို့၏ အဖွဲ့အစည်း အဆင့်ဆင့် ဖွဲ့စည်းထားခြင်း မရှိပေ၊ ဗလီဝတ်ကျောင်းအလိုက်သာ ထားရှိ၏။

ဗုဒ္ဓဘာသာ၌ ယခုအခါ ရပ်ကွက်၊ ကျေးရွာ၊ မြို့နယ်၊ ပြည်နယ်၊ တိုင်းနှင့် ဗဟိုအဆင့်များဖြင့် သံဃာ့နာယက အဖွဲ့အစည်းများကို ဂိုဏ်းပေါင်းစုံ သံဃာ အစည်းအဝေးကြီးမှ ဖွဲ့စည်း ပေးထားပြီး ဖြစ်သည်။

ခရစ်ယာန်ဘာသာ ရိုမန်ကက်သလစ်ဂိုဏ်းတွင် ရောမမြို့ရှိ သာသနာပိုင် ရဟန်းမင်းကြီးမှ ဒေသန္တရအသင်းတော်ရှိ တရားဟော ဆရာ စသည်တိုင်အောင် အဆင့်ဆင့် စနစ်တကျ ထားရှိသည်။ အင်္ဂလိကန်ဂိုဏ်း တွင်လည်း အင်္ဂလန်နိုင်ငံ ဘုရင်မင်းမြတ်သည် အင်္ဂလိကန်ဂိုဏ်း အသင်းတော်ကြီး၏ အကြီးအကဲအဖြစ် တည်ရှိ၍ နယ်မြေအလိုက် ဂိုဏ်းချုပ် ဂိုဏ်းအုပ် စသည်ဖြင့် ထားရှိသည်။

* * *

ဘာသာတရားတိုင်းတွင် သဘာဝထက် လွန်ကဲသော အံ့ဖွယ်ရာများနှင့် ပြည့်ဝနေသည်သာ ဖြစ်၏။ သိပ္ပံနည်းဖြင့် သက်သေပြ၍ မရနိုင်။ ဆင်ခြင်တုံတရားဖြင့် စမ်းသပ်၍ မရနိုင်ဟု ဆိုကြမည်သာ ဖြစ်၏။

သို့သော် ဘာသာတရားတို့ မည်သည် မျက်မှောက် ကမ္ဘာအတွက် မဟုတ်ပေ။ လောကုတ္တရာ အရေးသာ ဖြစ်သည်။ နောင်

တမလွန်ဘဝ အရေးသာဖြစ်သည်။ အနာဂတ်အရေးကို မျက်မှောက် ပစ္စုပ္ပန်ဘဝတွင် ဆောင်ရွက်နေကြရခြင်းသာ ဖြစ်သည်။

ဤသို့ဆိုလျှင် ဘာသာတရားသည် မျက်မှောက်ကာလအတွက် အကျိုး တစ်စုံတစ်ရာကိုမျှ မပြုတတ်သလော။

မျက်မှောက်အကျိုးကိုလည်း ပြုပေသည်။ မည်သည့် ဘာသာ တရားကမျှ မျက်မှောက်ဘဝတွင် အကျိုးမပြုသော လူ့ကျင့်ဝတ်ကို မညွှန်ပြချေ။ ဘာသာတရားသည် လူ့ကျင့်ဝတ်တို့ကို ချမှတ်ပေး သည်။

လူ့ကျင့်ဝတ် အချို့တို့သည် တမလွန်ဘဝ အကျိုး အတွက် ရည်မှန်းထားသည်မှာ မှန်သော်လည်း လက်ရှိဘဝအတွက် များစွာ အထောက်အကူ ပြုသည်။ ဘာသာတရားက သင်ကြားပေးသော လူ့ကျင့်ဝတ်ကို လူပုဂ္ဂိုလ်အများက လိုက်နာနိုင်ကြမည် ဆိုလျှင် တိုးတက် ကောင်းမွန်သော လူ့အဖွဲ့အစည်း တစ်ခု ဖြစ်ပေါ်လာရ မည်သာ ဖြစ်သည်။

* * *

## ဗြဟ္မာရ

ဟိန္ဒူတို့၏ အမြတ်ဆုံးသော ဘုရားသည် ထာဝရဘုရားဖြစ်၏။ စကြဝဠာ ကမ္ဘာနှင့် သက်ရှိ သက်မဲ့ အားလုံးကို ဖန်ဆင်းတော်မူသော ဘုရားဖြစ်သည်။ ထိုဘုရားသည် အရာခပ်သိမ်း ဟူသမျှကို အလုံးစုံ သိတော်မူသည့်အပြင် တန်ခိုးအာနုဘော်နှင့်လည်း ပြည့်စုံတော်မူသည်။ ဤဘုရား၏ အမည် ဗြဟ္မာရ ဖြစ်၏။

ဗြဟ္မာရဘုရားသည် ဤကမ္ဘာလောကကြီး မပေါ်ပေါက်မီကပင် ရှိနေသည်။ ဘာမှ မရှိသော လေဟာပြင်ကြီးထဲတွင် ကမ္ဘာကြီးကို ဖန်ဆင်းလိုက်သည်။ ယင်းသည်ကား အနာဒိ အနန္တ ဖြစ်၍ အစမရှိ၊ အဆုံးမရှိ။ လောကအတွင်း ရှိရှိသမျှသော အရာတို့သည် ဤဘုရား ထံမှသာလျှင် ပေါက်ဖွား ဖြစ်ထွန်းကြရသည်။ သေကြေ ပျက်စီးသော အခါတွင်လည်း ယင်းဘုရားထံသို့သာ ပူးပေါင်း ရောက်ရှိသွားကြရသည်။ ထာဝရဘုရားသည်သာလျှင် တည်မြဲရာဖြစ်၏။ အမှန်တရား ဖြစ်၏။ သံကရအမည်ရှိသော ဟိန္ဒူပညာရှိကြီး အလိုအားဖြင့် ဗြဟ္မာရဘုရား တစ်ပါးတည်းသာလျှင် တကယ်အမှန် တည်ရှိသောအရာ ဖြစ်၍

ကျန်အရာဝတ္ထု သက်ရှိ သက်မဲ့အားလုံးတို့သည် စိတ်အထင်တွင် ရှိသော မာယာမျှသာ ဖြစ်သည်။ တကယ် အထင်အရှားမရှိ။

ထာဝရဘုရားသည် အကြောင်းလည်းဖြစ်၏။ အကျိုးလည်း ဖြစ်၏။ ဆိုလိုသည်မှာ ဘုရားသခင်သည် တစ်စုံတစ်ခုကို ဖန်ဆင်းသော အခါ ထိုအရာကို ဖန်ဆင်းသူ ဖြစ်သကဲ့သို့ပင် ဖန်ဆင်းမည့် အရာ ဝတ္ထု ပစ္စည်းလည်း မိခင်ပင် ဖြစ်သည်ဟု ဆိုလိုခြင်းဖြစ်သည်။ ဘုရားသခင်သည် မိမိ၏ ရုပ်ပစ္စည်းဖြင့် အရာရာကို ဖန်ဆင်းခြင်း ဖြစ်သည်။ ဥပမာအားဖြင့် ဣသွာရသည် အိုးလုပ်သမား တစ်ဦး ဖြစ်သည်ဆိုလျှင် ထိုအိုးတို့ကို ပြုလုပ်သော ရွှံ့မြေသည်လည်း ဣသွာရပင် ဖြစ်သည်။

ဣသွာရ ဘုရားသခင် ချုပ်ချယ်ထားသော အနှောင်အဖွဲ့များမရှိ၊ ချွတ်ယွင်းချက်၊ အားနည်းချက်များမှလည်း ကင်းစင် လွန်မြောက်၏။ ထာဝရ ဘုရားသခင်နှင့် နှိုင်းယှဉ်နိုင်သောအရာ တစ်ခုမှ မရှိချေ။ အတုမရှိ တစ်ပါးတည်းသာ တည်ရှိတော်မူသည်။

ဖန်ဆင်းခြင်းခံရသော အရာတိုင်းတွင် အဖိုနှင့်အမ သဘော တို့သည် ပေါင်းစပ် ပါဝင်လေ့ရှိသည်။ အဖိုနှင့် အမတို့မှာ ဘုရားသခင်၌ ရှိသည့် အသွင်အပြင် ဂုဏ်အင်္ဂါနှစ်ခု ဖြစ်သည်။

ထာဝရ ဘုရားသခင်သည် အဖေနှင့်အမေ နှစ်ယောက်စလုံး ဖြစ်သည်။ ဣသွာရ ဘုရားသခင်ကို စကြဝဠာ၏ မိခင်ကြီးအဖြစ် အသိအမှတ် ပြုထားကြသည်။

## သုံးပါးတစ်ဆူ

ဣသွာရဘုရားသည် တစ်ဆူတည်းသော ထာဝရဘုရားပင် ဖြစ်သည်။ သို့သော် ယင်းဘုရားသခင်၏ ဂုဏ်အင်္ဂါများအလိုက် ကိုယ်ပွားတော် ဘုရားများလည်း ရှိသေးသည်။ ထိုကိုယ်ပွားတော် ဘုရားများကား အရေးအတွက်အားဖြင့် သုံးပါးရှိလေသည်ကား ဗြဟ္မာ၊ ဗိဿနိုးနှင့် သီဝတို့ ဖြစ်ကြသည်။ ဟိန္ဒူဘာသာဝင်တို့သည် ဤဘုရားသုံးဆူကို တစ်ဆူစီ ကိုးကွယ်မှုများပင် ပြုလုပ်ကြသည်။

ဣသွာရ ထာဝရဘုရားသည် ကမ္ဘာလောကကြီးကို ဖန်ဆင်းရုံသာ ဖန်ဆင်းခြင်း မဟုတ်ချေ။ ထိုကမ္ဘာလောကကြီးကို ထိန်းသိမ်း စောင့်ရှောက်ခြင်း၊ ဖျက်သိမ်းတန်လျှင် ဖျက်သိမ်းခြင်းများကို ပြုလုပ်ရသေးသည်။ သို့သော် ဘုရားသခင်သည် ဤလုပ်ငန်းများကို တစ်လက်တည်းဖြင့် ပြုလုပ်ခြင်းကား မဟုတ်ပေ။ ဖန်ဆင်းသည့်လုပ်ငန်းကို ကိုယ်ပွားတော် ဘုရားတစ်ပါးက ဆောင်ရွက်ပြီး ထိန်းသိမ်းစောင့်ရှောက်သည့်လုပ်ငန်းကို ကိုယ်ပွားတော်တစ်ဆူက တာဝန်ယူရကာ အဖျက်လုပ်ငန်းများ အတွက် အခြား ကိုယ်ပွားတော် တစ်ပါးက ပြုလုပ်ရသည်။ ကိုယ်ပွားတော်ဘုရား သုံးဆူတွင် တာဝန်အသီးသီး ရှိကြသည်။

ထိုဘုရားသုံးဆူတွင် ဗြဟ္မာသည် အရေးအကြီးဆုံး ဖြစ်၏။ ဗြဟ္မာ၏ အဓိကလုပ်ငန်းကား ကမ္ဘာလောကကြီးနှင့် ယင်းအတွင်းရှိ သက်ရှိသက်မဲ့ အရာဟူသမျှကို စနစ်တကျ ဖန်ဆင်းပေးရခြင်း ဖြစ်သည်။ ဖန်ဆင်းသည့်တာဝန် ဟူသမျှသည် ဗြဟ္မာ၏ လုပ်ငန်းဖြစ်သည်။

ဖန်ဆင်းလိုက်ပြီးသော ကမ္ဘာကို ဖြစ်သည့်အတိုင်းမထားဘဲ အမြဲတစေ ကြည့်ရှုစောင့်ရှောက်၍ မွမ်းမံပြင်ဆင်နေရသည့် လုပ်ငန်းသည်လည်း

ရှိသေး၏။ ထိုတာဝန်ကို ဗိဿနိုးက ကြီးကြပ်ရသည်။ ဗိဿနိုးဘုရားသည် လူသား၏ ချစ်ခင်မြတ်နိုးမှုကို အများဆုံး ရရှိသော ကိုယ်ပွားဘုရားဖြစ်သည်။ ဗိဿနိုးသည် လူသတ္တဝါ အပေါင်းကို ကောင်းမြတ်သော သုခချမ်းသာ တန်ခိုးအာနိသင်ကို ပေးတတ်သောကြောင့် ဖြစ်၏။

လူသားတို့၏ အသိဉာဏ်ပညာ ဖွံ့ဖြိုးရေး၊ လိမ္မာယဉ်ကျေး၍ အထက်တန်းရောက်ရှိနိုင်ရေး၊ လူသားတို့အား တရားလမ်းကို ညွှန်ပြ၍ အဓမ္မတည်းဟူသော မတရားမှုများမှ ရှောင်ကြဉ်ရေး၊ သူတော်ကောင်းတရား ပြန့်ပွားရေးတို့အတွက် ဆောင်ရွက်ရသည်။ ဤတာဝန်များကို ဆောင်ရွက်ရာတွင် ဗိဿနိုးသည် အဝတာရ ခေါ် လူဝင်စားများအဖြစ် လူ့လောကသို့ ကိုယ်တိုင်ဆင်းသက်၍ အမှန်တရား ရှင်သန်ရေးအတွက် ကြိုးစားဆောင်ရွက်ရသည်။

ဤနည်းဖြင့် ဗိဿနိုးကိုယ်တိုင် လူ့ပြည်ဆင်း၍ လူ့ဇာတိကို ခံယူကာ သတ္တဝါအများ၏ ကောင်းကျိုးချမ်းသာအတွက် ဆောင်ရွက်ခဲ့သည့် ဘဝများမှာ မနည်းတော့ချေ။ အနုအရင့် ဘဝအရင့် ဘဝစာရင်း အကျယ်တွင် ၂၄ ကြိမ်ပါပြီး ရင့်မာစာရင်းမှာ တစ်ကျိပ်တိတိရှိသည်။

(၁) မသိစယ — ( ၆) ပရသုရာမ
(၂) ကူးရ်မ — ( ၇) ရာမ
(၃) ဝရာဟ — ( ၈) ကရိဿျနား
(၄) နရဆင်းဝ — ( ၉) ဗုဒ္ဓဂေါတမ
(၅) ဒါမန — (၁၀) ကာလကီတို့ ဖြစ်ကြသည်။

နောက်ဆုံးဖြစ်သော ကာလကီအဝတာရဘုရားသည်ကား ယခုအချိန်ထိ ပွင့်တော်မူခြင်း မရှိသေးပေ။ ပွင့်တော်မူပြီးသည့် ၉ပါးသော

ဘုရားများအနက် ရာမဘုရားနှင့် ကရိသျှနားတို့ကို ဟိန္ဒူအများဆုံး ကိုးကွယ်ကြသည်။

ကမ္ဘာလောကကြီး၌ အဖျက်လုပ်ငန်းနှင့် ပတ်သက်လာလျှင် သိဝဘုရားက တာဝန်ယူရ၏။ ထို့ကြောင့် သိဝဘုရားသည် ဟိန္ဒူများ အဖို့ ကြောက်လန့်ဖွယ်ဘုရား ဖြစ်၏။

ဤသွာရ ထာဝရအရှင်သည် အဖိုအမ အစုံရှိသော ဘုရားဖြစ်သည် နှင့်အညီ ဗြဟ္မာ၊ ဗိဿနိုး၊ သိဝတို့နှင့် တွဲဖက်ရန် ကြင်ဖက်သုံးဦးလည်း ရှိသည်။ ယင်းတို့ကား သူရဿတီ၊ လက်ချမ်းနှင့် ပါရာဝတီတို့ဖြစ်သည်။ ဗြဟ္မာ၏ ကြင်ဖက်တော် ဖြစ်သော သူရဿတီ မယ်တော်ဘုရား သခင်မသည် အသိပညာ အလင်းရောင်ကို ပေး၍ စာပေပိဋကတ်တို့ကို စောင့်ရှောက်သူဖြစ်သည်။ ဗိဿနိုး၏ ကြင်လျာတော် လက်ချမ်းမှာ ဥစ္စာဓနကို တိုးပွား ပေးကမ်း စေတော်မူသော သခင်မ ဖြစ်သည်။ မယ်တော် ပါရာဝတီ သည်ကား ယင်း၏ ကြင်လျာတော် သိဝနှင့် စရိုက်ချင်း တူညီသည်။

## ကမ္ဘာကို ဖန်ဆင်းခြင်းနှင့် ဖျက်သိမ်းခြင်း

ထာဝရဘုရားက ကမ္ဘာလောကကြီးကို ဖန်ဆင်းပုံနှင့် ပတ်သက်၍ အဆို အမျိုးမျိုးရှိသည်။ ကမ္ဘာလောကကြီးကို မဖန်ဆင်းမီ လဟာပြင် တစ်ခုလုံးသည် မှောင်မည်းလျက် ရှိနေသည်။ မိမိ တစ်ဦးတည်းသာ တည်ရှိနေသော ထာဝရ ဘုရားသည် အမှောင်ထုကြီးကို မိမိ၏ အလင်း ရောင် လက်နက်ဖြင့် ဖြိုခွင်းပစ်လိုက်ရာ အမှောင်ထု ပျောက်ကွယ် သွားတော့သည်။ ထိုနောက် ရေပြင်ကို ဖန်ဆင်းလိုက်ပြန်သည်။ ထို

ရေထဲသို့ သတ္တဝါ၏ မျိုးစေ့ဗီဇကို ထည့်လိုက်သည်။ ထိုမျိုးစေ့မှ ရွှေဥတစ်လုံး ဖြစ်ပေါ်လာရာ ထာဝရဘုရားက ထိုဥကို ထက်ခြမ်းခွဲလိုက်သဖြင့် ကောင်းကင်နှင့် မြေကြီး ဖြစ်လာသည်ဟု ဖန်ဆင်းခြင်းအဆိုတစ်ခုက ဖော်ပြထားသည်။ ထိုပြီးနောက်တွင် ထာဝရဘုရားသည် စိတ္တဇသားတော် ၁၀ ပါးကို ဖန်ဆင်း၏။

အခြားအဆိုတစ်ခုကမူ ကဿပအမည်ရှိသော ထာဝရဘုရား၏ သားမှတစ်ဆင့် မနုသည် ဆင်းသက်ခဲ့၏။ ထိုမနုမှ လူသတ္တဝါ အဆက်ဆက် သက်ဆင်းလာခဲ့သည်ဟု ဆိုသည်။

မည်သည့်နည်းဖြင့်ပင် ဖန်ဆင်း စေခဲ့ကာမူ ပထမ ဖန်ဆင်းခဲ့သည့် အချိန်ကို အတိအကျသိရန် မလွယ်ကူပေ။ ထာဝရဘုရားက မူလဖန်ဆင်းခဲ့သည့် အချိန်ကို ခန့်မှန်းရန် မလွယ်သဖြင့် အနာဒိဟု သတ်မှတ်ထားရသည်။ ကမ္ဘာကို ဖန်ဆင်းခြင်း မပြုမီ ဖျက်သိမ်းခြင်းပြုခဲ့ရသည့် အချိန် ရှိခဲ့ပေလိမ့်မည်။ ထိုဖျက်သိမ်းခြင်းအချိန် မတိုင်မီတွင်လည်း ဖန်ဆင်းခြင်း ရှိရမည်ဖြစ်၍ ဖန်ဆင်းခြင်းနှင့် ဖျက်သိမ်းခြင်းတို့သည် လည်ပတ်လျက် ရှိနေခဲ့ကြသည်။

ထာဝရဘုရားက ကမ္ဘာကို ဖန်ဆင်းပြီးနောက် ကမ္ဘာကြီးသည် နှစ်ပေါင်းများစွာ တည်ရှိနေသည်။ သို့သော် အချိန်အကန့်အသတ်မရှိ တည်မြဲနေခြင်းကား မဟုတ်ချေ။ တစ်နေ့လုံး ဆင်းရဲ ပင်ပန်းစွာ အလုပ်လုပ်ပြီးနောက် ညအခါ အနားယူသကဲ့သို့ ထာဝရဘုရားသည် ဒုက္ခခံနေရသော ကမ္ဘာသူ ကမ္ဘာသားများအား အချိန်အတော်ကြာအောင် အနားပေးသည့် သဘောဖြင့် ကမ္ဘာလောကကြီးကို ဖျက်သိမ်းလိုက်ရသည်။

ကမ္ဘာလောကကြီးကို စတင်ဖန်တီးသည့် အချိန်မှ ဖျက်သိမ်းလိုက်သည့် အချိန်ကာလကို တစ်ကပ္ပဟုခေါ်သည်။ ဤကပ္ပပေါင်းများစွာ တို့သည် အစဉ်အမြဲ လည်ပတ်လျက် ရှိနေသည်။ စတင်ဖန်တီးသည့် အချိန်မှ ဖျက်သိမ်းသည့် ကာလတိုင်အောင် ကမ္ဘာ၏ သက်တမ်းဖြစ်သော တစ်ကပ္ပသည် ထာဝရဘုရားသခင်၏ တစ်နေ့တာ အချိန်ပင် ဖြစ်သည်။ ထိုတစ်နေ့တာ တစ်ချိန်သည် ယုဂ အသက်၁,၀၀၀ သို့မဟုတ် လူတို့၏ အနှစ်သန်းပေါင်း ၄၃၂ သန်းနှင့် ညီမျှသည်။ ကမ္ဘာကြီးကို ဖျက်သိမ်းသော အချိန်သည် ထာဝရဘုရားသခင်၏ ညနေဆည်းဆာ အချိန်ပင် ဖြစ်သည်။ ဤနည်းဖြင့် ကမ္ဘာလောကကြီးကို ဖန်ဆင်းခြင်းနှင့် ဖျက်သိမ်းခြင်း တည်းဟူသော ဘုရားသခင်၏ နေ့နှင့်ညပေါင်း များစွာဖြင့် သံသရာဘီးကား လည်ပတ်လျက်ပင် ရှိသည်။

ထာဝရ ဘုရားသည် ကမ္ဘာလောကကြီးကို ဖန်ဆင်းလိုစိတ် ဆန္ဒပြင်းပြလာသောအခါ ကမ္ဘာကြီးကို ဖန်ဆင်းမှု ဖြစ်ပေါ်လာရသည်။ ဖန်ဆင်းလိုစိတ် လျော့ကျသွားသောအခါ ကမ္ဘာလောကကြီး ပျက်စီးသွားသည်။ အသက် ဝိညာဉ်များသည် မိမိတို့၏ ရုပ်ခန္ဓာကိုယ်ကို စွန့်ပစ်သကဲ့သို့ ကမ္ဘာလောက၏ ဝိညာဉ်တော်ကြီးဖြစ်သော ထာဝရဘုရားသည် မိမိ၏ ကိုယ်ခန္ဓာကို စွန့်ပယ်သောအခါ ထာဝရဘုရား၌ ကမ္ဘာလောကကြီးကို ဖျက်သိမ်းလိုစိတ် ပေါ်ပေါက်လာသည်။ မြင်မြင်သမျှသော သက်ရှိသက်မဲ့ ဟူသမျှကို ထာဝရဘုရား၏ ကိုယ်ဝတ္ထုဖြင့်သာ ပြုလုပ်ဖန်ဆင်းထားခြင်းဖြစ်၍ ထာဝရဘုရား၏ ကိုယ်ထည် ပျက်စီးဆုတ်ယုတ်သောအခါ ထိုအပျက်သဘောတို့သည် ကမ္ဘာလောကကြီးရှိ

ဝိညာဉ်များထံ ထင်ဟပ်သဖြင့် ထိုဝိညာဉ်တို့၏ ကိုယ်ထည်တို့သည်လည်း ခတ်ဖောက်ပြား၍ ပျက်စီးကုန်တော့သည်။ ဤသို့ဖြင့် ကမ္ဘာလောကကြီးသည် ပျက်စီးသွားရသည်။

ထာဝရဘုရားသည် စကြဝဠာကြီးကို ဖန်ဆင်းရာတွင် ဤကမ္ဘာမြေပြင်၏ အထက်၌ လောက ၇ ခုနှင့် ကမ္ဘာမြေပြင်၏အောက်တွင် ၇ ခုတို့ကို ဖန်ဆင်းခဲ့သည်။ လောက ၇ ခုတို့မှာ–

(၁) ဘူလောက
(၂) ဘူဝရလောက
(၃) သဂ္ဂလောက
(၄) မဟာရလောက
(၅) နေလောက
(၆) တာပလောက
(၇) ထာဝရဘုရားလောက

တို့ဖြစ်သည်။

ကမ္ဘာမြေပြင်အောက်ရှိ လောကကြီးတို့မှာ–

(၁) အတလ
(၂) ဝိတလ
(၃) သုတလ
(၄) ရသာတလ
(၅) တလတေလ
(၆) မဟာတလ
(၇) ပါတလ

တို့ ဖြစ်ကြသည်။

ဟိန္ဒူတို့၏ ဗိဿနိုးပူရာဏ်ကျမ်းအရ ဤလောကကြီး ၁၄ ခုတို့သည် တစ်ခုနှင့် တစ်ခုအကြား ယူဇနာ သန်းပေါင်း များစွာ ကွာဝေးစွာ တည်ရှိကြလျက် အခြားလောကအပေါင်းများစွာ တို့သည်လည်း ရှိကြသေးသည်။ ဤမျှ ကျယ်ပြောလှသော စကြဝဠာလောကကြီးတွင် ကမ္ဘာကြီးမှာ သေးငယ် လှသော အစက်ကလေး မျှသာ ရှိပြီး အချိန်ကာလ သက်တမ်းအားဖြင့်လည်း အလွန်ပင် တိုတောင်းသည်။

ကမ္ဘာလောကကြီးသည် အထက်ဘုံနှင့် အောက်ဘုံဝတို့၏ အလယ် ဗဟိုတွင် ရှိသည်သာမက ကောင်းမှုနှင့် မကောင်းမှု၊ ဒုက္ခနှင့်သုခ၊ အသိဉာဏ်ပညာနှင့် အဝိဇ္ဇာ တည်းဟူသော အသိပညာ မရှိမှုတို့ ပေါင်းစုံရာ အရပ်လည်း ဖြစ်သည်။

## ဘဝသံသရာ

ဤကဲ့သို့သော ရုပ်လောက ကမ္ဘာကြီး၌ ရုပ်ကို အမှီပြု၍ အသက်၊ စိတ်နှင့် ဝိညာဉ်တို့သည် ဖြစ်ထွန်း ပေါ်ပေါက်ခဲ့ရသည်၊ သတ္တဝါတို့၏ ဝိညာဉ်သည် ရုပ်ကိုယ်ထည် ရယူလိုက်ခြင်းအားဖြင့် မွေးဖွားခြင်း တည်းဟူသော ဇာတိ ဖြစ်ပေါ်လာသည်။ ရုပ်လောကကြီး၌ လူပုဂ္ဂိုလ် တစ်ဦးတစ်ယောက်အဖြစ် ထင်ရှား ရပ်တည်နိုင်ရန်အတွက် ဤကဲ့သို့ မွေးဖွားခြင်းဇာတိကို ရယူရန် လိုအပ်သည်။

သို့သော် ယခုကဲ့သို့ ရုပ်ခန္ဓာကိုယ်ကို ရယူလိုက်ခြင်းသည် မတော်တဆ ရုတ်တရက် ရုပ်လောကကြီးထဲသို့ ယခုမှ ရောက်ရှိလာခြင်းကား မဟုတ်။ သတ္တဝါတိုင်းတွင် အတိတ်ဘဝနှင့် အနာဂတ်ဘဝတို့ ရှိကြသည်သာ။ အတိတ်ကာလ ဘဝမရှိသော မျက်မှောက်ဘဝသည် အကြောင်းမရှိသည့် အကျိုးတစ်ခုကဲ့သို့ ဖြစ်နေပေလိမ့်မည်။ အသက် ဝိညာဉ် ဆိုသည်မှာ လူသတ္တဝါအပေါင်းတို့၏ မွေးဖွားလာသောအခါ ထူးဆန်းစွာ ပေါ်ထွက်လာသည့် အရာတစ်ခုဖြစ်၍ စုတေ ကွယ်လွန် သော အခါတွင်လည်း ထူးဆန်းစွာပင် ပျောက်ကွယ်သွားတတ်သော အရာဝတ္ထုတစ်မျိုးကား မဟုတ်ချေ။ ပုဂ္ဂိုလ်သတ္တဝါတို့၏ စိတ်နှင့် ကိုယ်တို့သည် အမြဲတစေ ပြောင်းလဲနေတတ်သော သဘောရှိကုန်၏။

လက်ရှိဘဝသည် အတိတ်ကာလဘဝမှ ကူးပြောင်းလာခဲ့ရသည်ဆိုသော ကိစ္စတွင်လည်းကောင်း၊ နောင်အနာဂတ်ဘဝသို့ ကူးပြောင်းသွားရမည့် အလားအလာရှိသည်ဆိုသော ကိစ္စတွင်လည်းကောင်း သတ္တဝါတို့၌ ပြောင်းလဲသောသဘောမရှိ။

ရုပ်ခန္ဓာကိုယ်၌ အမှီသဟဲ ပြုနေရသော်လည်း ဝိညာဉ်၏ သဘောသကန်ယမှာ စိတ်ပိုင်း အခြေအနေရှိနေသည်။ ပုဂ္ဂိုလ် သတ္တဝါတွင် ရှိသော အရာများအနက် ဝိညာဉ်သည် ထာဝရတည်မြဲသည်။ လူ၏ဝိညာဉ်သည် ရုပ်ခန္ဓာကိုယ်ကြောင့် ပေါ်ထွက်လာရသော အကျိုးဆက်တစ်ခု မဟုတ်၊ ရုပ်ခန္ဓာကိုယ် လှုပ်ရှားမှု၏ အသွင်သဏ္ဍာန်တစ်ခုလည်း မဟုတ်ပေ။ သို့သော် ဝိညာဉ်သည် ဤကမ္ဘာလောကကြီးတွင် မိမိ၏ အလုပ်များကို လုပ်ကိုင်နိုင်ရန် အတွက် ရုပ်ခန္ဓာကိုယ်ကား လိုအပ်သည်မှာ အမှန်ပင် ဖြစ်သည်။

မျက်မှောက်ဘဝ ခန္ဓာကိုယ်တွင် သက်ဝင် လှုပ်ရှားမှု မရှိမီ အချိန်ကပင် ဝိညာဉ်သည် တည်ရှိနေပြီ ဖြစ်သည့်အပြင် လက်ရှိဘဝရုပ်ခန္ဓာကိုယ် ချုပ်ငြိမ်းသွားပြီး နောက်ကာလတွင်လည်း ဆက်လက်တည်ရှိနေပေလိမ့်မည်။ ရုပ်ဒြပ်ကိုယ်ထည်ကြီး ပြိုကွဲ ပျက်စီးသွားမှုနှင့် ရုပ်၏အသွင်သဏ္ဍာန် ပြောင်းလဲသွားမှုတို့မှာ သက်ရှိသတ္တဝါတိုင်း၏ အမြဲတွေ့ကြုံရသည့် ကိစ္စသာ ဖြစ်ချေသည်။ ဘဝတစ်ခု အဆုံးသတ်သွားခြင်းသည် အခြား ဘဝတစ်ခု ဖြစ်ပေါ်လာရန် လမ်းခင်းပေးခြင်းသာ ဖြစ်ပေသည်။

သံသရာမှ လွတ်မြောက်ရေးကို ဆောင်ရွက်ရန် ဘဝ တစ်ဘဝတည်းဖြင့် မဖြစ်နိုင်ချေ။ ယခုဘဝကဲ့သို့ပင် အခြားဘဝများတွင်လည်း

ကြိုးစားရန်လိုသည်။ ထာဝရဘုရားသခင်၏ မေတ္တာကရုဏာတော်မှာ အကန့်အသတ် မရှိသဖြင့် သံသရာမှ လွတ်မြောက်ရေးကို ဆောင်ရွက်ရန် တစ်ဘဝတွင် မရလိုက်ပါက လွတ်မြောက်ရေးကို ဆောင်ရွက်ပြီးနိုင်သည်အထိ အခြားဘဝများတွင် ကြိုးပမ်းသွားနိုင်ပေသည်။

ပုဂ္ဂိုလ် သတ္တဝါတို့၏ ဝိညာဉ်သည် တစ်ဘဝမှ တစ်ဘဝသို့ ပြောင်းရွှေ့သွားလာနေသည်။ မိမိတို့၏ ယခုဘဝတွင် တွေ့ကြုံရသော ကောင်းကျိုး ဆိုးကျိုး တို့သည် အတိတ်ဘဝမှ လုပ်ငန်းများတွင် အမှီပြုနေသည်။ အတိတ်ဘဝမှ ပြုခဲ့သော ကုသိုလ် အကုသိုလ်တို့သည် ပျောက်ကွယ်သွားခြင်း မရှိချေ။ နောက်ဘဝတွင် ပြန်လည်မွေးဖွားလာသောအခါ ရုပ်ဝတ္ထုအချို့ စိတ်ဓာတ်တို့တွင် ပြောင်းလဲမှုမျိုးလည်း ရှိသည်။

သေသော်လည်း အမြဲမပြောင်းလဲ၊ အရိပ်သဖွယ် လိုက်ပါလျက်ရှိသော အရာကား ဓမ္မ ခေါ် တရားသာလျှင် ဖြစ်သည်။ လူသတ္တဝါ သေဆုံးသောအခါ ယင်း၏ ရုပ်ခန္ဓာမှာ ပျက်စီး ကွယ်ပျောက်သွားသော်လည်း မိမိပြုလုပ်ခဲ့သော ကောင်းမှု မကောင်းမှု ဟူသမျှတို့သည်ကား ထိုသတ္တဝါ ကူးပြောင်းသွားသော ဘဝသို့ တိုင်အောင် မကွေမကွာ လိုက်ပါသွားခဲ့လေသည်။ "လူတို့ သေဆုံး၍ ခန္ဓာကိုယ် ပျက်စီးသွားသောအခါ ထိုလူတို့နောက်သို့ အစဉ်တစိုက် လိုက်ပါ လာခဲ့သည့် တစ်ဦးတည်းသော မိတ်ဆွေသည်ကား ဓမ္မတရားပင် ဖြစ်သည်"ဟု မနုက ဆိုခဲ့သည်။

ယခုဘဝတွင် တွေ့ရှိရသော အကျင့် စာရိတ္တနှင့် အသိဉာဏ် အမြင် ပညာတို့နှင့်အတူ နောက်ဘဝသို့ ရောက်ရှိ သွားရသည်။

ယခုဘဝတွင် ပြုလုပ်ပြီးသော အလုပ်များကပင် နောက်ဘဝတွင် အမိန့်ပေးလေတော့သည်။ ယခုဘဝတွင် တွေ့ကြုံရသော ပတ်ဝန်းကျင် အခြေအနေမျိုးကို နောင်ဘဝတွင် တွေ့ကြုံရသည်။ လူသားတို့ သေဆုံးသောအခါ ယင်း၏မျိုးစေ့မှာ ကျန်ရစ်ခဲ့သည်။ ထိုမျိုးစေ့မှ အသစ်ပေါက်လာရသည်။

## ကမ္မတရား

ကမ္မတရားတော်သည် လူသားတို့အား စိုးမိုးအုပ်ချုပ်လျက် ရှိသည်။ လူတို့၏ အပြုအမူများသည် မိမိတို့၏ အကျင့်စာရိတ္တကို ညွှန်ပြလျက်ရှိသည်။ ထိုနည်းတူပင် လူတို့၏ အကျင့်စာရိတ္တသည် လူတို့၏ အပြုအမူကို ဖြစ်ပေါ်စေသည်။ လူဆိုသည်မှာ လောဘသားချည်း ဖြစ်သည်။ လောဘကြောင့် လူတို့သည် အလုပ်ကို လုပ်ကြရသည်။ လောဘသည် အလုပ်ကို ဖြစ်စေသည့် တွန်းအားပင် ဖြစ်သည်။

လူသည် မိမိ၏ကံကြမ္မာကို မိမိပင် ဖန်တီးသည်။ အတိတ်ဘဝမှ ပြုလုပ်ခဲ့သည့် ကုသိုလ် အကုသိုလ်တို့သည် အနှောင့်အယှက် အတားအဆီး ကင်းမဲ့စွာဖြင့် နောက်ဘဝသို့ ရောက်ရှိသွားသည်။ ရှေးဘဝမှ အကြံအစည်တစ်ခု၊ အလုပ်တစ်ခုသည် ယခုဘဝတွင် တိကျပြတ်သား သော အကျိုးဆက်များကို ဖြစ်ပေါ်စေနိုင်သည်။ လူသားတစ်ဦးသည် ရှေးဘဝတွင် မိမိစိတ်ကြိုက် အလုပ်တစ်ခုကို ပြုလုပ်ခဲ့၏။ ထိုအလုပ် အတိုင်းပင် ယခုဘဝတွင် မိမိသည် တွေ့ကြုံလာရမည် ဖြစ်သည်။ ထောင်သောင်းမကသော နွားမများအလယ်၌ နွားသူငယ်သည် သူ၏ အမိကို ရှာဖွေ တွေ့ရှိနိုင်သကဲ့သို့ ယခင်ဘဝက ပြုလုပ်ခဲ့သော

ကံတရားသည်လည်း မိမိ၏ ပြုလုပ်သူကို ယခုဘဝတွင် လိုက်လံရှာဖွေ တွေ့ရှိနိုင်သည်။

ကျွန်ုပ်တို့သည် အတိတ်ဘဝနှင့် မည်သည့်အခါမျှ ခွဲခွာ၍ မရစကောင်းချေ။ မိမိတို့ အမှားပြုလုပ်မိပါက နောင်တ ရနိုင်မည် ဖြစ်သော်လည်း ယင်းအမှား၏ အမာရွတ်ကိုကား မည်သည့်အခါမျှ ချေဖျက် မရနိုင်တော့ပေ။ ကျွန်ုပ်တို့ ယခင်ဘဝက ပြုလုပ်ခဲ့သော အလုပ်များသည် ကောင်းသောအလုပ်ပင်ဖြစ်စေ အချိန် မည်မျှပင် ကြာညောင်းခဲ့စေကာမူ တိမ်ကော ပျောက်ကွယ်သွားခြင်း မရှိ၊ ကိုယ်ကျင့်တရားနှင့် ပတ်သက်လျှင် စကြဝဠာသည် အစဉ် တည်မြဲ ခိုင်မာလျက် ရှိသည်။ ကမ္မတရားသည် အကြောင်းအကျိုး ဆက်စပ်မှုတရား ဖြစ်သည်။

ကမ္မတရားနှင့် ပတ်သက်၍ ဖန်ဆင်းရှင် ထာဝရ ဘုရားမှာ လူသားအပါအဝင် ကမ္ဘာလောကကြီးကို ဖန်ဆင်းခြင်းနှင့်သာ သက်ဆိုင်သည်။ လူသားတို့ ပြုလုပ်လိုက်သော အကြောင်းအကျိုး ဆက်သွယ်မှုနှင့် သက်ဆိုင်ခြင်း မရှိပေ။ ကမ္မတရား လည်ပတ်မှုတွင် ဝင်ရောက်စွက်ဖက် ပါဝင်ခြင်း မရှိပေ။ သစ်ပင်မျိုးစေ့ အမျိုးမျိုးတို့သည် ယင်းတို့မျိုးရိုး အပင်များ ပေါက်ပွားရာတွင် မိုးရေက ကူညီရသကဲ့သို့ ထာဝရ ဘုရားသခင်သည်လည်း လူသားတို့အား ဖန်ဆင်းရာတွင် ပါဝင်ခဲ့ရသည်။ သို့သော် လူသားတစ်ဦးစီ၏ ကံကြမ္မာကိုမူ ကမ္မတရားကသာ ထိန်းချုပ်ထားရှိသည်။

လူသားတို့၏ အနာဂတ်တရားကို ကမ္မတရားကသာ စိုးမိုး ချယ်လှယ်နေခဲ့လျှင် ဘုရားသခင်ထံ ရှိခိုး ဆုတောင်းမှုများ အကျိုး ကျေးဇူး ရှိနိုင်မရှိနိုင်ဆိုသည့် ကိစ္စတွင် အကျိုးရှိနိုင်ကြောင်းကို တွေ့ရှိ

ရသည်။ ဘုရားသခင်ထံ ရှိခိုးဆုတောင်းသော သူများကို ထာဝရ ဘုရားသခင်က အကျိုးရှိမည့် အလုပ်များ ကောင်းသောအလုပ်များကို လုပ်ကိုင်လိုစိတ် ဖြစ်ပေါ်လာအောင် ကောင်းချီးပေး စွမ်းဆောင်နိုင်မည် ဖြစ်သည်။ သံသရာမှ လွတ်မြောက်မည့် တရားနည်းလမ်းများကို ညွှန်ပြပေးနိုင်မည်ဖြစ်သည်။

ဇီဝခေါ် ဝိညာဉ်သည် ရုပ်လောကကြီး၏ ပြုပြင်ပြောင်းလဲမှုများကို အာရုံပြု ခံစားနိုင်သော အစွမ်းရှိသည်။ လူတို့၏ ဝိညာဉ်များသည် ဘုရားသခင်၏ ဝိညာဉ်တော်ကြီးနှင့် ဆက်စပ်လျက်ရှိသည်။ သို့သော် လူ့ဝိညာဉ်များသည် ဘုရားသခင်၏ ဝိညာဉ်တော်ကြီး ဝင်ရောက် ကိန်းဝပ်ခြင်းကို မသိကြချေ။ လူ့ဝိညာဉ်များသည် ဘုရားသခင်၏ ဝိညာဉ်တော်ကြီးနှင့် တစ်ခုတည်းဖြစ်ကြောင်းကို မသိကြဘဲ မိမိတို့ကိုယ် မိမိတို့ မှီတွယ်နေစဉ် ရုပ်ခန္ဓာကိုယ်ကြီးနှင့်သာ ထပ်တူဖြစ်ကြောင်းကို သိနားလည်ထားကြသည်။

လူတို့၏ ဝိညာဉ်များသည် ရုပ်ခန္ဓာကိုယ်ကို ပိုင်ဆိုင်လာခြင်းဖြင့် အာရုံငါးပါးကို ခံစားနိုင်သောသူများ ဖြစ်လာကာ ကုသိုလ် အကုသိုလ် လုပ်ငန်းများ တဖြည်းဖြည်း ပွားများလာသောအခါ ရုပ်က အမှီပြုရသည့် ဘဝများစွာကို ဖြတ်သန်း ကူးပြောင်းလာရတော့သည်။ ယခင်ဘဝက ပြုဖူးသော ကုသိုလ် အကုသိုလ်ကံကို အခြေပြု၍ ဘုရားသခင်သည် ဝိညာဉ်တစ်ခုချင်းအား ရုပ်ခန္ဓာကိုယ်ဖြင့် သံသရာခရီးနှင်ခွင့် ပြုထား လေသည်။

ကမ္ဘခေါ် ကမ္ဘာလောကကြီး တစ်ခု တစ်ခုစီ၏ အဆုံးသော ကာလ၌ ဘုရားသခင်သည် ဆွဲဆန့်ထားသော လက်နိပ်ဘာဂျာကို

ခေါက်တွန့်ထားလိုက်သကဲ့သို့ ရုပ်လောက ကမ္ဘာကြီးကို ဘုရားသခင်က ရုပ်သိမ်းထားလိုက်သည်။ ထိုအချိန်မျိုး၌ ဝိညာဉ်များသည် ညဥ့်ရှည်ကြီးတွင် အိပ်ပျော်နေကြသကဲ့သို့ ရုပ်လောက ကမ္ဘာနှင့် အဆက်အသွယ်မရှိဘဲ လွတ်လပ်စွာ အနားရရှိသွားကြသည်။ သို့သော်လည်း သူတို့၏ ရှေးကုသိုလ်ကံများမှာ ကုန်ခန်းသွားခြင်း မရှိသေးသဖြင့် ဘုရားသခင်က ကမ္ဘာလောကသစ်ကြီး တစ်ခုကို ဖန်ဆင်းပေးလိုက်သောအခါ ထိုဝိညာဉ်များသည် ရုပ်ခန္ဓာကိုယ် အသစ်တို့ဖြင့် ပြန်လည် ဝင်ရောက်လာကြရသည်။

လူဝိညာဉ်ဆိုသည်မှာ သဘာဝအားဖြင့် အာရုံခံစားတတ်သော သိစိတ်ရှိသော အစဉ်လှုပ်ရှားနေသည့်ကိုယ်ပင် ဖြစ်သည်။ အရွယ်အစားအားဖြင့် ပြောရလျှင် ဝိညာဉ်သည် အနုမြူအရွယ် ရှိ၏။ ဝိညာဉ်များမှာ မရေတွက်နိုင်လောက်အောင် များပြားလေသည်။

သံသရာ၌ ကျင်လည်နေသောအချိန်တွင် သတ္တဝါတို့၏ ဝိညာဉ်များသည် ထာဝရဘုရားနှင့် တူညီသောအချက် ရှိသကဲ့သို့ မတူညီသော အချက်များလည်း ရှိသည်။ ရုပ်လောက၌ ရှိနေသော ဝိညာဉ်သည် ထာဝရဘုရား တည်းဟူသော ဝိညာဉ်တော်ကြီးနှင့် တူညီရသော အချက်ကား ထာဝရဘုရား ဖန်တီးလိုက်သော အကျိုးဆက်တစ်ခု ဖြစ်၍လည်းကောင်း၊ ထာဝရဘုရား၏ အစိတ်အပိုင်းတစ်ခု ဖြစ်နေ၍လည်းကောင်း၊ ထာဝရဘုရားနှင့် တူညီရခြင်း ဖြစ်သတည်း။ ထာဝရဘုရားနှင့် မတူညီသော အကြောင်းကား သတ္တဝါတို့၏ ဝိညာဉ်သည် ဖန်ဆင်းရှင် ထာဝရ ဘုရားနှင့် တခြားစီ ဖြစ်နေသောကြောင့်တည်း။

အဝိဇ္ဇာခေါ် မသိမှုကြောင့် လူတို့၏ ဝိညာဉ်သည် မိမိတို့ကို ထာဝရဘုရားနှင့် မတူ ခြားနားလေဟန် စိတ်အထင်ရောက်ကာ ရုပ်ခန္ဓာကိုယ်နှင့်သာ ထပ်တူဖြစ်သည်ဟု စိတ်တွင် စွဲမှတ်နေပါက ထိုဝိညာဉ်သည် အတ္တစိတ် ရောက်ရှိနေခြင်း ဖြစ်သည်။

ထာဝရဘုရားမှစ၍ မြက်ပင် ပေါင်းပင်အထိ အားလုံးတို့သည် သတ္တလောကထဲတွင် ပါဝင်သည်။ သတ္တလောကတွင် ဒေဝ၊ မနဿ၊ ဒါနဝ ဟူ၍ သုံးမျိုးရှိသည်။

လူတို့၏ ဝိညာဉ်သည် အနုမြူ အရွယ်မျှသာ ရှိသဖြင့် နားမျက်စိ စသော အပေါက်ကျဉ်းကလေးများမှ ထွက်သွား၍ရသည်။ အနုမြူအရွယ်ခန့်သာ ရှိသော်လည်း ဝိညာဉ်၏ သိနိုင်စွမ်းအားသည် ခန္ဓာကိုယ် တစ်ခုလုံးသို့ ပျံ့နှံ့လျက်ရှိသည်။ သေးငယ်သော မီးအိမ်ကလေး တစ်လုံးသည် ကျယ်ဝန်းသော အခန်းကြီး တစ်ခုလုံးကို အလင်းရောင်ပေးနိုင်သကဲ့သို့ ဝိညာဉ်သည် ခန္ဓာကိုယ် တစ်ခုလုံး၌ ဖြစ်ပျက်နေသော အခြေအနေအားလုံးကို သိနေနိုင်သည်။

ဝိညာဉ်သည် ပရမတ္ထသဘောဖြင့် နိစ္စရူပ အစဉ်တည်မြဲလျက် မည်သည့်အခါမျှ မပျောက်ပျက်ပေ။ ဝိညာဉ်တွင် အစမရှိ အဆုံးမရှိ အမြဲ တည်မြဲသည့်သဘော ရှိသည့်အပြင် အလိုအလျောက် တောက်ပသော အရည်အသွေးရှိသည်။ သံသရာ၌ အနှောင်အဖွဲ့ဘဝဖြင့် နေရစဉ်အခါတွင်သာ မဟုတ် သံသရာမှ လွတ်မြောက်သွားသော အခါတွင်လည်း ဤအရည်အသွေးများ အတူတူပင်ရှိသည်။ သို့သော် ထာဝရ ဘုရားသခင်ကဲ့သို့ သီးခြားကင်းလွတ်သော ကိုယ်ကား မဟုတ်ချေ။ ယခုဘဝရှိ ဝိညာဉ်၏ အပြုအမူများမှာ ယခင်ဘဝက အကျိုးကြောင့်

ဖြစ်ပေါ်လာရသော်လည်း နောင်ဘဝတွင် မိမိကြမ္မာကို မိမိ ကြိုက်သလို ဖန်တီးယူနိုင်စွမ်း ရှိသည်။

ထာဝရဘုရားသည် ဝိညာဉ်များအား ယင်းတို့၏ သဘာဝနှင့် အညီ နေရာချမှတ်ပေးသည်။ ဝိညာဉ်များ၏ ဘဝကို ဘုရားသခင်က ပြောင်းလဲ ပြင်ဆင် ပေးနိုင်စွမ်း ရှိသော်လည်း ဘုရားသည် ထိုသို့ မပြုလုပ်ချေ။ ဝိညာဉ်များအား မိမိတို့၏ ကံကြမ္မာကို မိမိတို့ ဖန်တီးနိုင်ခွင့် ပေးထားသည်။

ဝိညာဉ်များသည် ဘုရားသခင်၏ အစိတ်အပိုင်းများ ဖြစ်သော်လည်း ကျောက်ဆောင်ကြီးမှ ပဲ့ထွက်လာသော ကျောက်တုံးကဲ့သို့သော အစိတ်အပိုင်းမျိုးကား မဟုတ်။ အရှင်သခင်၏ လက်အောက်ခံဖြစ်သော အစိတ်အပိုင်း၊ ဘုရားသခင်နှင့် ဆက်နွယ်မှု ရှိသော်လည်း သီးခြား ရှိနေသော အစိတ်အပိုင်းမျိုးသာ ဖြစ်၏။

ဝိညာဉ်များတွင် တစ်ခုနှင့်တစ်ခု အတိတ်ကံ မတူညီကြခြင်း၊ ယုံကြည်ချက် မတူညီကြခြင်းကြောင့် ဝိညာဉ် အချင်းချင်းလည်း မတူညီကြ၊ သံသရာ အနှောင်အဖွဲ့မှ မလွတ်ကင်းသေးသော ဝိညာဉ်၊ လွတ်မြောက်လာပြီးသော ဝိညာဉ်နှင့် အစဉ်အမြဲ လွတ်လပ်နေသော ဝိညာဉ်ဟူ၍ သုံးမျိုးရှိသည်။ လွတ်မြောက်ပြီးသော ဝိညာဉ်များ ပင်လျှင် ပါရမီအရင်းခံ အရည်အချင်း ကွာခြားချက်ကြောင့် ဝိညာဉ် တစ်ခုနှင့် တစ်ခု မတူညီကြချေ။

ကမ္ဘာလောကကြီးသည် အမှန်တရားသာ ဖြစ်သည်။ အိပ်မက်များ သည်လည်း အမှန်တရားဖြစ်၏။ ဘုရားသခင်၏အလိုကြောင့် အိပ်မက် များ ဖြစ်ပေါ်လာရပြီး အိပ်ရာမှနိုးသောအခါ ပျက်ပြယ်သွားရသည်။

ကမ္ဘာလောကကြီးနှင့် ဝိညာဉ်များကို ထာဝရဘုရားသခင်က ပိုင်ဆိုင်သည်။ သံသရာ အနှောင်အဖွဲ့သို့ ရောက်ရှိ သွားရခြင်း အကြောင်းမှာ အမှန် တရားကို မျက်ကွယ်ပြု၍ ဘုရားသခင်ကို ကျောခိုင်း သွားသောကြောင့် ဖြစ်သည်။ ဘုရားသခင်၏ ရှေ့တော် မှောက်သို့ ရောက်ရှိလာသော အခါ သံသရာမှ လွတ်မြောက်ရ လေသည်။

## ဝိညာဉ်များကို ဘုရားသခင်က ထိန်းချုပ်ထား

ထာဝရ ဘုရားသခင်သည် အမြင့်ဆုံးသော ဝိညာဉ်တော်ကြီး ဖြစ်သည်။ ကမ္ဘာအလုပ် အားလုံးကို ကြီးကြပ် ထိန်းသိမ်းရသူလည်း ဖြစ်သည်။ သတ္တဝါအားလုံး၌ရှိသော အသိဉာဏ်ပညာကို ပေးကမ်းနိုင်သူ ဖြစ်၍ သံသရာတွင်ကျင်လည်နေရသော ဝိညာဉ်အားလုံးတို့မှာ ဘုရား သခင်ကို မှီတွယ်နေရသည်။

လူ့ဝိညာဉ်သည် ထာဝရ ဘုရား၏ အစိတ်အပိုင်း တစ်ခုပင် ဖြစ်သော်လည်း လူ့ဝိညာဉ်တွင် ရှိသော ချွတ်ယွင်းချက် အားနည်း ချက်များကြောင့် ထာဝရဘုရားအား မထိခိုက်နိုင်ပေ။ ဖြောင့်တန်းစွာ ကျဆင်းလာသော နေ၏နေရောင်ခြည်သည် တစ်စုံတစ်ခုသော အရာ ဝတ္ထုကိုထိတွေ့သောအခါ ကောက်ကွေးနေသည်ဟု မြင်ရ၏။ ရေထဲတွင် အရိပ်ပေါ်လာသော နေဝန်းကြီးသည် ရေလှုပ်ရှားသောအခါ နေဝန်းကြီး လှုပ်သည်ဟု ထင်ရ၏။ အမှန်တကယ်အားဖြင့် နေရောင်သည် ကောက်ကွေး မသွားသကဲ့သို့ နေဝန်းကြီးသည်လည်း တုန်လှုပ်ခြင်း မရှိချေ။ ဤနည်းအတိုင်းပင် ထာဝရ ဘုရားသခင်သည်လည်း အဝိဇ္ဇာ

ကြောင့် ဖြစ်ပေါ်လာသော ဝိညာဉ်၏ ချမ်းသာခြင်း၊ ဆင်းရဲခြင်း အမှုကိစ္စကြောင့် တစ်စုံတစ်ရာ ထိခိုက်ခြင်း မရှိပေ။

အမြင့်ဆုံးသော ဝိညာဉ်တော်ကြီးနှင့် သာမန် ဝိညာဉ်တို့သည် သဘော သဘာဝချင်း မတူညီနိုင်၊ အလင်းရောင်ကို ထွက်စေနိုင်သည့် အရာနှင့်အလင်းရောင်သည်ခြားနားသကဲ့သို့ ဝိညာဉ်တော်ကြီးသည်လည်း ယင်း၏ အစိတ်အပိုင်းတစ်ခု ဖြစ်သော သာမန် ဝိညာဉ်နှင့် ခြားနားမှု ရှိသည်။ မူလ အခြေခံဓာတ်နှင့် ယင်းမှထွက်သော စွမ်းအင်သည် ခြားနားသကဲ့သို့ ဝိညာဉ်တို့သည်လည်း ခြားနားကြသည်။ ဝိညာဉ်သည်ကား ဖန်ဆင်းရှင်၏ အစွယ်အပွား တစ်ခုသာ ဖြစ်ချေသည်။

လူသတ္တဝါတွင် ရုပ်နှင့်နာမ် သို့မဟုတ် ရုပ်ခန္ဓာနှင့် ဝိညာဉ်တို့ ပေါင်းစပ်ပါရှိသည်။ ခန္ဓာကိုယ်တွင် ရုပ်ဓာတ် ပါရှိပြီး ထိုရုပ်ဓာတ်မှာ ဘုရားသခင်၏ အစိတ်အပိုင်း တစ်ခု ဖြစ်သည်။ ဝိညာဉ်ကိုကား ဖန်ဆင်းထားခြင်း မဟုတ်။ နိစ္စသဘောဖြင့် အမြဲတမ်းရှိသော အရာသာ ဖြစ်၏။ သို့သော် ဝိညာဉ်သည်လည်း ဘုရားသခင်၏ အစိတ်အပိုင်း တစ်ခုပင် ဖြစ်သည်။ ဝိညာဉ်တွင် ရုပ်ဓာတ်ထဲသို့ ဝင်ရောက်ထိုးဖောက် ပျံ့နှံ့နိုင်သော သတ္တိ ရှိသည်။

ဝိညာဉ်သည် မိမိ၏ ပျံ့နှံ့ရာ ကိုယ်တစ်လျောက်လုံးကို လိုက်၍ ခန္ဓာကိုယ်အား ငါစွဲဖြင့် ဖော်ပြလာသောအခါ အတ္တစွဲရှိသည်။ ငါစွဲ ရှိသည်ဟု ဆိုစမှတ်ပြုကြသည်။ ဇိုဝိညာဉ်သည် သဘာဝအားဖြင့် ဝိညာဉ်မဟုတ်သော ရုပ်ဓာတ်ကို ဝိညာဉ်ဖြစ်လေဟန် အစွဲမှားခြင်းပင် ဖြစ်သည်။ ဤကဲ့သို့ အယူမှားခြင်း၊ အမှတ်မှားခြင်းကား အဝိဇ္ဇာ ခေါ် အသိအမြင် မရှိမှုကြောင့် ဖြစ်သည်။

ထိုသို့ အယူမှားလျှင် သံသရာမှ မလွတ်မြောက်နိုင်။ သံသရာမှ လွတ်မြောက်လိုလျှင် အဝိဇ္ဇာကို ပယ်သတ်ရမည်ဖြစ်၏။ အဝိဇ္ဇာကို ပယ်လိုက်လျှင် အဝိဇ္ဇာ ဖြစ်လာသဖြင့် အမှန်တရားဖြစ်သော ဘုရားသခင်ကို မြင်နိုင်သည့်ဉာဏ်ကို ရရှိသည်။

## သံသရာမှ လွတ်မြောက်ရေး

သတ္တဝါတို့၏ အမြင့်ဆုံးသော ပန်းတိုင်သည်ကား သံသရာတွင် ကျင်လည်ရသည့်ဘဝမှ လွတ်မြောက်၍ ဖန်ဆင်းရှင်တည်းဟူသော နိဗ္ဗာန်ရွှေပြည်သို့ ကူးပြောင်း ရရှိရေးပင် ဖြစ်သည်။ တရားဘာဝနာ စီးဖြန်းခြင်း၊ ဘုရားကို အာရုံပြုခြင်း၊ ရိုးရာအစဉ်အလာ ပူဇော်ပသ ပွဲများ ပြုလုပ်ခြင်းများကား ထာဝရဘုရားထံသို့ ရောက်ရှိရေးအတွက် အောက်တန်းစားများ ပြုလုပ်သော အလေ့အကျင့်များ ဖြစ်သည်။ လောကီဘုံ၌ ချမ်းသာကြွယ်ဝရေး၊ နတ်ပြည်ဘုံများ၌ ခံစားရရေးတို့ကို အလိုမရှိကြသော အထက်တန်းစား ပုဂ္ဂိုလ်များအဖို့ဆိုပါမူ ဉာဏခေါ် အသိဉာဏ်ပညာ ပွင့်လင်းမှုသည်သာလျှင် ထာဝရဘုရားလောကသို့ ရောက်ရှိကြောင်း တရားမည်၏။ ထိုအသိဉာဏ်ပညာမျိုး ရရှိနိုင်ရန် အတွက် ဝေဒ စသော ကျမ်းဂန်များကို လေ့လာရန် လိုအပ်ပေသည်။ ဝေဒကျမ်းများသည် သံသရာမှ လွတ်မြောက်နိုင်သည့် နည်းလမ်း ကောင်းများကို ညွှန်ပြပေးနိုင်သည့် အာဏာပိုင်များ ဖြစ်သည်။

ဝေဒကျမ်းများကို လေ့လာလိုသူသည် ပရမတ္ထသဘော အရ မြဲသောအရာနှင့် မမြဲသောအရာများကို ခွဲခြားသိမြင်တတ်ရပေမည်။ လောကီ လောကုတ္တရာ သာယာမှုကို ခံစားလိုခြင်းမှ ရှောင်ရှားနိုင်ရန်

လည်း လိုသည်။ စိတ်ကို တည်ငြိမ်အောင် စွမ်းဆောင်နိုင်မှု၊ ကိုယ့်ကိုယ်ကို ချုပ်တည်းထားနိုင်မှု၊ အရာရာကိုစွန့်ပစ်နိုင်မှု၊ သည်းခံနိုင်မှုနှင့် သမာဓိ ခိုင်မြဲမှုများ ရှိရမည့်အပြင် ကျမ်းဂန်များကို မမိုတ်မသုန် ယုံကြည်မှုလည်း ရှိရမည် ဖြစ်သည်။ သံသရာမှ လွတ်မြောက်လိုသော စိတ်ဆန္ဒရှိရန်လည်း အရေးကြီးသည်။

မျက်စိသည် အလင်းရောင်နှင့် အရောင်အဆင်းကို လိုအပ်သည်မှာ သဘာဝပင်တည်း၊ ကိုယ်ခန္ဓာသည်လည်း အစားအစာနှင့် ရေတို့ကို လိုအပ်သည်။ ထိုနည်းတူပင် ဝိညာဉ်သည် ထာဝရ ဘုရားသခင်၏ အမှန်တရားကို သိရှိကာ အဝိဇ္ဇာအတွင်းမှ လွတ်မြောက်လိုသည်မှာ သဘာဝကျလှသည်။ သံသရာဝဲသြဃမှ လွတ်မြောက်လိုမှုပင် ဖြစ်သည်။ အကြင် အရည်အသွေးနှင့် ပြည့်စုံသော တစ်စုံတစ်ယောက်သောသူသည် ဥပနိသျှဒ် ကျမ်းများကို လေ့လာပါအံ့၊ ထိုသူသည် ဝိညာဉ်နှင့် ထာဝရ ဘုရားတို့ ထပ်တူဖြစ်ကြောင်းကို နားလည် သဘောပေါက်သွားကာ သံသရာ တစ်ဖက်ကမ်းသို့ ကူးပြောင်း လွန်မြောက် သွားနိုင်မည် ဖြစ်သည်။

ဘဝအသစ်သစ်အဖုံဖုံသို့ ရောက်ရှိနိုင်သောတရား (ဝါ) သံသရာ ရှည်မည့် တရားနှင့် ဘဝတိုတိုဖြင့် လွတ်မြောက်မည့် တရား ဟူ၍ နှစ်မျိုးရှိသည်။ အစဉ်အလာ ပူဇော်ပွဲများ ပြုလုပ်ခြင်းကြောင့် ချမ်းသာ သုခများကို ခံစားရကာ သံသရာရှည်နိုင်သည်။ ထာဝရ ဘုရားကို သိအောင် လုပ်နိုင်ခြင်းသည်သာလျှင် လွတ်မြောက်ရေးတရား ဖြစ်၏။

လွတ်မြောက်ရေး တရားသည် နှစ်မျိုးရှိသည်။ ချက်ချင်းလက်ငင်း လွတ်မြောက်မှုကို ရရှိသွားခြင်းနှင့် တဖြည်းဖြည်း လွတ်မြောက်ခြင်းတို့

ဖြစ်သည်။ ဉာဏ ခေါ် အသိဉာဏ်ကို ရရှိအောင် ကြိုးစားလျှင် ချက်ချင်းလက်ငင်း လွတ်မြောက်မှုကို ရရှိနိုင်သော်လည်း ပူဇော်ပသခြင်း၊ ဘုရားထံ ဆုတောင်းခြင်းမျိုးကား တဖြည်းဖြည်း လွတ်မြောက်ခြင်းမျိုး အကျိုးကိုသာ ရရှိနိုင်သည်။

မည်သည့်နည်းဖြင့်ပင် သံသရာကို ကူးနိုင်ခဲ့သည်ဖြစ်စေ လက်ရှိ ရုပ်ခန္ဓာကိုယ်ကို စွန့်ပစ်ပြီးမှသာ လွတ်မြောက်နိုင်သည်။ သေပြီးမှ ထာဝရဘုရားနှင့် ပေါင်းဆုံနိုင်ခြင်း ဖြစ်သည်။ တစ်နည်းအားဖြင့် ဆိုရသော် ထာဝရဘုရား ဆိုက်သည်နှင့် တစ်ပြိုင်နက် လူ့ဘဝမှ စုတေရခြင်း ဖြစ်၏။

ထာဝရဘုရားကြီးကို အထပ်ထပ်အခါခါ ပုတီးစိပ် တရားထိုင်သောအခါ ထာဝရ ဘုရားကြီးနှင့် တစ်ထပ်တည်း ကျသွားသဖြင့် ဉာဏ်အလင်းရကာ ထာဝရဘုရားဆိုက်၍ နိဗ္ဗာန်ခေါ် ထာဝရဘုရားသို့ ကူးပြောင်းသွားရသည်။ ဤနည်းကား အလျင်အမြန် ကူးပြောင်းနည်း ဖြစ်သည်။ ကာယထာဝရဘုရားသာ ထပ်တလဲလဲပုတီးစိပ်လျှင် ဟိရည ကမ္ဘာသို့ ရောက်ရှိသွားပြီး ဤလောကကြီးကို ဖျက်သိမ်းသောအခါတွင် ထာဝရ ဘုရားသို့ ဆိုက်ရောက်သည်။ တဖြည်းဖြည်း ကူးပြောင်းနည်း ဖြစ်သည်။ ဟိရညကမ္ဘာသို့ ရောက်ရှိသော လွတ်မြောက်ပြီး ဝိညာဉ် များသည် ထာဝရဘုရားနှင့် ထပ်တူ မဖြစ်သေးချေ။ ထာဝရဘုရားတွင် ရှိသော ကမ္ဘာလောကကြီးကို ဖန်ဆင်းခြင်း၊ ထိန်းသိမ်း စောင့်ရှောက် ခြင်းနှင့် ဖျက်သိမ်းခြင်း တန်ခိုးအာဏာများကိုလည်း မရရှိနိုင်ချေ။ လွတ်မြောက်ပြီးသော ဝိညာဉ်တို့သည် ရုပ်ခန္ဓာကိုယ်ကို ဖန်ဆင်းချင်လျှင် ဖန်ဆင်းနိုင်စွမ်း ရှိသည်။

သံသရာမှ လွတ်မြောက်ရန်အတွက် ကျမ်းဂန်များကို တတ်သိနားလည်ရုံနှင့် မရနိုင်။ အသိဉာဏ် အလုပ်ကို ပေါင်းစပ်ပေးမှသာလျှင် ဖြစ်နိုင်သည်။ အသိဉာဏ် အလင်းရောင်ဖြင့် အလုပ် လုပ်ရမည် ဖြစ်၏။ အသိဉာဏ်မပါသော အလုပ်သက်သက်ဖြင့် အောင်မြင်မှုကို မရရှိနိုင်ပေ။ နေ့စဉ်ဖြစ်စေ၊ ရံဖန်ရံခါဖြစ်စေ စနစ်တကျ တရားထိုင်ခြင်းဖြင့် အတိတ်က အကြောင်းကံတို့၏ အနှောင်အဖွဲ့များကို ဖယ်ရှားပစ်နိုင်သည်။ ထာဝရဘုရားနှင့် ထပ်တူဖြစ်ကြောင်း သိသော အသိဉာဏ်သည်လည်း အဝိဇ္ဇာတည်းဟူသော အသိဉာဏ်မရှိမှု၊ ဒေါသဖြစ်မှု၊ သမုဒယ ချည်နှောင်မှုတို့ကို ဖယ်ရှားထုတ်ပစ်နိုင်သည်။ ဝိဉာဏ်များသည် ထာဝရဘုရားဘဝသို့ ဆိုက်ရောက်လိုသောအခါ လွတ်မြောက်မှုကို ရရှိနိုင်ပြီး ဤကမ္ဘာလောကရှိ အရာဝတ္ထုများကို တဏှာဖြင့် တပ်မက်သောအခါ အနှောင်အဖွဲ့သို့ ကျရောက်သွားရလေသည်။

## ထာဝရဘုရား နှစ်မျိုး

ထာဝရဘုရားသဘောကို ဖော်ပြရာတွင် နှစ်မျိုးနှစ်စား ရှိသည်။ ပုံသဏ္ဍာန်ရှိသော ထာဝရဘုရားနှင့် ပုံပန်းမရှိသော ထာဝရဘုရားတို့ ဖြစ်၏။ ပုံပန်းသဏ္ဍာန်ရှိသော ထာဝရဘုရားကို သဂုဏဟုခေါ်၍ ပုံပန်းအတိအကျ မဖော်ပြနိုင်သော ထာဝရဘုရားကို နိဂ္ဂုဏ ထာဝရဘုရားဟု ခေါ်သည်။ သဂုဏ ထာဝရဘုရားတွင် ရုပ်အင်္ဂါများပါရှိ၍ နိဂ္ဂုဏ ထာဝရဘုရားတွင် ဂုဏ်အင်္ဂါ ဖော်ပြစရာ မရှိပေ။ သဂုဏထာဝရဘုရားသည် တစ်ပါးတည်းသော ပုဂ္ဂိုလ် ဖြစ်သည်။ နိဂ္ဂုဏ ထာဝရဘုရားကား ပုဂ္ဂိုလ်သတ္တဝါ မဟုတ်ဘဲ သဘောအရသာ ဖော်ပြနိုင်သည်။

ကမ္ဘာလောကကြီးကို ဖန်ဆင်းသော ထာဝရ ဘုရားသည် သဂုဏ ထာဝရဘုရား ဖြစ်၏။

အသိဉာဏ်ကိုရ၍ လွတ်မြောက်သွားသော ဝိညာဉ်သည် ထာဝရ ဘုရားသခင်သာ အမှန်တရား ဖြစ်ကြောင်း၊ ကမ္ဘာလောကကြီးပင်လျှင် အမှန်တရားမဟုတ်ဘဲ စိတ်၏ အာရုံသာ ဖြစ်ကြောင်းကို သိသည်။ ထိုအသိစိတ်ဖြင့်ပင်ကြည့်သောအခါ ထာဝရဘုရားသည်လည်း ဖန်ဆင်းရှင် တစ်ပါး မဟုတ်တော့ သကဲ့သို့ ဘုရားသခင်၏ အလုံးစုံကို ဖန်ဆင်းနိုင်စွမ်းရှိသော တန်ခိုးဣဒ္ဓိပါဒ်နှင့် အလုံးစုံကို သိနိုင်စွမ်းသော သဗ္ဗညုတဉာဏ်တို့ကို တွေ့ရှိနိုင်တော့သဖြင့် ထိုကဲ့သို့သော ထာဝရ ဘုရားသည် နိဂ္ဂုဏ ထာဝရဘုရားပင် ဖြစ်လေသည်။

## လွတ်မြောက်ပြီးသော ဝိညာဉ်များ

သူတော်ကောင်းများသည် ဘုရားသခင်၏ ကြည့်ရှုစောင်မမှု နှင့် အသိဉာဏ်တို့ကို ရရှိသော အခါ သံသရာမှ အပြီးအပိုင် ကျွတ်ထွက် လွတ်မြောက်သွားကြရသည်။ သာမန် လူပုဂ္ဂိုလ်များမှာ ဘဝ အဆက်ဆက် ပြန်လည် မွေးဖွားလာကြရပြီးမှ လွတ်မြောက် ကြရသည်။ အဆိုးသွမ်းဆုံး လူတို့သည်ကား ငရဲဘုံသို့ ရောက်ရှိ သွားကြသည်။ ထာဝရလွတ်မြောက်သွားပြီးသော သူများနှင့် ငရဲဘုံသို့ ရောက်ရှိသွားကြသူများမှာ ပြန်လည် ဘဝကူးပြောင်း လာခြင်းမျိုး မရှိတော့ဟု ဟိန္ဒူပညာရှိကြီး မဒဝက ဆိုသည်။ ငရဲဘုံသို့ ရောက် သွားသော မသူတော်များ အတွက် လွတ်မြောက်ရန် လမ်းမရှိသော အဆို ဖြစ်သည်။

ထာဝရဘုရားသခင်ကို မေတ္တာပို့ခြင်းသည် အသိဉာဏ်ပညာ ပွင့်လင်းရန်အတွက် အထောက်အကူ ဖြစ်စေသည်။ ကြီးစွာသော အပြစ်ကို မိုက်မှားစွာ ပြုခဲ့မိသည့် တိုင်အောင်ပင် ဘုရားသခင်ကို မေတ္တာပို့လျှင် အပြစ်ဒဏ် ခံရခြင်းမှ လွတ်မြောက်နိုင်သည်။ ဘုရား သခင်အား မေတ္တာပို့ခြင်းကို ထာဝရဘုရားသည် အလွန် ကြိုက်နှစ်သက် တော်မူသည်။ ဘုရားသခင် တစ်ပါးတည်းသာလျှင် သတ္တဝါများကို ကယ်ဆယ်နိုင်သဖြင့် ဘုရားသခင်ကို မေတ္တာပို့ခြင်းသည် အကောင်းဆုံး ဖြစ်သည်။

ဝိညာဉ်များသည် အလိုအလျောက် ထွန်းလင်းတောက်ပသော သဘောရှိသည်။ သို့သော် ဝိညာဉ်များ၏ ထက်မြက်သော အသိဉာဏ် ပညာကို အဝိဇ္ဇာ ခေါ် မသိမှုက လွှမ်းမိုးထားတတ်သည်။ ထာဝရ ဘုရားသခင်ကို အမှန်အတိုင်း သိသောဉာဏ် ပေါ်လာသည်နှင့် တစ်ပြိုင်နက် အဝိဇ္ဇာမှာရ နေလာ နှင်းပျောက် ဖြစ်သွားရသည်။ သံသရာ၌ အနှောင်အဖွဲ့ ခံနေရခြင်းမှာ သမုဒယနှောင်ကြိုးကြောင့် ဖြစ်သည်။

ဘုရားသခင်ကို တိုက်ရိုက် တွေ့ထိ သိမြင်လာသောအခါ လွတ်မြောက်သွားရသည်။ ဘုရားသခင်ကို ကိုးကွယ်ဆည်းကပ်ခြင်း နှစ်မျိုး ရှိသည်။ ကျမ်းစာများကို သင်အံ လေ့လာခြင်းနှင့် တရား ထိုင်ခြင်းတို့ ဖြစ်သည်။ တရားထိုင်ခြင်း ဆိုသည်မှာ ဘုရားသခင်ကို တစ်ဆက်တည်း စိတ်၌ အာရုံပြုနေခြင်းကို ဆိုလိုသည်။ အာရုံထဲသို့ အခြားကိစ္စများ မဝင်လာနိုင်အောင် သမာဓိကို စောင့်ထိန်းပေးရသည်။ ဘုရားသခင်ကို မေတ္တာပို့ခြင်း ဆိုသည်မှာလည်း ဘုရားသခင်အား

ချစ်သည့်စိတ်ကို အဆက်မပြတ် ဆွဲဆောင်ထားမှုပင် ဖြစ်သည်။ ဘုရားသခင် ကျေနပ်သွားသောအခါ လွတ်မြောက်ရသည်။

သံသရာမှ လွတ်မြောက်ပုံ လေးမျိုး ရှိသည်။ တစ်မျိုးမှာ လွတ်မြောက်လာသော ဝိညာဉ်သည် ထာဝရ ဘုရားသခင်၏ ကိုယ်ထဲသို့ ဝင်ရောက်လျက် ဘုရားသခင် အတိုင်းပင် ပျော်ရွှင်မှုများကို ခံစားရသည့် အဖြစ်မျိုး၊ နတ်ကောင်းနတ်မြတ်မျိုးသာ ဤအမျိုးအစားကို ခံစားကြရသည်။ ဤပုဂ္ဂိုလ်များသည် ယင်းတို့၏ ဆန္ဒအတိုင်း ဘုရားသခင်၏ ခန္ဓာကိုယ်မှထွက်၍ သီးခြားနေထိုင်လိုက နေထိုင်နိုင်ကြသည်။

လွတ်မြောက်လာသော ဝိညာဉ်တစ်မျိုးမှာ နတ်ပြည် နတ်ဘုံများတွင် နေထိုင်ကြရ၍ ထာဝရဘုရားသခင်ကို မိမိတို့ ကြိုက်သလောက် အဆက်မပြတ် ဖူးမြော်နိုင်ခွင့် ရှိကြသည်။ နောက်တစ်မျိုးကား သူတော်စင်ကြီးများသာ ခံစားနိုင်သော လွတ်မြောက်နည်းမျိုး ဖြစ်၏။ ထာဝရဘုရားသခင်၏ အနီး၌ ကပ်၍ နေရသော အမျိုး ဖြစ်သည်။ အခြားတစ်မျိုးသည် ဘုရားသခင်၏ အစေအပါးများ ဖြစ်ကြသည်။ ယင်းတို့၏ ပုံသဏ္ဌာန်မှာ ဘုရားသခင်၏ ပုံသဏ္ဌာန်မျိုး ရှိသည်။ ဤနည်းဖြင့် လွတ်မြောက်ပြီးသော ဝိညာဉ်တို့သည် တစ်မျိုးနှင့် တစ်မျိုး မတူဘဲ တစ်မူထူးခြားကြသည်။

သံသရာမှ လွတ်မြောက်ခြင်းကား ရုပ်လောကကြီးထဲ၌ အနှောင်အဖွဲ့ခံနေရသည့် ဘဝကို အဆက်ဖြတ်လျက် ဘုရားသခင်နှင့် တူညီမှုအဆင့်သို့ ရောက်ရှိသွားခြင်းကို ဆိုလိုခြင်း ဖြစ်သည်။ သံသရာကို ကူးပြောင်းလာခဲ့သော ဝိညာဉ်များသည် ထာဝရဘုရားသခင်ကဲ့သို့ပင်

အလုံးစုံကိုသိသော သဗ္ဗညုတဉာဏ်ကို ရရှိကြသည်။ အမိုခိုကင်းခြင်းသည်လည်း လွတ်မြောက်သော ဝိညာဉ်၏ အရည်အချင်း တစ်ရပ်ဖြစ်သည်။ အားနည်းချက်၊ ချွတ်ယွင်းချက် တို့မှ ကင်းစင်လျက် ထာဝရဘုရားသခင်၌ ရှိသော အရည်အချင်း အားလုံးကို ရရှိ ပိုင်ဆိုင်လာကြသည်။ သို့သော် ဘုရားသခင် တစ်ပါးတည်းသော တတ်စွမ်းသော ကမ္ဘာကို ဖန်ဆင်းခြင်း၊ ထိန်းသိမ်းစောင့်ရှောက်ခြင်းနှင့် ဖျက်သိမ်းခြင်း တန်ခိုးအာဏာကိုမူ မည်သည့်ဝိညာဉ်မှ ရရှိနိုင်စွမ်း မရှိချေ။ သံသရာမှ လွတ်မြောက်ခြင်းသည် ဝိညာဉ်အဖို့ အစွမ်းကုန် ဖွံ့ဖြိုး တိုးတက်လာခြင်းသာ ဖြစ်သည်။ ဘုရားသခင် အထဲသို့ ဝင်ရောက် ပျောက်ကွယ်သွားခြင်းမျိုး မဟုတ်ချေ။

ဆိုအဆင့်သို့ ရောက်ရှိပြီးသော ဝိညာဉ်တို့သည် ချမ်းသာသုခကို ခံစားနိုင်သော စိတ်ကို ရရှိပြီး သီးခြား လွတ်လပ်သည့် ရုပ်ဝတ္ထုမဟုတ်သော အာရုံ ငါးပါးတို့ကို ပိုင်ဆိုင်ကြသည်။ ထာဝရဘုရားသခင်၏ ပုံပန်းသဏ္ဌာန်ကို မျက်ဝါးထင်ထင် တွေ့မြင်ရလျက် ဘုရားသခင်၏ ခံစားချက်အတိုင်း ခံစားကြရသည်။ ထိုဝိညာဉ်သည် ရုပ်ခန္ဓာကိုယ် မရှိသော်လည်း စိတ်တစ်ခုတည်းဖြင့်ပင် အာရုံ အားလုံးကို ခံစားနိုင်သည်။ ရုပ်လောကကို လွန်မြောက်သော ဝိညာဉ်ဆိုင်ရာ ခန္ဓာကိုယ်များကို ဖန်ဆင်းလျက် အသက်ဝင် လှုပ်ရှားစေကာ မိမိ ကြိုက်နှစ်သက်သော သုခ ချမ်းသာ ပျော်ရွှင်မှုများကို ခံစားနိုင်သည်။ အကျိုးအကြောင်း ဆက်သွယ်သည့် ကမ္မတရားသည် ဝိညာဉ်ကို အကျိုး မပေးနိုင်တော့ချေ။ အကျိုးပေးရန် ကျန်ရှိနေသော ကမ္မတရားတို့သည် နောက်ဆုံး ရုပ်ခန္ဓာကိုယ် ပြိုလဲ ပျက်စီးသွားသည့် အချိန်အထိသာ အကျိုးပေးနိုင်သည်။

ထာဝရဘုရားသခင်သည် ရုပ်ခန္ဓာကိုယ်မရှိသော ပုဂ္ဂိုလ် ဖြစ်သည်။ သို့သော် သိတတ်သောစိတ်၊ နေရာ အားလုံးသို့ ပျံ့နှံ့ သက်ရောက်နိုင်သော အရည်အချင်းများ ရှိသည်။ ဘုရားသခင် ရှိနေခြင်းကို အာရုံ ငါးပါးတို့ဖြင့် သိနိုင်စွမ်း မရှိသော်လည်း သမာဓိကောင်းကောင်းဖြင့် ဘုရားသခင်ကို အာရုံပြုသူများက သိမြင်နိုင်သည်။ အပြင်လောကရှိ ရုပ်ဝတ္ထုပစ္စည်းများကို တွေ့မြင်ရသကဲ့သို့ စင်ကြယ်သောစိတ်က ဘုရားသခင်ကို မြင်နိုင်စွမ်း ရှိသည်။

သံသရာမှ ကျွတ်လွတ်နိုင်သော နည်းလမ်းများမှာ အလွန်ပင် များပြားသည်။ ကမ္ဘာလောကကြီး၌ ဝိညာဉ် အရေအတွက် များပြားသလောက် ဘုရားသခင်ထံ ရောက်ရှိနိုင်သော နည်းလမ်းများမှာလည်း များပြားသည်ဟု ဆိုစမှတ် ပြုကြသည်။ လူတစ်ကိုယ် နည်းတစ်မျိုး ရှိနေခြင်းပင် ဖြစ်သည်။ ပုဂ္ဂိုလ်တစ်ဦးနှင့် တစ်ဦး ကွာခြားမှု ရှိသကဲ့သို့ ယင်းတို့၏ လွတ်မြောက်ရာ နည်းလမ်းသည်လည်း ရှိသည်။ အလုပ်ဖြင့် အောင်မြင်သွားခြင်း၊ မေတ္တာပို့၍ အောင်မြင်ခြင်းနှင့် တရားဘာဝနာ ကျင့်ကြံ၍ အောင်မြင်ခြင်းတို့မှာ အများအောင်မြင်သွားကြသော နည်းများပင် ဖြစ်သည်။ ဤကျင့်နည်းများသည် အသိပညာကို ရရှိစေနိုင်သော နည်းများ ဖြစ်သည်။ ယောဂီနည်းတွင် ဤကျင့်နည်းများ ပါဝင်သည်။

ဝိဇ္ဇာခေါ် အသိဉာဏ်မှာ အဝိဇ္ဇာကို ပယ်မှသာ ရရှိနိုင်ခြင်း ဖြစ်သည်။ အသိဉာဏ်ကို ရရှိသောအခါ သံသရာမှ လွတ်မြောက်သည်။ သံသရာမှ လွတ်မြောက်ခြင်းကား ဖန်ဆင်းရှင် ထာဝရ ဘုရားသို့ ရောက်ရှိသွားခြင်း ဖြစ်သည်။ ထာဝရဘုရားသို့ ရောက်ရှိသွားခြင်းသည် ထာဝရအသက်ကို ရရှိခြင်း ဖြစ်သည်။ ထာဝရအသက်ဟူသည်ကား

ထာဝရ ဘုရားသခင်နှင့် တိုက်ရိုက် ဆက်သွယ်မှု ရရှိ၍ မွေးဖွားလာသော ဘဝ အအသစ် ဖြစ်သည်။ လွတ်မြောက်ပြီးသောသူသည် ပြန်လည် မွေးဖွားခြင်းတည်းဟူသော ဇာတိမှ လွတ်မြောက်သွားသည်သာမက မွေးဖွားခြင်းနှင့် သေခြင်းတည်းဟူသော အချိန်၏ ကန့်သတ်ထားမှု မှာလည်း လွတ်မြောက်သွားသည်။

ထာဝရအသက် ဆိုသည်မှာ ဖြစ်ခြည်းတည်းဟူသော ဇာတိကို ပျက်ပြားစေနိုင်သည်ကို ဆိုလိုခြင်း မဟုတ်။ ဇာတိကို အောင်နိုင်ခြင်းသာ ဖြစ်သည်။ လွတ်မြောက်ပြီးသော ဝိညာဉ်များသည် ကမ္ဘာလောကကြီးကို အမြင့်ဆုံးအဆင့် ဖြစ်သည့် ဝိညာဉ်လောကကြီး ဖြစ်လာအောင် ကြိုးပမ်း ဆောင်ရွက်ကြရသည်။ သူတို့သည် ရုပ်လောက အသွင် ရှိနေသော ကမ္ဘာကြီးအား ဝိညာဉ်ကမ္ဘာအဖြစ် ကူးပြောင်းလာအောင် ကြံဆောင်ကြရသည်။ လွတ်မြောက်မှု ဆိုသည်မှာ ဝိညာဉ်လောကသို့ ရောက်ရှိ သွားကြခြင်းကို ဆိုလိုသည်။ လူသားသည် မိမိအပေါ် အရှင်သခင်သဖွယ် စိုးမိုး ချယ်လှယ်နေသည့် ကိုယ်တွင်းရှိ ဝိညာဉ်ကို သိနိုင်စွမ်းမရှိလျှင် အနှောင်အဖွဲ့မှ မလွတ်မြောက်နိုင်သေးချေ။

သံသရာမှ လွတ်မြောက်သွားပြီးသော ဝိညာဉ်တို့သည် ကမ္ဘာ လောကကြီးထဲသို့ ပြန်လာ၍ လူသားတို့အား ချစ်ခင်သနားသောစိတ်ဖြင့် ကူညီမှုများ ပြုလုပ်ကြရသည်။ လွတ်မြောက်ပြီးသူ ဝိညာဉ်များအတွက် နယ်မြေ အကန့်အသတ်၊ အတားအဆီးမရှိဘဲ သွားချင်ရာသို့ လွယ်ကူစွာ သွားလာနိုင်ကြသည်။ လွတ်မြောက်ပြီးသူများနှင့် လူသားများအကြား၌ ယောက်ျား မိန်းမအားဖြင့် လည်းကောင်း၊လူတန်းစားအားဖြင့် လည်း ကောင်း၊ လူမျိုးရေးအားဖြင့်လည်းကောင်း၊ နိုင်ငံအားဖြင့်လည်းကောင်း

အဟာန့်အတား မရှိတော့ပေ။ မည်သည့် ဘာသာဝင် ယောကျာ်း မိန်းမများ မဆို လွတ်မြောက်ပြီးသော ဝိညာဉ်တို့မှာ တစ်အူထုံဆင်း မွေးချင်းများကဲ့သို့ နေထိုင်နိုင်ကြသည်။

လွတ်မြောက်ပြီးသော ဝိညာဉ်များတွင် ထူးခြားသော အရည် အချင်း နှစ်ခု ရှိသည်။ ထိုသူတို့မှာ အတ္တစွဲ မရှိတော့ဘဲ ပြင်းထန်သော တဏှာရမ္မက်လည်း ကင်းငြိမ်းလေတော့သည်။ သတ္တဝါ အားလုံးနှင့် ထပ်တူဖြစ်ကြောင်းကို သိနားလည်ထားပြီး ဖြစ်သည့်အတိုင်း သတ္တဝါ အားလုံးကို မိမိနှင့် ထပ်တူ ချစ်ခင် ကြင်နာမှု အပြည့်အဝ ရှိသည်။ လူသားများ ဝဋ်ဆင်းရဲခံနေရခြင်း၊ အဝိဇ္ဇာကို မပယ်လှန်နိုင်ခြင်းတို့ကို တွေ့မြင်ရသော ထိုဝိညာဉ်များသည် စိတ်မချမ်းမသာ ဖြစ်ကြရသည်။

စကြာဝဠာ လောကကြီး တည်ရှိနေသမျှ ကာလ ပတ်လုံး လွတ်မြောက်ပြီးသော ဝိညာဉ်များသည် အလုပ်လုပ်နေကြရသည်။ ကမ္ဘာလောကကြီးကို ဖန်ဆင်းသော ဘုရားသခင်၏ ရည်မှန်းချက်ကို အကောင်အထည် ဖော်ရာတွင် ပါဝင် ကူညီသောအားဖြင့် သတ္တဝါ အများ လွတ်မြောက်ရေးအတွက် ဆောင်ရွက်ပေးကြရသည်။ လူသား များနှင့် မတူဘဲ ဝိညာဉ်တို့မှာ ရုပ်ခန္ဓာကိုယ် မရှိဘဲ နေထိုင်ကြရသည်။

သတ္တဝါအများ ဒုက္ခရောက်ရ၍ ပူပင်သောက ရောက်နေသော အခါမျိုးနှင့် မတရား ညှင်းဆဲခြင်းကို ခံနေရသောအခါမျိုးတို့တွင် လွတ်မြောက်ပြီးသော ဝိညာဉ်များမှာ အလုပ်အများဆုံး လှုပ်ရှားကြ ရသည်။

ကမ္ဘာလောကကြီးကို ဖျက်သိမ်းသည့် အချိန်ကာလ အထိ လွတ်မြောက်ပြီးသော ဝိညာဉ်များသည် ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်

အသွင်သဏ္ဍာန်များကို ရယူထားရှိကြသည်။ ထိုကာလကို မသေသော, ကာလဟု ခေါ်ကြသည်။

အဝိဇ္ဇာကို အသိဉာဏ်ပညာဖြင့် ပယ်ဖျောက် ပစ်လိုက်သော အခါတွင် လွတ်မြောက်မှုကို ရရှိသွားသည်။ သို့သော် လွတ်မြောက်ပြီးသောသူသည် ခန္ဓာကိုယ်ကို မစွန့်သေးချေ။ ရုပ်ခန္ဓာကိုယ်ကို စွန့်ပစ်ပြီးမှ လွတ်မြောက်မှုကို ရရှိသောသူများလည်း ရှိသည်။ လွတ်မြောက်ပြီးသည့်တိုင်အောင် ရုပ်ခန္ဓာကိုယ်ကို မစွန့်သေးသူများလည်း ရှိနေသည်။ သစ္စာတရားကို တစ်ဆင့် ပို့ချပေးနိုင်သူများမှာ ဤကဲ့သို့သော လွတ်မြောက်ပြီးသူများပင် ဖြစ်သည်။ ရုပ်ခန္ဓာ ပိုင်ဆိုင်နေခြင်းသည် အဝိဇ္ဇာကြောင့်ဟု အယူရှိသော ဟိန္ဒူပညာရှင်များက လွတ်မြောက်မှုကို သေပြီးမှ ရရှိနိုင်သည်ဟု လက်ခံထားကြသည်။ အဝိဇ္ဇာနှင့် ကာမကြောင့်သာ ရုပ်ခန္ဓာကိုယ်ကို ရရှိနေခြင်း ဖြစ်သည်။ အဝိဇ္ဇာ ဆက်လက်ရှင်သန်နေလျှင် လွတ်မြောက်မှုကို မရရှိနိုင်။ အနှောင်အဖွဲ့နှင့် လွတ်မြောက်မှုသည် တစ်ပြိုင်တည်း အတူတကွ မတည်ရှိနိုင်သောကြောင့် ဖြစ်သည်။

ရုပ်ခန္ဓာကိုယ်ကို စွန့်၍ သေဆုံးပြီးနောက်တွင် လွတ်မြောက်ပြီးသော ပုဂ္ဂိုလ်တို့မှာ ကမ္ဘာလောကကြီးကို ကယ်ဆယ်ရန်အတွက် ပုံပန်းသဏ္ဍာန် တစ်ခုခုကို ရယူရသည်။ ဘုရားသခင်သည် မိမိကိုယ်ကို ရုပ်ခန္ဓာဖြင့် ဖန်ဆင်းထားလျှင်လည်း ထိုရုပ်ကို ဘုရားသခင်ကိုမှ စိုးမိုးနိုင်သကဲ့သို့ တစ်သီးပုဂ္ဂလအသွင် တစ်ခုခုကို ရယူ အသုံးချနေသော ဝိညာဉ်ကိုလည်း မိမိ၏ ခန္ဓာကိုယ်က အစိုးမရနိုင်ချေ။ သံသရာတွင် ဒုက္ခခံနေရသော သတ္တဝါများကို ကူညီရန် ထာဝရဘုရားသခင်သည်

ပုံသဏ္ဌာန် အသွင် အမျိုးမျိုးကို ဖန်ဆင်းရသကဲ့သို့ လူသားများကို ကယ်ဆယ်ရန် အတွက် ဝိညာဉ်တို့သည်လည်း အသွင်သဏ္ဌာန် အမျိုးမျိုးကို ဖန်တီး ရသည်။ ကမ္ဘာ လောကကြီး တစ်ခုလုံးကို ပြန်လည် ကယ်ဆယ် ရယူပြီးသော အခါ ကမ္ဘာ့ဝိညာဉ်တော်ကြီး ဖြစ်သော ထာဝရဘုရားနှင့်အတူ ဝိညာဉ်တို့သည် ထာဝရ ဘုရား သခင်ကြီး ဖြစ်သော ဣသွာရထဲသို့ ဝင်ရောက် ပူးပေါင်း သွားရ လေသည်။

## ထာဝရဘုရားသို့ သွားရာခရီး

အဝိဇ္ဇာတည်းဟူသော အမှောင်ကို ပယ်ခွင်း၍ အမှန်တရား သစ္စာကို သိသောသူ၏ အသိဉာဏ်သည် ပုံသဏ္ဌာန်ရှိသော အဂုဏ ထာဝရဘုရားဆီသို့ သွားရာ၌ နတ်တို့၏ သွားရာလမ်းတိုင်း သွား ရောက်ရသည်။ ပုံသဏ္ဌာန်မရှိသော နိဂ္ဂုဏ ထာဝရဘုရားကို သိသော အသိဉာဏ်မျိုးကို ရရှိသောသူ ဖြစ်လျှင်ကား သူ၏ ဝိညာဉ်သည် အခြားလမ်းခရီးဖြင့် မသွားတော့ဘဲ ထာဝရ ဘုရားသို့ တိုက်ရိုက် ရောက်သွားရသည်။

သဂုဏဘုရားကို ကိုးကွယ်ဆည်းကပ်သော သူများသည် နတ် တို့၏ လမ်းအတိုင်း သွားကြရသည်။ ဝိညာဉ်တို့သည် ခန္ဓာကိုယ်ကို စွန့်ခွာသွားပြီးသော်လည်း ကံ၏အကျိုးတရားများသည် လတ်တလော ချက်ချင်း ပျက်စီးသွားခြင်း မရှိသေးချေ။ ဝိညာဉ်၏ အသိဉာဏ်သည် နတ်တို့၏ လမ်းမှတစ်ဆင့် သွားရောက်နေပြီး ဖြစ်သော်လည်း ထာဝရ ဘုရားထံသို့ ရောက်ရှိသည့် အချိန်အထိ လွတ်မြောက်မှုကို မရရှိသေး၊

ထာဝရဘုရားထံသို့ ရောက်ရှိသွားသည့်အချိန်အထိ ကမ္မ၏ အကျိုး တရားအချို့ ကပ်ငြိ ကျန်နေသေးသည်။

ကမ္မ၏ အကျိုးပေးမှု ကုန်ဆုံးခြင်းမှာ နှစ်ပိုင်း ရှိသည်။ ပထမ ပိုင်းသည် သေဆုံးသောအချိန်တွင် ကုန်ဆုံး၍ အကြွင်းအကျန်သော ကမ္မတို့မှာ ဝိဇရာမြစ်ကို ဝိညာဉ် ဖြတ်ကူးချိန်တွင် ကုန်ဆုံးသွားသည်။ ဝိဇရာမြစ်ကား အချိန်အကန့်အသတ် ထားရှိသော လောကနှင့် အချိန် အပိုင်းအခြားအားဖြင့် အကန့်အသတ် မရှိသော လောက တို့ကို ခွဲခြားထားသော နယ်ခြားမျဉ်း ဖြစ်သည်။

နတ်တို့၏လမ်းမှ သွားရသော ဝိညာဉ်တို့သည် ဝိဇရာမြစ်ကို ဖြတ်ကူးကြရသည်။ ထိုမြစ်ကို ဖြတ်ကူးသောအခါ ကမ္မ၏ အကျိုးပေးမှု အားလုံး ကုန်ဆုံးလေတော့သည်။ ဝိဇရာမြစ်၏ တစ်ဖက်ကမ်းသည်ကား နောက်ဆုံး လွတ်မြောက်ပြီးသူများ၏ နိုင်ငံပင်တည်း။

နောက်တစ်နည်း၏ အလိုကား ကမ္မသည် အကျိုးပေးမှု ကုန်ဆုံးသွားသော်လည်း ထာဝရဘုရားအား အမြဲနှလုံးသွင်း အောက် မေ့မှု၏ အကျိုးအာနိသင်ကြောင့် မျက်စိဖြင့် မမြင်နိုင်သော ခန္ဓာကိုယ် သည် ဆက်လက် တည်ရှိနေသေးသည်ဟု ဆိုခြင်းပင် ဖြစ်သည်။ သဂုဏ ထာဝရဘုရားနှင့် နိဂ္ဂုဏ ထာဝရဘုရား နှစ်မျိုးစလုံးသို့ သွားသော ဝိညာဉ်များသည် နတ်တို့၏ လမ်းမှပင် သွားကြရသည် ဆိုသော အယူအဆလည်း ရှိသည်။

ရုပ်ခန္ဓာကို စွန့်ခွာ၍ ထာဝရဘုရားကြီးဆီသို့ ထွက်ခွာလာသော ဝိညာဉ်သည် အလင်းရောင် နောက်သို့ လိုက်သွားသည်။ လမ်းတွင် ပထမဦးဆုံးတွေ့ရသောနတ်မှာ လျှပ်စစ်ကို စောင့်သောနတ် ဖြစ်သည်။

လျှပ်စစ်နတ်ထံမှတစ်ဆင့် ထွက်ခွာလာပြန်ရာ ဝရုဏခေါ် မိုးနတ်သို့ ရောက်ရှိလာပြန်သည်။ မိုးမရွာမီ လျှပ်စီးလက်သောကြောင့် မိုးနတ်ကိုမတွေ့မီ လျှပ်စစ်နတ်ကို အလျှင်ဦးစွာ တွေ့ရခြင်းဖြစ်သည်။ ဤနည်းဖြင့် နတ်တို့သည် ဝိညာဉ် ထာဝရဘုရားသို့ ရောက်အောင် လမ်းညွှန်သွားကြသည်။

ဝိညာဉ်သည် ရုပ်ခန္ဓာကိုယ်မှ ထွက်ခွာလာသောအခါ မိမိ၏ အင်္ဂါအစိတ်အပိုင်းတို့ကို စိတ်တစ်နေရာသို့ ဆွဲဆောင် စုပေါင်းသိမ်းရုံး ယူလာခဲ့ရသည်။ ထို့ကြောင့် ထိုအင်္ဂါ အစိတ်အပိုင်းတို့သည် ဦးဆောင်လမ်းညွှန်မှုများကို မပြုလုပ်နိုင်ပေ။ အလင်းရောင်သည်လည်း အသိဉာဏ်မရှိသောကြောင့် ဝိညာဉ်တို့ကို လမ်းမညွှန်တတ်ချေ။ ထို့ကြောင့် အသိဉာဏ်ရှိသော နတ်တို့ကသာလျှင် ဝိညာဉ်ကို ထာဝရဘုရားလောကသို့ ရောက်ရှိအောင် ရှေ့ဆောင်လမ်းပြ ပြုခဲ့ရသည်။ ဝရုဏနတ်မှတစ်ဆင့် ဣန္ဒရာ(ဣန္ဒာ)နတ်၊ ပရာဇာပတိနတ်တို့ကို ပို့ဆောင်ပေးသည်။

နောက်ဆုံးတွင် ဝိညာဉ်တို့သည် ဟိရညကမ္ဘာ ခေါ် ထာဝရဘုရားလောက (ဝါ) သဂုဏ ထာဝရဘုရားသို့ ရောက်ရှိသွားကြရသည်။ ဖန်ဆင်းသည့် ကမ္ဘာဖြစ်သော ထာဝရဘုရားလောက ပျက်စီးသွားသောအချိန်တွင် ထိုကမ္ဘာကြီးကို အုပ်ချုပ်သူဖြစ်သော သဂုဏ ထာဝရဘုရားနှင့်အတူ ဝိညာဉ်တို့သည် အမြင့်မြတ်ဆုံး ထာဝရဘုရားဖြစ်သည့် နိဂ္ဂုဏ ထာဝရဘုရားသို့ စံဝင်ကြရလေတော့သည်။

ထာဝရဘုရားကြီးသို့ စံဝင်ကြရသော ဝိညာဉ်တို့နှင့် ထာဝရဘုရား၏ ဆက်ဆံရေး အခြေအနေနှင့် ပတ်သက်၍ဆိုပါမူ အားလုံးတန်းတူညီမျှ ရှိသော ဆက်ဆံရေး ဖြစ်သည်။ လွတ်မြောက်ပြီးသော

ဝိညာဉ်တို့၏ သဘောမှာ ထာဝရဘုရားကဲ့သို့ပင် ဖြစ်သည်။ မကောင်းမှု ကျူးလွန်ခြင်း၊အိုခြင်း၊ သေခြင်း၊ စိတ်ပူပင်ခြင်း၊ အစာရေစာ ဆာလောင် ငတ်မွတ်ခြင်း စသည့် ဒုက္ခအပေါင်းတို့မှ ကင်းငြိမ်းပြီး ဖြစ်သည်။

လွတ်မြောက်ပြီးသော ဝိညာဉ်များသည် မိမိတို့ဆန္ဒ ဖြစ်ပေါ်တိုင်း ထိုဆန္ဒကို ဖြည့်စွမ်းနိုင်သဖြင့် မိမိတို့ အပေါ်တွင် အုပ်ချုပ်မည့်သူ မရှိတော့ပေ။ လွတ်မြောက်ပြီး ဝိညာဉ်များသည် တစ်ချိန်တည်းတွင် ကိုယ်ခန္ဓာ အများအပြားသို့ ဝင်ရောက် လှုပ်ရှားနိုင်သည်။ ထာဝရ ဘုရားသည် လွတ်မြောက်ပြီးသော ဝိညာဉ်များ ပျော်ရွှင်မှုအတွက် ကမ္ဘာလောကကြီးကို ဖန်ဆင်းပေးသည်။ လွတ်မြောက်ပြီးသော ဝိညာဉ် များသည်လည်း မိမိတို့၏ကမ္ဘာများကို မိမိတို့တစ်ခါတစ်ရံတွင် ဖန်ဆင်း ကြသော်လည်း ထာဝရဘုရား၏ လက်အောက်တွင်သာ ဖြစ်သည်။ ဝိညာဉ်များသည် ထာဝရ ဘုရား၏ ထိန်းချုပ်မှုအောက် တွင် အလုပ် လုပ်ကြရသည်။ ကမ္ဘာလောကကို ဖန်ဆင်းနိုင်သော တန်ခိုးအာနုဘော်မှ တစ်ပါး ထာဝရဘုရား၏ အခြားအစွမ်းသတ္တိများကို ဝိညာဉ်များ ရရှိကြသည်။

သာမန်အားဖြင့် လွတ်မြောက်ပြီးသော ဝိညာဉ်များသည် ပြန်လည် မွေးဖွားခြင်း ဇာတိကို မပြုလုပ်ကြရတော့ပေ။ သို့သော် ဘုရားသခင်၏ စေခိုင်းခြင်းခံရသော ဝိညာဉ်များကား တစ်မူထူးခြားသည်။ လူ့လောက ကြီးသို့ သွားရောက်၍ လုပ်ကိုင်ရန် စေခိုင်းခြင်းခံရသော ဝိညာဉ်တို့သည် တာဝန်ပြီးဆုံး အောင်မြင်သွားသည့်အချိန်အထိ ပြန်လည်မွေးဖွားခြင်းကို ပြုလုပ်ကြရသည်။ ထိုကိစ္စပြီးလျှင်ကား ပြန်လည်၍ မွေးဖွားခြင်းမျိုး မရှိတော့ချေ။

ဤကဲ့သို့ သူတော်စင် ဝိညာဉ်များမှာ လူ့ဘဝသို့ ပြန်လည် မွေးဖွားကြရသော်လည်း အဝိဇ္ဇာ ခေါ် အသိဉာဏ်မဲ့မှုများ မရှိကြ တော့ပေ။ သစ္စာဉာဏ် ရရှိပြီးသော်လည်း ကမ္မ အကျိုးပေးတရား လက်ကျန် ရှိနေသေးသဖြင့် ရုပ်၊ ခန္ဓာကိုယ်ဖြင့်ပင် ဆက်လက် ရှင်သန်နေသေးသော ပုဂ္ဂိုလ်များ ကဲ့သို့ပင်တည်း။

အချို့ပုဂ္ဂိုလ်တို့မှာ သစ္စာဉာဏ်ရရှိပြီး ဖြစ်သော်လည်း ခန္ဓာကိုယ် အသစ်ကို ရယူကြရသေးသည်။ အပံဘာရတမ၊ ဝါသိသ၊ ဘာရဂူ၊ စန္ဒကုမာရ၊ ဒါသက၊ နာရဒတို့သည် ထာဝရဘုရား တည်းဟူသော သစ္စာတရားကို အကြွင်းမဲ့ သိရှိနားလည်ပြီး ဖြစ်သော်လည်း ရုပ်ခန္ဓာကိုယ် အသစ်များကို ရရှိကြသေးသည်။ သစ္စာဉာဏ်ကို ရရှိကာ သံသရာမှ လွတ်မြောက်ပြီး ဖြစ်သော်လည်း ဘုရားသခင်က တာဝန်ပေး သတ်မှတ် ခြင်းကို ခံကြရလျှင် ထိုတာဝန် ပြီးဆုံးအောင် ဆောင်ရွက်ပြီးသည့် အချိန်အထိ ဆက်လက် နေထိုင်ကြသည်။ ထိုသူတို့အား ပေးအပ်ထား သည့် တာဝန်ကို ပြီးဆုံးမှ လွတ်မြောက်လာကြရသည်။ ထိုပုဂ္ဂိုလ်တို့သည် မိမိတို့အလိုရှိတိုင်း ခန္ဓာကိုယ်တစ်ခုမှ တစ်ခုသို့ ပြောင်းရွှေ့သွားနိုင်သည်။ ထိုသို့ ပြောင်းရွှေ့သော အခါ၌လည်း မိမိတို့၏ဘဝကို မေ့ပျောက်သွားခြင်း မရှိချေ။

## တရားထိုင်ခြင်း

တရားထိုင်ခြင်း နည်းအမျိုးမျိုး ရှိသည်။ ထာဝရဘုရားသခင်ကို အနုလုံပဋိလုံ ပုတီးစိပ်ခြင်းသည် လျင်မြန်စွာ လွတ်မြောက်နိုင်သော တိုက်ရိုက်နည်း ဖြစ်သည်။ ဘုရားသခင်ကို တရားထိုင်သူ၏ ဝိညာဉ်နှင့်

တစ်ထပ်တည်းကျအောင် ကြိုးစား၍ စိတ်ကို ထိန်းချုပ်ထားနိုင်ခြင်းဖြင့် ဝိညာဉ်ကို ချုပ်နှောင်ထားသော အနှောင်အဖွဲ့အား ပြတ်တောက်သွားစေကာ လွတ်မြောက်မှုကို ရရှိနိုင်သည်။

အမျိုးမျိုးသောတရားထိုင်နည်းများသည် အခြေခံအားဖြင့် တစ်မျိုးတည်းသာဖြစ်၍ တစ်ပင် ဖြစ်သည်။ အနည်းငယ်စီ ကွာခြားမှုရှိသည်။ မည်သည့်နည်းနှင့်ပင်ကျင့်ကျင့် အကျိုးကျေးဇူးမှာ အတူတူပင်။ နည်းတစ်နည်းကို အသုံးပြု၍ တရားအားထုတ်လျှင် နောက်ဆုံး အကျိုးပေါ်ထွက်သည်အထိ ထိုနည်းကိုပင် အသုံးပြုရပေမည်။ ထိုနည်းသုံးလိုက် ဤနည်းသုံးလိုက် ပြုလုပ်လျှင် စိတ်ကို အနှောင့်အယှက်ပြုရာ ရောက်သဖြင့် တိုးတက်မှုကို ထိခိုက်စေသည်။

အားလုံးသောနည်းတို့၏ ရည်မှန်းချက်မှာ ထာဝရဘုရား လောကကို မျက်မှောက်ပြုရေး ဖြစ်၍ ထာဝရဘုရား၏ ရူပါရုံကို မြင်တွေ့လာရသောအခါ တရားအားထုတ်မှု၏ အကျိုးကျေးဇူးကို ရရှိသည်။

ကရိသျှနား၊ ရာမ စသော ဘုရားတို့၏ အမျိုးမျိုးသော ပုံသဏ္ဌာန်များကို ရှုခြင်းများ ပြုလုပ်နိုင်သည်။ ယင်းတို့ကိုရှုခြင်းဖြင့် လွတ်မြောက်မှုကို ရရှိနိုင်သည်။ ဘုရားသခင်ကို စိတ်ဝယ်မှတ်လျက် ထပ်ကာတလဲလဲ အောက်မေ့ကာ သမာဓိခိုင်မြဲလာအောင် ပြုလုပ်ရသည်။ ပညာရင့်ကျက်ပြီးသော ဝိညာဉ်တို့မှာ တစ်ကြိမ်တစ်ခါ အောက်မေ့ရှုမှတ်ရုံဖြင့် အသိဉာဏ် ပေါက်ရောက်သွားတတ်သည်။ သို့သော် ဤဝိညာဉ်မျိုးကား အလွန်ရှားလှ၏။ ရုပ်လောကကြီးကို တဏှာစိတ်ပြင်းစွာဖြင့် တပ်မက်တတ်သော သာမန်ပုဂ္ဂိုလ်တို့မှာ အဝိဇ္ဇာကို ပယ်ရှားနိုင်ရန်အတွက် ထပ်ခါတလဲလဲ ရှုမှတ်ရန် လိုအပ်သည်။

တရားထိုင်ရာတွင် "ငါ၏ကိုယ်သည် ထေရဝါဒဘုရားပင်တည်း" အခြားကိုယ်မဟုတ်ဟု ထေရဝါဒဘုရားသခင် ထေရဝါဒဘုရားကို ရှုမှတ်ရန်လိုသည်။ ပုဂ္ဂိုလ်သတ္တဝါတို့၏ ကိုယ်သည် ထေရဝါဒ ဘုရားသခင့်၏ အစိတ်အပိုင်း ဖြစ်သည်။ ယင်းတို့၏ ဝိညာဉ်သည်လည်း ဘုရားသခင်၏ ဝိညာဉ်တော်ကြီးမှ လာသည်။ ကိုယ်ခန္ဓာနှင့် ဝိညာဉ်တို့သည် ဘုရားသခင်နှင့်ကင်း၍ မတည်ရှိနိုင်၊ ရောင်ခြည်တစ်ထောင် အလင်းကိုဆောင်သော ဘာဏုရာဇာနေမင်းကြီးနှင့် ယင်း၏ရောင်ခြည်တို့သည် ခြားနားမှု မရှိသကဲ့သို့ ထေရဝါဒဘုရားသခင်နှင့် ဝိညာဉ်တို့သည်လည်း ခြားနားမှု မရှိချေ။

တရားအားထုတ်ချိန်တွင် ထိုင်၍သာ အားထုတ်ရမည်။ မတ်တတ်ရပ်၍သော် လည်းကောင်း၊ လဲလျောင်း၍သော်လည်းကောင်း မပြုလုပ်ရ။ တရားအားထုတ်သောအခါ စိတ်ကို တစ်နေရာတည်းသို့ စူးစိုက်ကာ ထိန်းချုပ်ထားရန် လိုအပ်သည်။ မတ်တတ်ရပ်နေသော အခါနှင့် လဲလျောင်းနေချိန်တို့တွင် စိတ်ကို တစ်နေရာတည်း၌ စုစည်း ထိန်းချုပ်ထားရန် မလွယ်ကူချေ။ ထိုင်နေသောပုံစံဖြင့်သာ စိတ်ကို တည်ငြိမ်အောင် ပြုလုပ်ထားနိုင်သည်။

မတ်တတ်ရပ်ခြင်း၊ လမ်းလျှောက်ခြင်းများ ပြုလုပ်လျှင် အားထုတ်မှုကို ပြုလုပ်ရသည်။ လဲလျောင်းမှု ပြုလုပ်ပြန်လျှင်လည်း အိပ်ငိုက် စေတတ်သည်။ အကောင်းဆုံးသော အနေအထားမျိုးကား ခန္ဓာကိုယ်ကို မတ်မတ် ရှိနေစေသည့် ထိုင်နေသည့် ပုံစံပင် ဖြစ်သည်။ ထိုင်နေသောအခါ အားစိုက်မှု လုပ်ရန် မလိုအပ်သော ကြောင့်တည်း။

တရားအားထုတ်ခြင်းကို မည်သည့်နေရာ မည်သည့်အချိန်တွင် မည်သည့်ဘက်သို့မဆို ရှေ့ပြု၍ ပြုလုပ်နိုင်သည်။ သို့သော် စိတ်တည်ငြိမ်မှုကို ရရှိနိုင်မည့် နေရာမျိုးဖြစ်ရန် လိုသည်။

တရားအားထုတ်မှုကို သေသည်အထိ ဆက်တည်း ပြုလုပ်ရမည်ဖြစ်သည်။ ဤကမ္ဘာလောကမှ စတေကွယ်လွန်သော အချိန်တွင် စိတ်ထဲ၌ ဖြစ်ပေါ်နေသော စိတ်ကူးအခြေအနေအတိုင်း နောင်ဘဝတွင် အကောင်အထည် ပေါ်လာရသည်။

သံသရာမှ လွတ်မြောက်ပြီးသောသူများက တရားအားထုတ်မှုကို ပြုလုပ်လိုက ပြုလုပ်နိုင်သည်။ မပြုလုပ်လျှင်လည်း နေနိုင်သည်။ အနှောင်အဖွဲ့မှ လွတ်မြောက်ပြီးနောက် ယင်းဝိညာဉ်တို့မှာ ဘုရားသခင်နှင့် နီးကပ်သွားပြီး ဖြစ်သည်။

ယဇ်နတ်ပူဇော်သော သူများကဲ့သို့ပင် ယဇ်ပူဇော်ခြင်း မပြုလုပ်သော သူများသည်လည်း နတ်ဘုံသို့ ရောက်ရှိသွားကြရသည်။ လူ့ပြည်တွင် ကောင်းကျိုးပြုလုပ်ခဲ့သူများနှင့် မကောင်းကျိုး ပြုလုပ်ခဲ့သူ အားလုံးမှာ ကမ္ဘာမှ ကွယ်လွန်သော် လကမ္ဘာသို့ သွားရောက်ကြရသည်။ အမှန်မှာ မကောင်းမှုကို ပြုလုပ်သူတို့သည် နတ်ဘုံ နတ်ရွာသို့ သွားရခြင်း မဟုတ်ချေ။ ယာမမင်းကြီး၏ဘုံသို့ သွားကြရခြင်း ဖြစ်သည်။ ယာမဘုံတွင် မိမိတို့ ပြုလုပ်ခဲ့သည့် အကျိုးတရားများကို ခံစားကြရပြီးနောက် လူ့ပြည်သို့ ပြန်လာကြရသည်။ လကမ္ဘာသို့ သွားရခြင်းက မိမိတို့ ပြုလုပ်ခဲ့သော ကောင်းကျိုးများကို ခံစားရန်အတွက်သာဖြစ်၍ အခြားအကြောင်းကိစ္စကြောင့် မဟုတ်ပေ။ ယာမဘုံတွင်ခံခဲ့ရပြီးနောက် ကမ္ဘာကို သွားရောက်ရခြင်း ဖြစ်သည်ဟု အချို့ ပညာရှင်တို့က ယူဆကြသည်။

မကောင်းမှုကို ပြုလုပ်ခဲ့ကြသူများသည် မိမိတို့ ပြုလုပ်ခဲ့သည့် ဒုစရိုက် အကျိုးကို ခံစားရမည့် ငရဲပြည် ခုနစ်ထပ် ရှိကြောင်းကို ပူရာဏ်ကျမ်းများတွင် ဖော်ပြထားရှိသည်။ ထိုငရဲပြည် ခုနစ်ထပ်ကို ယာမမင်းကြီးက အုပ်စိုး၍ တစ်ထပ် တစ်ထပ်လျှင် စိတြဂုတ္တကဲ့သို့သော အုပ်ချုပ်သူ တစ်ဦးကျစီ ရှိသည်။

## ဟိန္ဒူကျမ်းစာများ

ဟိန္ဒူဘာသာကို လေ့လာဆည်းပူးရန် ကျမ်းဂန်များစွာရှိသည်။ ယင်းတို့ကား–

| | |
|---|---|
| (၁) ဝေဒကျမ်းများ | ( ၆) မဟာဘာရတကျမ်း |
| (၂) ပူရာဏ်ကျမ်းများ | ( ၇) ဘာဂဝတ်ဂီတကျမ်း |
| (၃) ဥပါနိသျှဒ်ကျမ်းများ | ( ၈) တိပိဋကကျမ်းများ |
| (၄) သျှတ္တရကျမ်းများ | ( ၉) သိကုဂုရယ်(လ်)ကျမ်း |
| (၅) ရာမယဏကျမ်း | (၁၀) ဂုဂုဂရန့်(သ်)ဆဟိ(ဗ်)ကျမ်း |

တို့ ဖြစ်သည်။

ဝေဒကျမ်းများသည် နှစ်ရာစုများစွာ ဟိန္ဒူအားလုံးက ဘာသာရေးနှင့် ပတ်သက်၍ အားအကိုးရဆုံး ကျမ်းများဖြစ်သည်။ ဝေဒကျမ်းများသည် ရိဂဝေဒ၊ ယဇုဝေဒ၊ သာမဝေဒနှင့် အတ္တရဝေဒ ဟူ၍ ၄–မျိုး ရှိသည်။ တစ်မျိုးလျှင် အပိုင်း ၄–ပိုင်းစီ ပါရှိလျက် ဘုရားအမျိုးမျိုးကို ဖွဲ့ဆိုထားသော ဂါထာများ ဖြစ်သည်။

ဝေဒကျမ်းကြီးများကို အနက်အဓိပ္ပာယ် ဖွင့်ဆိုသော ထာဝရာဘုရားကျမ်း၊ အရညကကျမ်း၊ ဥပနိသျှကျမ်း၊သံတိသာကျမ်းများလည်း ရှိသည်။

အလွန်ရှေးကျသောကာလတွင် ဤကျမ်းများကို စာဖြင့် ရေးသား ထားခြင်း မရှိဘဲ ဆရာက တပည့်သို့ နှုတ်တိုက်သင်ပေးခဲ့သည်။

ဝေဒကျမ်းများသည် ထာဝရ ဘုရားသခင်နှင့် တိုက်ရိုက် ဆက်သွယ်ခွင့် ရရှိခဲ့ကြသော သူတော်စင်ကြီးများ၏ အဆိုအမိန့်များကို မှတ်တမ်း တင်ထားသော ကျမ်းများ ဖြစ်သည်။ ထိုပုဂ္ဂိုလ်ကြီးများ၏ စိတ်ပိုင်းဆိုင်ရာ အတွေ့အကြုံများကို ရေးသား ဖော်ပြထားချက်များ ဖြစ်သည်။

ရာမယဏကျမ်းကား - ရာမ၊ သီတာ၊ လက္ခဏာတို့၏ အတ္ထုပ္ပတ္တိကျမ်း ဖြစ်သည်။ လူကြိုက်အများဆုံး ကျမ်းတစ်ခု ဖြစ်သည်။ ဝါလမိကိရသေ့ကြီး ရေးသားခဲ့သည်ဟု အယူရှိကြသည်။

မဟာဘာရတကျမ်းကား ကုရုတိုင်း ပဏ္ဍဝမင်းနှင့် ကောရဗျမင်း တိုက်ခိုက်ခဲ့သော အိန္ဒိယ စစ်ပွဲကြီး အကြောင်းကို မှတ်တမ်းတင် ထားသောကျမ်း ဖြစ်သည်ကို အတိအကျ မပြောနိုင်ဘဲ အဆက်ဆက် ရေးခဲ့ကြပြီး နောက်ဆုံးလက်ရာမှာ သောတ မည်သော ဆရာကြီး၏ လက်ရာဖြစ်သည်။

ဘဂဝတ်ဂီတကျမ်းသည် မဟာဘာရတကျမ်း၏ အစိတ်အပိုင်း ဖြစ်သော်လည်း ဟိန္ဒူ ဘာသာရေး အယူအဆ အခိုင်အမာ ရေး သားသော အဘိဓမ္မာကျမ်းဖြစ်၍ အလွန်အရေးကြီးသည်။ ကုရုစစ်ပွဲတွင် လူ့ဝင်စား ဘုရား ဖြစ်သော ကရိသျှနားသည် အာဇုနမင်းသား၏ စစ်ရထားကို မောင်းရသော ရထားထိန်း ဖြစ်၍ မင်းသားအား ဟောကြားသော တရားများကို ဖော်ပြထားသောကျမ်း ဖြစ်သည်။ ဟိန္ဒူဘာသာ အဘိဓမ္မာကို ဖော်ဆောင်ထားသောကျမ်း ဖြစ်ရကား

ဟိန္ဒူများ အလွန်နှစ်သက်၍ ပဥ္စမဝေဒ (ငါး) ငါးခုမြောက် ဝေဒကျမ်း ဟူ၍ပင် ခေါ်ဆိုကြသည်။

တိပိဋကကျမ်းမှာ ဗုဒ္ဓဘာသာဆိုင်ရာ ပိဋကတ်သုံးကျမ်းပင် ဖြစ်သည်။

## လူ့ဘဝကိုရယူသော ဘုရားများ

လူ့ဇာတိကိုခံယူ၍ လူဝင်စားများအဖြစ် ပွင့်တော်မူခဲ့ကြသော ဘုရားများ၏ သမိုင်းကြောင်းနှင့် ပတ်သက်၍ အယူအဆ အမျိုးမျိုး ကွဲပြားလျက်ရှိသည်။ သမိုင်းခေတ်ကို မှန်းဆတွက်ချက်ကြရာတွင် အိန္ဒိယနိုင်ငံသမိုင်း၌ ပထမဦးဆုံးသော စစ်ပွဲကြီးဖြစ်သော မဟာဘာရတ စစ်ပွဲကြီး ဖြစ်ပွားသည့်ခေတ်ကို အခြေခံ၍ တွက်ချက်ကြသည်။

'The Vedic Age' "ဝေဒခေတ်" အမည်ရှိကျမ်းကို ပြုစုကြသော ဟိန္ဒူပညာရှင်များသည် ဘီစီ ၁၄၀၀ ပတ်ဝန်းကျင်လောက်တွင် ဤမဟာဘာရတ စစ်ပွဲကြီး ဖြစ်ပွားခဲ့သည်ဟု ခန့်မှန်းကြသည်။ ထို့ကြောင့် ဟိန္ဒူတို့၏ ဆဋ္ဌမမြောက် လူဝင်စားဘုရားဖြစ်သော ကရိသျှနားသည် ထိုခေတ်တွင် ပွင့်တော်မူခဲ့သည်ဟု ဆိုရမည်ဖြစ်သည်။

မဟာဘာရတခေတ်ကို အခြေတည်၍ ထိုခေတ်မတိုင်မီ အချိန်ကာလကို ခန့်မှန်းလိုက်သောအခါ ဘီစီ ၃၁၀၂ ခုနှစ်သည် လူသားတို့၏ (အိန္ဒိယ) ပထမဦးဆုံးဘုရင်ဖြစ်သော မနုအုပ်စိုးသည့် ခေတ်အစဟု ယူဆရလေသည်။ ထိုနှစ်တွင် ကမ္ဘာကြီးတစ်ခုလုံး ရေလွှမ်းမိုးသဖြင့် မနုက လူသားတို့မျိုးရိုး ပျောက်ကွယ်မသွားအောင် ကယ်တင်နိုင်ခဲ့လေသည်။

ရေလွှမ်းမိုးခြင်းခေတ် မတိုင်မီ ပထမဦးဆုံးသော ဘုရင်ကား မနုသယမ္ဘုဝ အမည်ရှိ၏။ လူသားကို ဖန်ဆင်းပြီးနောက် ပထမဦးဆုံး အုပ်စိုးသောဘုရင် ဖြစ်သည်။ ယင်းအား ထာဝရဘုရားက မွေးဖွား လိုက်ခြင်း ဖြစ်သည်။ သုတရူပ ခေါ် မိမိ၏ခန္ဓာကိုယ်၌ ပါရှိသော ဣတ္ထိယကိုယ်တစ်ပိုင်းဖြင့် သားနှစ်ယောက်နှင့် သမီးသုံးယောက်ကို ဖွားမြင်ခဲ့သည်။ ဝိရာဇာဟုလည်း ခေါ်တွင်သော သယမ္ဘုဝမနုသည် မနုမျိုးဆက်တွင် ပထမဆုံးပုဂ္ဂိုလ် ဖြစ်သည်။

ဝါယုမုရာဏ်ကျမ်း၌ အာနန္ဒာ အမည်ရှိသော ထာဝရဘုရားသည် သယမ္ဘုဝန မတိုင်မီ အုပ်ချုပ်ခဲ့ရသည်ဟု ဖော်ပြထားသည်။ သယမ္ဘုဝ ၏ မြို့တော်မှာ သြာရဝတီ မြစ်ကမ်းတွင် တည်ရှိသည်ဟု ဆိုသည်။ မနုသယမ္ဘုဝသည် ရန်အပေါင်းကို နှိမ်နင်းအောင်မြင်ပြီးနောက် ကမ္ဘာ တွင် ပထမဦးဆုံးသောဘုရင် ဖြစ်သည်။

ဒုတိယမြောက် မနုဘုရင်ဖြစ်သော မနုသရောချိရှကား သယမ္ဘုဝ ၏ သမီး အကုတိမှ မွေးဖွားသော သားဖြစ်သည်။ မနုသယမ္ဘုဝ၏ သားအကြီးဆုံးဖြစ်သူ ပရိယာရတသည်ကား ပထမဦးဆုံးသော ခတ္တိယမျိုး ဖြစ်သည်။ သူ၏ သားသုံးယောက်တို့မှာ တတိယ၊ စတုတ္ထ၊ ပဉ္စမမြောက် မနု မင်းဆက်များ ဖြစ်သည်။ ထိုဘုရင်တို့မှ ဆင်းသက်လာသော မနုဝိဝါသတ လက်ထက် ရောက်သောအခါ ကမ္ဘာကြီး တစ်ခုလုံးကို ရေလွှမ်းမိုးခြင်း ခံရသဖြင့် လူသားတို့၏ မျိုးဆက် မပျောက်ပျက်အောင် မနုဝိဝါသတက ကယ်ဆယ်ခဲ့ရသည်။

ကမ္ဘာကြီး ရေလွှမ်းမိုးခြင်းနှင့် ပတ်သက်၍ ပထမဦးဆုံး မှတ်တမ်း တင်ထားသည့် ကျမ်းစာမှာ သတပသာ ထာဝရဘုရားကျမ်း ဖြစ်သည်။

နှောင်သောအခါ မဟာဘာရတကျမ်းနှင့် ပူရာမ်ကျမ်းတို့တွင် ဖော်ပြလာကြသည်။

သတပသာကျမ်းအရ မနုသည် တစ်နေ့နံနက်တွင် မြစ်ထဲ၌ လက်ကို ဆေးကြောသုတ်သင်နေစဉ် လက်ထဲ၌ အလွန်သေးငယ်သော ငါးကလေးတစ်ကောင် ပါရှိလာသည်ကို တွေ့ရလေသည်။ "ကျွန်ုပ်ကို ကောင်းစွာ ကျွေးမွေးပြုစုထားပါ၊ တစ်နေ့တွင် သင့်ကို ကျွန်ုပ် ကူညီနိုင်ပါလိမ့်မည်"ဟု ပြောဆိုကာ ငါးကလေးသည် မိမိအား အကာအကွယ်ပေးရန် အကူအညီတောင်းသည်။ ငါးကလေးကို ငါးကြီးများ ဝါးမျိုစားပစ်နိုင်သဖြင့် ကြီးပြင်းလာသည်အထိ ကာကွယ်စောင့်ရှောက်ထားရန် လိုအပ်သည်ဟု ဆိုသည်။

ပထမတွင် ငါးကလေးကို ရေအိုးတွင် မွေးမြူထားပြီး ကြီးပြင်းလာသောအခါ ရေကန်ပြုလုပ်၍ မွေးမြူထားသည်။ နှောင်သောအခါ ပင်လယ်သို့ လွှတ်ပစ်လိုက်သည်။ ငါးသည် မပြန်မီ ကာလတွင် ရေလွှမ်းမိုးခြင်း ဖြစ်လိမ့်မည်ကို မနုအား ကြိုတင်၍ သတိပေးထားခဲ့သည်။ သင်္ဘောကြီး တစ်စင်းကို တည်ဆောက်ထားရန်နှင့် ရေကြီးလာသောအခါ ထိုသင်္ဘောတွင် တက်ရောက် နေထိုင်ရန်တို့ကိုပါ မှာကြားသွားသည်။

ငါးက ကြိုတင် ဟောကိန်း ထုတ်ထားသော အချိန် နာရီကျရောက်လာသည်နှင့် ရေတက်လာတော့သည်။ မနုသည် သင်္ဘောပေါ်သို့ တက်နေလိုက်သည်။ မနုမွေးထားခဲ့သော ငါးသည် ကူးလာကာ သင်္ဘော၏ကြိုးကို မိမိ၏ဆူးတောင်၌ ချည်နှောင်စေပြီး မြောက်ဘက်ရှိ တောဝိတန်းကြီး၏ အလွန် ရောက်ရှိအောင် လျင်မြန်စွာ ကူးခတ်၍

ဆွဲယူသွားသည်။ ကုန်းသို့ ရောက်သောအခါ မနအား ဆင်းစေကာ သဘော်ကို သစ်ပင်၌ ချည်နှောင် ထားစေပြီး ရေကျသောအခါ သဘော်ပေါ်သို့ ပြန်လည်တက်စေသည်။ ရေကျသောအခါ တဖြည်းဖြည်း ဆင်းသက်ခဲ့သည်။ နတ်ပြည် သုံးထပ်စလုံးသည် ရေထဲသို့ ပါသွားသဖြင့် မနတစ်ဦးတည်းသာ အသက်ရှင်ကျန်ရစ်ခဲ့သည်။

ဤသို့ဖြင့် လူသားတစ်ခုလုံးသည် မနမှတစ်ဆင့် ဆင်းသက်ခဲ့ရသည်။ ပူရာဏ်ကျမ်းများတွင် ဖော်ပြထားသော မင်းဆက်အားလုံးသည် ယင်းထံမှ ဆင်းသက်ခဲ့သည်။

အုပ်ချုပ်သော အစိုးရမင်း၊ ဥပဒေဟူ၍ သူက ရေးဆွဲပေးခဲ့သည်။ အုပ်ချုပ်မှု စရိတ်ကို ကာမိငေ ရန် လယ်ယာမြေထွက် ပစ္စည်း၏ ခြောက်ပုံတစ်ပုံကို အခွန်အဖြစ် ကောက်ခံသည်။ ယောကျ်ားကိုယ်နှင့် မိန်းမကိုယ် နှစ်မျိုးစလုံးပါရှိသော မန၏ သားအကြီးဆုံး တစ်ဦး အပြင် မနတွင် အခြား သားကိုးဦး ရှိသည်။

လူ့ဘဝကို ရယူကာ ပွင့်တော်မူကြကုန်သော အဝတာရ ဟိန္ဒူ မြတ်စွာဘုရားများသည် ဤကမ္ဘာတွင် ပွင့်ရန် ၁၀ ပါးရှိသည့်အနက် ကိုးပါးမှာ ပွင့်တော်မူကုန်ကြပြီး ဖြစ်သည်။ ပွင့်တော်မူသော ကိုးပါးအနက် အမှတ်(၅) အဝတာရ မြတ်စွာဘုရားဖြစ်သည့် ဝါမနဘုရားကား ဘီစီ ၂၇၅၀ မှ ၂၅၅၀ ခုနှစ်အတွင်း ပွင့်တော်မူခဲ့သည်ဟု ယူဆကြသည်။

ဝါမနမြတ်စွာဘုရားကို ယုဝနသနှင့် ပေါရဗျမင်း မာတိနရမင်း၏ သမီးတော် ဂေါရီ တို့မှ ဖွားမြင်ခဲ့သည်။ ဝါမနသည် အလွန် ဘုန်းတန်ခိုးကြီးသော ဘုရင်တစ်ပါး ဖြစ်ခဲ့၍ ဣန္ဒရာ (ဣန္ဒာသိကြား)

မင်း၏ နိုင်ငံတော်ကို တစ်ဝက်ပိုင်ဆိုင်ခဲ့ပြီး ကမ္ဘာကြီး တစ်ခုလုံးကို တစ်ရက်တည်းတွင် သိမ်းပိုက် အောင်မြင်ခဲ့သည်။ ဝါမနမင်းသည် ယာဒဝတို့၏ဘုရင် သသမိန္ဒု၏ သမီးတော် မိန္ဒုမ်တီနှင့် လက်ဆက်ခဲ့လေသည်။

ဆဋ္ဌမ အဝတာရ ဘုရားဖြစ်သော ပရသုရာမသည် ဘီစီ ၂၅၅၀ မှ ၂၃၅၀ ခုနှစ်အတွင်း ပွင့်တော်မူခဲ့သည်ဟု မှတ်ယူထားကြသည်။ သူသည် ဇမဒဂနိမင်း၏ သားတော် ငါးဦးအနက် အငယ်ဆုံးသားတော် ဖြစ်သည်။ ပရသုရာမသည် စစ်တိုက် ကျွမ်းကျင်သောသူ ဖြစ်သည်။ အထူးသဖြင့် လေးအတတ်ကို ကျွမ်းကျင်သည်။ ပရသုခေါ် တိုက်ပွဲသုံး ရဲဒင်းမှာ ပရသုရာမ၏ အားအကိုးရဆုံးသော လက်နက် ဖြစ်သည်။ ထိုလက်နက်ကို အသုံးပြုသည်ကို အစွဲပြု၍ ပရသုရာမအား ဒသာရဋ္ဌ ရာမနှင့် ကွဲပြားစွာ သိသာနိုင်ရန် ပရသုရာမ ခေါ်ဆိုကြခြင်း ဖြစ်သည်။

ပရသုရာမသည် ခတ္တိယမျိုးကို နှစ်ဆယ့်တစ်ကြိမ်တိုင်တိုင် တိုက်ခိုက်ချေမှုန်းခဲ့သည်။ ပရသုရာမသည် ကုရုက္ခေတ္တရ စစ်မြေပြင်တွင် ရေကန်ပေါင်းများစွာကို ခတ္တိယတို့၏သွေးဖြင့် ဖြည့်ပေးခဲ့သည်ဟု ဆိုသည်။ ခတ္တိယမျိုးမှ မွေးဖွားသည့် ကလေးများ ကြီးပြင်းလာလေတိုင်း ပရသုရာမက တိုက်ခိုက်ပစ်လေ့ ရှိသည်။ ပေါရဗျ၊ အယုဒ္ဓယ၊ မဂဓ၊ အင်္ဂနှင့် ကာသိတိုင်းတို့မှ ခတ္တိယတို့သာ ပရသုရာမရန်မှ ကင်းဝေးလေသည်။

ခတ္တိယတို့ကို တစ်ကြိမ် တိုက်ခိုက်နှိမ်နင်းပြီးတိုင်း ပရသုရာမသည် တောသို့ဝင်၍ မိမိသတ်ဖြတ်သော အပြစ်များမှ သက်သာခွင့်ရရှိစေရန် တရား အားထုတ်လေ့ ရှိသည်။ နောက်ဆုံးတွင် အပြစ်

အားလုံးမှ လွတ်မြောက်စေရန်အတွက် ကမ္ဘာတစ်ခုလုံးကို ကဿပသို့ လှူလေသည်။ ကမ္ဘာကြီးသည် ပရသုရာမ၏ တိုက်ခိုက်မှုဘေးရန်မှ လွတ်ကင်းစေရန် ကဿပသည် ပရသုရာမအား ကမ္ဘာကြီးအပြင်သို့ လွှင့်ပစ်လိုက်သည်။ ပရသုရာမသည် သမုဒ္ဒရာမှ ထလာပြီးလျှင် အိန္ဒိယနိုင်ငံ၏ အနောက်ဘက်ကမ်းခြေ တစ်ခုလုံးကို စိုးပိုင်သဖြင့် ထိုဒေသသည် ပရသုရာမနှင့် ဆက်သွယ်မှု ရှိခဲ့လေသည်။

ပရသုရာမသည် သတ္တမအဝတာရဖြစ်သော ဒဿရဌ္ဌရာမနှင့် ကရိဿျနားတို့ထက် စော၍ ပွင့်ခဲ့လေသည်။ ထို့ကြောင့် ရာမယဏနှင့် မဟာဘာရတကျမ်းတို့တွင် သူ၏ အကြောင်းများကို တွေ့ရှိရသည်။

သတ္တမ၊ အဋ္ဌမနှင့် နဝမ အဝတာရများ ဖြစ်ကြသော ရာမဘုရား၊ ကရိဿျနား ဘုရားနှင့် ဗုဒ္ဓဘုရား တို့သည်ကား ဟိန္ဒူဘာသာတွင် အထင်ရှားဆုံး၊ လူကြိုက်အများဆုံး မြတ်စွာဘုရားများ ဖြစ်သည်။ ဗုဒ္ဓဘုရား အကြောင်းကို ဗုဒ္ဓဘာသာ အခန်းတွင် သီးခြား ဖော်ပြထားသဖြင့် ဤနေရာတွင် မဖော်ပြတော့ပါ။ ဟိန္ဒူများ အမြတ်နိုးဆုံးဖြစ်သော ရာမဘုရားနှင့် ကရိဿျနား ဘုရားတို့ အကြောင်းကိုမူ အကျဉ်းမျှ ဖော်ပြလိုပါသည်။

## ရာမ

"ဝေဒခေတ်"ကျမ်းကို ပြုစုကြသော ဟိန္ဒူပညာရှင်များ၏အလို အရ ရာမမြတ်စွာဘုရားသည် ဘီစီ ၂၃၅၀မှ ၂၉၅၀ခုနှစ်အတွင်း အိန္ဒိယ နိုင်ငံတွင် ပွင့်တော်မူခဲ့သည်။ ရာမဇာတ်တော်ကား ဟိန္ဒူရာမ၊ မြန်မာရာမ၊ ယိုးဒယားရာမ ၊ ပဿျူးရာမ စသည်ဖြင့်ရှိရာ အချို့ ကွဲလွဲချက်များ ရှိသည်။

ရာမယဏကျမ်းကို ဝါလမိကိ အမည်ရှိသော ရသေ့ကြီးက စီရင်ခဲ့သည်။ ရသေ့ကြီးသည် ရာမ မင်းတရား လက်ထက် အသက်ထင်ရှား ရှိသဖြင့် ကိုယ်တိုင် တွေ့မြင်ရသည်တို့ကို ရေးသားထားသည်ဟု ဆိုသည်။ အချို့က ဝါလမိကိသည် အစဉ်အဆက် နှုတ်တိုက် သင်ယူလာခဲ့သော ဇာတ်တော်ကို ရေးသားခြင်း ဖြစ်သည်ဟု ဆိုကြသည်။

ဂင်္ဂါမြစ်ကြီး၏ မြောက်ဘက်စူးစူးတွင် ကောသလတိုင်းကြီးသည် ကြီးကျယ်သော မင်းတို့၏စံရာနိုင်ငံအဖြစ် တည်ရှိလေသည်။ ဆာရာယုမြစ်ကြောင့် ကောသလတိုင်းကြီးသည် အလွန်ပင် စည်ပင်ဝပြောခဲ့လေသည်။ ကောသလတိုင်း၏ မြို့တော်ကား အယုဒယမြို့ဖြစ်၍ ထင်ရှားကျော်ကြားသော မနုဘုရင်က တည်ဆောက်ခဲ့လေသည်။

အယုဒယ နေပြည်တော်ကြီးမှနေ၍ ဒသရဋ္ဌ ဘုရင်ကြီးသည် ကောသလတိုင်းကို အုပ်ချုပ်လေသည်။ ဒေဝါတို့ဘက်မှ စစ်ထဲတွင် ပါဝင် တိုက်ခိုက်ခဲ့ခြင်းကြောင့် သုံးလောက၌ ကျော်စောထင်ရှားသော မင်းဖြစ်သည်။ ဣန္ဒရာ(ဣန္ဒာ) ကုဝေရတို့နှင့် တန်းတူညီမျှသော၊ ဘုန်းတန်ခိုးအာဏာရှိသော ဘုရင်ကြီးဖြစ်သည်။ ကောသလတိုင်းသားတို့သည် ကိုယ်စိတ်ချမ်းသာလျက် ရောင့်ရဲတင်းတိမ်ကြကာ ကောင်းသော စိတ်နေ သဘောထား ရှိကြသည်။ အင်အားကောင်းသော တပ်မတော်ကြီး တည်ထောင်ထားရှိသဖြင့် ရန်သူဟူသမျှသည် လာရောက်တိုက်ခိုက်ခြင်း မပြုဝံ့ကြချေ။

ဒသရဋ္ဌတွင် ပညာရှိအမတ်ကြီး ရှစ်ပါး ရှိသည်။ ဝါသိသ၊ ဝါမဒေဝ စသော သူတော်စင်ကြီးများလည်း ရှိသဖြင့် တိုင်းပြည်ကို တရားသဖြင့် အုပ်ချုပ်လျက် ရှိလေသည်။

ကောသလတိုင်း တစ်ခုလုံးတွင် အားလုံး သာယာဝပြောလျက် ရှိသော်လည်း ဒဿရဋ္ဌတွင် ရင်လေးဖွယ်ရာ အကြောင်း တစ်ခု ရှိနေသည်။ သူ၏ ထီးမွေနန်းလျာအတွက် သားယောကျ်ား တစ်ယောက်မျှ မထွန်းကားခြင်းပင် ဖြစ်သည်။ ထို့ကြောင့် ဒဿရဋ္ဌသည် သားယောကျ်ား ရရှိစိမ့်သောငှာ ယဇ်ပူဇော်ပွဲကို ကျင်းပရန် စီစဉ်သည်။

အလွန်ကြီးကျယ် ခမ်းနားသော မဏ္ဍပ်ကြီးကို တည်ဆောက်ကာ အနိုင်နိုင်ငံမှ မင်းတို့ကို ဖိတ်ကြားသည်။ ဧည့်သည်များအား လိုလေသေး မရှိအောင် ဧည့်ခံ ကြိုဆို ကျွေးမွေးရန် ဆောင်ရွက်ထားသည်။

ထိုအချိန်တွင် နတ်ပြည်၌ ဒေဝါနတ်အပေါင်းတို့သည် ညီလာခံကျင်းပ၍ တိုင်ပင် စည်းဝေးကြကုန်သည်။ နတ်ဆိုးတို့၏ ဘုရင်ဖြစ်သော ရာဝဏကို မည်သို့ အရေးယူသင့်ကြောင်းကို ဆွေးနွေးကြခြင်း ဖြစ်သည်။ ရာဝဏသည် ဗြဟ္မာထံမှ ရရှိသော ဆုတစ်ခု၏ အကျိုးအာနိသင်ကြောင့် နတ်ဒေဝါ အပေါင်းတို့ကို ဒုက္ခပေးလျက်ရှိသည်။ နတ်အပေါင်းတို့ကား ရာဝဏကို နှိမ်နင်းခြင်းငှာ မစွမ်းနိုင်ကြချေ။ နတ်တို့၏ ဘုရင် ဣန္ဒာရာကိုပင် နန်းမှချရန် ကြိုးစားနေကြကြောင်း တွေ့ရှိကြရသဖြင့် ဒေဝါနတ်အပေါင်းတို့သည် ဗြဟ္မာထံသို့ ချဉ်းကပ်ကြကာ အကူအညီ တောင်းရသည်။

ရာဝဏသည် ဒေဝါနတ်၊ အသူရာနတ်၊ ဂန္ဓဗ္ဗနှင့် အခြားသော သတ္တဝါများ တိုက်ခိုက် နှိမ်နင်း၍ မရသော ဆုကို ဗြဟ္မာထံမှ တောင်းယူရရှိခဲ့သော်လည်း လူသားတို့၏ အန္တရာယ်မှ ကာကွယ်ရန်ကိုမူ တောင်းခံခြင်း မပြုချေ။ ရာဝဏ၏ ဤအားနည်းချက်ကို ဗြဟ္မာက

ဖော်ထုတ် ပြောဆိုလိုက်သောအခါ နတ်အပေါင်းတို့သည် ဗိဿနိုး အရှင်ကို ချဉ်းကပ်ကြပြန်လေသည်။

ဟရိခေါ် ဗိဿနိုးအရှင်အား မိမိတို့၏ ပြဿနာကို တင်ပြပြီး နတ်တို့သည် ဗိဿနိုးအရှင်အား လူအဖြစ် ဝင်စားလျက် ရာဝဏကို နှိမ်နင်းပေးပါရန် လျှောက်တင်ကြလေသည်။ ဟရိက ကောင်းပြီဟု ဝန်ခံ၍ သူသည် ယခု သားဆုတောင်းပွဲ ကျင်းပနေသော ဒသရထ၏ သားလေးဦးအဖြစ်ဖြင့် လူ့ပြည်၌ ဝင်စားကာ ရာဝဏကို နှိမ်နင်းမည်ဟု ဒေဝါတို့ကို ကတိပေးလေသည်။

သားဆုတောင်းပွဲရှိ မီးဖိုထဲသို့ ထောပတ်ကို လောင်းချလိုက်သော အခါ မီးလျှံကြားမှ နေကဲ့သို့ တောက်ပသော သတ္တာန်တစ်ခုသည် ရွှေခွက်တစ်ခုကို ကိုင်လျက် ပေါ်ထွက်လာသည်။ ထိုသတ္တာန်သည် ဒသရထ၏ အမည်ကို ခေါ်လျက် "နတ်ဒေဝါအပေါင်း တို့သည် သင်မင်းကြီး၏ ဆုတောင်းခြင်းကို ဝမ်းမြောက် ဝမ်းသာ လက်ခံ ကြိုဆိုပါသည်။ ဤနတ်သုဒ္ဓါကို သင်၏မိဖုရားများ သုံးဆောင်ပါလျှင် သားယောကျ်ားများ ဖွားမြင်ပါလိမ့်မည်"ဟု မှာကြားခဲ့လေသည်။

ဒသရထမင်းကြီးသည် နို့ထမင်းကို မိမိ၏ မိဖုရားကြီး ကောသလ အား ထက်ဝက်ကို သောက်ရန်ပေးသည်။ ကျန်နေသည့်အထဲမှ တစ်ဝက် ကို ဒုတိယမြောက် မိဖုရားဖြစ်သူ သုမိတ္တရာအား သောက်စေပြီးနောက် ကျန်နေသည့် နို့ထမင်း၏ ထက်ဝက်ကို ကဲကေယီ မိဖုရားအား သောက်စေသည်။ နောက်ဆုံး ကျန်နေသော နို့ထမင်းကို သုမိတ္တရာအား သောက်ရန် ပေးလေသည်။ ရက်လစေ့သောအခါ မိဖုရားကြီး ကောသလမှ ရာမမင်းသားကိုလည်းကောင်း၊ ကဲကေယီမှ ဘာရတကိုလည်းကောင်း၊

နို့ကို နှစ်ကြိမ်သောက်ရသော သုမိတ္တာရာမှ လက္ခဏာနှင့် စတုဂ္ဃ တို့ကိုလည်းကောင်း ဖွားမြင်ခဲ့ကြသည်။

မင်းသားလေးပါး ကြီးပြင်းလာသောအခါ မင်းသားတို့ တတ်အပ်သော အတတ်ပညာများကို သင်ယူတတ်မြောက်ခဲ့ကြသည်။

တစ်နေ့တွင် တောထဲ၌ တရားကျင့် နေသော ဝိသွာမိတြ အမည်ရှိ ရသေ့ကြီးတစ်ပါး အယုဒ္ဓယမြို့တော်သို့ ရောက်ရှိလာသည်။ ထိုရသေ့သည် တော၌ တရားမကျင့်မီက ဘုရင်တစ်ပါး ဖြစ်ခဲ့ဖူးသည်။ ဒသရဋ္ဌသည် ဝိသွာမိတြအား ရိုသေစွာ ခရီးဦးကြိုပြုသည်။

ရသေ့ကြီးက မိမိသည် တောထဲ၌ ယဇ်ပူဇော်ပွဲ ပြုလုပ်ရာတွင် အစစအရာရာ ကောင်းမွန်သဖြင့် အောင်မြင်မည့် အလားအလာ ရှိသော်လည်း မာရီးစနှင့် သုဘာ ဟု အမည်ရှိသော ရက္ခနှစ်ဦးက လာရောက် အနှောင့်အယှက် ပြုသဖြင့် မအောင်မြင်ဘဲ ပျက်စီးသွားရသည်မှာ အကြိမ်ပေါင်းများစွာ ရှိပြီးဖြစ်၍ ဒသရဋ္ဌ၏သား ရာမ မင်းသားအား ယင်းရက္ခများကို နှိမ်နင်းရန်အတွက် ရသေ့ကြီးနှင့် အတူ ထည့်လိုက်ရန် တောင်းခံသည်။ ရသေ့ကြီးကိုယ်တိုင် ရက္ခများကို နှိမ်နင်းနိုင်သော်လည်း ကျင့်ထားရသော တရားများ ပျက်စီးသွားနိုင်သဖြင့် ရာမအား နှိမ်နင်းခိုင်းခြင်း ဖြစ်သည်။

ဒသရဋ္ဌ မင်းကြီးသည် မိမိ၏ သားတော် ရာမ မင်းသားနှင့် မခွဲခွာလို၍ လည်းကောင်း၊ အသက် ၁၆နှစ်ပင် မပြည့်သော ရာမ မင်းသည် ရက္ခများနှင့် တိုက်ခိုက်ရမည်ကို စိုးရိမ်၍ လည်းကောင်း မထည့်လိုသဖြင့် အကြိမ်ကြိမ် ငြင်းပယ်သည်။ သို့သော် ရသေ့ကြီး ဒေါသထွက်၍ ကျိန်ဆဲလျှင် ဒုက္ခတွေ့နိုင်သည်ကိုလည်း စဉ်းစားရပြန်

သည်။ နန်းတော်ရှိ ပညာရှိများက, တိုက်တွန်းသဖြင့် ရာမနှင့် အတူ ညီတော် လက္ခဏာကိုပါအတူ လိုက်ပါရန် ခွင့်ပြုလိုက်သည်။

ဝိသွားမိတြ ရသေ့ကြီးသည် ရာမနှင့် လက္ခဏာ မင်းသား ညီနောင်ကို မိမိ၏ ဘေး၌ တစ်ဖက်တစ်ယောက် ယှဉ်ကာ အယုဒ္ဓယ မြို့တော်မှ ထွက်ခွာသွားသဖြင့် ရက္ခအားလုံး အမျိုးဖြုတ်ကုန်တော့မည့် အခြေအနေကို ကြိုတင်၍ သိမြင်ထားသော နတ်တို့သည် ပန်းမိုး ရွာချကာ ကောင်းချီးပေးကြသည်။

ရသေ့ကြီး နေထိုင်ရာ တောသို့ ရောက်ရှိသွားကြသော အခါ ထိုတောရှိ ရသေ့ အပေါင်းတို့က ကြိုဆိုကြသည်။ ထိုညတွင်ပင် ရသေ့ကြီးသည် ပူဇော်ပွဲအတွက် ပြင်ဆင်သည်။ မနက်မိုးလင်းသော အခါ ရာမသည် ရသေ့ကြီးထံသို့ သွား၍ ရက္ခများ မည်သည့်အချိန်တွင် လာနိုင်မည်ကို မေးသော်လည်း ရသေ့ကြီးမှာ အဓိဋ္ဌာန် ဝင်နေ၍ အဖြေမရပေ။ အခြား ရသေ့များကား ခြောက်ရက်တိုင်တိုင် ကာကွယ် စောင့်ရှောက်ပေးရန် လိုလိမ့်မည်ဟု ပြောဆိုကြသည်။ မင်းသင်း ညီနောင်တို့သည် ခြောက်ရက်တိုင်တိုင် စောင့်ရှောက်ပေးသည်။

ခြောက်ရက်မြောက်သော နံနက်တွင် ရာမက ညီတော် လက္ခဏာကို ရက္ခ လာတော့မည် ဖြစ်၍ သတိထားရန် ပြောကြားသည်။ ထိုသို့ ပြောနေစဉ်မှာပင် ယဇ်မီးဖိုမှ မီးလျှံများ ရုတ်တရက် ထိုးတက်သွား သည်။ မီးနတ်ဖြစ်သော အဂ္ဂနိသည် ရက္ခများ လာနေပြီကို သိရှိသည့် သဘောပင် ဖြစ်သည်။ တစ်ချိန်တည်းတွင် ကောင်းကင်မှ ဝုန်းဝုန်းဒိုင်းဒိုင်း အသံများကို ကြားကြရသည်။ ရာမမင်းသားက အပေါ်သို့ မော့ကြည့် လိုက်သော အခါ မာရီးစနှင့် သုဘာဟုတို့သည် ယင်း၏ နောက်လိုက်

နောက်ပါများနှင့် အတူ ယဇ်မီးဖိုပေါ်သို့ မသန့်ရှင်းသော အရာများ သွန်းလောင်းချရန် ပြင်ဆင်နေသည်ကို တွေ့မြင်လေတော့သည်။

ရာမမင်းသားသည် ညီတော်လက္ခဏအား မာရီးစကို မြားဖြင့် ပစ်စေရာ သေစေရန် မရည်ရွယ်သည့် အတိုင်း ယူဇနာ များစွာ ကွာဝေးသော ဒေသတိုင်အောင် လွင့်ပါသွားခဲ့လေသည်။ ရာမမင်းသား ကိုယ်တိုင် သုဘာဟုကို သတ်ပြီးလျှင် မင်းသား ညီနောင်နှစ်ပါးတို့သည် ရက္ခတပ်တော် တစ်ခုလုံးကို သုတ်သင်ချေမှုန်း ပစ်လိုက်သည်။ မိုးတိမ် မိုးရိပ် ဖုံးအုပ်ထားသကဲ့သို့ မှောင်မည်းနေသော ကောင်းကင်ပြင်ကြီးသည် တစ်ဖန် ကြည်လင်၍ လာသည်။

နောက်တစ်နေ့တွင် မင်းသားညီနောင်တို့သည် နောက်ထပ် မည်သို့ ဆက်လက် လုပ်ကိုင်ရန် လိုသေးသည်ကို ရသေ့ကြီးထံသို့ မေးမြန်းကြသည်။ ရသေ့ကြီးကား ကျေးဇူးတင်စကား ပြောဆိုပြီးနောက် ရာမမင်းသားကို သီတာ မင်းသမီးနှင့် ထိမ်းမြား ဆောင်နှင်းပေးရန် စိတ်ကူးရလေသည်။

ရသေ့ အပေါင်းတို့သည်လည်း မိမိတို့သည် ဝိဒေဟတိုင်း မိတ္ထိလာပြည်သို့ ဇနက္ကမင်းကြီး ကျင်းပရန် ရည်ရွယ်ထားသည့် ယဇ် ပူဇော်ပွဲကြီးသို့ သွားရောက်ကြရန် အစီအစဉ် ရှိပုံကို ပြောပြကြသည်။ မင်းသားညီနောင် တို့ကိုလည်း အတူ လိုက်ပါရန် ဖိတ်ခေါ်သည်။ ဇနက္က နန်းတော်ရှိ အံ့သြဖွယ် ကောင်းသော လေးကြီးကို အယုဒ္ဓယ မင်းသားက ကြည့်ရှုသင့်သည်ဟုလည်း အကြံပေးကြသည်။ ထို့ကြောင့်ပင် ရာမနှင့် လက္ခဏမင်းသားတို့သည် ဝိသွာမိတြ ရသေ့ကြီးနှင့် အတူ မိတ္ထိလာပြည်သို့ သွားရောက်ကြသည်။

မိတ္ထီလာပြည်ကြီး၏ ဘုရင် ဇနက္ကမင်းကြီးသည်ကား တိုင်းသူပြည်သားကို ရင်ဝယ်သားကဲ့သို့ တရားသဖြင့် အုပ်ချုပ်သော မင်းဖြစ်သည်။ ဒသရဋ္ဌ ဘုရင်ကြီး၏ ရင်းနှီးသော မိတ်ဆွေတစ်ဦးလည်းဖြစ်သည်။ ဇနက္က မင်းကြီးသည် ယဇ်ပူဇော်ပွဲတစ်ခုကို ကျင်းပရန် စီစဉ်ထားသဖြင့် အတိုင်းတိုင်းမှ ဘုရင်များကို ဖိတ်ခေါ်ထားသည်။

ဇနက္ကမင်းကြီးသည် ရသေ့ရဟန်းတို့ကဲ့သို့ပင် သျှတ္တရ ကျမ်းများနှင့် ဝေဒ ကျမ်းများကို တတ်ကျွမ်းသည်။ လူသား အဖြစ်ကို ခံယူကာ ကမ္ဘာလောကကြီးသို့ သက်ဆင်းလာသည့် ဗိဿနိုးအရှင်၏ မိဖုရားအဖြစ် ခံယူမည့် သီတာမင်းသမီး၏ ခမည်းတော် ဇနက္ကမှာ သမီးကောင်း ဖခင်တို့၏ ဂုဏ်အင်္ဂါနှင့် ပြည့်စုံသည်။

တစ်ခါတွင် ဇနက္ကမင်းကြီးသည် ယဇ်ပူဇော်ပွဲ ကျင်းပလိုသဖြင့် ပွဲကျင်းပသည့် နေရာကို ကိုယ်တိုင် ခုတ်ထွင်ရှင်းလင်းတော် မူသည်။ ထိုသို့ ခုတ်ထွင် ရှင်းလင်းရာမှ နတ်သမီးတမျှ လှပသော မိန်းကလေးငယ် တစ်ဦးကို ချုံတောမှကောက်ရလေသည်။ သမီးတစ်ယောက်မျှ မထွန်းကားသော ဇနက္ကမင်းကြီးသည် ထိုကလေးကို မိမိအား ဘူမိနတ်သမီးက ပေးအပ်သော လက်ဆောင်ဟု ယူဆကာ ကောင်းစွာ ကျွေးမွေးပြုစုထားသည်။ ဇနက္ကမင်းကြီးနှင့် မိဖုရားတို့သည် ထိုမိန်းကလေးကို ကောက်ယူ မွေးစားလာခဲ့ရာ အရွယ်ရောက်သောအခါ လက္ခမီ မယ်တော်တမျှ လှပသော မင်းသမီးအဖြစ် ကျော်စောခဲ့သည်။ ဤမင်းသမီးကား သီတာပင်တည်း။

သီတာ မင်းသမီး အရွယ်ရောက်သောအခါ ဇနက္ကမင်းကြီးမှာ စိတ်ဆင်းရဲ ကြုံရပြန်သည်။ သီတာကို မိဖုရား မြှောက်လိုသော

အပြည်ပြည်မှ ဘုရင်တို့က သီတာ မင်းသမီးကို တောင်းဆို လာကြသောကြောင့်ဖြစ်၏။ သို့သော် ဇနက္ကမင်းကြီးကားမည်သူ့ကိုမျှ သဘောမကျခဲ့ချေ။ ဇနက္ကမင်းကြီးသည် ဆုံးဖြတ်ချက် တစ်ခုကို ချလိုက်သည်။

လွန်ခဲ့သော ကာလတစ်ချိန်တွင် ဇနက္ကမင်းကြီးသည် ယဇ်နတ်ပူဇော်ခြင်းကို ပြုလုပ်ခဲ့ရာ ဝရုဏ မင်းသည် အလွန် သဘောကျသဖြင့် ဇနက္ကအား ရုဒြ၏ လေးကို ပေးအပ်ခဲ့သည်။ ထိုလေးသည်ကား သာမန် လူသားတို့ ဆွဲကိုင် မ,ချီ၍ မရနိုင်သော နတ်လေးကြီးဖြစ်သည်။ ဇနက္က ဘုရင်ကြီးသည် ဤလေးတော်ကို နန်းစဉ်အမွေပစ္စည်းအဖြစ် တရိုတသေ သိမ်းဆည်း ထားခဲ့သည်။

သီတာ၏ ပြဿနာကို ဖြေရှင်းလိုသော ဇနက္ကသည် ဝရုဏနတ်မင်း ပေးထားသော သီဝရှင်၏ လေးကြီးကို မ,ချီ၍ လေးကြိုးကို ဆွဲနိုင်သော မင်းသားနှင့် သီတာ မင်းသမီးကို ပေးစားမည် ဖြစ်ကြောင်း ကြေညာသည်။ သီတာ မင်းသမီးကို ရလိုကြသည့် အနိုင်နိုင်ငံမှ မင်းသားတို့သည် မိတ္ထိလာပြည်ကြီးသို့ လာရောက်၍ လေးတင်ကြသော်လည်း မည်သူမျှ မ,ချီခြင်းငှာ မစွမ်းနိုင်သဖြင့် စိတ်ပျက်စွာ အလျှိုလျှို ပြန်သွားကြရသည်။

ဤအချိန်တွင် ဝိသွာမိတြ ခေါင်းဆောင်သော ရသေ့အပေါင်းနှင့် ရာမ လက္ခဏ ညီနောင် အပေါင်းတို့သည်လည်း လှည်းဖြင့် မိတ္ထိလာသို့ ရောက်ရှိလာကြသည်။ ဇနက္ကမင်းကြီးသည် ရသေ့ကြီး ဝိသွာမိတြနှင့် အဖွဲ့ကို ကောင်းစွာ ကြိုဆိုသည်။

နတ်သားတမျှ လှပနုပျိုကာ ရုပ်ချင်း ဆင်တူနေသည့် မင်းသားနှစ်ပါးကို တွေ့မြင်ရသောအခါ ဇနက္ကမင်းကြီးက မည်သူများ ဖြစ်ကြောင်း

ကို စုံစမ်း မေးမြန်းသည်။ ဝိဿာမိတ္တ ရသေ့ကြီးက မင်းသားနှစ်ပါးသည် အယုဒ္ဓယ နိုင်ငံ ဘုရင်ကြီး ဒသရဒ္ဓ၏ သားများ ဖြစ်ကြောင်းနှင့် ရက္ခများကို နှိမ်နင်း အောင်မြင်ခဲ့ပုံများကို ပြောပြသည်။ ဇနက္က၏ နန်းတော်တွင် ရှိသော ရုဒြ၏လေးကြီးကို တင်နိုင်ခြင်း ရှိမရှိ စမ်းသပ် ယှဉ်ပြိုင်ရန် မိတ္ထိလာပြည်သို့ လာရောက်ခြင်း ဖြစ်ကြောင်းကိုလည်း ပြောပြသည်။

ဇနက္ကမင်းကြီးလည်း အလွန် ဝမ်းမြောက်ဝမ်းသာ ဖြစ်ကာ လေးကြီးကို တင်နိုင်လျှင် သီတာ မင်းသမီးနှင့် ထိမ်းမြားပေးမည်ဟု ကတိပေးကာ လေးကြီးကို ယူဆောင်လာစေသည်။ သိဝ၏ လေးကြီးကို သံသေတ္တာ၌ တည့်၍ ထိန်းသိမ်းထားသဖြင့် ဘီးရှစ်လုံးတပ် ရထားဖြင့် တင်ဆောင်ယူခဲ့သည်။

ရသေ့ကြီးနှင့် ဇနက္ကဘုရင်ကြီးထံ ခွင့်ပန်ပြီးနောက် ရာမမင်းသား သည် လူအများ စောင့်ကြည့်နေကြသည့် အကြားတွင် သံသေတ္တာကြီးသို့ သွားရောက်ကာ သေတ္တာ အဖုံးကို ဖွင့်လှစ်လိုက်သည်။ ထို့နောက် လေးကြီးကို ပန်းကုံးတစ်ကုံးကို ဆွဲယူလိုက်သည့်အလား အလွယ်တကူပင် မ,ယူလိုက်ပြီး လေး၏ အစွန်းတစ်ဖက်ကို ခြေမ,ဦးတွင် ထောက်လျက် လေးကြိုးကို ဆွဲငင်၍ လွှတ်လိုက်သော အခါ မိုးခြိမ်းသံကဲ့သို့အသံများ တုန်ဟည်း ထွက်ပေါ်လာသည်။ ထိုအခါတွင် ကောင်းကင်မှ နတ်တို့က ပန်းမိုး ရွာချလိုက်လေသည်။

ဇနက္ကမင်းကြီးသည် ရာမမင်းသား၏ ခမည်းတော် ဒသရဒ္ဓ အား အခေါ်လွှတ်ပြီး ဖိတ်၍ မိမိ၏ သမီးတော် သီတာဒေဝီနှင့် ရာမ မင်းသားအား ထိမ်းမြားခွင့်ကို တောင်းခံသည်။ ဒသရဒ္ဓလည်း

ဝမ်းမြောက်ဝမ်းသာ လက်ခံ၍ မိတ္ထီလာပြည်သို့ လိုက်လာကာ မင်္ဂလာ အခမ်းအနားသို့ တက်ရောက်သည်။

ဒသရဋ္ဌ မင်းကြီးသည် သားတော် နှစ်ပါးနှင့် သီတာဒေဝီတို့ကို ခေါ်ဆောင်၍ အယုဒ္ဓယပြည်သို့ အခြွေအရံများစွာဖြင့် ပြန်လာသည်။ လမ်းခရီး၌ လေပြင်း မုန်တိုင်းကြီး ကျသဖြင့် သစ်ပင်များ ပြိုလဲကာ နေကို မမြင်ရဘဲ မှောင်မည်းသွားသည်။ ဒသရဋ္ဌမင်းကြီး၏ ပညာရှိကြီး များက အတိတ်နိမိတ်ကို သိမြင်ထားပြီး ဖြစ်သည်။ ခတ္တိမျိုးတို့၏ ရန်သူဖြစ်သော ပရသုရာမသည် ရှေ့တွင် မာမးမားထီးထီး ရပ်လျက် ရှိနေသည်၊ ပရသုရာမ၏ ပခုံးတစ်ဖက်တွင် လေးကြီးချိတ်ထားပြီး အခြား တစ်ဖက်တွင် တိုက်ပွဲသုံး ရဲတင်းကို လွယ်လျက် လက်ထဲတွင် လျှပ်စီးလက်သကဲ့သို့ ပြိုးပြိုးပြက်ပြက် အရောင်ထွက်သော မြား တစ်စင်းကို ကိုင်ထားသည်။ ပရသုရာမ သွားလေရာ တိုင်းတွင် ရှေ့မှ လေမုန်တိုင်းကြီး ပါသွားတတ် သဖြင့် ခတ္တိယမျိုးတို့မှာ အလွန် ကြောက်ရွံ့ ကြသည်။

ပရသုရာမ၏ ခမည်းတော်ကို ဘုရင် တစ်ပါးက သတ်ဖြတ်ခဲ့ သဖြင့် ပရသုရာမသည် ခတ္တိယမျိုး ဟူသမျှကို တွေ့ရာတွင် လိုက်လံ သတ်ဖြတ်နေခြင်း ဖြစ်သည်။ ပရသုရာမသည် ရာမထံသို့ ဦးတည်၍ လိုက်လာခြင်း ဖြစ်သည်။ ပရသုရာမက မိမိသည် မိတ္ထီလာ လေးတင်ပွဲကို သိပြီး ဖြစ်ကြောင်း၊ ရှုဒြ (သိဝ)၏ လေးကို ရာမက ချိုးပစ်နိုင်ခဲ့သည်ဟု သိရခြင်းကြောင့် ရှုဒြ၏ လေးနှင့်အတူ ဗိဿနိုးလေး ကိုလည်း ပြုလုပ်ခဲ့ကြောင်း၊ ထိုဗိသနိုး၏ လေးကို ယခု သူယူလာခဲ့ရကြောင်း၊ ရာမက ဤလေးကို တင်နိုင်လျှင် ရာမသည် မိမိနှင့် တိုက်ခိုက်နိုင်သူဟု

ယူဆမည် ဖြစ်ကြောင်း၊ သို့ကြောင့် ဗိဿနိုး၏ လေးကို ကိုင်ကြည့်ရန် ပရသုရာမက ရာမမင်းသားကို ပေးအပ်လေသည်။

ဒသရဋ္ဌ ဘုရင်ကြီးသည် မိမိ၏သား ရာမမှာ ငယ်ရွယ်သေးသူ ဖြစ်၍ တိုက်ခိုက်မှုမပြုရန် ပရသုရာမကို တောင်းပန်သည်။ ရာမ မင်းသားကမူ ပရသုရာမထံမှ လေးနှင့် မြားကို ဆွဲယူကာ လေးကြိုးကို ဆွဲ၍တင်လိုက်သည်။ ထို့နောက် ပရသုရာမအား ဤလေးနှင့် မြားကို ဆွဲတင်ပြီးလျှင် တစ်စုံ တစ်ခုကို ပစ်ပြီးမှသာ ဖြုတ်၍ ရကြောင်း၊ သင့်တွင် ရှိသော မည်သည့် ဘုန်းတန်ခိုးကို ဖျက်ဆီးပစ်ရမည်နည်းဟု မေးလေသည်။ ထိုခဏ၌ပင် ဘုန်းတန်ခိုးတေဇာ ရုပ်လက္ခဏာကို ဆောင်သော ပရသုရာမ၏ မျက်နှာမှာ ညှိုးကျကာ ပြောင်းလဲသွား လေသည်။ နိမ်နင်း၍ မရနိုင်သော စစ်ဘုရင်ကြီး၏ ရုပ်လက္ခဏာမျိုး မရှိတော့ဘဲ မိမိကိုယ်ကို နှိမ့်ချတတ်သော ရသေ့ရဟန်းတို့ ကဲ့သို့ ပြောင်းလဲ လာသည်။ ပရသုရာမ၏ အဝတာရ လူဝင်စား ဘုရား အဖြစ်ကား ဤတွင် ကံကုန်သွားလေးတော့သည်။

ရာမမင်းသားသည် ပရသုရာမအား ချိုးနှိမ်ပြီးနောက် ထွက် သွားခွင့် ပြုလိုက်သည်။ ဒသရဋ္ဌ မင်းကြီးနှင့် အဖွဲ့တို့သည် အယုဒ္ဓယ မြို့တော်သို့ ပြန်လာခဲ့ကြရာ တိုင်းသူပြည်သားများက သောင်း သောင်းဖြဖြ ကြိုဆိုကြသည်။ ရာမနှင့်သီတာ ဒေဝီတို့သည် ချစ်ခင် ပျော်ရွှင်စွာ တစ်ဆယ့်နှစ်နှစ်တိတိ အယုဒ္ဓယ မြို့တော်တွင် နေထိုင် ကြသည်။

ဒသရဋ္ဌ မင်းကြီးသည် သားတော် လေးပါး အနက် ရာမ မင်းသားကို အထူး ချစ်ခင်သည်။ ရာမ မင်းသားတွင် မင်းကောင်း

မင်းမြတ် တစ်ပါး ဖြစ်နိုင်သော အရည်အချင်းများ ရှိသည့် အပြင် ဓမ္မကို လက်ကိုင်ထားသော မင်းသားဖြစ်သည်။ တစ်နေ့သောအခါ ဘုရင်ကြီးသည် မှူးကြီး မတ်ရာ ပညာရှိကြီးများကို ညီလာခံ တစ်ခု ခေါ်ယူ ကျင်းပလျက် ရာမ မင်းသားကို ယုဝရာဇာအဖွဲ့ အပ်နှင်းကာ မိမိ၏ အရိုက်အရာကို ဆက်ခံစေလိုသည့် ဆန္ဒရှိကြောင်း မိန့်ကြားလေသည်။ ပညာရှိများလည်း အားလုံး ထောက်ခံကာ ရာမမင်းသား၏ ဂုဏ်ကို ချီးကျူး ပြောဆိုကြကုန်သည်။ ရာမမင်းသားကမူ မင်းပြုရန် စိတ်ဆန္ဒ ပြင်းပြခြင်း မရှိသော်လည်း ဖခမည်းတော်၏ အလိုဆန္ဒ အတိုင်း လိုက်နာရန် အဆင်သင့် ဖြစ်လေသည်။

ကဲကေယီမိဖုရားတွင် မန်သာရ အမည်ရှိသော ဆွေမျိုးနီးစပ် အစေခံတစ်ယောက် ရှိသည်။ ရာမမင်းသား ဘိသိက်ခံပွဲ ကျင်းပမည့်နေ့ အထိ ရာမမင်းသားကို ယုဝရာဇာ အဖြစ် ခန့်အပ်မည်ကို ပန်သာရ မသိခဲ့ချေ။ ဘိသိက်ခံပွဲ ကျင်းပရန် အစီအစဉ်များကို တွေ့မြင်မှ သိသဖြင့်ကဲကေယီ မိဖုရားထံသို့ ပြေးသွားကာ ကဲကေယီမှ ဖွားမြင်သော သားတော် ဘာရတ ထီးနန်း ရရှိရေးအတွက် ကုန်းချောလေတော့သည်။ ရာမ မင်းသားသည် မိဖုရားခေါင်ကြီးမှ ဖွားမြင်သော သားအကြီး ဖြစ်ခြင်း၊ ရာမ၏ ဓမ္မတရား လက်ကိုင်ထားပုံကို သိခြင်းတို့ကြောင့် ကဲကေယီမှာ ရာမ၏ ထီးနန်း ဆက်ခံခြင်းကို မလိုလား ဖြစ်သော်လည်း မန်သာရ၏ ထပ်ခါတလဲလဲ ကုန်းချောမှုကြောင့် နောက်ဆုံးတွင် ဘာရတ ထီးနန်းကို ဆက်ခံခွင့်ရရေး ဆောင်ရွက်ရန် သဘောတူသည်။

ဒသရဋ္ဌ မင်းကြီးသည် ရှေးယခင် ဣန္ဒရာနှင့် သမ္ဗာရတို့ စစ်ခင်းသောအခါ ဣန္ဒရာဘက်မှ ဝင်ရောက် ကူညီသဖြင့် စစ်ပွဲတွင်

ဒဏ်ရာရပြီး သတိမေ့သွားသည်။ ထိုအချိန်တွင် ကဲကေယီ မိဖုရားသည် ဒသရဋ္ဌကို စစ်ရထားဖြင့် သယ်ဆောင်သွားကာ မြှားကို နုတ်ယူပြီးကုသပေးခဲ့သည်။ ထိုကျေးဇူးကို ဆပ်သောအနေဖြင့် မင်းကြီးသည် ကဲကေယီအား ဆုနှစ်ခုကို တောင်းခွင့်ပြုထားသည်။ ကဲကေယီက နောင်လိုအပ်သောအခါမှ တောင်းမည်ဟု ပြောဆိုခဲ့သည်။ ယခုအခါ ယင်းဆုများကို တောင်းဆိုရန် အခွင့်ကြုံလေတော့သည်။

ပထမဆုကား ဘာရတ မင်းသားကို အိမ်ရှေ့အရာဖြင့် ထီးနန်းဆက်ခံခွင့် ပေးရမည် ဖြစ်ပြီး၊ ဒုတိယဆုမှာ ရာမမင်းသားကို တောသို့ တစ်ဆယ့် လေးနှစ် နှင်ပစ်ရမည် ဆိုသော ဆုပင်ဖြစ်သည်။ ဒသရဋ္ဌသည် ဤဆုများကို မည်သည့် နည်းနှင့်မျှ မပေးနိုင်ကြောင်း ရှင်းပြသော်လည်း ပေးထားသော ကတိအတွက် မလွှဲမရှောင်သာဘဲ ထိုဆုများကို ပေးရန် ခွင့်ပြုရလေသည်။ မင်းကြီးမှာ စိတ်ဆင်းရဲဒုက္ခနှင့် သောက မအေးနိုင် ဖြစ်ကာ မထနိုင်အောင် ဖြစ်နေလေသည်။

ဒသရဋ္ဌ မင်းကြီးသည် မအိပ်နိုင် မစားနိုင်ဖြစ်ကာ အိပ်ရာတွင် လူးလွန့်နေလေသည်။ သားတော် ရာမမင်းသား ရောက်ရှိခစားသော အခါ နှုတ်မှပြောမထွက်နိုင်အောင် ဖြစ်နေသဖြင့် ကဲကေယီက ပြောပြရသည်။ ဓမ္မတရားကို အလေးဂရုပြုတတ်သော ရာမမင်းသားသည် ဖခမည်းတော်၏ ကတိကို တည်စေရန် အတွက် နေပြည်တော်မှ ထွက်ခွာရန် ဆုံးဖြတ်လေသည်။

ရာမမင်းသားနှင့်အတူ ညီတော် လက္ခဏနှင့် သီတာဒေဝီတို့ပါ လိုက်ပါသွားကြရန် ဆုံးဖြတ်ကြသည်။ ရာမ မင်းသားက တောအရပ်ဒေသသည် အလွန် ကြမ်းတမ်းသော နေရာ ဖြစ်၍ မိန်းမတို့နှင့်

မထိုက်တန်သည့် နေရာဖြစ်ကြောင်း ရှင်းပြကာ သီတာဒေဝီအား မလိုက်ရန် တားသည်။ သီတာဒေဝီကလည်း မိမိသည် တောသဘာဝကို မွေ့လျော်ကြောင်း မိတ္ထီလာပြည်တွင် နေစဉ်က သီတာဒေဝီသည် တောထဲ၌ နေရမည့်ကိန်း ရှိသည်ဟု ပရောဟိတ်များက ဟောဖူးကြောင်း ပြောဆိုကာ လိုက်ခွင့်ပြုရန် တောင်းဆိုသည်။ ထို့ကြောင့် အတူလိုက်ပါခွင့် ပြုရလေသည်။

ရာမ၊ လက္ခဏာနှင့် သီတာတို့ အယုဒ္ဓယ မြို့တော်မှ ထွက်ခွာလာကြသောအခါ မြို့သူ မြို့သားများက ကဲကေယီ မိဖုရားအား ပြစ်တင် ပြောဆိုလျက် ရာမအား တောသို့ မသွားရန် တောင်းပန်လျှောက်ထားကြသည်။ ရာမက မိမိ၏ ဖခမည်းတော် ကတိခံထားသည်ကို အကောင်အထည်ဖော်ရန် သွားရခြင်း ဖြစ်ကြောင်း ရှင်းပြသောအခါ ငိုကြွေးမြည်တမ်း နေကြသော လူအုပ်ကြီးသည် ရာမမင်းသားတို့၏ ရထားနောက်သို့ လိုက်ပါလာခဲ့ကြသည်။ တမသမြစ်ဆိပ်သို့ ရောက်သောအခါ ထိုနေရာ၌ပင် ညအိပ်ကြသည်။

လက္ခဏာသည် ရာမနှင့်သီတာ အိပ်စက်ရန်အတွက် မြက်တို့ကို ခင်းပေးပြီးနောက် မိမိမှာကား ရထားထိန်း သုမန္တြ ရနှင့် စကားပြောကာ အချိန်ကုန် စေခဲ့သည်။

အရုဏ်မတက်မီ ရာမ မင်းသားသည် ထ၍ ရထားထိန်းကို ရထား ပြင်ဆင်ခိုင်းသည်။ နောက်မှ လိုက်လာသော ပြည်သူများ မောရ၍ အိပ်ပျော်နေစဉ် ယင်းတို့ မသိအောင် ထွက်ခွာသွားကြရန် ဖြစ်သည်။ မြစ်တောင်ဘက်ကမ်းသို့ ရောက်ရှိသွားသောအခါ ရထားထိန်းအား ရထားဖြင့် တစ်ဘက်ကမ်းသို့ ပြန်၍ သွားရောက်စေကာ

အယုဒ္ဓယ မြို့တော်ဘက်သို့ အတန်ငယ် သွားရောက်စေပြီးမှ ပြန်လာခဲ့ရန် မှာကြား လိုက်လေသည်။ ထို့နောက် ပြည်သူများ အိပ်ရာမှ မနိုးမီ ခရီးဆက်ရန် ဖြစ်သည်။ ထိုသို့ပြုလုပ်သည်မှာ ပြည်သူများ နိုးလာ၍ နေပြည်တော်သို့ ပြန်သွားကာ ရထားဘီးရာများကို တွေ့လျှင် မင်းသားတို့ ပြန်သွားကြပြီဟု အထင်ဖြင့် ပြည်သူများ ပြန်သွားကြစေရန် စီစဉ်ခြင်း ဖြစ်သည်။

ခရီးထွက်လာ၍ ဂင်္ဂါမြစ်သို့ ရောက်သောအခါ ရထားထိန်းကို ပြန်လွှတ်ပြီး သုံးဦးသား ခရီးဆက်ကြသည်။ စိတြကုဋ်တောင်ခြေ အနီးရှိ မာလယာဝတီ မြစ်ဆိပ်နားတွင် စခန်းချ၍ ပျော်ရွှင်စွာ နေထိုင်ကြသည်။

ရာမမင်းသား၏ ရထားထိန်း အယုဒ္ဓ မြို့တော်သို့ ပြန်လည်ရောက်ရှိသွားပြီး မကြာမီ ဒသရဋ္ဌ ဘုရင်ကြီးလည်း သားကြောင့် ပူဆွေးတမ်းတသော ရောဂါကြောင့် နတ်ရွာစံ၊ ကံတော်ကုန်လေသည်။ မှူးမတ်ပရိသတ်တို့လည်း ဦးရီးတော် ကဲကေယီ တိုင်းပြည်သို့ ရောက်ရှိနေသော ဘာရတ မင်းသားထံ အခေါ်လွှတ်လိုက်ကြသည်။ ဘာရတ မင်းသား ရောက်လာ၍ အခြေအနေမှန်ကို သိရှိသွားသောအခါ မယ်တော် ကဲကေယီကို ပြစ်တင် ပြောဆို၍ နောင်တော်ရာမ မင်းသားအား တောမှ သွားရောက် ခေါ်ယူကာ ထီးနန်းကို ပြန်လည် အပ်နှင်းရန် စီစဉ်သည်။

ဘာရတမင်းသည် မိဖုရားကြီး သုံးပါး နှင့်အတူ အခြွေအရံများဖြင့် ရာမ၊ လက္ခဏနှင့် သီတာဒေဝီတို့ နေရာ တောသို့ လိုက်လာကြပြီး ရာမ မင်းသားအား နေပြည်တော်သို့ ပြန်၍ ထီးနန်းကို ဆက်ခံရန်

ဘရတက တောင်းပန်လျှောက်ထား လေသည်။ ရာမမင်းသားကား ဖခမည်းတော်၏ စကားကို လိုက်နာရမည် ဖြစ်၍ မလိုက်နိုင်ကြောင်း ငြင်းပယ်သည်။ ဘာရတ မင်းသားကလည်း ကျူးလွန်မိသော အပြစ်မှ လွတ်ငြိမ်းနိုင်ရန်အတွက် နောင်တော် ရာမကိုယ်တိုင် တိုင်းပြည်ကို အုပ်ချုပ်ရန် အတွက် နောင်တော် ရာမကိုယ်တိုင် တိုင်းပြည်ကို အုပ်ချုပ်စီမံရန် အကြိမ်ကြိမ် တိုက်တွန်း လျှောက်တင်သည်။ နောက်ဆုံး၌ ရာမ မင်းသား တောထဲ၌ နေထိုင်မည့် ၁၄နှစ်တာ ကာလအတွင်း ညီတော် ဘာရတ မင်းသားသည် နောင်တော် ရာမ၏ ကိုယ်စား တိုင်းပြည်ကို အုပ်ချုပ်ရန် နှစ်ဦးနှစ်ဖက် သဘောတူညီမှု ရရှိကြသည်။ ယင်းကာလအတွင်း ရာမ မင်းသား၏ ခြေနင်းတော်ကို ရာမ၏ အထိမ်းအမှတ်ဖြင့် ဦးထိပ် ပန်ဆင်လျက် အုပ်စိုးပြီး နောင်တော် ပြန်လာသော အချိန်တွင် ထီးနန်းကို ပြန်လည် အပ်နှင်းရန် ဘာရတက သဘောတူသည်။

စိတြကုတ္တတောင်နှင့် မနီးမဝေး အရပ်၌ ရက္ခတို့၏ စခန်း တစ်ခု ရှိရာ ထိုစခန်းကို ရက္ခတို့၏ ဘုရင် ရာဝဏ ညီတစ်ဦးဖြစ်သူ စစ်သူကြီး ခါကေအုပ်ချုပ်လျက် ရှိသည်။ ထိုစခန်းမှ ရက္ခအပေါင်း တို့သည် အနီးပတ်ဝန်းကျင်ရှိ လူများ တရားအားထုတ်ရာ စခန်းများသို့ လာရောက်၍ ဖမ်းယူ စားသောက်ပစ်ခဲ့သည်။ ရသေ့အချို့မှာ တခြားသို့ ထွက်ပြေးသွားကြရသည်။

ရာမ၊ လက္ခဏ၊ သီတာတို့သည်လည်း နေရာကောင်းကို ရှာဖွေရင်း လှည့်လည် သွားလာကြရာ တောနက်ထဲသို့ ရောက်ရှိလာသည်။ ဤဒဏ္ဍက တောထဲ၌ ကျက်စားသော ဝိရဒ အမည်ရှိ ရက္ခတစ်ဦးကို

ရာမမင်းသားက သုတ်သင်လိုက်သဖြင့် ထိုတောတွင် တရားအားထုတ်ကြသော ရသေ့တို့မှာ ရာမမင်းသားကို များစွာ ကျေးဇူးတင်ကြသည်။ မင်းသား မင်းသမီး သုံးဦးတို့သည် ဤနေရာ၌ အခြေချ၍ နေထိုင်ခဲ့ကြသည်မှာ ဆယ်နှစ် ကျော်လာခဲ့သည်။

ထိုမှတစ်ဆင့် မင်းသား မင်းသမီးတို့သည် ပဉ္စဝတီသို့ ထွက်ခွာခဲ့ကြသည်။ လမ်း၌ သစ်ပင်တစ်ပင် ပေါ်တွင် ငှက်ကြီးတစ်ကောင်ကို တွေ့၍ စုံစမ်းကြည့်ရာ ဇာတာယု အမည်ရှိကြောင်း အရုဏာခေါ် အရုဏ်ဦးနတ်၏သား သမ္ပာတိ၏ညီ ဖြစ်ကြောင်း၊ အရုဏာ အရုဏာမှာ ဗိဿနိုးအရှင်၏ စီးယာဉ်တော် ဖြစ်သော ဂရုဍ ခေါ် ဂဠုန်ငှက်၏ ညီဖြစ်ကြောင်းကို သိရှိရသည်။

ပဉ္စဝတီသို့ ရောက်သောအခါ စခန်းတစ်ခု ပြုလုပ်၍ နေထိုင်ကြသည်။ တစ်နေ့သော နံနက်တွင် ဂေါဓာဝရီမြစ်သို့ ရေချိုးဆင်းကြပြီးနောက် စခန်း၌ လှပတင့်တယ်စွာ စံပယ်တော် မူကြစဉ် သုပန္နကအမည်ရှိ ရက္ခအမ တစ်ဦး ရောက်ရှိလာက ရာမမင်းသားကို ချစ်ခင်စုံမက်သောစိတ် ဖြစ်ပေါ်လာလေသည်။ ရာမမင်းသားအား မည်သူမည်ဝါ ဖြစ်သည်ကို စုံစမ်း မေးမြန်းပြီးလျှင် သူမသည်လည်း ရက္ခတို့၏ဘုရင် ရာဝဏာန့်မတော်ဖြစ်ကြောင်း၊ သူမ၏ အစ်ကိုများ ဖြစ်သော ကုမ္ဘာကာနနှင့် ဘိဘ်ါသနတို့မှာ နာမည်ကျော် စစ်သူကြီးများ ဖြစ်ပုံနှင့် ဤဒေသကို အပိုင်စား ရသောခါနနှင့် ဒုဿနတို့သည်လည်း သူမ၏ အစ်ကိုများပင် ဖြစ်ကြောင်း ကြွားလုံးထုတ်ကာ ရာမအား မြူဆွယ်လေသည်။

သုပန္နကသည် ရာမ မင်းသားကို မြင်လျှင် မြင်ချင်း ချစ်ခင်ခဲ့ပုံ၊ သူမ၏ ကြင်ယာတော် အဖြစ် ယခုအချိန်မှစ၍ အသိအမှတ်

ပြုပုံများနှင့် သီတာကို ထားခဲ့၍ သူမနှင့် လိုက်ခဲ့ရန် သွေးဆောင်သည်။

လူသားကဲ့သို့ ဖန်ဆင်းရောက်ရှိလာသော ရက္ခကို မင်းသားနှစ်ပါးတို့က ပြက်ရယ်ပြုကြ သဖြင့် ရက္ခ ဒေါသထွက်လာသော အခါ လက္ခဏသည် သုပန္နကကို နှာခေါင်း ဖြတ်ပစ်လိုက်သည်။ သုပန္နကလည်း ထွက်ပြေးသွားကာ သူမ၏ အစ်ကိုခါနကို အကြောင်းစုံ တင်ပြ၍ တိုင်တန်းသည်။

ခါနနှင့် ဒုဿနတို့သည် စစ်သူကြီး ၁၄ဦး ပါဝင်သော ရက္ခတပ်မတော်ကို ခေါ်ဆောင်၍ ရာမမင်းသားတို့ နေထိုင်ရာသို့ ရောက်ရှိလာရာ ရာမမင်းသားသည် သီတာဒေဝီကို ဂူတစ်ခုသို့ သွားရောက်ပုန်းအောင်းစေကာ လက္ခဏအား စောင့်ကြပ်နေစေပြီး တစ်နာရီအတွင်း ရက္ခအားလုံးကို သုတ်သင်ချေမှုန်း ပစ်လိုက်သည်။

မသေဘဲ ကျန်ရစ်ခဲ့သော ကမ္ဗနအမည်ရှိ ရက္ခ တစ်ဦးသည် လင်္ကာကျွန်းသို့ သွားရောက်ကာ ရာဝဏဘုရင်ထံ အကြောင်းကြားလိုက်ရာ ရာဝဏမှာ ယမ်းပုံမီးကျ ဒေါသအိုး ပေါက်ကွဲ လေတော့သည်။ ရာမမင်းသားကို လက်စားချေရန် အတွက် ချက်ချင်းပင် မာရီးစထံ သွားရောက် တိုင်ပင်သည်။ ရာမ၏ ဘုန်းလက်ရုံး စွမ်းပကားကို သိရှိခဲ့ပြီး ဖြစ်သော မာရီးစက ရာဝဏအား ထိုအကြံကို စွန့်လွှတ်ရန် တိုက်တွန်းသဖြင့် ရာဝဏ ပြန်သွားသည်။ ရန်သူအပေါင်းကို နှိမ်နင်းအောင်မြင် နိုင်မည့် မိမိ၏ ဆုတောင်းတွင် လူသား၏ အန္တရာယ်ကိုလည်း အောင်မြင်ရမည် ဟု မပါဝင်ကြောင်းကို ရာဝဏ သတိရသွားဟန်တူသည်။

**စာပေဟောင်းလေးအိုးကြီး**

သို့သော် မကြာလိုက်ချေ။ နှမတော် သုပန္နက ရောက်ရှိလာပြီး သနားစဖွယ် တင်ပြလျှောက်ထားသောအခါ ရာမမင်းသားကို လက်စားချေရန် စိတ်ဆန္ဒ ပြင်းပြလာပြန်သည်။ မာရီးစထံသို့ လာ၍ တိုင်ပင်ပြန်သည်။ မာရီးစက တားမြစ်သော်လည်း မရတော့ချေ။ ရွှေသမင်ဟန်ဆောင်၍ ဥပါယ်တံမျဉ်ဖြင့် သီတာဒေဝီကို ခိုးယူ ပေါင်းသင်းရန် အကြံရသည်။ မာရီးစကား ရက္ခတစ်မျိုးလုံး ပြုတ်ကုန်တော့မည်ကို မြင်မိလေတော့သည်။ ရွှေသမင် ဟန်ဆောင်လျှင် ရာမ၏ လက်နက်ဖြင့်ပင် သေရမည်။ ရာဝဏ၏ စကားကို နားမထောင်လျှင်လည်း အသတ်ခံရမည် ဖြစ်၍ မိမိလေးစားသော ရန်သူ၏ လက်ချက်ဖြင့်ပင် အသေခံရန် ဆုံးဖြတ်လိုက်သည်။

ရာဝဏနှင့် မာရီးစတို့သည် ရထားယာဉ်ကို စီး၍ ကောင်းကင်ခရီးဖြင့် လာခဲ့ကြရာ နိုင်ငံ အများအပြားကို ဖြတ်သန်းခဲ့ရသည်။ ဒန္ဒက တောသို့ ရောက်လျှင် ဆင်း၍ ရာမတို့၏ စခန်း အနီးသို့ ချဉ်းကပ်လာခဲ့ကြသည်။ မာရီးစသည် ကိုယ်တွင် ငွေရောင် အပြောက်ပါရှိသော ရွှေသမင်ပုံ ဖန်ဆင်း၍ သီတာဒေဝီ မြင်နိုင်လောက်သော နေရာတွင် ပြေးလွှားခုန်ပေါက် ကစားနေသည်။ သီတာဒေဝီ တွေ့မြင်သောအခါ အလွန် လှပသော သမင်ကို လိုချင်ကြောင်း၊ ဖမ်းဆီးပေးရန် ရာမ မင်းသားကို ပူဆာလေသည်။

လက္ခဏ မင်းသားက ထိုသမင်သည် သမင်အစစ် မဟုတ်ဘဲ နာနာဘာဝ ဖန်ဆင်းထားသည့် သမင်သာ ဖြစ်ကြောင်း ဖျောင်းဖျသော်လည်း မရဘဲ ဖမ်းဆီးပေးရန် တောင်းဆိုနေလေသည်။ နှစ်သိမ့်၍ မရသည့်အဆုံး ရာမမင်းသားသည် လေးနှင့် မြားကိုယူ၍ ရွှေသမင်ကို

ဖမ်းရန် လိုက်သွားသည်။ သီတာဒေဝီ အနီးမှ မခွာဘဲ စောင့်ရှောက်ရန် လက္ခဏကို မှာထားခဲ့သည်။

မာရီးစသည် ရာမ မင်းသားကို တောနက်သို့ ခေါ်ဆောင်သွားသည်။ ရာမ၏ မြားချက် ခန္ဓာကိုယ်သို့ စူးဝင်သွားသောအခါ မာရီးစသည် "လက္ခဏကူပါ၊ လက္ခဏကယ်ပါ"ဟု ရာမ၏ အသံဖြင့် အော်မြည်ရင်း လဲကျ သေဆုံးသွားသည်။ ထိုအသံကို သီတာဒေဝီ ကြားရသောအခါ ညီတော် လက္ခဏအား ရာမမင်းသားကို ကူညီရန် စေလွှတ်သော်လည်း လက္ခဏက ရာမ၏ အသံမဟုတ်နိုင်ကြောင်း ရှင်းပြသည်။ သို့သော် သီတာဒေဝီက လက္ခဏသို့ မဟုတ်မမှန် စွပ်စွဲ ပြောဆိုလာသော အခါ မနေသာဘဲ ရာမနောက်သို့ လိုက်သွားရသည်။

ထိုအခွင့်ကို စောင့်နေသော ရာဝဏသည် သီတာဒေဝီ အနီးသို့ ရသေ့တစ်ဦး အသွင်ဖြင့် ချဉ်းကပ်၍ အတင်းအဓမ္မဆွဲယူပြီး ယာဉ်ပျံပေါ် တင်ကာ ကောင်းကင်ခရီးဖြင့် ပြန်သွားသည်။ သီတာဒေဝီလည်း ငိုကြွေး မြည်တမ်းလျက် လိုက်ပါသွားသည်။

တောအုပ် တစ်ခု၏ သစ်ပင် တစ်ပင်ပေါ်တွင် ငှက်ကြီး ဇတာယုသည် အိပ်ချင်မူးတူးဖြင့် အိပ်ငိုက်နေစဉ် ကောင်းကင်မှ မိန်းကလေးတစ်ဦး၏ ငိုသံကို ကြားလိုက်ရသဖြင့် မော်ကြည့်လိုက်ရာ ယာဉ်ပျံတစ်ခုတွင် ဖမ်းဆီး ခေါ်ဆောင်သွားသော သီတာဒေဝီကို တွေ့မြင်သည်။ ဇတာယုသည် ရာဝဏအား သွားရောက် တိုက်ခိုက်၍ ယာဉ်ပျံကို အစိတ်စိတ် ဖြစ်အောင် ဖျက်ဆီးပစ်လိုက်သည်။ ရာဝဏ၏ တိုက်ခိုက်မှုကြောင့် ဇတာယုမှလည်း မြေကြီးပေါ်တွင် နေရာမှ မရွေ့နိုင်အောင် နာကျင်လျက် ကျန်ရစ်ခဲ့သည်။

ယာဉ်ပျံရထား မရှိတော့သော ရဝဏသည် သီတာဒေဝီကို တင်ဆောင်လျက် လေကဲ့သို့ လျင်မြန်သော အဟုန်ဖြင့် အလင်္ကာကျွန်းသို့ ကောင်းကင် ခရီးဖြင့် သွားသည်။ သီတာဒေဝီသည် မိမိ၏ လက်ဝတ်တန်ဆာများကို အဝတ်ဖြင့် ထုပ်၍ အောက်သို့ ပစ်ချလိုက်သည်။ ရာမနှင့် ညီတော် လက္ခဏတို့ လိုက်လံ ရှာဖွေသောအခါ သဲလွန်စ တွေ့နိုင်ရန် ပစ်ချထားခဲ့ခြင်း ဖြစ်သည်။

အလင်္ကာကျွန်းသို့ ရောက်သော ရာဝဏသည် သီတာဒေဝီအား မိမိတို့နိုင်ငံ၏ ကြီးကျယ် ခမ်းနားပုံနှင့် ချမ်းသာ ကြွယ်ဝပုံများကို ပြသသည်။ သီတာဒေဝီ သဘောကျလာပါက မိဖုရားမြှောက်ရန် ဖြစ်သည်။ သီတာဒေဝီက လက်မခံဘဲ ငြင်းဆန်သောအခါ ရက္ခ အစောင့်အရှောက်ဖြင့် အသောက ဥယျာဉ်၌ ချုပ်နှောင်ထားသည်။

လက္ခဏ လိုက်လာသည်ကို တွေ့သောအခါ ရာမမင်းသားကား အခြေအနေကို သဘောပေါက်ပြီး ဖြစ်သည်။ နှစ်ယောက်သား လျင်မြန်စွာ စခန်းသို့ လိုက်လာခဲ့ကြရာ သီတာဒေဝီကို မတွေ့ရတော့ချေ။ ရာမမင်းသားမှာ ပူဆွေးသောက ရောက်၍ ဖြေမဆည်နိုင် ဖြစ်ရလေသည်။ တောအထပ်ထပ်၊ တောင်အသွယ်သွယ်၊ မြစ်ချောင်း အားလုံးသို့ လိုက်လံ ရှာဖွေကြသည်။ ထိုသို့ လိုက်လံ ရှာဖွေကြရာ တစ်နေရာသို့ ရောက်သောအခါ သတ္တဝါကြီးနှစ်ကောင် တိုက်ခိုက်ခဲ့သည့် နေရာသဖွယ် ကြေပျက်နေသော သစ်ပင်ချုံနွယ်တို့ကို တွေ့ရှိရသည်။ ရထားယာဉ် အပျက်အစီး တို့ကိုလည်း တွေ့ရှိရသည်။ ထိုအနီးအနားတွင်ပင် ဇတာယု ငှက်ကြီးမှာ သေအံ့ဆဲဆဲ ဖြစ်နေသည်ကို တွေ့ရ၍ သီတာ

ဒေဝီကို ရာဝဏ သယ်ဆောင်သွားကြောင်း သိရသည်။ ထိုခဏာ၌ပင် ဇဋာယုမှာ သေဆုံးသွားသည်။

ရာမနှင့် လက္ခဏ တို့သည် ထိုနေရာမှ ဆက်လက် ထွက်ခွာလာခဲ့ကြရာ ကဗန္ဓအမည်ရှိ ရက္ခတစ်ဦးနှင့် တွေ့သည်။ ခြေမပါ ခေါင်းမရှိသော ထိုရက္ခသည် ဗြဟ္မာ၏ ကျိန်စာသင့်ခြင်း ခံနေရသဖြင့် ရာမနှင့် လက္ခဏတို့ လက်နက်ဖြင့် အသက်ထွက်သွားသော အခါမှ ကျိန်စာမှ လွတ်မြောက်သွားသည်။ မသေမီ ရာမ၊ လက္ခဏ မင်းသားတို့သည် သီတာကို ရှာတွေ့လိမ့်မည် ဖြစ်ကြောင်း ပမ္ပာ မြစ်ကမ်းသို့ သွား၍ ရိသယမုက္ခတောင်၌ နေသော သုဂြိတ်ကို မိတ်ဖွဲ့ရန် မှာကြားခဲ့သည်။

ပမ္ပာမြစ်ကမ်းသို့ ရောက်ရှိခဲ့ကြရာ ဝါနရမင်းသား သုဂြိတ်က မင်းသားနှစ်ပါးကို တွေ့မြင်သဖြင့် ဟာနုမန်ကို သွားရောက် စုံစမ်းစေသည်။ သုဂြိတ်၏စစ်သူကြီးဖြစ်သောဟာနုမန်သည် ရာမနှင့် လက္ခဏ တို့ကို သုဂြိတ်ထံ ခေါင်းဆောင် သွားသည်။ သုဂြိတ်သည် မိမိ၏ အစ်ကို ဗာလီကြောင့် နိုင်ငံမှထွက်ပြေးနေရပုံများကို ရာမအား ပြောပြပြီး ကူညီရန် ပြောဆိုသည်။ ရာမကလည်း ကူညီမည်ဟု ကတိပေးသည်။

ထို့နောက် ရာမ၏ ဒုက္ခကို ပြောပြသဖြင့် သုဂြိတ်ကလည်း သီတာဒေဝီကို ရှာဖွေရာတွင် မိမိအနေနှင့် ကူညီမည် ဖြစ်ကြောင်း မိမိ၏ သားငယ် တစ်ဦးသည် သီတာဒေဝီကို ရက္ခတစ်ဦးက သယ်ဆောင်သွားသည်ကို တွေ့လိုက်ရပုံနှင့် ကောက်ယူ ရရှိထားသော သီတာဒေဝီ၏ လက်ဝတ် တန်ဆာကို ရာမအား ပြသရာ သီတာ၏ ပစ္စည်း အစစ်အမှန် ဖြစ်ကြောင်း တွေ့ရှိရသည်။

ရာမသည် သုကြိတ်အား သူ၏အစ်ကို ဗာလီနှင့် ယှဉ်ပြိုင်တိုက်ခိုက်စေပြီး ဗာလီကို မြားဖြင့် ပစ်ခတ်လျက် သေစေပြီးနောက် သုကြိတ်အား ဝါနရတို့၏ ဘုရင်အဖြစ် တင်မြှောက် ပေးလိုက်သည်။

မိုးဥတု ဝင်ရောက်လာသဖြင့် သီတာဒေဝီကို ရှာဖွေရန် မဖြစ်နိုင်ဘဲ ရာမနှင့် လက္ခဏတို့မှာ တောတွင်းရှိ ဂူတစ်ခုတွင် မိုးခိုနေရသည်။ မိုးကုန်လျှင် သီတာကို ရှာဖွေရေး အစီအစဉ် ပြုလုပ်ရန် သုကြိတ်ကို သတိပေးနှိုးဆော်၍ လိုက်ရှာစေသည်။ သုကြိတ်သည် သူ၏ စစ်သည်များအား နေရာအနှံ့အပြားသို့ သွားရောက်၍ သီတာနှင့် ပတ်သက်သော သဲလွန်စများကို ရှာဖွေစေသည်။ အရပ်ရပ်သို့ သွားရောက်ကြသော အဖွဲ့များ ပြန်ရောက်လာပြီး မတွေ့ရှိကြောင်း လျှောက်တင်ကြသည်။ ဟာနုမန် ပါဝင်သော တောင်ဘက် ရှုးရှုးသို့ သွားသော အဖွဲ့မှာ သဲကန္တာရကို ဖြတ်သန်း သွားရောက်ခဲ့ရသဖြင့် အစာရေစာ ငတ်မွတ်လျက် ရှိသည်။ မကြာမီ ဂူတစ်ခုမှ ငှက်မျိုးစုံ တို့သည် ပျော်ရွှင်မြူးတူးစွာ ပျံထွက်လာကြသည်ကို တွေ့ရှိကြရသည်။

မှောင်မိုက်သော ဂူထဲသို့ တစ်ဦးချင်း ဆက်လက်ဝင်သွားကြရာ အလင်းရောင်ရှိသော နေရာတစ်ခုသို့ ရောက်ရှိသွားသောအခါ အလွန်စည်ပင်သာယာသော မြို့တစ်မြို့ ဖြစ်ကြောင်း တွေ့ရှိကြရသည်။ ဝါရနတို့သည် ထိုမြို့တွင်တွေ့ရှိသော တာပသီနီ တစ်ဦးအား မေးမြန်းကြည့်သဖြင့် ဟေမခေါ် နတ်သမီးတစ်ဦးပိုင် မြို့ဖြစ်ကြောင်း ပြောပြသည်။ ဤမြို့သို့ ရောက်ရှိလာသူတိုင်း ပြန်လမ်း မရှိသော်လည်း ဝါရနတို့ လာခြင်းကား ကောင်းသော ရည်ရွယ်ချက်ဖြင့် လာခြင်း ဖြစ်၍ တာပသနီသည် ဝါရနတို့ ထွက်နိုင်အောင် ကူညီပေးသည်။ ဝါရန

တို့အား မျက်စိကို ပိတ်ထားစေပြီး ပြန်ဖွင့်စေသော အခါ ပင်လယ် ဆိပ်ကမ်းတစ်ခုသို့ ရောက်ရှိနေကြောင်း တွေ့ရသည်။

ထိုအချိန်သည် နွေဦးရာသီဖြစ်၍ ယင်းတို့အား သီတာဒေဝီကို ရှာဖွေတွေ့ရှိရန် ခွင့်ပြုထားသော အချိန်ထက် နောက်ကျနေပြီဖြစ်၍ သဲလွန်စ တစ်ခုမှ မတွေ့ဘဲ ပြန်သွားလျှင် အသတ်ခံရတော့မည် ဖြစ်သည်။ ဟာနုမန်တို့ ခေါင်းဆောင်သော ဝါရနအဖွဲ့သည် ရှေ့ဆက် လက်၍ မည်သို့ စီစဉ်ကြရမည်ကို ဆွေးနွေး ငြင်းခုံနေကြသည်။

ထိုနေရာတွင် အမွေးအတောင် မရှိတော့၍ မသွားမလာနိုင်ဘဲ ရှိနေသော လင်းတဘုရင် သမ္ပတိက မကြာမီအတွင်း အစုလိုက် သေကြေရမည့် မျောက်တို့၏ အသားကို စားရတော့မည်ဟု ဝမ်းမြှောက် ဝမ်းသာဖြင့် မျောက်တို့ တိုင်ပင် ဆွေးနွေးသည်ကို နားထောင်နေ၏။ မျောက်တို့၏ ဆွေးနွေးပွဲတွင် ရာမနှင့် လက္ခဏတို့၏ဒုက္ခရောက်ရပုံနှင့် ဇာတာယု သေဆုံးရပုံ အကြောင်းလည်း ပါရှိသည်။

အရုဏ်ဦးနတ် ဖြစ်သော အရုဏ၏သား သမ္ပာတိသည် မိမိ၏ညီ ဇာတာယု သေဆုံးကြောင်း သိသောအခါ ဟုတ်မဟုတ် သေချာအောင် စုံစမ်းချင်သည်။ သမ္ပာတိသည် မျောက်တို့အား မေးမြန်းရာ အဖြစ် အပျက်အားလုံးကို သိရှိသဖြင့် ရာမမင်းသားကို ကူညီရန် ဆန္ဒပြင်းပြစွာ ဖြစ်ပေါ်လာသည်။ သမ္ပာတိသည် အိုမင်း၍ အင်အားဆုတ်ယုတ်ပြီ ဖြစ်သော်လည်း သူ၏ မျက်စိမှာ စူးရှ ထက်မြက်သဖြင့် အလွန် ဝေးကွာသော အရပ်သို့ပင် ကြည့်ရှုနိုင်သည်။ သမ္ပာတိသည် လင်္ကာ ကျွန်းသို့ ကြည့်ရှုလိုက်ရာ အကျဉ်းခံနေရသော သီတာဒေဝီ၏ အခြေ အနေ အသေးစိတ်ကို ပြောပြနိုင်သည်။ ဝါနရ မျောက်တို့သည်လည်း

အသက်ဘေးမှ ချမ်းသာရတော့မည် ဖြစ်၍ အလွန် ဝမ်းသာကြသည်။ သမ္ပတိသည်လည်း ရာမ မင်းသားအား ကူညီလိုက်ရ၍ အတောင် မဲ့သည့် ကျိန်စာမှ လွတ်မြောက်သွားသည်။

သီတာဒေဝီ၏ သတင်းကို ကြားသိရပြီး ဖြစ်သော်လည်း မျောက်တို့သည် တစ်ဆင့်ကြား စကားဖြင့် ပြန်မသွားချင်ဘဲ မြင်တွေ့ပြီးမှ သွားလို၍ လင်္ကာကျွန်းသို့ ကူးရန် ကြိုးစားကြသည်။ မျောက်အားလုံးက ဟာနုမန်ကို မျက်စိ ကျလာကြသည်။ မျောက်အကြီးအကဲ ဖြစ်သူက ဟာနုမန်၏ ဂုဏ်ကို ဖော်ထုတ်၍ ချီးကျူးသည်။ ဟာနုမန်သည် ဝါယုခေါ် လေနတ်သားနှင့် မျောက်တို့မှ ဖွားမြင်သော သားဖြစ်သည်။ ဟာနုမန် ကလေး ဘဝတွင် သူရိယ နေမင်းကြီးကို ကစားစရာ သစ်သီးအမှတ်ဖြင့် ဆွတ်ခူးရန် သွားရာ နေမင်းကြီးကို အန္တရာယ် ပြုမည့် အခြေအနေကို တွေ့မြင်ရသော နတ်တို့၏ ဘုရင် ဣန္ဒရာက သူ၏ မိုးကြိုးလက်နက်ဖြင့် ပစ်ခတ်လိုက်သည်။

ပါးရိုးတစ်ဖက် ကျိုးသွားသော ဟာနုမန်သည် တောင်ကြား တစ်ခုသို့ ကျရောက်သွားသည်။ ဟာနုမန်၏ အဖြစ်ကြောင့် ဖခင် ဖြစ်သူ လေနတ်သားမှာ ဒေါသထွက်သဖြင့် လေကို ငြိမ်သက်စေ လိုက်သည်။ သတ္တဝါအားလုံး အသက်ရှူ၍ မရဖြစ်သွားကြသည်။ နတ်အပေါင်းတို့သည် ဝါယုနတ်မင်းကို တောင်းပန်ကြသည်။ ဗြဟ္မာ နှင့် ဣန္ဒရာ တို့သည် ဟာနုမန်ကို ဆုပေးကြသည်။ မည်သည့် လက်နက်ဖြင့်ပင် သတ်စေကာမူ မသေဘဲ ကိုယ့်ကိုယ်တိုင် သေလိုမှ သေနိုင်သော ဆုကို ဟာနုမန်အား ပေးလိုက်ကြသည်။ ဟာနုမန်သည် မသေနိုင်သူ ဖြစ်လာရလေသည်။

မျောက်တို့၏ အကြီးအကဲက ဟာနုမန်အား ဤသို့ ဂုဏ်ပြု ချီးကျူး လိုက်သောအခါ ဟာနုမန်မှာ တမုဟုတ်ခြင်း ကိုယ်ခန္ဓာ ကြီးမား ထွားကျိုင်းလာကာ အခြားမျောက်များနှင့် မတူဘဲ အလွန် ကြီးသော မျောက်တစ်ကောင် ဖြစ်လာသည်။ ဗိသဏ်ိုးကို ကိုးကွယ်သူ များသည် ဟာနုမန်ကို ဗိသနိုး၏ တပည့်ငယ်ဟု ခေါ်ကြလျက် ဗိသနိုး သွားလေရာတွင် လိုက်ပါရသူ ငှက်ဘုရင် ဂရုဠအား ဗိသနိုး၏ တပည့် အကြီးအဖြစ် အသိအမှတ် ပြုထားကြသည်။

ဟာနုမန်သည် ယူဇနာ တစ်ရာဝေးကွာသော လင်္ကာကျွန်းသို့ ခုန်လျက်သွားကာ ထိုကျွန်းသို့ ရောက်သောအခါ မိမိကိုယ်ကို သာမန် မျောက်တစ်ကောင်၏ အရွယ်သို့ ပြောင်းပစ်လိုက်သည်၊ ရာဝဏ၏ မြို့ဂဲတိုင်းကို ကျော်ဖြတ်ကာ ဝင်ရောက်ပြီးနောက် သီတာဒေဝီကို လိုက်လံရှာဖွေတော့သည်။ ဟာနုမန်သည် နိုင်ငံ အနှံ့အပြား လိုက်လံ ရှာဖွေသော်လည်း မတွေ့သဖြင့် သီတာဒေဝီ အသက်ရှင်လျက်မှ ရှိသေးသလောဟု သံသယ ဖြစ်လာသည်။ သို့သော် နောက်ဆုံးတွင် အသောက ဥယျာဉ်တွင် သီတာကို တွေ့ရှိရသည်။

သီတာဒေဝီကို ရာဝဏ ဘုရင်ကြီး ကိုယ်တိုင် လာရောက်၍ ချစ်ရေး ဆိုနေသဖြင့် ဟာနုမန်သည် သစ်ပင်အုပ်ကြားမှ ပုန်း၍ အခြေအနေကို အကဲခတ်နေရသည်။ ရာဝဏသည် သီတာဒေဝီကို မည်သို့ပင် သွေးဆောင်သော်လည်း သီတာဒေဝီမှာ တူးတူးခါးခါး ငြင်းပယ်နေသည်ကို ဟာနုမန် တွေ့မြင်ရသည်။ ရာဝဏ ပြန်သွား ပြီးနောက် အစောင့် တာဝန်ကျ ရက္ခတို့က သီတာဒေဝီကို နားချကြ ပြန်သည်။ သို့သော် သီတာဒေဝီက လက်မခံသည်ကို ဟာနုမန်

မျက်ဝါးထင်ထင် တွေ့မြင်ရသဖြင့် အစောင့်များ အလစ်တွင် သီတာ ဒေဝီနှင့် တွေ့၍ ရာမ မင်းသား စေလွှတ်လိုက်ပုံကို ပြောပြသည်။ သီတာဒေဝီမှာ မယုံနိုင် ဖြစ်နေသဖြင့် ရာမ၏ လက်စွပ်ကို ပေးအပ်မှ ရာဝဏာ၏ ပရိယာယ် မဟုတ်ဟု စိတ်ချသွားသည်။

သီတာဒေဝီက ရာဝဏာသည် မိမိအား ၁၂လအတွင်း မိဖုရား အဖြစ် လက်ခံရေးကို စဉ်းစား နိုင်ရန် ခွင့်ပြုထားခဲ့ကြောင်း၊ ယခု အခါ နှစ်လသာ ကျန်တော့ကြောင်း၊ ထိုကာလ ကုန်သည် အထိ လက်မခံနိုင်က သတ်စားမည်ဟု သတိပေးထားကြောင်းကို မှာကြားပြီး သီတာဒေဝီကို တွေ့ရှိကြောင်း အထောက်အထား တစ်ခုအဖြစ် သူမ၏ ပတ္တမြားကို ပေးလိုက်သည်။

ဟာနုမန်သည် မပြန်မီ ရက္ခနိုင်ငံကို ဖျက်ဆီးရန် စိတ်ကူး လိုက်သည်။ သီတာဒေဝီ စိတ်ဓာတ် တက်ကြွစေရန်အတွက် လည်း ကောင်း၊ ရာဝဏာနှင့် ပြည်သူများအကြား စိတ်သဘောထား ကွဲစေရန် အကွက် လည်းကောင်း၊ တစ်စုံတစ်ခု ပြုလုပ်မှ ဖြစ်မည်ဟု ယူဆသည်။

မိမိကိုယ်ခန္ဓာကို နဂို အတိုင်းသို့ ရောက်အောင် ကြီးထွား စေပြီးနောက် ဟာနုမန်သည် အသောက ဥယျာဉ်ရှိ သစ်ပင်များကို နုတ်ချိုးပစ်ကာ ဖျက်ဆီး လိုက်သည်၊ အခြား အဆောက်အအုံ တို့ကိုလည်း လိုက်လံ ဖြိုဖျက်ပစ်လိုက်သည်။ ရာဝဏာက နှိမ်နင်းရန် စေလွှတ်လိုက်သည့် ရက္ခစစ်သည်များကိုလည်း တိုက်ခိုက် ချေမှုန်း ပစ်လိုက်သည်။

နောက်ဆုံးတွင် ဟာနုမန်သည် အဖမ်းခံလိုက်ရာ ရက္ခသည် ဟာနုမန်ကို ကြိုးဖြင့်တုပ်နှောင်၍ အမြီးကို အဝတ်ဖြင့် ရစ်ပတ်လျက်

ဆီလိမ်းကာ မီးရှို့ လွှတ်လိုက်သည်။ ဟာနုမန်သည် အဆောက်အအုံ တစ်ခုပြီး တစ်ခုသို့ ခုန်ကူးကာ မီးရှို့ ဖျက်ဆီးသည်။

ထို့နောက် ခန္ဓာကိုယ်ကို သေးငယ်အောင် ပြုလုပ်လိုက်သဖြင့် သူ့အား တုပ်နှောင်ထားသော ကြိုးများ ပြေသွားသည်။ သီတာဒေဝီထံ သွားရောက် ကြည့်ရှု၍ ဘေးရန် ကင်းရှင်းကြောင်း တွေ့ရသောအခါ လင်္ကာကျွန်းမှ ပြန်လာခဲ့သည်။

ဟာနုမန်သည် ဝါနရတိုင်းပြည်သို့ ပြန်ရောက်သောအခါ ရာမ မင်းသားထံသို့ သီတာဒေဝီ ပေးလိုက်သော ပတ္တမြားကို ပေးအပ်လိုက်ရာ ရာမ မင်းသားမှာ သတိမေ့သွားသည်။ ထို့နောက် သီတာဒေဝီ၏ အခြေအနေကို ရှင်းပြသည်။ ရာမသည် ဟာနုမန်အား ကျေးဇူးတင် စကား ပြောကြားသော်လည်း ကျေးဇူး ဆပ်နိုင်သော အခြေအနေ မရှိသဖြင့် ဝမ်းနည်းမိပေသည်။

လင်္ကာနိုင်ငံကို တိုက်ခိုက် သိမ်းပိုက်ရန် အတွက် ရာမ၊ လက္ခဏာနှင့် သုကြိတ်တို့ ခေါင်းဆောင်၍ ဝါနရတပ်မတော်ကြီးသည် တောင်ဘက်သို့ ချီတက်လာခဲ့သည်။

လင်္ကာနိုင်ငံ၌ ဟာနုမန်၏ အစွမ်းပြမှုကြောင့် တထိတ်လန့်လန့် ဖြစ်နေသည်။ ခေါင်းဆယ်လုံး ရှိသော ရာဝဏသည်လည်း ရှက်ဖွယ် လိလိ ဖြစ်နေသည်။

ရာဝဏသည် မင်းညီ မင်းသား မှူးကြီးမတ်ရာ သေနာပတိ အားလုံးကို ဖိတ်ခေါ်ကာ ညီလာခံ ကျင်းပ၍ ရာမ၏ ရန်ကို ဆွေးနွေး ကြသည်။ အသီးသီးသော ပုဂ္ဂိုလ်များက ရာဝဏ၏ တန်ခိုးကြီးခဲ့စဉ် ဘောဂဝတီ နဂါးပြည်ကို သိမ်းပိုက်နိုင်ပုံ၊ ဒေဝါနတ်၊ အသုရာနတ်နှင့်

ဂန္ဓဗ္ဗနတ် တို့ကို အောင်မြင်နိုင်ပုံများကို ချီးကျူးကာ ရာမကိုလည်း အောင်မြင်နိုင်မည် ဖြစ်ကြောင်း တင်ပြကြသည်။

ရာဝဏာ၏ညီ ဘိဘိသေနမှုကား စစ်ပြိုင်ခြင်းကို မပြုလုပ်သင့်ကြောင်း၊ ဒန္ဓကတောသြ ရာမ၏ သတ်ဖြတ်မှုများသည် ကိုယ့်ကိုယ်ကို ကာကွယ်သည့် အနေဖြင့် ပြုလုပ်ခြင်း ဖြစ်ကြောင်း ယခုလည်း ရာမ၏ မိဖုရား သီတာကို ခိုးယူထားသည့် အဖြစ်ကို သန့်စင်အောင် ဆေးကြောပစ်ရန် လိုအပ်ပုံများကို တင်ပြသည်။ ဘိဘိသေနက တစ်ဖက် ကျန်အားလုံးက တစ်ဖက် ဖြစ်နေသည်။ ရာမကို အန်တုလျှင် အားလုံး ပျက်စီးကုန်မည် ဖြစ်ကြောင်းကို အကျိုးအကြောင်း ပြ၍ ရှင်းလင်း ပြောဆိုသော်လည်း မည်သူမျှ နားမဝင်သဖြင့် ဘိဘိသေနသည် ထိုနေရာ၌ ဆက်လက်နေ၍ အကျိုးမရှိပြီကို သိရှိကာ ကောင်းကင်သို့ တက်သွားပြီး ရာမ မင်းသား ရှိရာသို့ လာရောက်ခဲ့သည်။ ရက္ခ မိတ်ဆွေကောင်း လေးဦးလည်း ဘိဘိသေနနှင့်အတူ ပါလာခဲ့သည်။

ရာမနှင့် သုဂြိတ် တို့သည် ဘိဘိသေနအား လင်္ကာကျွန်း၏ ဘုရင်အဖြစ် အသိအမှတ်ပြုကာ ဘိသိက်သွန်းပေးကြသည်။ လင်္ကာ ကျွန်းသို့ကူးရန် လမ်းတစ်ခုကို မျောက်များ၏ အကူအညီဖြင့် တည် ဆောက် ကြသည်။ ကျောက်တုံးကျောက်ဆောင်၊ သစ်ပင်၊ သစ်လုံးများဖြင့် တည်ဆောက် ကြရာ မကြာမီ ပြီးစီးသွားသည်။ ဝါနရ စစ်သည်များသည် ထိုလမ်းမှ လင်္ကာကျွန်းသို့ ကူးလာခဲ့ကြသည်။

ရာဝဏာ၏ အဘိုးဖြစ်သူ မာလယဝန်သည် ရာမနှင့် စစ်မက် ဖက်ပြိုင်ခြင်း မပြုရန် တောင်းပန် ပြောဆိုသော်လည်း မရသဖြင့် ကြည့်နေရသည်။

ဝါရန တပ်မတော် ချီတက်လာရာ လင်္ကာမြို့တော်၏ ပြင်ပတွင် စစ်ပွဲကြီး ဖြစ်ပွားသည်။ ရက္ခစစ်သူကြီး ဣန္ဒရာဇစ်၏ နဂါးပတ်ကျော့ကွင်း လက်နက်ဖြင့် ရစ်ပတ်ခံသဖြင့် ရာမနှင့် လက္ခဏာတို့မှာ စစ်မြေပြင်တွင် ဒဏ်ရာရ၍ သတိမေ့သွားကြသည်။ ဣရာဇစ်တို့မှာ စစ်ပွဲကို အောင်မြင်ပြီဟု အထင်ရောက်ကာ ပြန်သွားသည်။

ထိုအချိန်တွင် ဗိဿနိုး၏ စီးယာဉ်တော် ဖြစ်သော ငှက်ဘုရင် ဂရုဋ ရောက်ရှိလာ သဖြင့် ရာမနှင့် လက္ခဏာ တို့ကို ရစ်ပတ်ထားသော နဂါးပတ်ကျော့ကွင်း လက်နက်တို့မှာ ထွက်ပြေးသွားကြသည်။ ရာမ နှင့် လက္ခဏာတို့မှာ နဂိုအင်အားကို ပြန်လည် ရရှိသွားကြသည်။

နောက်စစ်ပွဲတွင် ရာဝဏာကိုယ်တိုင် ရာမနှင့် ရင်ဆိုင် တိုက်ခိုက်ရာ ရာဝဏာ၏ စစ်ရထား ပျက်စီးကာ လက်နက်မဲ့ ဖြစ်သွားသဖြင့် ရာမက ရာဝဏာအား ထိုနေ့အဖို့ တိုက်ပွဲကို အနားပေးကာ ရာဝဏာကို လွှတ်လိုက်သည်။ ရာဝဏာလည်း မျက်နှာ မပြရဲလောက်အောင် ရှက်သွားကာ မြို့တော်သို့ ပြန်သွားသည်။

ရာဝဏာ၏ စစ်သည်များမှာ အကျအဆုံးများပြားသဖြင့် ရာဝဏာ ကိုယ်တိုင် အထူး နတ်ရထားကို စီးလျက် တိုက်ပွဲဝင်ရန် ထွက်လာခဲ့သည်။ ရာဝဏာသည် သူ၏ညီ ဘိဘိသေနကို တိုက်ခိုက်သဖြင့် လက္ခဏာက ရှစ်ကြိမ်တိုင်တိုင် ကြားမှဖြတ်၍ အကူအညီ ပေးသည်။ ရာဝဏာသည် လက္ခကို တိုက်ခိုက်ရာ လက္ခဏာ သတိမေ့သွားသည်။ ရာမသည် ရာဝဏာနှင့် တိုက်နေစဉ် ဝါနရတို့က ဟာနုမန်ကို ဆေးမြစ်ရှာဖွေစေပြီး ကုသသဖြင့် လက္ခဏာ အသက်ရှင်လေသည်။

ထိုစဉ် မာတလိနတ်သားသည် သိကြားမင်း ဣန္ဒရာ၏ ရထားကို ယူဆောင်လာပြီး ရာမ မင်းသားကို တိုက်ခိုက်ရန် စီစဉ်ပေးသည်။ ထိုအခါကျမှ ရာဝဏနှင့် ရာမတို့၏ တိုက်ပွဲမှာ အလွန်ကြည့်ကောင်းသည်။

တိုက်ခိုက်နေရင်း မာတလိသည် မကြာမီ ရာဝဏ ကျဆုံးတော့မည် ဖြစ်၍ ဗြဟ္မာလက်နက်ကို အသုံးပြုရန် သတိပေးသည်။ ရာဝဏ၏ ခေါင်းဆယ်လုံးတို့ကိုမကြာခဏ ဖြတ်ပစ်ခဲ့သော်လည်း ပြန်လည် ထွက်လာသည်။ မီးတောက်မီးလျှံ ထွက်သော ဗြဟ္မာလက်နက်ကို ရာဝဏ၏ ရင်ဘတ်သို့ လွှတ်လိုက်ရာ စိုက်ဝင်သွားသည်။

ရာဝဏ ကျဆုံးသွားသောအခါ နတ်အပေါင်းတို့သည် ကောင်းချီးသြဘာ ပေးကြကုန်သည်။ ကောင်းကင်မှ ကြဲချသော ပန်းတို့ဖြင့် ရထားမှာ ပြည့်လျှံနေသည်။

စစ်ပွဲပြီးသောအခါ ရာမသည် သိတာဒေဝီကို ရှာဖွေ၍ ခေါ်ဆောင်ရန် ဟာနုမန်ကို လွှတ်လိုက်သည်။ သီတာဒေဝီ ရောက်ရှိသောအခါ ရာမက သီတာဒေဝီအား မိမိကြိုက်နှစ်သက်ရာ ဆွေမျိုးမိတ်ဆွေ၏ စောင့်ရှောက်မှုဖြင့်နေရန် ပြောသည်။ ခတ္တိယမျိုးတို့သည် သူတစ်ပါးအိမ်တွင် နှစ်ရှည်လများ သွားရောက် နေထိုင်သောမိန်းမကို ပြန်၍ မပေါင်းရသောကြောင့် ဖြစ်သည်။

သီတာသည် ရွှန်းရွှန်းတောက်သော မျက်လုံးများဖြင့် ရာမကို ကြည့်ရှုနေသည်။ ထို့နောက် လက္ခဏအား ထင်းစုခိုင်းလိုက်သည်။ ရာမသည် ကန့်ကွက်လိမ့်မည်လားဟူသော အတွေးဖြင့် လက္ခဏသည်

ရာမကို လှမ်းကြည့်လိုက်သည်။ ရာမက မည်သို့မျှ မပြောဆိုသော အခါ သီတာ အလိုရှိသော ထင်းများကို စုဆောင်းပေးသည်။

မီးဖိုပြီးသောအခါ သီတာဒေဝီသည် ဘုရားများ၊ ရသေ့ရဟန်းကြီးများ၊ မီးနတ်အဂ္ဂနိတို့ကို ရှိခိုးတိုင်တည်လျက် သူမ၏သန့်စင်မှုကို ပြသလို၍ မီးဖိုထဲသို့ ခုန်ဆင်းသည်။ နတ်အပေါင်းတို့သည် မီးဖိုထဲသို့ လာရောက် စုဝေးကြသည်။ တို့နောက် ဗြဟ္မာက "နာရာယန၊ ဘုန်းတန်ခိုး ကြီးသော ဘုရားသခင်သည် လူ့ဇာတိကိုယူ၍ ရာဝဏကို နှိမ်နင်းခဲ့သည်။ ဤသီတာဒေဝီသည် သင်၏ ကြင်ယာတော် 'လက္ခမီပင် မဟုတ်လော'ဟု ပြောကြားလေသည်။

နတ်အပေါင်းတို့သည် သီတာဒေဝီအား မီးဖိုထဲမှ ထုတ်ယူ၍ အဝတ်အစားနှင့် လက်ဝတ် တန်ဆာများပါ မပျက်စီး အတူတကွ ရာမမင်းသားထံ ပေးအပ်သည်။ ရာမလည်း သီတာဒေဝီကို လက်ခံယူသည်။ ထို့နောက် သီတာဒေဝီအား မိမိအနေဖြင့် ဤသို့ ပြုလုပ်ရခြင်းမှာ သီတာ၏ သန့်စင်မှုကို မယုံကြည်၍ မဟုတ်ကြောင်း၊ လူအများ ကျေနပ်စေရန် ပြုလုပ်ခြင်း ဖြစ်ကြောင်း၊ လူများတို့သည် ရာမမင်းသားကို လက်ညှိုးထိုးလျက် သီတာကို မျက်ကန်းချစ် ချစ်သဖြင့်သူတို့ လိုက်နာရမည့် ထုံးတမ်း ဥပဒေကို ချိုးဖောက်၍ သူတစ်ပါးတွင် နေထိုင်ခဲ့သည့် မိန်းမတစ်ဦးကို လက်ခံခဲ့သည်ဟု ပြောဆိုလာနိုင်ကြောင်း၊ ထို့ကြောင့် ကြိုတင် ကာကွယ်သည့် အနေဖြင့် ဆောင်ရွက်ခဲ့ခြင်း ဖြစ်ကြောင်း ရှင်းပြလိုက်လေသည်။

ထိုခဏ၌ ဒသရဋ္ဌသည် ကောင်းကင်မှ ဆင်းသက်လာပြီး မင်းသားကို ပွေ့ချီကာ သီတာဒေဝီအား သူ့သားအပြစ်ကို ခွင့်လွှတ်ရန်

တောင်းပန် ပြောဆိုသည်။ သူ၏သား ရာမသည် ကမ္ဘာ့ ဓမ္မဥပဒေကို ထိန်းသိမ်းရန်အတွက် ဆောင်ရွက်ခဲ့ရကြောင်း ရှင်းပြလေသည်။

ရာမနှင့် သီတာတို့သည် ယာဉ်ပျံပေါ်သို့ တက်ရောက်ကာ မိတ်ဆွေများနှင့် အတူ ကောင်းကင်ခရီးဖြင့် အယုဒ္ဓယကို သွားကြသည်။ တိုင်းသူပြည်သားတို့သည်လည်း သောင်းသောင်းဖြဖြ ကြိုဆိုကြသည်။ ဘာရတလည်း ရာမ မင်းသားကို ထီးနန်း လွှဲအပ်ပေးသည်။ ရာမ မင်းသား နေပြည်တော်သို့ ပြန်ရောက်သည့် အထိမ်းအမှတ်ပွဲနေ့ အဖြစ် ဟိန္ဒူ တို့သည် ယခုအခါ ဒီပါဝလီ ပွဲတော် (ဒေဝါလီ)ကို နှစ်စဉ် ကျင်းပကြသည်။

## ကရိသျှနား

ရာမမင်းသားသည် မိမိကိုယ်ကို အဝတာရ တစ်ဦးဖြစ်ကြောင်း မသိချေ။ ကရိသျှနားမှုကား အဝတာရ ဖြစ်ကြောင်းကို သိသဖြင့် လူဝင်စား ဘုရင်တို့ သိအပ်၊ ကျင့်အပ်သည်တို့ကို ပြုကျင့်ခဲ့သည်။

ကရိသျှနား မြတ်စွာဘုရားသည် ဘီစီ ၁၉၅၀မှ ၁၄၀၀အတွင်း ပွင့်တော်မူခဲ့သည်ဟု ခန့်မှန်းကြသည်။ ဘီစီ ၁၄၀၀ ပတ်ဝန်းကျင်လောက်တွင် ဖြစ်ပွားခဲ့သော မဟာဘာရတ စစ်ပွဲကြီး၌ မင်းသား အာဇုန၏ စစ်ရထားထိန်း အဖြစ် ပါဝင်ခဲ့သည်။ ကရိသျှနားအား ဝါသုဒေဝ၊ ပဓဝ၊ ဇနာဒါန၊ ပုရသောတမ၊ ပွန်ဒါရိကသျှ၊ မဒုသုဒါန၊ ကာရိန္ဒ စသည့် နာမည် အမျိုးမျိုးဖြင့် ခေါ်ကြသေးသည်။

မသူရာနိုင်ငံ၌ ကံသမင်း အုပ်ချုပ်စဉ် အလွန်ကြမ်းကြုတ် ရက်စက်သော အဓမ္မမင်း ဖြစ်၍ တိုင်းသူပြည်သားတို့ များစွာ

ဆင်းရဲကြကုန်သည်။ ထိုမင်းသည် မိမိ၏ ထီးနန်းကို သူတစ်ပါး လုယူမည်ကို အလွန်စိုးရိမ်လျက် ရှိသည်။ စိုးရိမ်မည် ဆိုကလည်း စိုးရိမ်စရာပါပေ။ နိမိတ်တပေါင် တစ်ခု ပေါ်လျက်ရှိနေသည်။ ထို တပေါင်ကား ကံသမင်း၏ညီမတော်မှ မွေးဖွားမည့် တူတော် တစ်ပါးသည် မိမိ၏ ထီးနန်းကို သိမ်းပိုက်လိမ့်မည် ဆိုသော ကောလဟာလပင် ဖြစ်သည်။

ကံသမင်းသည် အလွန် စိုးရိမ်ကာ သူ၏ ညီမတော် ဒေဝကီနှင့် ခင်ပွန်း ဝါသုဒေဝတို့ကို ဖမ်းဆီး၍ ထောင်တွင်း အကျဉ်းချထားသည်။ ထောင်တွင်း၌ နေထိုင်ရင်း မွေးဖွားလာသော ကလေးများကို ကံသ၏ အမိန့်ဖြင့် မွေးပြီးပြီးချင်း သတ်ပစ်လေ့ ရှိသည်။

ကံသမင်း သတ်ပစ်၍ သေဆုံးခဲ့သော ကလေးများမှာ ခုနစ် ယောက်ပင် ရှိလေပြီ။ အဋ္ဌမမြောက် မွေးဖွားမည့် သူကား ကရိဿျနား ဘုရားလောင်းပင် ဖြစ်၍ ကံသမင်း ဘုရင်ကလည်း အမှုထမ်းတို့ကို သတိဝီရိယဖြင့် စောင့်ကြပ်ထားစေ၏။ ထိုစဉ် ဝါခေါင်လညတွင် ကတိဿျနားကို ထောင်တွင်း၌ပင် မွေးဖွားခဲ့သည်။

ဖွားမြင်ချိန်ကား ညသန်းခေါင် အချိန်ဖြစ်သည့် အပြင် မိုးသည်း ထန်စွာ ရွာသဖြင့် တစ်လောကလုံး မှောင်မည်းနေကာ အားလုံး အိပ်မောကျလျက် ရှိသည်။ ထောင်တံခါးစောင့် တို့သည်လည်း အိပ်မွေ့ချထားခြင်း ခံရသူပမာ နှစ်ခြိုက်စွာ အိပ်ပျော်နေကြသည်။ ထိုစဉ် ကောင်းကင်မှ အသံတစ်သံ ထွက်ပေါ်လာပြီး "အသင် ဝါသုဒေဝ၊ ဤကလေးငယ်ကို ဆောင်ယူလျက် ဂိုကုလသို့ သွားပါလေ။ ဂိုကုလတွင် ဘုရင် နန္ဒာ၏ မိဖုရား ယသော်ဒါသည် သမီးငယ်

တစ်ဦးကို ဖွားမြင်လျက် အိပ်ပျော်နေသည်။ ဤကလေးငယ်နှင့် ထိုမိန်းကလေးကို လဲထားခဲ့ပြီး မိန်းကလေးကို ယူဆောင်ခဲ့ပါလော့”ဟု ပြောဆိုသံ ကြားလေသည်။

ဝါသုဒေဝလည်း ကလေးကိုချီကာ ပွင့်နေသော ထောင်တံခါးဝမှ လျင်မြန်စွာ ထွက်လာခဲ့သည်။ ထောင်အပြင်သို့ ရောက်သောအခါ ဂိုကုလသို့ သွားသည့်လမ်းကို အထင်းသား တွေ့မြင်လေသည်။ ဝါသုဒေဝသည် ကလေးကို ခေါင်းပေါ်ရွက်လျက် ထိုလမ်းအတိုင်း လိုက်သွားလေရာ မကြာမီပင် တိတ်ဆိတ် ငြိမ်သက်စွာ အိပ်မောကျနေသော ဂိုကုလသို့ ရောက်ရှိသွားသည်။ လမ်းခရီးတွင် နဂါးမင်းက ဘုရားလောင်းကို စောင့်ရှောက် လိုက်ပါခဲ့သည်။ မသူရာနှင့် ဂိုကုလတို့သည် ယမုန်နာမြစ်၏ တစ်ဖက်ကမ်းစီ၌ တည်ရှိသည်။

ဝါသုဒေဝသည် နန်းတော်အတွင်းသို့ ဝင်ရောက်သွားရာ တစ်ယောက်မကျန် အိပ်ပျော်နေကြသည်ကို တွေ့ရသည်။ နန္ဒမင်း၏ မိဖုရား ယသော်ဒါသည်လည်း ကလေးမွေးဖွားပြီး အိပ်ပျော်နေသည်။ ဝါသုဒေဝလည်း မိမိ ယူဆောင်လာသည့် ကလေးကို ယသော်ဒါအနီး၌ ချထားကာ မွေးကာစ မိန်းကလေးကို ယူဆောင်လျက် မသူရာသို့ ပြန်လာခဲ့သည်။

ဝါသုဒေဝ ထောင်တွင်းသို့ ဝင်မိသည်နှင့် တစ်ပြိုင်နက် ထောင်တံခါးလည်း အလိုအလျောက် ပြန်ပိတ်သွားသည်။

ထောင်တံခါးမှူး တို့လည်း ထိုအခါကျမှ လန့်နိုးလာသည်။ ဒေဝကီသည် မိန်းကလေးတစ်ဦးကို ဖွားမြင် တွေ့ရှိရသဖြင့် အဆုံးစီရင်ရန် ကံသဘုရင်ထံသို့ ပို့လိုက်သည်။

ကရိသျှနားသည် ဂိုကုလတွင် ယာဒဝ အနွယ်ဝင်များထံ၌ ကြီးပြင်းလာခဲ့ရသည်။ အရွယ်ရောက်သောအခါ အဓမ္မမင်းကံသကို တိုက်ခိုက် နှိမ်နင်းပြီး ထီးနန်းကို သိမ်းပိုက်လိုက်သည်။ အခြားသော အဓမ္မမင်းများကိုလည်း တိုက်ခိုက် နှိမ်နင်းသည်။ ယင်းနောက်တွင် ဒွါရကာ နိုင်ငံကို တည်ထောင်ကာ ဓမ္မတရားနှင့်အညီ အုပ်ချုပ်၍ ဓမ္မ ပြန့်ပွားရေးကို ဆောင်ရွက်လျက် ရှိလေသည်။ ဤနည်းဖြင့် ဗိဿနိုး ဘုရားသည် လူ့ပြည်၌ အဓမ္မဝါဒီတို့ ကြီးစိုးသောအခါ လူ့ဇာတိကို ခံယူ၍ အဓမ္မဝါဒီတို့ကို နှိမ်နင်းလျက် ဓမ္မတရား စိုးမိုးရေးကို ဆောင်ရွက်ရသည်။ ဤတွင်မကသေးပေ။ ကောရဗျနှင့် ပဏ္ဍဝတို့ အကြား ဖြစ်ပွားခဲ့သည့် စစ်ပွဲကြီးတွင်လည်း ကရိသျှနားသည် အမှန် တရား စိုးမိုးရေးဘက်မှ မားမားမတ်မတ် ရပ်တည်ကာ တိုက်ပွဲ ဝင်ခဲ့သည်။

ကုရုမင်းဘက်မှ အုပ်စိုး ဆင်းသက်လာသော ဘုရင် ဝိစိတြ ဝိရက၏ သားတော်နှစ်ပါးအနက် သားကြီး ဒရိသာရသရမှာ မျက်စိ အလင်း မရသဖြင့် ညီတော် ပဏ္ဍုက ထီးနန်းကို ဆက်ခံခဲ့သည်။ နောင်တော်၌ သားတော် တစ်ရာကျော်ရှိ၍ ညီကော်ပဏ္ဍုတွင် သားသမီး မထွန်းကားဘဲ သားဆုတောင်းရာမှ ပဏ္ဍဝမင်းသား ၅ဦးကို ရရှိသည်။

ကုရုမင်းသားတို့သည် အတူတကွ နေထိုင်ကြီးပြင်း လာကြပြီး ဆရာတစ်ဦးတည်း၏ လက်အောက်၌ မင်းသားတို့ အတတ်ပညာကို သင်ယူတတ်မြောက်ခဲ့သည်။

ပဏ္ဍုဘုရင် နတ်ရွာစံသောအခါ နောင်တော်မှာ အသက် ထင်ရှား ရှိနေသေးသော်လည်း မျက်မမြင် ဖြစ်နေ၍ ထီးနန်းကို

ပဏ္ဍုု၏ သားအကြီးဖြစ်သူ ယုဒိဿသိရကသာ ဆက်ခံမည့် အလား အလာ ရှိနေသဖြင့် နောင်တော်၏ သားများမှာ ပဏ္ဍဝ မင်းသားတို့ အပေါ် မနာလို ဖြစ်လာကြသည်။ ကောရဗျ မင်းသားတို့သည် ပဏ္ဍဝ မင်းသားတို့အား အမြဲတမ်းပင် မကောင်းကြံစည်၍သာ ရှိလေသည်။ ခွန်အား အသန်မာဆုံး ဖြစ်သော ပဏ္ဍဝမင်းသား ဘိမာကို မြစ်ထဲသို့ တွန်းချကာ သတ်ရန် ကြံစည်ခဲ့သော်လည်း ဘိမာကား မသေဘဲ လွတ်မြောက်ခဲ့သည်။

ကောရဗျ မင်းသားတို့သည် ပဏ္ဍဝ မင်းသားတို့ကို သေစေရမည့် နည်းလမ်းကို ရှာကြံကြပြန်သည်။ ဝရာနဝတမြို့တွင် သိဝဘုရား ပူဇော်ပွဲသို့ ပဏ္ဍဝမင်းသားတို့အား သွားရောက်စေရန် သွေးဆောင် သည်။ ပဏ္ဍဝမင်းသားတို့ တည်းခိုရန် အထူး နန်းတော်တစ်ခုကို ပေါက်ကွဲစေတတ်သော ပစ္စည်းများဖြင့် တည်ဆောက်ကာ ပဏ္ဍဝ မင်းသားတို့ တည်းခိုနေစဉ် ဖောက်ခွဲပစ်ရန် ဖြစ်သည်။ သို့သော် ပဏ္ဍဝမင်းသားတို့မှာ ဝိဒူရအမတ်ကြီး၏ စီစဉ်ပေးမှုကြောင့် မြေအောက် လိုဏ်ခေါင်းပေါက်မှ လွတ်မြောက်သွားသည်။

ပဏ္ဍဝမင်းသားညီနောင် ၅ဦးနှင့် မယ်တော် ကွန်တီတို့သည် ဗြဟ္မဏတို့၏ အသွင်ဖြင့် ရုပ်ဖျက်ကာ ထွက်ပြေးသွားကြသည်။ တောအထပ်ထပ် တောင်အထပ်ထပ်တွင် ဒုက္ခ ပင်လယ် ဝေခဲ့ ကြသည်။

ထိုအချိန်တွင် ပဥ္စလတိုင်းပြည်၏ ဘုရင် ဒရုပဒသည် သမီး တော် ဒရာဥပဒီ၏ ကြင်ဖက်လောင်း ရွေးပွဲကို ကျင်းပလေသည်။ လေးတင်ပွဲကို ကျင်းပ ပြုလုပ်ရာ အနိုင်နိုင်ငံမှ မင်းသားတို့ လာရောက်

ယှဉ်ပြိုင်ကြသည်။ ကောရဗျ မင်းသားတို့လည်း ရောက်ရှိလာကြသည်။ မည်သည့် မင်းညီမင်းသားမျှ လေးကို တင်၍ ပစ်နိုင်ခြင်း မရှိချေ။

ဗြာဟ္မဏအဝတ် ဝတ်ထားသော ပဏ္ဍဝမင်းသား အာဇုနသည် ဗြာဟ္မဏတို့ ယှဉ်ပြိုင်နိုင်ခွင့် ရှိမရှိ မေးမြန်းရာ ပဥ္စလ ဘုရင် ဒရုပဒက ပြိုင်ပွဲဝင်နိုင်ကြောင်း ခွင့်ပြုလေသည်။ အာဇုနသည် လေးကို အလွယ်တကူတင်၍ ပစ်နိုင်သဖြင့် ပရိသတ်၏ သြဘာပေးခြင်းကို ခံခဲ့ရသည်။ ကောရဗျ မင်းသားတို့သည် ဗြာဟ္မဏကို ယှဉ်ပြိုင်ခွင့် ပြုသည့်အတွက် ကန့်ကွက်သည်။ ဘိမာက သစ်ပင်တစ်ပင်ကို ဆွဲနုတ်လိုက်ပြီးမှ ခုခံတိုက်ခိုက်ရန် ပြင်ဆင်သောအခါ ကောရဗျတို့ နောက်ဆုတ်သွားခဲ့ရသည်။

ပဏ္ဍဝမင်းသား ၅ဦးတို့သည် သျွတ္တရကျမ်းလာ ထုံးစံအရ ဒရာဉပဒီကို ကြင်ယာတော်အဖြစ် သိမ်းပိုက်ခဲ့ကြသည်။ ဗြာဟ္မဏ ဟန်ဆောင်နေသော မင်းသား တို့ကို ပဏ္ဍဝမင်းများ ဖြစ်ကြောင်း ဒရုပဒဘုရင် သိရှိသောအခါ အလွန် ဝမ်းမြောက်ခြင်းဖြစ်၍ ကောင်းစွာ စောင့်ရှောက် ထားသည်။

ပဏ္ဍဝမင်းသားများ မသေသေးကြောင်းကို ကောရဗျ မင်းသားတို့၏ ခမည်းတော် ဒရိကာရာသရမင်း ကြားသိလေသော် ဝမ်းမြောက်ဝမ်းသာဖြစ်၍ ဟတ္တိနပူရ နေပြည်တော်သို့ ပြန်ခေါ်တော်မူသည်။ ကောရဗျ မင်းသားတို့ ကျူးလွန်ခဲ့သည့် အပြစ်ကို ကျေနပ်မှု ရှိစေရန် အတွက် နိုင်ငံကို ထက်ဝက်ခွဲ၍ ပဏ္ဍဝ မင်းသားတို့ကို ပေးအပ်သည်။ ကုရုမင်းမျိုး မင်းနွယ်တို့၏ မြို့တော်ဖြစ်သော ခန္ဓရ ၊ ပရာသ

မြို့တော်ဟောင်းကို ဣန္ဒရာပရာသ မြို့တော်အဖြစ် အမည်ပေးကာ ပဏ္ဍဝ မင်းသားအကြီး ယုဒိဿသိရက အုပ်ချုပ်လေသည်။

ယုဒိဿသိရသည် ဧကရာဇ်ဘွဲ့ကို ခံယူသည့် ဘိသိက်ခံပွဲကို ကျင်းပရာ နိုင်ငံပေါင်းစုံမှ မင်းညီမင်းသားတို့ တက်ရောက်ကြသည်။ ကရိဿျနား သည်လည်း တက်ရောက်လာသည်။ ဘိသိက်ခံပွဲတွင် တက်ရောက်ကြသည့် မင်းညီမင်းသားတို့ အထဲမှ ပထမ ဂုဏ်ထူးဆောင် ပုဂ္ဂိုလ်ကို ရွေးရမည်ဖြစ်ရာ ယုဒိဿသိရသည် ကရိဿျနားကို ရွေးချယ် လိုက်သည်။ ထိုအခါ ကရိဿျနားကို မုန်းတီးနေသော စေတီတိုင်းဘုရင် သိသုပါလက ကန့်ကွက်ပြောဆိုသည်။

သိသုပါလက ကရိဿျနားသည် မင်းမျိုးမင်းနွယ် မဟုတ်ကြောင်း၊ ယုဒိဿသိရ သည်လည်း ဖအေမဲ့သား ဖြစ်ကြောင်း စသည်ဖြင့် မင်းညီမင်းသားကို စော်ကား ရင့်သီးသော စကားများကို ပြောဆိုပြီး ပွဲမှ ထွက်သွားသဖြင့် ကရိဿျနားနှင့် တိုက်ခိုက်ကြရာ သိသုပါလ ကျဆုံး သွားသည်။

ထိုအချိန်တွင် ကောရဗျမင်းသားများထံသို့ သကုနိ အမည်ရှိ ကစားသမားတစ်ဦး ရောက်ရှိလာသည်။ ပဏ္ဍဝမင်းသားတို့ ပျက်စီးခြင်း ကို တွေ့မြင်လိုသော ကောရဗျမင်းသားတို့နှင့် ပေါင်းမိသွားကာ ပဏ္ဍဝမင်းသားတို့ကို အနှောင့်အယှက် ပြုရန် ကြံစည်ကြလေသည်။ ခတ္တိယမျိုးတို့မှာ တစ်ပါးသူက စိန်ခေါ်လျှင် ငြင်းရိုးထုံးစံ မရှိသည့် အတိုင်း ကောရဗျ မင်းသား တို့သည် ယုဒိဿသိရကို ကြွေအန် ကစားရန် ဖိတ်ခေါ်သည်။ ယုဒိဿသိရက လက်ခံလိုက်သောအခါ ကောရဗျမင်းသားတို့ကိုယ်စား သကုနိက ကစားသည်။ ယုဒိဿသိရ

သည် ရှိသမျှ ပစ္စည်း ဆုံးရှုံးသွားရာ မိဖုရား ဒြောပဒီကိုပါ လောင်းသဖြင့် ရှုံးသည်။ ချက်ချင်းပင် ကောရဗျ မင်းသား တို့သည် ဒြောပဒီကို အခေါ်လွှတ်ကာ မင်းညီမင်းသားတို့ စုဝေးနေသည့် ခန်းမကြီးတွင် ဒြောပဒီကို ကိုယ်ဝတ်တော်များ အတင်းဆွဲချွတ်ကာ အရှက်ခွဲသည်။

ဒရိတာရသရ ဘုရင်ကြီး သိရှိလေသော် ပဏ္ဍဝမင်းသားတို့အား ဆုံးရှုံးသော နိုင်ငံနှင့်တကွ အားလုံးကို ပြန်ပေးစေ၍ ဣဒရာပရာသမြို့သို့ ပြန်စေသည်။

ပဏ္ဍဝမင်းသားတို့ ပြန်လာကြ၍ မြို့တော်သို့ မရောက်မီပင် ကောရဗျမင်းသားတို့က အခေါ်လွှတ်၍ ရောက်လာကာ ဒုတိယအကြိမ် ကြွေအန်ကစားကြပြန်သည်။ ယခုအကြိမ်တွင်မူ ရှုံးသော အုပ်စုသည် နေပြည်တော်မှ ထွက်ခွာသွားကာ ၁၂နှစ်ပတ်လုံး တော၌ နေကြရမည်။ နောက်တစ်နှစ် ဆက်လက်၍ ရှာမတွေ့အောင် ပုန်းနေကြရမည်။ အကယ်၍ ရှာတွေ့ခဲ့လျှင် နောက်ထပ် ၁၂နှစ် နေကြရမည် ဆိုသော စည်းကမ်းကို ထားရှိလေသည်။ ကြွေအန်ပွဲတွင် ပဏ္ဍဝ မင်းသားတို့ကပင် ရှုံးသည်။ စည်းကမ်းအတိုင်း ပဏ္ဍဝမင်းသားတို့ တောသို့ ထွက်ခွာသွားကြရာ ပြည်သူပြည်သားတို့မှာ ပူဆွေးကြရသည်။

ယုဒိဿသီရ၏ ဘိသိက်ခံပွဲမှ ပြန်သွားသောအခါ ကရိဿနားသည် မိမိ၏ နိုင်ငံကို သာလဝမင်းက တိုက်ခိုက်နေကြောင်း တွေ့ရှိရသဖြင့် ထိုမင်းကို တိုက်ခိုက် နှိမ်နင်းရလေသည်။ ထို့ကြောင့်ပင် ကောရဗျမင်းသားတို့နှင့် ပဏ္ဍဝမင်းတို့ ကြွေအန်ပွဲကို မသိလိုက်ချေ။ ပဏ္ဍဝမင်းတို့နိုင်ငံမှ ထွက်ခွာသွားကြရကြောင်း သိသောအခါ ကရိဿနား

သည် ပဏ္ဍဝမင်းသားတို့ နေထိုင်ရာ တောအရပ်သို့ လိုက်လာ၍ အားပေးစကား ပြောသည်။

ဒရာဥပဒီသည် မိမိအဖြစ်အပျက် အလုံးစုံကို မျက်ရည် စက်လက်ဖြင့် ကရိဿျနားအား ပြောပြသည်။ ကရိဿျနားသည် မတရားညှင်းဆဲခံရသော ပဏ္ဍဝတို့ဘက်မှ ပါဝင်၍ လက်စားချေမည် ဖြစ်ကြောင်းကို ကျိန်ဆို၍ ကတိခံ ပြောကြားလေသည်။ ကျမ်းဂန်များတွင် လာရှိသည့် အတိုင်း အဝတာရတို့၏ ရည်ရွယ်ချက်သည်ကား သူတော်ကောင်းတို့ကို အကာအကွယ် ပေးကာ မသူတော် အဓမ္မသမားများကို သုတ်သင်ပစ်ရေးပင် ဖြစ်သည်။

ပဏ္ဍဝညီနောင်တို့ တောထဲ၌ ဆင်းရဲပင်ပန်းစွာ နေထိုင်ကြရကြောင်းကို သိရသော ကောရဗျ မင်းသားတို့သည် ဝမ်းမြောက်ဝမ်းသာဖြစ်ကြသည်။ ဝမ်းသာကြရုံ မကသေးဘဲ ပဏ္ဍဝတို့ ဒုက္ခခံစားနေရပုံကို မျက်ဝါးထင်ထင် တွေ့မြင်ချင်ကြသည် ဆိုကာ ပဏ္ဍဝတို့ နေထိုင်ကြသည့် တောသို့ တောကစား ထွက်လာကြသည်။

ပဏ္ဍဝညီနောင်တို့ နေထိုင်သည့် စခန်းနှင့် မနီးမဝေး အရပ်တွင် စခန်းချရန် စီစဉ်ကြရာ ထိုအနီးအနား၌ပင် ဂန္ဓာဝဘုရင် မတြေသေနသည်လည်း စခန်းချလျက် ရှိသည်။ ကောရဗျ မင်းသား တို့မှာ စခန်းချရန် နေရာမရှိ ဖြစ်နေသဖြင့် ဂန္ဓဝတို့ကို တိုက်ခိုက်သည်။ ဂန္ဓာဝတို့မှာ အင်အားကောင်းသဖြင့် ကောရဗျမင်းသားတို့၏ စစ်သည်တို့ကို အလွယ်တကူ ဝင်တိုက်ခိုက် ချေမှုန်း ပစ်နိုင်သည်။ ထိုအခြင်းအရာကို တွေ့မြင်ကြရသော ပဏ္ဍဝ မင်းသားတို့သည် မိမိတို့၏ သွေးချင်းများ ဖြစ်သော ကောရဗျတို့ ရှုံးနိမ့်နေသည်ကို မခံမရပ်နိုင်

ဖြစ်လာသဖြင့် ဂန္ဓာဝတို့ကို တိုက်ခိုက်သည်။ ဂန္ဓာဝတို့က အစမ္ဗ သမားများကို ဆုံးမလိုက်ပြီ ဖြစ်၍ ပဏ္ဍာဝတို့ကို ပြန်လည် မတိုက်ခိုက်ဘဲ ရှောင်သွားကြသည်။

ကောရဗျ မင်းသားတို့၏ စစ်သည်တို့သည် တကွဲတပြားစီ ဖြစ်သွားကာ နေပြည်တော်သို့ ပြန်သွားရသည်။ ရန်သူများ ရှေ့တွင် အရှက်ရခဲ့သည့် အတွက် ကောရဗျမင်းသားတို့မှာ အခဲမကျေ ဖြစ်နေ သည်။ ပဏ္ဍာဝတို့အား ဆက်လက်၍ ဒုက္ခ အမျိုးမျိုး ပေးလျက် ရှိသည်။

တောထဲတွင် ၁၂နှစ်ပြည့်သောအခါ ပဏ္ဍာဝမင်းသားတို့သည် လာမည့်နှစ်အတွင်း ကောရဗျတို့ ရှာမတွေ့အောင် ပုန်းနေရမည့် နေရာကို ရွေးချယ်ကြသည်။ မစ္စယနိုင်ငံ ဝိရတဘုရင်၏ နန်းတော်၌ ရုပ်ဖျက်ကာ မင်းမှုထမ်းများ အဖြစ် ပုန်းနေကြရန် သဘောတူ ဆုံးဖြတ်ကြသည်။

ဝိရတနန်းတော်တွင် ရုပ်ဖျက်၍ ပုန်းအောင်းနေရာမှ ဒရာ ဉပဒီကို ဝိရတ ဘုရင်၏ စစ်သူကြီး ဖြစ်သူ ကိစက,က ချစ်ကြိုက်၍ အနိုင်အထက် ပြုသဖြင့် ဘိမာ၏ လက်ချက်ဖြင့် ကိစက သေဆုံး ခဲ့သည်။

ကောရဗျမင်းသားတို့၏ သူလျှိုဒလံတို့သည် ပဏ္ဍာဝမင်းသား တို့ကို လိုက်လံ ရှာဖွေသော်လည်း မတွေ့နိုင်ဘဲ ရှိလေသည်။ စစ်သူကြီး ကိစကကို သေအောင် သတ်နိုင်သူ နှစ်ဦးသာရှိ၍ တစ်ဦးမှာ ဘိမာဖြစ်ကြောင်းကို ကောရဗျမင်းသားတို့ သိရှိထားသည်။ ကိစက သေဆုံးကြောင်း သိရသောအခါ ပဏ္ဍာဝ ညီနောင်တို့သည် ဝိရတ၏

နိုင်ငံတွင် ရှိရမည်ဟု ကောရဗျ မင်းသားများ ယူဆကြသည်။ ပုန်းအောင်း နေကြသော ကောရဗျ မင်းသားများကို ရှာဖွေရန် နည်းလမ်းများကို ရှာဖွေကြသည်။ ဝိရတ၏ နိုင်ငံကို ဝင်တိုက်လျှင် ပဏ္ဍဝ မင်းသားတို့သည် ဝိရတဘက်မှ မလွဲမသွေ ဝင်တိုက်မည် ဖြစ်သဖြင့် ပုန်းနေရာမှ ဖော်ထုတ်နိုင်မည်ဟု တွက်ဆကြသည်။

ဝိရတ၏ရန်သူ သုသာမ ဘုရင်နှင့် ပူးပေါင်းပြီး တိုက်ခိုက်ရန် စီစဉ်ကြသည်။ သုသာမ ဘုရင်သည် ဝိရတ၏ နိုင်ငံကို တောင်ဘက်မှ ဝင်ရောက် တိုက်ခိုက်ပြီး ဝိရတ၏ စစ်သည်များ တောင်ဘက်သို့ စစ်ချီလာသော အခါ ကောရဗျမင်းတို့သည် မြောက်ဘက်မှ ဝင်ရောက် တိုက်ခိုက်မည် ဖြစ်သည်။ ဤအချိန်တွင် ပဏ္ဍဝမင်းသားတို့ ပုန်းအောင်း နေရမည့် အချိန်စေ့ရန် တစ်လသာ လိုတော့သည်။

သုသာမဘုရင်သည် တောင်ဘက်မှနေ၍ ဝင်ရောက် တိုက်ခိုက်သောအခါ ဝိရတဘုရင် တောင်ဘက်သို့ စစ်ချီသွားရာတွင် ပဏ္ဍဝ မင်းသား ငါးဦး အနက် အာဇုနတစ်ဦးမှအပ ကျန်လေးဦးလည်း လိုက်သွားကြသည်။ ပဏ္ဍဝမင်းသား လေးဦးတို့သည် မိမိတို့အား မည်သူမည်ဝါတို ဖြစ်ကြကြောင်းကို ရန်သူတို့ မသိအောင် တိုက်ခိုက်ကာ ကျူးကျော်သူများကို တိုက်ခိုက် အောင်မြင်လေသည်။

ဝိရတဘုရင် တောင်ဘက်သို့ စစ်ချီသွားသော အခါ ကောရဗျ မင်းသား အပေါင်းသည် မြောက်ဘက်မှ ဝင်ရောက် လာကြသည်။ ကောရဗျမင်းသားတို့ကို တိုက်ခိုက်ရန် အတွက် နေပြည်တော်၌ ကျန်ရစ်ခဲ့သော ဝိရတ၏သား ဥတ္တရက စစ်ရထားဖြင့် တစ်ပါးတည်း ချီတက်ရလေသည်။ ဥတ္တရ၏ ရထားထိန်းအဖြစ် အာဇုနမင်းသားသည်

မြို့အပြင်ဘက်တွင် ထားရှိသော ပဏ္ဍဝမင်းသားတို့၏ လက်နက်များကို ယူ၍ ကောရဗျမင်းသားတို့ကို တိုက်ခိုက်ရန် ချီတက် သွားသည်။ အာဇုနသည် မိမိ၏ လေးသံပေးကာ စစ်ခရုသင်းကို မှုတ်လိုက်သည်။ ထိုအသံကြောင့် ကောရဗျ စစ်သည်တို့မှာ လန့်ဖျပ်သွားကြသည်။

ကောရဗျ မင်းသားတို့လည်း ထိုအသံကို မည်သူ ဖြစ်နိုင်ကြောင်းကို သိရှိထားကြပြီး ဖြစ်သည်။ ပုန်းနေသော ပဏ္ဍဝ မင်းသားတို့ကို အချိန်မစေ့မီ ဖော်ထုတ်နိုင်ရန် နောက်ထပ် ၁၂နှစ် တောတွင် ထားရှိရတော့မည်ကို တွေးကာ ဝမ်းသာနေကြသည်။ ထိုအချိန်တွင် ကောရဗျ မင်းသားတို့၏ အကြီးအကဲ ဆရာ တစ်ဆူ ပညာရှိ ဘိသမက ပဏ္ဍဝ မင်းသားတို့ ပုန်းအောင်း နေရမည့် အချိန်သည် လွန်ခဲ့သည့် နေ့ကပင် စေ့ခဲ့ပြီဖြစ်ကြောင်း ကောရဗျတို့၏ တွက်ချက်မှု မှားနေကြောင်း၊ နက္ခတ်တာရာ တို့၏ လှေ့လာမှုကို ကြည့်ရှု၍ သိနိုင်ကြောင်း၊ ပဏ္ဍဝတို့သည် ကတိကို ထိန်းသိမ်း စောင့်ရှောက်ခဲ့ပြီး ဖြစ်၍ ယခုအချိန်သည် ငြိမ်းချမ်းရေးကို ဆောင်ရွက်မည်လော၊ သို့မဟုတ် စစ်ကိုပင် ဆင်နွှဲမည်လော ဆိုသည်ကို ဆုံးဖြတ်ရမည့် အချိန် ဖြစ်နေကြောင်း၊ ပဏ္ဍဝတို့ ပိုင်ဆိုင်ခဲ့သော နိုင်ငံထက်ဝက်ကို ပြန်ပေးခြင်းဖြင့် ငြိမ်းချမ်းရေး ရရှိနိုင်ပုံတို့ကို ရှင်းပြသည်။

ကောရဗျ မင်းသားတို့သည် ကျေးရွာ တစ်ရွာလောက်ကိုပင် ပဏ္ဍဝမင်းသားများကို မပေးလိုသဖြင့် စစ်ပြုရန် ဆုံးဖြတ်ကြသည်။ ကောရဗျစစ်သည်များကို လေးစုခွဲလိုက်ပြီး တစ်စုသည် ဟတ္ထိနပူရ သို့ ပြန်ကြသည်။ တစ်စုကား ဝိရတ၏ ကျွဲနွားများကို မောင်းနှင် ခေါ်သွားကြသည်။ ကျန်နှစ်စုကား အာဇုနကို တိုက်ခိုက်သည်။

အာဇုနသည် ဆရာကြီး ဘိသမကို တိုက်ခိုက်ခြင်း မပြုဘဲ ကောရဗျ မင်းသားတို့ကို တိုက်ခိုက်ပြီးနောက် လုယူမောင်းထုတ်သွားသော ကျွဲနွားများကို ပြန်လည်ယူကာ ပြန်လာ ခဲ့သည်။

ပဏ္ဍဝမင်းသားတို့သည် ဝိရတ၏ မြို့တော်မှ ထွက်ခွာသွားကြပြီး ပစ္စယပြည်၌ပင် ဥပပလာယ ဒေသ၌ နေထိုင်ကြသည်။ ပဏ္ဍဝမင်းသားတို့ ပုန်းအောင်း မနေမီ တစ်ချိန်က လာရောက်နေထိုင်ခဲ့ကြသည့် မင်းသားများအပြင် ပဏ္ဍဝတို့ကို ထောက်ခံသော အခြားမင်းသား များလည်း ရောက်ရှိ စုရုံးကြသည်။ ဒွါရကာ နိုင်ငံမှ ကရိသျှနား၊ ဗလရာမနှင့် အာဇုန၏ မိဖုရား သုဘဒ္ဒရာနှင့် သားအဘိမန်ယုတို့လည်း ရောက်ရှိလာကြသည်။ မင်းညီမင်းသား အများစုံညီသော အချိန်တွင် အာဇုန၏ သားတော် အဘိမန်ယုနှင့် ဝိရတ၏ သမီးတော် ဥတ္တရာဒေဝီတို့၏ မင်္ဂလာပွဲကို ကျင်းပသည်။

ဤအခမ်းအနားတွင် ကရိသျှနားက ပဏ္ဍဝ မင်းသားတို့သည် အလိမ်ခံခဲ့ကြရကြောင်း၊ နိုင်ငံလက်လွှတ် ဖြစ်ခဲ့ကြောင်း၊ တရားသဖြင့်ဖြစ်အောင် ဆောင်ရွက်ပေးရန် လိုအပ်ကြောင်းကို တင်ပြခဲ့သည်။ တက်ရောက်လာကြသော မင်းညီမင်းသားတို့လည်း မိမိတို့၏ သဘောထားများကို တင်ပြကြကာ ပဏ္ဍဝမင်းသားတို့ ဆုံးရှုံးလက်လွှတ်ခဲ့ရသည့် နိုင်ငံကို ပြန်လည်ရရှိရေးအတွက် ငြိမ်းချမ်းစွာ ဆောင်ရွက်ရန်နှင့် လိုအပ်လျှင် အဆင်သင့် ဖြစ်စေရန်အတွက် စစ်ပြင်ဆင်မှုများကိုလည်း တစ်ချိန်တည်း ဆောင်ရွက်ထားရန် သဘောတူကြသည်။ ငြိမ်းချမ်းရေး သံတမန်အဖြစ် ဒရုပဒ ဘုရင်၏ ဗြဟ္မဏ ပုဏ္ဏားကို စေလွှတ်လေသည်။

ငြိမ်းချမ်းရေး သံတမန် စေလွှတ်ထားသော်လည်း ကောတဗျ နှင့် ပဏ္ဍဝ မင်းသားတို့သည် စစ်ဖြစ်ပွားလျှင် ကရိသျှနားကို မိမိတို့ ဘက်မှ ရအောင်ခေါ်ယူလိုကြသဖြင့် ကရိသျှနား ပြန်သွားသည့် သူ၏ နိုင်ငံဒွါရကာသို့ လိုက်သွားကြသည်။ ကောရဗျတို့ ဘက်မှ ဒုယောဓန မင်းသားက သွားရောက်ပြီး ပဏ္ဍဝတို့တွင် အာဇုနကို စေလွှတ်ကြသည်။ မင်းသားနှစ်ပါးစလုံး တစ်နေ့တည်း ရောက်ရှိသွားကြသည်။

ကရိသျှနားမှာ အိပ်ပျော်နေဆဲ ဖြစ်သော်လည်း မင်းသား နှစ်ပါးကား ကရိသျှနားနှင့် ခင်မင်ရင်းနှီးသူများ ဖြစ်၍ ကရိသျှနား၏ အိပ်ခန်းသို့ ဝင်ရောက်သွားကြသည်။ ဒုယောဓန မင်းသားသည် ကရိသျှနား အိပ်နေသော အိပ်ရာ၏ ခေါင်းရင်း၌ ရှိသော ပလ္လင် ထက်ဝယ် တက်ထိုင် နေသော်လည်း အာဇုနကမူ အိပ်နေသည့် သြောင်စောင်း၏ ခြေရင်းတွင် မတ်တတ်ရပ်၍ စောင့်နေသည်။

ကရိသျှနား နိုးလတ်သော် အာဇုနကို ရှေးဦးစွာ တွေ့ရှိသဖြင့် နှုတ်ဆက်ပြီး ဒုယောဓနကို ဆက်လက်၍ နှုတ်ဆက်သည်။ ထို့နောက် မင်းသားနှစ်ပါး လာရောက်ရခြင်း အကြောင်းကို မေးသည်။

ဒုယောဓနက ကောရဗျနှင့် ပဏ္ဍဝမင်းသားတို့ အကြားတွင် စစ်ဖြစ်ပွားမည့် အလားအလာ ရှိနေ၍ စစ်ဖြစ်ပွားလျှင် ကရိသျှနားကို မိမိဘက်သို့ ပါဝင်စေလိုကြောင်း၊ မင်းသား နှစ်ဦးအနက် မိမိက အရင်ဦးစွာ ရောက်ရှိသူဖြစ်၍ အစဉ်အလာအရ မိမိကို ဦးစားပေးမည် ဖြစ်ကြောင်း ပြောဆိုကြသည်။

ကရိသျှနား ကလည်း ဒုယောဓန မင်းသား အရင်ဦးစွာ ရောက်ရှိနေသည် ဆိုသည်မှာ မှန်ကောင်း မှန်လိမ့်မည် ဖြစ်သော်လည်း

ကရိသျှနား အိပ်ရာမှ နိုးသောအခါ အရှင်ဆုံး တွေ့ရသူမှာ အာဇုနသာ ဖြစ်ကြောင်း၊ သို့ဖြစ်၍ မင်းသားနှစ်ဦး၏ အခွင့်အရေးမှာ အတူတူပင် ရှိနေကြောင်း၊ ထို့ပြင်လည်း အသက်ငယ်သူတို့ကို ဦးစားပေးရမည့် အစဉ်အလာ ရှိနေသေးကြောင်း၊ ထို့ကြောင့် အာဇုနကိုသာ ပထမဦးစား အနေဖြင့် အရင် ရွေးချယ်ခွင့် ပေးမည်ဖြစ်ကြောင်း ပြောဆိုသည်။ ကရိသျှနားနှင့် သူ၏ စစ်သည်တို့သည် အင်အားချင်း တူညီကြကြောင်း၊ ကရိသျှနား၏ စစ်သည်တို့သည် စစ်ဖြစ်ပွားလျှင် တစ်ဖက်စိမှ ပါဝင် တိုက်ခိုက်မည် ဖြစ်ကြောင်း၊ ကရိသျှနားကမူ လက်နက်ကိုင်ဆွဲ၍ တိုက်ခိုက်မည် မဟုတ်ဘဲ လက်နက်မပါဘဲ အကြံပေး အဖြစ်သာ တိုက်ခိုက်မည် ဖြစ်၍ ကရိသျှနားနှင့် မိမိ၏ စစ်သည်တို့ အနက် မည်သည့်ဘက်ကို ရယူလိုသည်ကို အာဇုနအား ရွေးချယ်သည်။

လက်နက်ကိုင် တိုက်ခိုက်မည် မဟုတ်သော်လည်း ကရိသျှနား ကိုသာ အာဇုနက ရွေးချယ်လိုက်ရာ ဒုယောဓနက အာဇုန အရွေးမှား လေပြီဟု အထင်ရောက်ကာ ဝမ်းမြောက်ဝမ်းသာ ဖြစ်သည်။ အာဇုနက ရွေးချယ်လိုက်သည့် အတွက် ကရိသျှနားမှာ ကျေနပ်နေလေသည်။

ဒရုပဒ စေလွှတ်ခဲ့သည့် ငြိမ်းချမ်းရေး အဖွဲ့မှာ မအောင်မြင် ခဲ့ချေ။ ကောရဗျနှင့် ပဏ္ဍဝတို့၏ ဘာရတ မျိုးနွယ်အကျိုးအတွက် ကရိသျှနားက ဟတ္ထိနပူရသို့ သွားရောက်ကာ စေ့စပ် ပေးရန် စီစဉ်လေသည်။

ဒရိတာရာသရ ဘုရင်က ကရိသျှနားကို ကောင်းစွာ ကြိုဆို သည်။ ကောရဗျ မင်းသား နှင့် ဒုယောဓနက ကရိသျှနားအား ဂုဏ်ပြုလိုက်သည်ဟု ဆိုကာ ညစာစားရန် ဖိတ်ခေါ်သည်။ ကရိသျှနားက

ငြိမ်းချမ်းရေး ကိစ္စ အောင်မြင်ပြီးဆုံးခြင်း မရှိသေးဘဲ မစားနိုင်ကြောင်း ပြောဆိုကာ ဝိဒူရ အမတ်ကြီး အိမ်၌ တည်းခိုနေသည်။ ဝိဒူရက ကရိသျှနားအား အဓမ္မမင်းသား ဒုယောဓနေ၏ နန်းတော်ထဲသို့ မဝင်ရန် သတိပေးထားသည်။

ဒရိဘာရသရ၊ ဝိဒူရနှင့် ကရိသျှနားတို့သည် ဒုယောဓနအား အမျိုးမျိုး အဖုံဖုံ အကျိုးအကြောင်း ရှင်းပြကာ နားချပါသော်လည်း မလိုက်နာဘဲ ကရိသျှနားကို ဖမ်းဆီးရန် ကြံစည်သည်။ ကရိသျှနားက ရယ်မောလျက် ဓိမိမှာ ဗိဿနိုး ဝင်စားသော အဝတာရဖြစ်ကြောင်း ထုတ်ဖော် ပြောဆိုသည်။ ဗိဿနိုး၏ မူလရုပ်အဆိုင်း ပြသလိုက်သည်။ ထိုခဏ၌ မျက်စိအလင်း မရသော ဒရိဘာရသရသည် ခဏမျှ မျက်စိအလင်းရကာ ကရိသျှနားကို ဖူးတွေ့ရလေသည်။

ငြိမ်းချမ်းရေးအတွက် ကရိသျှနား နောက်ဆုံး ကြိုးပမ်းမှုကား အောင်မြင်မှု မရှိဘဲ ပျက်ပြားခဲ့လေပြီ။ နှစ်ဖက်စလုံး စစ်ပြင်ဆင်ကြသည်။ ပဏ္ဍဝတို့ အင်အားထက် ကောရဗျတို့၏ အင်အားက အလွန် သာလွန်နေသည်။ စစ်မြေပြင်အဖြစ် ကုရုသျှတ္တရ ကွင်းပြင်ကို ရွေးချယ်ကြပြီး စစ်စည်းကမ်းများကို သတ်မှတ်ကြသည်။ တောင်စွယ်နေကွယ်လျှင် တိုက်ခိုက်မှု အားလုံး ရပ်ဆိုင်း၍ အနားယူရန် တူညီသော လက်နက်ဖြင့်သာ တိုက်ခိုက်ရန် စည်းကမ်းများ သတ်မှတ်ကြသော်လည်း စစ်ပြီးခါနီးတွင် ကောရဗျတို့သည် စည်းကမ်း ချိုးဖောက်၍ ညတွင် လုပ်ကြံမှုများ ပြုလုပ်ခဲ့သည်။ နောက်ဆုံးတွင် အဓမ္မဝါဒီတို့ ဆုံးရှုံးကြလေသည်။

ကရိသျှနားသည် အာဇုန၏ ရထားထိန်းအဖြစ် တိုက်ပွဲ၌ ပါဝင်ခဲ့သည်။ စစ်ပွဲအောင်ရန်အတွက် နှစ်ဖက်စလုံးမှ ရင်ဆိုင် စောင့်ဆိုင်း

နေစဉ် အာဇုနသည် သွေးသား ညီအစ်ကို အချင်းချင်း သတ်ဖြတ်၍ သွေးမြေ ကျရမည့် အရေးကို တွေးရင်း စိတ်မကောင်း ဖြစ်ကာ တွေဝေလျက် ရှိလေသည်။ မတိုက်ဘဲ နောက်ဆုတ်သွားရန် အထိပင် ကြံစည်လျက် စိတ်ကို အဆုံးအဖြတ် မပေးနိုင်ဘဲ ရှိနေသည်။ ဤတွင် ကရိသျှနားသည် မင်းသားတို့တွင် ထားရှိအပ်သော စိတ်နေသဘော ထားနှင့် အကျင့်တို့ကို ဟောပြောကာ အာဇုန၏ စိတ်ဓာတ်ကို မြှင့်တင် နှိုးဆွပေးသည်။ ဤဘာရတ စစ်ပွဲ၌ ကရိသျှနား ဟောကြားသော တရားများမှာ ဘဂဝါဂီတာ ကျမ်းအဖြစ် အထင်အရှား ကျန်ရှိနေသည်။ ဘဂဝါဂီတာကျမ်းလာ ကရိသျှနား ဟောကြားချက်များကို ထာဝရ ဘုရားသခင်၏ နှုတ်ကပါဋ်တော်များ အဖြစ် ယူဆထားသည်။

ဘာရတ စစ်ပွဲ ပြီးသောအခါ ကရိသျှနားသည် ဒွါရကာ နိုင်ငံသို့ ပြန်သွားပြီးနောက် သုံးဆယ့်ခြောက်နှစ် တိုင်တိုင် အုပ်ချုပ်လျက် နေလေသည်။ တစ်နေ့တွင် ကရိသျှနားသည် တောထဲ၌ တရားထိုင်နေစဉ် မုဆိုးတစ်ဦးက သားကောင် အဖြစ်ဖြင့် မြားနှင့် ပစ်ခတ်ရာ အနိစ္စ ရောက်သွားလေသည်။

* * *

## စကြဝဠာ

ဗုဒ္ဓ၏ အလိုအရ စကြဝဠာအပေါင်း အနန္တရှိ၍ တွက်ဆ၍ မရနိုင်သော အချိန်ကာလအတွင်း တည်ရှိနေသည်။ ပွင့်တော်မူခဲ့ပြီးသော ဘုရားတို့မှာလည်း မရေမတွက်နိုင်အောင် များပြားခဲ့သဖြင့် ဂင်္ဂါမြစ်အတွင်းရှိ သဲလုံးအမျှ ရှိသည်ဟူ၍သာ ဟောတော်မူသည်။

ကျွန်ုပ်တို့ နေထိုင်သော ကမ္ဘာလောကကြီးသည် ရေတွက်၍ မရနိုင်သော စကြဝဠာများအနက် တစ်ခုသော စကြဝဠာပင် ဖြစ်၏။ စကြဝဠာတစ်ခုလျှင် သံသရာ၌ ကျင်လည်သော သတ္တဝါတို့ လှည့်လည်ကျက်စားရာ ဘုံပေါင်း ၃၁ဘုံ ပါရှိပြီး နေနှင့်လတို့သည် စကြဝဠာအတွင်း၌ လှည့်ပတ် သွားလာလျက် ရှိနေသည်။ စကြဝဠာတိုက်တစ်ခု၏ အကွာအဝေးမှာ အလျားအနံ ယူဇနာပေါင်း တစ်သန်း ရှစ်သိန်း သုံးထောင်လေးရာ ငါးဆယ်ရှိ၍ လုံးပတ်ယူဇနာ သုံးသန်း ခြောက်သိန်း တစ်သောင်းသုံးရာ ငါးဆယ်ရှိသည်။ စကြဝဠာတိုက်တစ်ခု၏ အကျယ်အဝန်း ဒေသကို ဩကာသ လောက တစ်ခုဟူ၍လည်း ခေါ်သည်။

စကြ္ဝဠာတိုက် တစ်ခု၏ အလယ်ဗဟိုသည်ကား မြင်းမိုရ်တောင် ပင် ဖြစ်၏။ မြင်းမိုရ်တောင်ကို ရေပတ်လည် ဝိုင်းလျက်ရှိသည်။ မြင်းမိုရ်တောင်သည် ရေထဲ၌ ယူဇနာပေါင်း ရှစ်သောင်းလေးထောင်၊ ရေပေါ် ယူဇနာပေါင်း ရှစ်သောင်းလေးထောင်နှင့် အဒုယူဇနာ ရှစ်သောင်း လေးထောင်နှင့် အလျားအနံ ယူဇနာ တစ်သောင်းစီ ရှိသည်။

မြင်းမိုရ်တောင်မှ စ၍ အပြင်ဘက် ပတ်လည်၌ ပင်လယ်သမုဒ္ဒရာ တစ်တန်၊ တောင်တစ်ထပ်စီဖြင့် ဝန်းရံလျက်ရှိရာ တောင်ခုနစ်ထပ် တို့သည်ကား မြင်းမိုရပ်တောင်မှစ၍ ယုဂန္ဓိုရ်တောင်၊ ဤသဓရတောင်၊ ကရဝိကတောင်၊ သုဒဿနတောင်၊ နေမိန္ဓရတောင်၊ ဝိနတကတောင်၊ အဿကဏ်တောင်တို့ ဖြစ်သည်။

တောင်စဉ်ခုနစ်ထပ်၏ အပြင်ဘက်တွင် မြင်းမိုရပ်တောင်၏ အရှေ့အနောက် တောင်နှင့် မြောက်ဘက်တို့၌ ကျွန်းကြီးလေးကျွန်း တို့သည် ကျွန်းငယ်ငါးရာစီ ခြံရံလျက် ရှိသည်။ မြင်းမိုရပ်တောင်၏ အရှေ့ဘက်နှင့် အနောက်ဘက်တို့တွင် ရှိသော ကျွန်းကြီးတို့သည် အလျားအနံ ယူဇနာ ခုနစ်ထောင်စီရှိလျက် မြောက်ကျွန်းသည် ယူဇနာ ရှစ်ထောင်နှင့်တောင်ကျွန်းကား အကြီးဆုံးဖြစ်၍ အလျားအနံ ယူဇနာ တစ်သောင်းစီ အကျယ် ရှိသည်။ စကြ္ဝဠာတိုက်၏ အပြင်ဘက် အစွန်အရပ်သည်ကား စကြ္ဝဠာ တောင်တန်းပင် ဖြစ်၍ အမြင့်ယူဇနာ ရှစ်သောင်းနှစ်ထောင်၊ ရေပေါ်ရေထဲ ယူဇနာ ရှစ်သောင်းနှစ်ထောင်၊ အဒုယူဇနာ ရှစ်သောင်းနှစ်ထောင် ရှိသည်။ ဤတောင်သည် မြင်းမိုရပ် တောင်ဘက်သို့ ကိုင်းညွတ်ကာ ကျွန်းငယ်အပေါင်းကို အုပ်မိုးလျက် ရှိသည်။

အချင်း ယူဇနာ ၅၀၊ အဝန်း ယူဇနာ ၁၅၀ရှိသော နေမင်းကြီးနှင့် အချင်း ယူဇနာ၄၉၊ အဝန်း ယူဇနာ ၁၄၇ရှိသော လမင်းကြီးတို့သည် ယုဂန္ဓိုရ်တောင်ထိပ်နှင့် တစ်တန်းတည်းရှိသော အမြင့်ယူဇနာ လေးသောင်းနှစ်ထောင်မှ နေ၍ မြင်းမိုရ်တောင်ကို လက်ယာရစ် လှည့်ပတ်လျက်ရှိသည်။ နေနှင့်လတို့၏ အလင်းရောင်တို့သည် ယူဇနာ တစ်ထောင် အကွာအဝေး ရှိသော စကြဝဠာတိုက် အရပ်သို့ တိုင်အောင် ထွန်းလင်းတောက်ပသည်။ နေနှင့်လတို့၏ လမ်းကြောင်းတွင် နေသည် အပေါ်မှ ဖြစ်၍ လသည် အောက်မှဖြစ်၏။ နေလမ်းကြောင်းနှင့် လ,လမ်းကြောင်းတို့ အကြား ယူဇနာ ကွာခြားလျက် အပေါ်ဆုံး အစွန်းနှင့် အောက်ဆုံးအစွန်းတို့သည် ယူဇနာ တစ်ရာ ကွာခြားသည်။

စကြဝဠာတိုက် အတွင်း၌ တည်ရှိသော ဘုံပေါင်း ၃၁ဘုံတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ ငရဲ
၂။ တိရစ္ဆာန်
၃။ ပြိတ္တာ
၄။ အသူရကာယ်
၅။ လူ့ဘုံ
၆။ စတုမဟာရာဇ်
၇။ တာဝတိံသာ
၈။ ယာမာ
၉။ တုသိတာ
၁၀။ နိမ္မာနရတိ

၁၁။ ပရနိမ္မိတဝသဝတ္တီ
၁၂။ ဗြဟ္မပါရိသဇ္ဇာ
၁၃။ ဗြဟ္မပုရောဟိတာ
၁၄။ မဟာဗြဟ္မာ
၁၅။ ပရိတ္တာဘာ
၁၆။ အပ္ပမာဏာဘာ
၁၇။ သာဘဿရာ
၁၈။ ပရိတ္တသုဘာ
၁၉။ အပ္ပမာဏသုဘာ
၂၀။ သုဘကိဏှာ
၂၁။ ဝေဟပ္ဖိုလ်
၂၂။ အသညသတ်
၂၃။ အဝိဟာ
၂၄။ အာတပ္ပာ
၂၅။ သုဒဿာ
၂၆။ သုဒဿီ
၂၇။ အကနိဋ္ဌ
၂၈။ အာကာသာနဉ္စာယတန
၂၉။ ဝိညာနဉ္စာယတန
၃၀။ အကိဉ္စညာယတန
၃၁။ နေဝသညာနာသညာယတန

ကျွန်ုပ်တို့ နေထိုင်ရာ ကမ္ဘာကြီးသည် ကျွန်းကြီးလေးကျွန်း အနက် တောင်ကျွန်းကြီးပင် ဖြစ်သည်။ မြေပြင်ပေါ်၌ လူ့ဘုံတည်ရှိ၍ မြေကြီးအောက်၌ ငရဲဘုံ တည်ရှိသည်။ သိဉ္စိုငရဲ၊ ကာလသုတ်ငရဲ၊ သင်္ဃာတငရဲ၊ ရောရုဝငရဲ၊ - မဟာရောရုဝ ငရဲ၊ တာပနငရဲ၊ မဟာတာပနငရဲ၊ အဝီစိငရဲ စသည်ဖြင့် ငရဲကြီး ရှစ်ထပ်နှင့် ငရဲငယ် ၁၂၈ခု ရှိသည်။ အဝီစိငရဲသည် အောက်ဆုံးငရဲဖြစ်သည်။

ငရဲကြီးရှစ်ထပ်သည် တစ်ထပ်နှင့်တစ်ထပ် ယူဇနာ တစ်သောင်း ငါးထောင်စီ ကွာခြားသည်။ ကမ္ဘာမြေကြီး၏ အောက်၌ ပံသုပထဝီ ပကတိမြေမှုန့် အဒုယူဇနာ တစ်သိန်းရှစ်သောင်း၊ ယင်း၏အောက်၌ သိလာပထဝီ အဒုယူဇနာ တစ်သိန်းရှစ်သောင်း၊ ယင်း၏အောက်တွင် ရေအဒုယူဇနာ လေးသိန်းရှစ်သောင်း၊ ယင်း၏အောက်တွင် လေထု ယူဇနာ ကိုးသိန်းခြောက်သောင်း တည်ရှိပြီး နောက်အစအဆုံး မထင်သော ကောင်းကင်ပြင် တည်ရှိသည်။

တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ် ဘုံတို့သည်ကား သီးခြား တည်ရှိခြင်း မဟုတ်ဘဲ လူ့ပြည်၌ပင် ရှိသည်။ ဤပုဂ္ဂိုလ်တို့၏ ခန္ဓာကိုယ်ကိုပင် ဘုံဟူ၍လည်းကောင်း၊ ယင်းတို့ နေထိုင်ရာ တောတောင် အရပ်ဒေသကိုပင် လည်းကောင်း၊ ဘုံသဘော အသိအမှတ် ပြုထား ကြရသည်။ ငရဲ၊ တိစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ်တို့ကို အပါယ်လေးဘုံဟု ခေါ်သည်။

ရှေ့တွင် ဖော်ပြထားခဲ့သော ၃၁ဘုံစာရင်း၌ အမှတ်စဉ် ၆မှ၁၁ အထိ ဘုံခြောက်ဘုံတို့ကို နတ်ဘုံသို့မဟုတ် နတ်ပြည်ဟု ခေါ်သည်။ နတ်ပြည် ၆ထပ်အနက် အောက်ဆုံးဘုံ ဖြစ်သော စတုမဟာရာဇ်

နတ်ဘုံသည် မြင်းမိုရ်တောင်၏ ထက်ဝက်မျှအမြင့် ရှိသော ယုဂန္ဓိုရ် တောင်ထိပ်တွင် တည်ရှိသည်။ ယုဂန္ဓိုရ် တောင်သည် အမြင့်ယူဇနာ လေးသောင်းနှစ်ထောင် ရှိသည်။

ဒုတိယ နတ်ဘုံဖြစ်ဖြစ်သော တာဝတိံသာသည် အမြင့်ယူဇနာ ရှစ်သောင်းလေးထောင် ရှိသော မြင်းမိုရ်တောင်၏ ထိပ်၌ တည်ရှိ သည်။ တတိယ နတ်ဘုံဖြစ်သော မာယာမှစ၍ အမြင့်ဆုံး ဖြစ်သော ဗြဟ္မာဘုံ၊ နေဝသညာနာသညာ ယတန တို့သည်ကား ကောင်းကင်ပြင် ၌သာ တည်ရှိသည်။

လူ့ဘုံမှ နတ်ဘုံ ၆ထပ် အဆုံးဖြစ်သော ပရနိမ္မိတဝသဝတ္တိဘုံ အထိ တစ်ဘုံနှင့် တစ်ဘုံအကြားတွင် ယူဇနာ လေးသောင်း နှစ် ထောင်စီ ကွာခြားသည်။ ဤဘုံ၇ဘုံကို ကာမသုဂတိ ၇ဘုံဟုခေါ်သည်။ ဤဘုံတို့တွင် အလှူဒါန ပြုခြင်း၊ အကျင့်သီလ ဆောက်တည်ခြင်း၊ တရားဘာဝနာ ပွားများခြင်းကို ပြုလုပ်နိုင်ကြသည်။ အပါယ်လေးဘုံ၌ ကောင်းမှုကုသိုလ် ပြုလုပ်နိုင်ခြင်းမှ ကင်းဝေးသည်။ အပါယ်လေးဘုံ၊ လူ့ဘုံ၊ နတ်ဘုံတို့ကို ကာမ၁၁ဘုံဟုလည်း ခေါ်ကြသည်။

အမှတ်စဉ် ၁၂ဖြစ်သည့် ဗြဟ္မပါရိသဇ္ဇာဘုံမှ အမှတ်စဉ် ၃၁ထိ ဘုံတို့သည်ကား ဗြဟ္မာဘုံ ၂၀တို့ ဖြစ်သည်။ ဤဘုံသား တို့မှာ ဘာဝနာတရားများကို ပွားများနိုင်သည်။ ဤဘုံတို့သည် တစ်ဘုံနှင့် တစ်ဘုံအကွာအဝေး ယူဇနာ ငါးသန်းငါးသိန်း ရှစ်ထောင်စီ ရှိသည်။

ဗြဟ္မာဘုံ ၂၀တို့ကို ရူပဗြဟ္မာ ၁၆ဘုံနှင့် အရူပဗြဟ္မာ ၄ဘုံဟူ၍ ခွဲခြားထားသည်။ နောက်ဆုံး လေးဘုံတို့သည် ရုပ်မရှိဘဲ နာမ်ချည်း သာ ရှိသော ဗြဟ္မာဘုံဖြစ်၍ အရူပဗြဟ္မာဟု ခေါ်သည်။ ရူပဗြဟ္မာ

၁၆ဘုံအနက် အသညသတ်ဘုံ၌ ဖြစ်ကြသော ဗြဟ္မာတို့သည်ကား ရုပ်သက်သက်သာ ရှိပြီး နာမ်မရှိချေ။ ဤဘုံ၌ ဖြစ်လာကြသော ဗြဟ္မာတို့သည် အလျင်ဘဝ နာမ်တရားကို အပြစ်မြင်၍ နာမ်တရား ကင်းအောင် အားထုတ်ခဲ့ကြသည်။ ဗြဟ္မာဖြစ်လာသောအခါ အား ထုတ်မှု၏ အကျိုးကြောင့် နာမ်တရား ပါမလာတော့ဘဲ ရုပ်ချည်း သက်သက် ဖြစ်လာရသည်။ ဤဗြဟ္မာများသည် ကမ္ဘာငါးရာ တိုင်အောင် အသက်ရှည်ကြသည်။

ဗြဟ္မာဘုံတို့အနက် အောက်ဆုံး သုံးဘုံ ဖြစ်သော ဗြဟ္မာ ပါရိသဇ္ဇ၊ ဗြဟ္မာပုရောဟိတာ၊ မဟာဗြဟ္မာတို့ကို ပထမဈာန် သုံးဘုံဟု ခေါ်သည်။ နောက်ထပ် သုံးဘုံဖြစ်သော ပရိတ္တာဘာ၊ အပ္ပမာဏာဘာ၊ အာဘဿရာတို့ကို ဒုတိယဈာန် ဘုံများဟူ၍လည်းကောင်း၊ နောက်သုံးဘုံ ဖြစ်သော ပရိတ္တာသုဘာ၊ အပ္ပမာဏာ သုဘာ၊ သုဘကိဏှာတို့ကို တတိယဈာန် ဘုံများဟူ၍ လည်းကောင်း ခေါ်ကြသည်။ ထိုဘုံတို့၏ အထက်တွင် ရှိသော ကျန်ရူပဘုံ ၇-ဘုံတို့ကို စတုတ္ထဈာန်ဘုံများဟု ခေါ်ဆိုသည်။

## ကမ္ဘာပျက်ပုံ

လူတို့၏ အနှစ်ငါးဆယ်သည် စတုမဟာရာဇ် နတ်တို့၏ တစ်ရက်နှင့်, ညီမျှသည်။ ထိုရက်ဖြင့် ရက်ပေါင်းသုံးဆယ်သည် စတုမဟာရာဇ်လ တစ်လဖြစ်၏။ ထိုလဖြင့် တစ်ဆယ့်နှစ်လသည် စတုမဟာရာဇ် နတ်တို့၏ တစ်နှစ်မည်၏။ ထိုနှစ်ဖြင့် အနှစ်ငါးရာ သည် စတုမဟာရာဇ်တို့၏ နတ်သက် ဖြစ်သည်။

လူတို့၏ အနှစ်တစ်ရာသည် တာဝတိံသာ နတ်တို့၏ တစ်ရက်နှင့် ညီမျှသည်။ ထိုရက်ဖြင့် တွက်ချက်၍ ရသော နှစ်ဖြင့် တာဝတိံသာနတ်တို့၏ သက်တမ်းသည် အနှစ်တစ်ထောင် ရှည်သည်။

လူတို့၏ အနှစ်နှစ်ရာသည် ယာမာနတ် တို့၏ တစ်ရက်ဖြစ်သည်။ ယာမာနတ်တို့၏နှစ်ဖြင့် ယာမာနတ်တို့သည် အသက်နှစ်ထောင် ရှည်သည်။ ထိုနည်းဖြင့်ပင် လူတို့၏ အနှစ်လေးရာသည် တုသိတာနတ်တို့၏ တစ်ရက်ဖြစ်ရာ ယင်းတုသိတာနတ်တို့၏ အနှစ်လေးထောင်သည် တုသိတာနတ်တို့၏ သက်တမ်းပင်ဖြစ်သည်။

မြတ်စွာဘုရား ပဋိသန္ဓေ နေသောအခါနှင့် ဖွားမြင်သောအခါတို့တွင် စကြဝဠာတိုက်ပေါင်း တစ်သောင်းသော ဒေသအထိတုန်လှုပ်ခြင်း ဖြစ်ပေါ်သဖြင့် ထိုစကြဝဠာ တိုက်တစ်သောင်း အကျယ်အဝန်းကို ဇာတိခေတ်ဟု ခေါ်သည်။

ရတနသုတ်၊ မေတ္တာသုတ် စသော ပရိတ်တော်တို့၏ အာဏာစက်သည် စကြဝဠာတိုက် တစ်သိန်းအထိ သက်ရောက်ပျံ့နှံ့သဖြင့် ထိုစကြာဝဠာ တိုက်တစ်သိန်း အကျယ်အဝန်းကို အာဏာခေတ်ဟု ခေါ်သည်။

မြတ်စွာဘုရား၏ ဉာဏ်တော်သည် စကြဝဠာ အနန္တ တိုင်အောင် အကြွင်းမဲ့ သိမြင်တော် မူသဖြင့် ထိုစကြဝဠာ အနန္တ၊ ကောင်းကင်ရေ၊မြေ၊ သတ္တဝါ အနန္တတို့ကို ဝိသယခေတ်ဟု ခေါ်တွင်သည်။

ခေတ်သုံးခေတ်မျိုးအနက် ဇာတိခေတ်နှင့် အာဏာခေတ်တို့အတွင်း တည်ရှိသော စကြဝဠာ တစ်သိန်း တို့သည် ဖြစ်ပေါ် လာသော အခါတွင် အတူတကွသာ ပေါ်လာပြီး ပျက်စီးသော အခါ

တွင်လည်း အတူတကွ စကြဝဠာ တစ်သိန်းလုံးပင် ပျက်စီးသွားရမြဲ ဖြစ်သည်။

ဇာတိခေတ်နှင့် အာဏာခေတ် ဖြစ်သော စကြဝဠာ တစ်သိန်း အတွင်း၌ ကမ္ဘာဖျက် မိုးကြီးသည် ရှေးဦးစွာ ရွာသွန်း၏။ ထိုအခါ လူအပေါင်းတို့သည် ဝမ်းမြောက်ဝမ်းသာ ဖြစ်၍ သလေးကောက်ပဲသီးနှံ မျိုးစေ့တို့ကို ကြဲဖြန့် စိုက်ပျိုးကြကုန်၏။ ထိုမျိုးစေ့တို့မှ ကောက်ပဲသီးနှံ တို့သည် နွားစားလောက်သော ပမာဏအရွယ် ရှိလာသော အချိန်တွင် မိုးရွာခြင်း ရပ်သွားသည်။ မြေ၏ အသံနှင့် တူသော အသံသည် မြည်ဟည်းကာ မိုးခေါင်လေလျှင် မိုးကို အမှီပြုသော လူနတ်၊ တိရစ္ဆာန်တို့သည် များစွာ ပျက်စီး ဆုံးရှုံးကြကုန်သည်။

ထိုအချိန်တွင် ကာမာဝစရဘုံမှ လောကဗျူဟာ နတ်သားသည် နီသော အဝတ်ကို ဝတ်၍ ဆံပင်ကို ဖားလျားချကာ ငိုကြွေးလျက် လူ့ဘုံအရပ်ရပ်သို့ လှည့်လည် သွားလာပြီး ဤအချိန်မှ နောင်အနှစ် တစ်သိန်း လွန်သောအခါ ဤကမ္ဘာကို မိုးဖျက်မည် ဖြစ်ကြောင်း၊ အထက်ကောင်းကင်သို့ ပထမဈာန် သုံးဘုံတိုင်အောင် ပျက်စီးမည် ဖြစ်ကြောင်း၊ လူတို့သည် သီတင်းသီလ ကျင့်ကြရန်နှင့် အမိအဖတို့ကို ရိုသေကိုင်းရှိုင်းကြရန် တို့ကို တိုက်တွန်းနှိုးဆော်သမှုကို ပြုသည်။

လောကဗျူဟာ နတ်သား၏ လှုံ့ဆော်မှုကြောင့် လူနတ်အပေါင်း တို့သည် ထိတ်လန့်ကြကုန် သဖြင့် အမိအဖတို့ကို လုပ်ကျွေးကြခြင်း၊ ဒုစရိုက် အလုပ်ကို ရှောင်ကြဉ်ကြခြင်း၊ တရားကျင့်ကြခြင်း တို့ကြောင့် ပထမဈာန် သုံးဘုံ၏ အထက်ဘုံများသို့ ရောက်ရှိသွားကြသည်။ ယခုဘဝတွင် ဈာန်မရလိုက်သော လူနတ်တို့သည် သေသောအခါ

အခြား အထက်နတ်ဘုံများသို့ ရောက်ရှိ၍ ဝါယော ကသိုဏ်းကို အားထုတ်ကြရာ ဗြဟ္မာဘုံများသို့ ကူးသွား ကြရသည်။ အပါယ် လေးဘုံသား တို့သည်လည်း သံသရာ အဆက်ဆက်မှ ကုသိုလ်ကံ တို့၏ အကျိုးကြောင့် လူ့ဘုံသို့ ရောက်ရှိ လာကြကာ ထိုဘုံမှ စုတေသောအခါ နတ်ဘုံ၊ ထိုမှတစ်ဆင့် အထက်ဗြဟ္မာဘုံများသို့ ရောက်ရှိသွားကြသည်။

အနှစ်တစ်သိန်းစေ့ ရောက်သောကာလ၌ နေနှစ်စင်းတို့သည် တစ်စင်းပြီး တစ်စင်း ထွက်လာ၍ မြစ်ချောင်းအင်းအိုင်၊ ပင်လယ်၊ သမုဒ္ဒရာတို့မှာ ရေများ ခန်းခြောက်ကာ လူ့ဘုံ၊ နတ်ဘုံတို့ အားလုံးကို မီးလောင်ကျွမ်းသဖြင့် ပထမဈာန် သုံးဘုံ ဗြဟ္မာပြည် တိုင်အောင် ပျက်စီးသွားသည်။ ကောင်းကင်ပြင် တစ်ခုလုံးသည် တစ်စပ်တည်း ဖြစ်လျက် ကမ္ဘာပြုမိုး ရွာသွန်းသည့်အချိန် အထိ သံဝဋ္ဋဋ္ဌာယီကပ် တစ်ခုလုံး အမှောင်တိုက်ကြီး ဖြစ်၍ တည်နေလေသည်။

ကမ္ဘာလောကကြီး ပျက်ရာတွင် မီးဖျက်၍ ပျက်ခြင်း၊ ရေဖျက်၍ ပျက်ခြင်း၊ လေဖျက်၍ ပျက်ခြင်းဟူ၍ သုံးမျိုးရှိသည်။ မီးဖျက်သော အခါ ပထမဈာန် ဗြဟ္မာသုံးဘုံတိုင်အောင် ပျက်စီးလျက် ရေဖျက်သော အခါ ဒုတိယဈာန် သုံးဘုံတိုင်အောင် ပျက်စီးကာ လေဖျက်သော အခါ တတိယဈာန် သုံးဘုံတိုင်အောင် ပျက်စီးသည်။ ကမ္ဘာလောက ကြီးသည် မီးကြောင့် ခုနစ်ကြိမ်တိတိ ပျက်ပြီးနောက်မှ ရှစ်ကြိမ်မြောက် တွင် ရေကြောင့် ပျက်စီးရသည်။ မီးခုနစ်ကြိမ်၊ ရေတစ်ကြိမ်နည်းဖြင့် ဖျက်ဆီးသွားရာ မီးရှစ်ကြိမ်နှင့် ရေခုနစ်ကြိမ် စုစုပေါင်း ၆၃ကြိမ် ပျက်စီးပြီးသောအခါ လေတစ်ကြိမ် ဖျက်ဆီးသည်။

ကမ္ဘာပြိုမိုးကြီးသည် အန္တရကပ်ရက်အတွင်း၌ အဆက်မပြတ် ရွာသွန်းလေရာ ရှေးဦးတွင် ဆီးနှင်းအရွယ် မိုးသီးမိုးပေါက် ပမာဏမှ တဖြည်းဖြည်း ကြီးထွားသော မိုးသီးမိုးပေါက် ကျလာသဖြင့် ယူဇနာ ထောင်သောင်း အတိုင်းအရှည် ရှိသော မိုးသီးများစွာ ရွာချသည်။ လဟာပြင်ကြီး တစ်ခုလုံးသည် အထက် ပျက်စီးသွားသော ဘုံအထိ ရေပြင်ကြီး ဖြစ်လျက်ရှိသည်။

ရေပြင်ကြီးသည် တဖြည်းဖြည်း လျော့ဆင်းသွားလေရာ ကမ္ဘာ ပျက်ရာတွင် ပါသွားသော ဗြဟ္မာဘုံမှစ၍ အောက်ဘုံတို့သည် တဖြည်း ဖြည်း ပေါ်ထွက်လာရာ နတ်ပြည် လေးထပ် ဖြစ်သော ယာမဘုံ တိုင်အောင် ပေါ်လာသည်။ တာဝတိံသာနှင့် စတုမဟာရာဇ် နတ်ပြည် တို့သည်လည်း မြေကြီးနှင့် ဆက်စပ်နေသော မြင်းမိုရ်တောင်နှင့် ယုဂန္ဓိုရ် တောင်ထိပ်တို့တွင် တည်ရှိသဖြင့် ချက်ချင်း ပေါ်လာခြင်း မရှိချေ။ တစ်ဖန်ပြန်၍ ပေါ်ပေါက်လာသော ဗြဟ္မာဘုံနှင့် နတ်ဘုံတို့၌ အထက်ဗြဟ္မာဘုံတို့မှ ဗြဟ္မာတို့သည် စုတေကြကာ ပေါ်ပေါက်လာ သော ဘုံများ၌ ဖြစ်လာကြသည်။

မူလ တည်ရှိသော မျက်နှာပြင်သို့ တိုင်အောင် ရေများ ကျဆင်း သွားသော အခါတွင်ကား နွားနို့အိုး မျက်နှာပြင်၌ တက်အံ့သော မလိုင်များကဲ့သို့ မြေဆီလွှာများ ပေါ်လာသည်။ မဟာလှေကားပန်း အဆင်းရှိသော မြေဆီမြေနှစ်များသည် ပျားရည် ထောပတ်ကဲ့သို့ပင် ချိုဆိမ့်သော အရသာ ရှိသည်။

ကမ္ဘာသည် ဘုရားပွင့်သော ကမ္ဘာနှင့် ဘုရားမပွင့်သော သုည ကမ္ဘာ ဟူ၍ ရှိသည်။ ဘုရားပွင့်သော ကမ္ဘာတွင် ဇမ္ဗူဒီပါ တောင်ကျွန်း၏

အလယ်တည့်တည့်၌ ရှိသော အဝန်းယူဇနာ ကိုးရာ ရှိသည့် ဗဟို အချက်အချာသည် ဗောဓိပင်နှင့် ပလ္လင်တော် ရတနာ တည်ရှိရာ ဖြစ်၍ ဘူမိနက်သန်နေရာ ဖြစ်သည်။ ဤနေရာသည် ကမ္ဘာပျက်သော အခါ နောက်ဆုံးမှ ပျက်စီးသွားပြီး ကမ္ဘာတည်သော အခါတွင်လည်း ရှေးဦးစွာသာလျှင် ဖြစ်ပေါ်ရမြဲဖြစ်၏။ ကမ္ဘာတည်သော အခါ ဤ အရပ်၌ ပေါက်ရောက်လာသော ကြာပဒုမ္မာပင်မှ ကြာပွင့်သက်န်းစုံကို ကြည့်ရှု၍ ဤကမ္ဘာသည် သုညကမ္ဘာလော၊ မဂ်ဖိုလ်နိဗ္ဗာန် ချမ်းသာ အတွက် စည်ပင်ဝပြောမည့် ဘုရားပွင့်သော ကမ္ဘာလော ခန့်မှန်း ကြရသည်။

ဤသို့လျှင် ကမ္ဘာအသစ် ဖြစ်တိုင်း ဖြစ်တိုင်း သုဒ္ဓါဝါသ ဗြဟ္မာကြီးတို့သည် ကမ္ဘာဦး ဗုဒ္ဓနိမိတ်ကို ဖတ်ကြား၍ ပညတ် သမုတ် ကြကုန်၏။ ကြာတစ်ပွင့်တွေ့လျှင် ဘုရားတစ်ဆူတည်း ဤကမ္ဘာတွင် ပွင့်မည်၊ နှစ်ပွင့် တွေ့မြင်လျှင် နှစ်ဆူ၊ သုံးပွင့်တွေ့လျှင် သုံးဆူ၊ လေးပွင့်တွေ့လျှင် လေးဆူ၊ ငါးပွင့်တွေ့လျှင် ဘုရားငါးဆူ ပွင့်မည် ကမ္ဘာများအဖြစ် သိရှိကာ သာရကပ်၊ မဏ္ဍကပ်၊ သာရမဏ္ဍပ်ကပ်၊ ဘဒ္ဒကပ်ဟု သတ်မှတ်ကြသည်။ ယခုကမ္ဘာတည်စဉ်၌လည်း ဗြဟ္မာကြီး တို့သည် ကြာငါးပွင့်ကို တွေ့ရှိသဖြင့် ကကုသန်၊ ကောဏာဂုံ၊ ကဿပ၊ ဂေါတမ၊ အရိမေတ္တေယျ ဟူသော ဘုရားငါးဆူ ပွင့်တော် မူမည်ဟု ဝမ်းသာရွှင်လန်း ကြလေသည်။

ဤဘဒ္ဒကမ္ဘာမှစ၍ နောက်သို့ပြန်၍ ရေတွက်လိုက်သည် ရှိသော် လေးအသင်္ချေနှင့် တစ်သိန်းသော ကမ္ဘာများ အနက် တစ်ဆယ့်တစ် ကမ္ဘာ တို့တွင်သာလျှင် ဘုရားပွင့်တော်မူခဲ့ရာ အားလုံးပေါင်း နှစ်ဆယ့်

ရှစ်ဆူ ရှိသည်။ ကျန်သော ကမ္ဘာပေါင်း လေးအသင်္ချေနှင့် ကိုးသောင်း ကိုးထောင် ကိုးရာ ရှစ်ဆယ့်ကိုး ကမ္ဘာသည်ကား ဘုရားပွင့်ခြင်း မရှိသော သုည ကမ္ဘာများ ဖြစ်သည်။

ပွင့်တော်မူပြီးသော ဘုရားနှစ်ကျိပ် ရှစ်ဆူတို့သည်ကား ပထမ အသင်္ချေအတွင်း ကာလ၌ သာရမဏ္ဍကပ် ကမ္ဘာတွင် တဏှင်္ကရာစသော ဘုရားလေးဆူ၊ ဒုတိယ အသင်္ချေအတွင်း ကာလတွင် သာရကမ္ဘာ၌ ပွင့်တော်မူသော ကောဏ္ဍည ဘုရားတစ်ဆူ၊ တတိယ အသင်္ချေအတွင်း ကာလ၌ သာရမဏ္ဍကပ် ကမ္ဘာတွင် မင်္ဂလာစသော ဘုရားလေးဆူ၊ စတုတ္ထ အသင်္ချေအတွင်း ကာလတွင် သာရကပ်ကမ္ဘာ၌ အနောမဒဿီ စသော ဘုရားသုံးဆူ၊ ကမ္ဘာတစ်သိန်း ထက်တွင် သာရကပ်ကမ္ဘာ၌ ပွင့်တော်မူခဲ့သော ပဒုမုတ္တရ ဘုရားတစ်ဆူ၊ ကမ္ဘာသုံးထောင်ထက်တွင် မဏ္ဍကပ်ကမ္ဘာ၌သုမေဓာ၊ သုဇာတာ ဘုရားနှစ်ဆူ၊ တစ်ရာတစ်ဆယ့်ရှစ် ကမ္ဘာထက်တွင် ရေကပ်ကမ္ဘာ၌ ပိယဒဿီစသော ဘုရားသုံးဆူ၊ ကိုးဆယ့်လေးကမ္ဘာထက်၌ သာရကပ် ကမ္ဘာတွင် သိဒ္ဓတ္ထ ဘုရားတစ်ဆူ၊ ကိုးဆယ့်နှစ် ကမ္ဘာတွင် မဏ္ဍကပ် ကမ္ဘာ၌ သာရကပ်ကမ္ဘာတွင် ဝိပဿီ ဘုရားတစ်ဆူ၊ သုံးဆယ့်တစ်ကမ္ဘာထက်တွင် မဏ္ဍကပ် ကမ္ဘာ၌ သိခီနှင့် ဝေဿဘူဘုရားနှစ်ဆူ၊ ယခု ဘဒ္ဒကပ် ကမ္ဘာတွင် ကကုသန်၊ ကောဏာဂုံ၊ ကဿပ၊ ဂေါတမ ဘုရားလေးဆူတို့ ဖြစ်သည်။

ကမ္ဘာမြေကြီး ပြန်လည် ပေါ်ထွန်းလာသော အခါ အထက် ဗြဟ္မာဘုံတို့မှ ဗြဟ္မာတို့သည် သက်တမ်း ကုန်ဆုံး၍ လည်းကောင်း၊ ကံကုန်ခြင်းကြောင့် လည်းကောင်း စုတေ၍ လူ့ပြည်သို့ ဆင်းသက်

လာပြီးလျှင် ဥပပါတ် ပဋိသန္ဓေဖြင့် လူဖြစ်လာကြသည်။ ယင်းကမ္ဘာဦး လူတို့သည်ကား ကိုယ်ရောင်ကိုယ်ဝါ ထွန်းတောက်ခြင်း၊ ကောင်းကင် ခရီး သွားနိုင်ခြင်း အသက်အသချေ်ယျ ရှည်ခြင်း၊ အစာအာဟာရကို မမှီဝဲဘဲ နေနိုင်ခြင်း၊ ယောကျ်ား မိန်းမ ဟူ၍ ဘာဝနိမိတ် မရှိဘဲ ပကတိအတိုင်း တည်ရှိခြင်း စသော ဂုဏ်အင်္ဂါများ ရှိသည်။ ထိုအချိန်တွင် နေလဂြိုလ်၊ နက္ခတ်တာရာ တို့သည်လည်း မရှိသေးချေ။ ကမ္ဘာမြေကြီး သည်လည်း ပုံသွန်းလောင်းထားအပ်သော ထောပတ်ကဲ့သို့ သိမ်မွေ့ နူးညံ့သော မြေဆီလွှာများ ရှိနေသေးသည်။

တစ်စုံတစ်ယောက်သော ကမ္ဘာဦးလူသည် မြေဆီလွှာကို လျှာပေါ်တင်၍ အရသာ ခံစားလေသောအခါ ကိုယ်ရောင်ကိုယ်ဝါတို့မှာ ကွယ်ပျောက်သွားသဖြင့် တစ်ကမ္ဘာလုံး၊ မှောင်အတိ ဖုံးလွှမ်းလျက် ရှိသည်။ ကမ္ဘာဦး လူတို့ သည်လည်း အလွန်တရာ ကြောက်ရွံ့ တုန်လှုပ်ခြင်း ဖြစ်ကြသည်။ ထိုစဉ် ယူဇနာ တစ်ထောင်အလင်းကို ဆောင်နိုင်သော တနင်္ဂနွေဂြိုလ် နေမင်းကြီး ပေါ်ထွက်လာရာ ကမ္ဘာဦး လူများမှာ ဝမ်းသာအားရ ဖြစ်ကြသည်။ နေမင်းကြီး ပေါ်ထွက်လာသဖြင့် ကြောက်စိတ်များ ပြယ်ပျောက်ကာ ရဲရင့်စိတ်များကို ရရှိသဖြင့် သူရိယဟု အမည်ပေးကြသည်။

သူရိယ နေမင်းကြီး ထွက်ပေါ်လာပြီး နာရီပေါင်း ၃၀ ကြာသော အခါ ထိုသူရိယ နေမင်းသည် အနောက် ယုဂန္ဓိုရ် တောင်သို့ ဝင်သွားလေသော် မှောင်မိုက်ထုက လွှမ်းမိုးလာပြန်သည်။ ကမ္ဘာဦး ကူသားတို့မှာ အလင်းရောင်ကို တောင့်တကြပြန်ရာ တနင်္လာဂြိုဟ် လမင်းကြီး ပေါ်လာသည်။ လူသားတို့၏ ဆန္ဒအတိုင်း တောင့်တ၍

ပေါ်ထွက်လာရသည်ဟု ယူဆကာ လမင်းကို 'ဆန္ဒ'ဟု အမည်ပေးကြသည်။ ကာလ ရွေ့လျော၍လာရာ 'ဆန္ဒ'မှ 'စန္ဒာ'ဟု ခေါ်ဝေါ်ကြသည်။ ထိုနေ့သည်ကား တပေါင်းလပြည့်နေ့ ဖြစ်သည်။ နေနှင့် လတို့ ပေါ်ထွက်လာသည့် နေ့မှာပင် တာဝတိံသာ နတ်ပြည်၊ စတုမဟာရာဇ်နတ်ပြည်၊ မြင်းမိုရ်တောင်၊ ဟိမဝန္တာတောင်၊ ကျွန်းကြီးကျွန်းငယ် သမုဒ္ဒရာနှင့် အပါယ်လေးဘုံတို့သည် မရေးမနှောင်း ဖြစ်ပေါ်လာကြသည်။ ရာသီဥတုလည်း ဖြစ်ပေါ်လာသည်။

ကမ္ဘာဦးလူတို့တွင် လောဘရမ္မက် ထူပြောလာလေရာ မြေဆီမြေနှစ်တို့မှာ ခန်းခြောက် ကွယ်ပျောက် သွားကြသည်။ ပဒါလတာ အမည်ရှိသော နွယ်ချိုကို စားသောက်ကြပြန်သည်။ ထိုနွယ်ချိုတို့ ကွယ်ပျောက်ပြန်သောအခါ သလေးဆန်တို့ကို စားသောက်ရပြန်သည်။ ကာမမရာဂစိတ် ပြင်းထန်လာသောအခါ ယောကျ်ား၊ မိန်းမအသွင်တို့သည် ထင်ရှားစွာ ဖြစ်ပေါ်လာကြသည်။ လောဘဒေါသ စိတ်များ ပြင်းထန်လာရာ အလေ့ကျ ပေါက်သော သလေးစပါးတို့ကို ပုဂ္ဂလိက ပိုင်အဖြစ် သတ်မှတ်လာကြပြန်သည်။

တစ်ဖန်လည်း ခိုးဝှက်လုယက်ခြင်း၊ မုသားစကား ပြောဆိုခြင်းများပြားလာရာ လူသားတို့၏ အပြင်းပွားမှုများကို စီရင်ဆုံးဖြတ်နိုင်မည့် ပုဂ္ဂိုလ် တစ်ဦးကို အစိုးရသော မင်းအဖြစ် တင်မြှောက်ရွေးချယ်ကြရန် စည်းဝေးတိုင်ပင်ကြသည်။ ထိုပုဂ္ဂိုလ်သည် ကဲ့ရဲ့ရှုတ်ချသင့်သူကို အရေးယူ ရှုတ်ချပေးရမည် ဖြစ်၍ သူ့အား အထောက်အပံ့ ဖြစ်စေရန် အခြားသူများ၏ သလေးစပါးများ ထွက်နှုန်းမှ ဆယ်ပုံ တစ်ပုံကို ပေးအပ်ကြရန် သဘော တူကြသည်။ သီလ သမာဓိ

ပညာနှင့်ပြည့်စုံသော ပုဂ္ဂိုလ်ကို ရှာကြံရာ အဆင်းဂုဏ်ဝါ ဘုန်းတန်ခိုး အာဏာနှင့် ပြည့်စုံသော ဂေါတမ ဘုရားလောင်းတော်ကို တွေ့ရှိ၍ တောင်းပန်ကြပြီးလျှင် ဘိသိက်သွန်း၍ မင်းမြှောက်ကြလေသည်။

ထိုမင်းကို ကမ္ဘာဦး လူတို့က သမုတ်ကြသောကြောင့် မဟာသမ္မတဟူ၍ ခေါ်ဆိုကြသည်။ ဘုရားအလောင်း မဟာသမ္မတမှစ၍ ရေထွက်လာခဲ့သော မင်းပေါင်း သုံးသိန်းသုံးသောင်း လေးထောင့် ငါးရာ ခြောက်ဆယ့်ကိုးသို့ ရောက်သောအခါ ဂေါတမ ဗုဒ္ဓဘုရားဖြစ်မည့် သိဒ္ဓတ္ထမင်း ဖြစ်လာလေသည်။

## ဂေါတမဗုဒ္ဓဘုရား

အချိန်ကာလ ဤရွေ့ဤမျှဟု ရေတွက်ခြင်းမှာ မတတ်နိုင်သော မဟာကပ် ကမ္ဘာအပေါင်း အသင်္ချေယျတို့ အနက်မှ ခုနစ်ခုသော အသင်္ချေအတွင်း၌ ပွင့်တော်မူကြကုန်သော ဗြဟ္မာဒေဝ အစရှိသည့် တစ်သိန်းရှစ်သောင်း ငါးထောင်ကုန်သော ဘုရားရှင် တို့ကို ဂေါတမ ဗုဒ္ဓ ဘုရား လောင်းလျာသည် ဖူးမြင် တွေ့ကြုံခဲ့ရလေသည်။ ထို ဘုရားရှင်တို့၏ ဓမ္မဒေသနာကို ကြားနာရလေလျှင် ဘုရား ဖြစ်လို သော စိတ်ဆန္ဒ ဖြစ်ပေါ်လာ၍ ပါရမီဆယ်ပါး ပရိစ္စာဂ ငါးပါးတို့ကို တစ်စတစ်စ ဖြည့်ဆည်းတော်မူလေသည်။

နောက်တစ်ဖန် ကိုးအသင်္ချေသော ကာလအတွင်း ပွင့်တော် မူကြကုန်သော ပေါရာဏသက္ကျ ဂေါတမ အစရှိသည့် သုံးသိန်းရှစ်သောင်း ခုနစ်ထောင် ကုန်သော ဘုရားရှင်တို့နှင့် တွေ့ကြုံရပြန်သည်။ ထို ဘုရားရှင်တို့ကို ပစ္စည်းလေးပါး တို့ဖြင့် ပူဇော်မှုကို ပြုလုပ်ရ၍

တရားတော်ကို နာရသဖြင့် နောင်သောအခါ ငါသည်လည်း လူတွင်ထင်ရှား ဘုရားစင်စင် ဖြစ်ပါစေကြောင်းကို ဆုတောင်းပံ့ထွနာပြုတော်မူလေ၏။ ဤသို့ဖြင့် ပါရမီဆယ်ပါး၊ ပရိစ္စာဂ ငါးပါးတို့ကို အမြဲကြိုးစား အားထုတ်လေ၍ ပါရမီ အဆောက်အအုံ ရင့်မာလာသောအခါ ဤကမ္ဘာမှစ၍ ပြန်ရေတွက်သော် လေးအသင်္ချေနှင့် ကမ္ဘာတစ်သိန်းထက်၌ သုမေဓာ ရှင်ရသေ့ အဖြစ်သို့ ရောက်ရှိတော် မူလေသည်။

ထိုလေးအသင်္ချေနှင့် ကမ္ဘာတစ်သိန်းထက်တွင် ပွင့်တော်မူခဲ့ပြီးသော နှစ်ကျိပ်ရှစ်ဆူသော ဘုရားရှင်တို့အနက် ဒီပင်္ကရာ ဘုရားလက်ထက်တွင် နိယတဗျာဒိတ်ကို ခံယူ ရရှိလေသည်။ ထိုအချိန်မှစ၍ ဗောဓိသမ္ဘာရ အပေါင်းကို ဖြည့်ဆည်းကြတော် မူခဲ့ရာ ယခုဘဒ္ဒကမ္ဘာထက်တွင် မဟာသမ္မတမင်း၊ သုဒဿနဝရ မန္ဓာတ်မင်း၊ မာဃဒေဝမင်း၊ နေမိမင်း၊ တေမိမင်း၊ သိဝိရာဇ်မင်း၊ စန္ဒကုမာရ၊ မဟာဂေါဝိန္ဒ၊ အကိတ္တိပြဟ္မဏ၊ သင်္ခပြဟ္မဏ၊ ဓနဥ္စယ၊ သသရာဇာ ဟတ္ထိနာဂ၊ ဘူရိဒတ္တ၊ စမ္ပေယျ၊ ရုဠဗောဓိ၊ မဟိံသ၊ ရုရုမိဂ၊ မာတင်္ဂ၊ ဂမ္ဘာစမ္ပ၊ ဓယဒိသ၊ သင်္ခပါသ၊ ယုဝဉ္စယ၊ သောမနဿ၊ အယောဃရ၊ သောဏာဒန္တ၊ ကပိရာဇ၊ သန္ဓယုတ၊ ဝဋ္ဋပေါတက၊ မစ္ဆရာဇ၊ ကဏှာဒီပါယန၊ မဟာသုဘသောမ၊ သုဝဏ္ဏသာမ၊ နေရာဇာ၊ မဟာလောမဟံသ တစ်ကြိမ်စီ အားဖြင့် သုံးဆယ့်ငါးကြိမ် ဖြစ်တော်မူပြီးသော် ရင့်မာသဖြင့် ဘုရား မဖြစ်မီ နောက်ဆုံး လူ့ဘဝဖြစ်သော ဝေဿန္တရာမင်း၏ အဖြစ်သို့ ရောက်တော်မူလေသည်။

ဝေဿန္တရာမင်း အဖြစ်မှ စုတေလေသော် တုသိတာနတ်ပြည်၌ သေတကေတု အမည်ရှိသော နတ်မင်းဖြစ်၍ နတ်တို့၏ အရေးအတွက်

အားဖြင့် အနှစ်လေးထောင်၊ လူတို့၏ အရေအတွက်အားဖြင့် သက်တမ်းနှစ်ငါးဆယ် ခုနစ်ကုဋေ၊ ခြောက်သန်းစေ့အောင် စည်းစိမ်ခံစား၍ နေလေသည်။

လူ့ပြည်တွင် အနှစ် တစ်ထောင်ခန့်ကပင် ဘုရားပွင့်တော်မူမည်ဟု အုတ်အော်သောင်းတင်း ဗုဒ္ဓကောလာဟလ ဖြစ်လျက်ရှိနေလေရာ စကြာဝဠာ တစ်သောင်း အတွင်းရှိ သိကြား နတ် ဗြဟ္မာအပေါင်းတို့က လေ့လာ ရှုမျှော်ကြသော် အလောင်းတော် နတ်သားကို တွေ့မြင်ကြသည်။ အလောင်းတော် နတ်သားထံ ချဉ်းကပ်၍ လူ့ပြည်သို့ သက်ဆင်းကာ ဘုရားဖြစ်ရန် အချိန်တန်ပြီ ဖြစ်ကြောင်း တောင်းပန်တိုက်တွန်း ပြောဆိုကြလေသည်။ အလောင်းတော် နတ်သားကလည်း ဘုရားဖြစ်ထိုက်သော ကာလ ဟုတ်မဟုတ်၊ ဖြစ်ရန် နေရာကျွန်း၊ ဖြစ်ရာ အရပ်ဒေသ၊ ဖြစ်ရမည့် အမျိုးအနွယ်နှင့် မယ်တော်၏ အာယုပရိစ္ဆေဒ စသည့် ကြည့်ခြင်း ငါးပါးကို ကြည့်ရှုဆင်ခြင်လေသည်။ လူတို့၏ သက်တမ်းသည် အသင်္ချေယျမှ ဆယ်နှစ်တိုင်အောင် တဖြည်းဖြည်း ယုတ်လျော့သွား၏။ ထိုဆယ်နှစ်မှ တစ်ဖန် အသင်္ချေယျတိုင်အောင် တဖြည်းဖြည်း တက်လာ၏။ ထိုဆုတ်ကပ်တက်ကပ် တစ်ခုကို အန္တရကပ်ဟု ခေါ်သည်။ အသင်္ချေယျမှ တစ်သိန်းအကြားကာလအတွင်း ဖြစ်သော လူတို့၏ သက်တမ်းသည် အလွန် ရှည်ကြာလွန်းသဖြင့် ထိုခေတ်တွင် လူတို့သည် ဇာတိ၊ ဇရာ၊ မရဏတည်းဟူသော ကာလကွာဝေး၍ အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ လက္ခဏာရေးသုံးပါးနှင့် စပ်သော တရားစကားကို ဟောကြားသော်လည်း မယုံကြည်ကြ၊ ထိုကာလမျိုးသည်ကား မြတ်စွာဘုရားတို့ ပွင့်သည့် ကာလမျိုး

မဟုတ်ချေ။ လူတို့၏ အသက် အနှစ်တစ်ရာ ကာလ၏ အောက်တွင်လည်း သတ္တဝါတို့ ကိလေသာ ပြန့်ပြော၍ လောဘ၊ ဒေါသ၊ မောဟတရား အားကြီးသဖြင့် ဟောကြားဆုံးမသော တရားတို့ကို မလိုက်နာ၊ မကျင့်ကြံလိုကြချေ။ ထိုကာလအတွင်းလည်း ဘုရားမပွင့်ကြပေ။

တစ်သိန်းမှ တစ်ရာ သက်တမ်း ရှိသော ကာလတွင်သာ ဘုရားတို့ ပွင့်မြဲဖြစ်သည်။ ယခုလူတို့၏ သက်တမ်းသည် တစ်ရာတမ်း ဖြစ်၍ ဘုရားပွင့်ရန် သင့်တော်သော အချိန်ဖြစ်ကြောင်း တွေ့မြင်လေသည်။ မြင်းမိုရ်တောင်၏ လက်ယာ၌ ရှိသော ဇမ္ဗူဒိပ်ကျွန်းသည်သာ မြတ်စွာဘုရားတို့ ပွင့်ရာ ကျွန်းဖြစ်သဖြင့် ထိုကျွန်း၌ပင် ပွင့်တော်မူရန် ဖြစ်သည်။

ဇမ္ဗူဒိပ်ကျွန်း ၌လည်း မဇ္ဈိမ ဒေသသည် သာလျှင် ဘုရားတကာတို့ ပွင့်ရာ အရပ်ဖြစ်သည်။ အမျိုးလေးပါးတို့တွင် မင်းမျိုးတို့သည်သာ မြင့်မြတ်သော အမျိုးဖြစ်၍ မင်းမျိုးတို့တွင်လည်း သက္ကတိုင်း ကပိလပြည်ကို အစိုးရသော သုဒ္ဓေါဒန မင်းကြီးသည် မဟာသမ္မတမင်းမှ စ၍ သုံးသိန်း၊ သုံးသောင်း၊ လေးထောင့်ငါးရာ ခြောက်ဆယ် ခုနစ်ပါးသော ဥက္ကာဝံသ၊ မဟာဝံသ၊ အသမ္ဘိန္န၊ ခတ္တိယအစစ် ဖြစ်သည်။ ထိုမင်း၏ မိဖုရားဖြစ်သော သီရိမဟာမာယာသည်လည်း အယုတ်တရားမှ ကင်းလျက် ငါးပါးသီလတရား ရှိသဖြင့် အမိဖြစ်ထိုက်သူ ဖြစ်သည်။ ထို့ကြောင့် သေတကေယတု နတ်သားသည် နန္ဒဝန် ဥယျာဉ်သို့ ဝင်ပြီး စုတေကာ မိဖုရား သီရိမဟာမာယာ၏ ဝမ်းတိုက်၌ ပဋိသန္ဓေစွဲ၍ တည်လေသည်။

စာပေဟောင်းလေးအိုးကြီး

မဟာဆွေတော်စဉ်သည်ကား ကပိလဝတ် ပြည့်ရှင် ဇယသေန မင်းကြီး၏သား သီဟ ဟနုမင်းနှင့် ဒေဝဒဟ ပြည့်ရှင် ဩက္ကာကရာဇ် မင်း၏ သမီး ဘဒ္ဒကဋ္ဌနာတို့ကို စုံဖက်ရာမှ သားတော် သုဒ္ဓေါဒန မင်းကြီးကို ဖွားမြင်သည်။ ကပိလဝတ် ထီးနန်းကို ဆက်ခံစိုးစံသော သုဒ္ဓေါဒန မင်းကြီးနှင့် ဒေဝဒဟ မင်းသမီး သိရိမဟာမာယာဒေဝီတို့ စုံဖက်ရာတွင် သားတော် သိဒ္ဓတ္ထ မင်းသားကို ဖွားမြင်သည်။

အလောင်းတော် သေတကေတု နတ်သားသည် စုတေ၍ မယ်တော်မာယာ၏ ဝမ်းတိုက်၌ ပဋိသန္ဓေ တည်နေသော နေ့သည်ကား မဟာသက္ကရာဇ် ၆၇–ခု၊ ဝါဆိုလပြည့် ကြာသပတေးနေ့ ဖြစ်၍ ဖွားမြင်တော် မူသော နေ့သည်ကား ၆၈–ခု၊ ကဆုန်လပြည့် သောကြာနေ့ ဖြစ်သည်။ (ခရစ်တော် မပေါ်မီ သက္ကရာဇ် ၅၆၇–ခုနှစ် ဖြစ်သည်။

မဟာသက္ကရာဇ်သည်ကား သိဒ္ဓတ္ထမင်းသား၏ ဘိုးတော် (သိရိ မဟာ မာယာ၏ ခမည်းတော်) အဉ္ဇနမင်းကြီးနှင့် ဒေဝိလရသေ့တို့ တိုင်ပင်၍ ဖြိုခွင်းပစ်လိုက်သော သက္ကရာဇ် ၆၄၅ခုမှ ၂–ခုကို အကြွင်းထား၍ တိုးတက်လာသော သက္ကရာဇ် ဖြစ်သည်။

ဘုရားအလောင်းတော် ပဋိသန္ဓေ ယူချိန် မယ်တော် မာယာ သည်လည်း အိပ်မက်မြင်မက်သည်။ စတုမဟာရာဇ် နတ်မင်းကြီး လေးယောက် တို့သည် မယ်တော် မာယာ၏ အိပ်ရာ သလွန်ကို ဟိမဝန္တာသို့ ယူဆောင်လျက် ဆေးဒါန်း၊ မြင်းသီလာ ကျောက်ဖျာ အပြင် အင်ကြင်း ပင်ကြီး၏ အောက်၌ ချထားရာ နတ်မိဖုရား လေးယောက်တို့က ရေမိုးချိုးကာ ပန်းနံ့သာတို့ဖြင့် ဆင်ယင်လျက် ငွေတောင်ထိပ်၌ ရှိသော ရွှေဗိမာန်သို့ ဆောင်၍ အိပ်စေ၏။ ထိုအခါ

ငွေသားကဲ့သို့ ဖြူစင်သော ဆင်ပြောင် ရတနာသည် မြောက်အရပ်မှ လာလတ်၍ မယ်တော်မာယာ၏ လက်ယာနံပါးမှလုစ်၍ ဝင်သည်ကို အိပ်မက်လေသည်။ ၃၂ပါးသော ပုဗ္ဗနိမိတ်တို့သည်လည်း ထင်ကုန်လျက် စကြဝဠာ တိုက်တစ်ထောင် အတွင်း၌ မြေတုန်လှုပ်လေသည်။

ပဋိသန္ဓေ ယူပြီးနောက် ဆယ်လစေ့သော အခါ မယ်တော် မဟာမာယာသည် ဆွေတော်မျိုးတော် မယ်တော်နှင့် ခမည်းတော် တို့၏ နေရာဖြစ်သော ဒေဝဒဟပြည်သို့ သွားလိုသော စိတ်ဆန္ဒ ဖြစ်ပေါ်လာသည်။ သုဒ္ဓေါဒန မင်းကြီးထံ လျှောက်ကြား၍ သွားခွင့် ပြုသောအခါ စစ်အင်္ဂါလေးပါး၊ ဝန်းရံစေလျက် ရွှေထမ်းစင်ကိုစီးကာ ထွက်ခွာလာသည်။

ကပိလဝတ်ပြည် နှင့် ဒေဝဒဟပြည် အကြားရှိ အင်ကြင်း တောသို့ ရောက်သောအခါ ဝင်ရောက် ကစားလိုသဖြင့် ရွှေထမ်းစင်မှ ဆင်းကာ အင်ကြင်းပင်အောက်သို့ ဝင်ရောက်ခဲ့သည်။ ထိုနေရာ၌ပင် သိဒ္ဓတ္ထမင်းသားကို ဖွားမြင်သည်။ ထိုခဏ၌ပင် မြေကြီး တုန်လှုပ် လျက် အံ့ဖွယ်သရဲ အတိတ်နိမိတ်တို့ ထင်ကုန်၏။

အလောင်းတော် မင်းသားသည် အရှေ့အရပ်သို့ မျက်နှာမူကာ ရပ်ပြီးနောက် မြောက်အရပ်ဘက်သို့ လှည့်တော် မူလျက် ခုနစ်ဖဝါး သွား၍ ရပ်တန့် ပြီးသော် "ငါကား လောကကြီး၏ အမြတ်ဆုံး ဖြစ်ပြီ၊ ငါကား လောကကြီး၏ အချီးအမွမ်းအပ်ဆုံး ဖြစ်ပြီ၊ ငါကား လောကကြီး၏ အတု မရှိပြီ" ဟူ၍ သုံးခွန်းသော စကားဖြင့် ကြုံးဝါးတော် မူသည်။ အလောင်းတော် မင်းသားနှင့် တစ်ချိန်တည်း တွင် ဘဒ္ဒကစ္စနာ မင်းသမီး ဒေဝဒဟ ပြည်ဘုရင် သုပ္ပဗုဒ္ဓမင်းနှင့်

အမိတာ မိဖုရား တို့တွင် လည်းကောင်း၊ အာနန္ဒာ မင်းသားကို ဘထွေးတော် အမိတောဒနတွင် လည်းကောင်း၊ ဖွားမြင်တော် မူပြီးလျှင် ဆန္ဒအမတ်၊ ကာဠုဒါယီ၊ ကဏ္ဍကမြင်း၊ တို့ကိုလည်း ဖွားမြင်သည်။ မဟာဗောဓိပင်သည်လည်း ပေါက်ရောက်လျက် နန်းတော်အတွင်း၌ ရွှေအိုးကြီးလေးလုံး ပေါ်လာသည်။

ပြည်ကြီး ရှစ်ပြည်မှ ရောက်ရှိလာကြသော ဆွေတော် မျိုးတော်တို့သည် အလောင်းတော် မင်းသားနှင့် မယ်တော် မာယာတို့ကို ကပိလဝတ် ပြည်သို့ ပြန်လည် ပို့ဆောင်သည်။

ထိုအချိန်တွင် သုဒ္ဓေါဒန မင်းကြီး၏ ဆရာဖြစ်သော သမာပတ် ရှစ်ပါးကို ရရှိနေသည့် ကာဠဒေဝိလ ရသေ့သည် တာဝတိံသာ နတ်ပြည်သို့ ရောက်ရှိနေရာ နတ်သားတို့ထံမှ တစ်ဆင့် လူ့ပြည်၌ ဘုရားလောင်း ဖွားမြင်ပြီကို သိရှိသဖြင့် ကပိလဝတ် ထီးနန်းသို့ ရောက်ရှိလာသည်။ သုဒ္ဓေါဒန မင်းကြီးသည် သားတော်ကို ကာဠဒေဝိလ ရသေ့အား ရှိခိုးစေရာ အလောင်းတော် မင်းသား၏ ခြေဖဝါးတော် အစုံသည် လျင်မြန်စွာ ပျံတက်လျက် ရသေ့၏ ဦးခေါင်းထက်၌ တည်နေလေသည်။ ဤသို့ အံ့ဖွယ်သရဲ ဖြစ်သည်ကို မြင်လျှင် ရသေ့သည် မင်းသားငယ်ကို ရှိခိုး ဦးတိုက်လေရာ ဖခင် မင်းတရားသည်လည်း သားတော်ကို ပျပ်ဝပ်ရိုကျိုး ရှိခိုးလေသည်။

ဒေဝိလ ရသေ့သည် ဘုရားလောင်း၏ လက္ခဏာကြီးငယ်တို့ကို ကြည့်ရှုလေရာ ဘုရားကေန် ဖြစ်မည်ကို သိရှိ၍ ဝမ်းသာရွှင်လန်းကာ ပြုံးရယ်လေသည်။ သို့သော် မင်းသား ဘုရားဖြစ်သော အချိန်တွင် မိမိမှာ သေလွန်၍ အထက် ရူပဘုံ၌သာ ဖြစ်လတ္တံ့သည်ကို မြင်ပြန်

သဖြင့် ဝမ်းနည်း၍ ငိုကြွေးပြန်လေသည်။ အရှား ဘယ်အချိန် ဖြစ်မည်နည်းဟု မင်းကြီးက မေးရာ မင်းသား အသက် ၃၅နှစ်တွင် ဖြစ်မည်ဟု ဟောကြားပြီး ရသေ့ကြီး ပြန်သွားလေသည်။

ဖွားမြင်ပြီး ငါးရက်မြောက်တွင် သုဒ္ဓေါဒန မင်းကြီးသည် ဗေဒင် သုံးကျမ်းကို တစ်ဖက်ကမ်းခတ် တတ်မြောက်ကြသော ပုဏ္ဏား ၁၀၈ယောက်ကို ဖိတ်ကြားကာ မင်းသားအား အမည်ပေးအံ့သောငှာ လက္ခဏာ နိမိတ်တို့ကို မေးမြန်းလေသည်။ ထိုပုဏ္ဏားတို့ အနက်မှ ပုဏ္ဏား ၇ဦးတို့က မင်းသားသည် စကြာမင်းသော် လည်းကောင်း၊ ဘုရားသော် လည်းကောင်း၊ ဖြစ်မည်ဟု ဟောကြားကြသည်။ ကောဏ္ဍည အနွယ် ဖြစ်သော သုဒတ္တ အမည်ရှိ ပုဏ္ဏား တစ်ယောက်ကမူ မင်းသားသည် ဘုရားဧကန် ဖြစ်လိမ့်မည်ဟု ဟောကြားခဲ့သည်။ မင်းသားသည် ပါရမီ သမ္ဘာရ ရင့်ကျက်နေပြီ ဖြစ်၍ သူအို၊ သူနာ၊ သူသေနှင့် ရဟန်းတို့ကို တွေ့မြင်ရပြီး သတိသံဝေဂ ရကာ တောထွက် လိမ့်မည်ကို လျှောက်ထားခဲ့လေသည်။ မင်းသားကို သိဒ္ဓတ္ထကုမာရဟု အမည်ပေးသည်။

အလောင်းမင်းသားကို ဖွားမြင်ပြီး ၇ရက်မြောက်တွင် မယ်တော် မာယာသည် စုတေကာ ဘုရား မယ်တော်တို့၏ ဖြစ်ရာ တုသိတာ နတ်ပြည်၌ သန္တုသိတ နတ်မင်း ဖြစ်လေသည်။ နန္ဒာ မင်းသား၏ မယ်တော်ဖြစ်သော မိထွေးတော် ဂေါတမီက သိဒ္ဓတ္ထ မင်းသားကို နို့တိုက်၍ မွေးမြူထားသည်။

မင်းသား တစ်လအရွယ် ရှိသောအခါ သုဒ္ဓေါဒန မင်းကြီးသည် လယ်ထွန် မင်္ဂလာ ပွဲရာသို့ မင်းသားကို ခေါ်ဆောင် သွားကာ

ဇမ္ဗူသပြေရိပ်၌ သိပ်ထားသည်။ ထိုစဉ် ဘုရားအလောင်း မင်းသားသည် ထက်ဝယ်ဖွဲ့ထိုင်လျက် အာနာပါန ကမ္မဋ္ဌာန်းကို နှလုံးသွင်း၍ ပထမဈာန်ကို ဝင်စားနေသည်။ မင်းသား၏ အာနုဘော်ကြောင့် ဇမ္ဗူသပြေပင်ရိပ်သည် မပြောင်းမရွေ့ တည်ရှိနေသည်။ ထိုအခြင်းအရာကို တွေ့မြင်ရသော ခမည်းတော် သုဒ္ဓေါဒန မင်းကြီးသည် သားတော်ကို လက်အုပ်ချီလျက် ဒုတိယအကြိမ် ရှိခိုးပူဇော်လေသည်။

မင်းသား ကြီးပြင်းလာသောအခါ သတိသံဝေဂရ၍ တောထွက်ခြင်း မပြုစေလိုဘဲ စကြာမင်းသား ဖြစ်စေလိုသောဆန္ဒကား သုဒေါဒန တွင် ကိန်းဝပ်တည်ရှိနေသည်။ သို့ဖြင့် သူလို၊ သူနာ၊ သူသေနှင့်ရဟန်း အသွင်တို့ကို မမြင်စေရန် စီစဉ်ထားသည်သာမက သတင်းစကားပင် မကြားရအောင် ကြံဆောင်ထားသည်။

သိဒ္ဓတ္ထမင်းသား အရွယ်ရောက်လာသောအခါ ရွှေနန်းသုံးရပ်ကို ဆောက်လုပ်လျက် မောင်းမမိဿံ အခြွေအရံပေါင်း များစွာဖြင့် သတိသံဝေဂ မရနိုင်အောင် ထားရှိသည်။ ဆွေတော်မျိုးတော်တို့ ထံသို့လည်း သမီးကညာများ ပို့ဆက်ရန် အကြောင်းကြားလေသော် ဆွေတော်မျိုးတော်တို့က သိဒ္ဓတ္ထ မင်းသားသည် အဋ္ဌာရသ အတတ်များ ကိုလည်း သင်ကြားခြင်း မရှိဟု ဆိုကြကုန်သည်။ ထို့ကြောင့် အလောင်းတော် မင်းသားသည် အတတ်မျိုးစုံကို တတ်မြောက်ကြောင်း အမျိုးမျိုးသော လေးအတတ်တို့ကို ပြသပွဲ ကျင်းပလေသည်။

ထိုခါတွင်မှ ဆွေတော်မျိုးတော် တို့သည် နိမ့်ချ ကျိုးနွံကာ သမီးကောင်း ရတနာများနှင့် ပဏ္ဏာလက်ဆောင်တို့ကို လာရောက် ဆက်သ ကြကုန်သည်။ ဒေဝဒဟပြည်ကို အစိုးရသော သုပ္ပဗုဒ္ဓမင်း

သည်လည်း သမီးတော် ဘဒ္ဒကဉ္စနာကို ကပိလဝတ်ပြည်သို့ ပို့ဆောင်လေသည်။ ဘဒ္ဒကဉ္စနာကို ယသော်ဓရာ ဗိမ္ဗာဒေဝီဟူသော အမည်ဖြင့် အဂ္ဂမဟေသီအရာ ထားလေသည်။

သိဒ္ဓတ္ထမင်းသား အသက် နှစ်ဆယ့်ရှစ်နှစ် အရွယ်သို့ ရောက်သောအခါ ဥယျာဉ်တော်သို့ ထွက်စံရာတွင် တုသိတာနတ်တို့သည် ဘုရားအလောင်းသတိသံဝေဂရ၍ ရဟန်းပြုချိန်တန်ပြီကို သိရှိသဖြင့် သူအို၊ သူနာ၊ သူသေ၊ ရဟန်း နိမိတ်လေးပါးဟန် ဖန်ဆင်း၍ ပြကြသည်။ ထိုချိန်၌ပင် ယသော်ဓရာဒေဝီတွင် သားတော် ရာဟုလာကို ဖွားမြင်သည်။ မင်းသားသည် သတိသံဝေဂရကာ ဥယျာဉ်တော်သို့ မဝင်ဘဲ ပြန်တော်မူသည်။

သုဒ္ဓေါဒန မင်းကြီးလည်း အစောင့်အကြပ် တိုး၍ချကာ မင်းသားပျော်ရွှင်စေရန် ကချေသည်တို့ဖြင့် အမြဲမပြတ် ဖြေဖျော်ထားသည်။ ညသန်းခေါင်ယံ အချိန်ရောက်သော် ကချေသည်တို့နှင့် မောင်းမမိဿံတို့မှာ အတုံးအရုံး အိပ်ပျော်သွားကြသဖြင့် သုသာန်ခွင်ရှိ လူသေကောင်များကဲ့သို့ ထင်မှတ်တော်မူကာ ကာမဂုဏ်ကိုငြီးငွေ့လေသည်။ ဖွားဖက်တော် ဆန္နအမတ်ကို နှိုးကာ ကဏ္ဍကမြင်းကို စီး၍ တောထွက်တော်မူသည်။

ဘုရားအလောင်းတော် တောထွက်တော်မူသော နေ့သည်ကား မဟာသက္ကရာဇ် ၉၇ခု ဝါဆိုလပြည့် တနင်္လာနေ့ဖြစ်၍ သက်တော် ၂၉နှစ် ရှိပြီဖြစ်သည်။ ဘုရားအလောင်း တောထွက် လာသည်ကို ဝသဝတ္တီ နတ်ပြည်မှ မာရ်နတ်မင်းက လာရောက် တားဆီးသော်လည်း လက်မခံဘဲ ဆက်လက် ထွက်ခွာလာခဲ့ရာ အနော်မာ မြစ်ကမ်းသို့

ရောက်သောအခါ ဆန္ဒအမတ်နှင့် ကဏ္ဍကမြင်း တို့ကို နေပြည်တော်သို့ ပြန်လွှတ်ကာ ဆံတော်ကိုပယ်၍ ရဟန်းပြုလေသည်။

ရဟန်းပြုပြီးနောက် အနုပိယ မည်သော သရက်တော၌ ၇ရက် သီတင်းသုံးတော် မူသည်။ ထိုနေရာမှ ကြွသွားတော် မူလေသော် တစ်ခုသော တောအုပ်သို့ ရောက်သောအခါ လောကီဈာန်ကို စီးဖြန်း၍ နေသော ကာလာမအမျိုး အာဠာရ ရသေ့ထံ ချဉ်းကပ်၍ ဈာန်သမာပတ်ကို နှီးနှောအားထုတ်သဖြင့် လောကီဈာန် ခုနစ်တန်ကို ရရှိသည်။ ထို့နောက် ဥဒကရသေ့ထံ ကပ်၍ အထက်ဈာန်ကို နှီးနှော စီးဖြန်းလေသော် ရှစ်တန်သော သမာပတ်ကို ရရှိသည်။ သို့သော် ဤရှစ်ပါးသော သမာပတ်တို့သည် အလုံးစုံကို သိသော သဗ္ဗညုတဉာဏ် ဖြစ်ပေါ်မှု၏ အကြောင်း မဟုတ်သေးကြောင်းကို သိရှိ၍ အကြောင်းကို ရှာဖွေရန် အထွက် ဉရုဝေလတောအုပ်သို့ ဝင်တော်မူသည်။ ထိုတော၌ ပဥ္စဝဂ္ဂီ ငါးဦးတို့နှင့် တွေ့ဆုံကြသည်။

ပဥ္စဝဂ္ဂီ ငါးဦးတို့၏ အလုပ်အကျွေးဖြင့် ဘုရားလောင်းသည် ခြောက်နှစ်တိုင်တိုင် ပြင်းထန်သောအကျင့်ကို ကျင့်သည်။

တစ်နေ့လုံးသော်မှ ဆွမ်းတစ်လုတ်ဖြင့် လည်းကောင်း၊ သစ်သီး တစ်လုံးဖြင့် လည်းကောင်း၊ နှမ်းစေ့ တစ်စေ့၊ ဆန်တစ်စေ့ဖြင့် လည်း ကောင်း မှီဝဲ၍ ကျင့်လေရာ ခန္ဓာကိုယ် ကြုံလှီရကား လက္ခဏာတော်ကြီး လက္ခဏာငယ်တို့ပင် ကွယ်ပျောက်သွားသည်။ အပင်ပန်း မခံနိုင်၍ အာနာပါန ဈာန်ကို ဝင်စားခြင်း မပြုနိုင်တော့ဘဲ လဲတော်မူသည်။ ဤကဲ့သို့ ပြင်းထန်သော ဒုက္ခရစရိယာကို ကျင့်ခြင်းဖြင့် ဘုရားအဖြစ် ကို မရောက်နိုင်သည်ကို ဆင်ခြင်မိ၍ အာဟာရခာတ်ကို မျှတစေပြီး

ကျင့်ရန်အတွက် မြို့ရွာသို့ ချဉ်းကပ်ကာ ဆွမ်းခံ၍ ဘုဉ်းပေးလေသည်။ ထိုအခါတွင်မှ လက္ခဏာတော် ကြီးငယ်တို့သည် ပြန်ပေါ်လာသည်။

ပဉ္စဝဂ္ဂီ ငါးဦးတို့က သိဒ္ဓတ္ထမင်းသားသည် ခြိုးခြံစွာ ကျင့်လျက်ပင် ဘုရားမဖြစ်ဘဲ ယခု ဆွမ်းဘုဉ်းပေးနေလျှင် ဘယ်တော့မှ ဖြစ်နိုင်တော့မည် မဟုတ်ဟု ယူဆကာ ဘုရားလောင်းကို စွန့်ခွာသွားလျှင် ဣသိပတန မိဂဒါဝုန်တောသို့ ထွက်သွားကြသည်။

ဘုရားလောင်းတစ်ဦးတည်းက ဆက်လက်ကျင့်လေရာ သက္ကရာဇ် ၁၀၃ခု ကဆုန်လဆန်း ၁၄ရက် အင်္ဂါနေ့ညတွင် အိပ်မက်ကြီးငါးပါးကို မြင်သည်။ အိပ်မက်ကို ဆင်ခြင်ကြည့်လိုက်သော အခါ ယနေ့ပင် ဘုရားဖြစ်မည်ဟု ဆုံးဖြတ်နိုင်လေသည်။

ထိုနေ့ နံနက် စောစောတွင် ဆွမ်းခံရန်အတွက် သေနနိဂုံးအနီးရှိ ညောင်ပင်ကြီး တစ်ပင် အောက်သို့ ဝင်ရောက်၍ ထွန်းလင်းသော ကိုယ်ရောင်ဖြင့် တင့်တယ်စွာ စံနေတော်မူသည်။ ထိုစဉ် မဟာသေန မည်သော သူကြွယ်၏ သမီး သုဇာတာသည် ညောင်ပင်စောင့်နတ်ကို ပူဇော်ရန် လာရာ ဘုရားလောင်းကို တွေ့မြင်သဖြင့် ညောင်စောင့်နတ် အမှတ်ဖြင့် ရွှေခွက်နှင့် တကွ ဃနာနို့ဆွမ်းကို ကပ်လှူပူဇော်လေသည်။

နို့ဆွမ်းကို ခံယူတော်မူပြီးနောက် အနီးရှိ နေရဥ္စရာ မြစ်သို့ သွားရောက်၍ ရေချိုးတော်မူကာ အရှေ့ဘက်သို့ မျက်နှာမူလျက် ဃနာနို့ဆွမ်းကို လေးဆယ့်ကိုးလုတ်တိတိ ဘုဉ်းပေးတော် မူသည်။ ထို့နောက် ဘုရားဖြစ်မည် မှန်လျှင် ဤရွှေခွက်သည် ရေညာသို့ ဆန်စေသတည်းဟု အဓိဋ္ဌာန်၍ ရေထဲသို့ မျှောတော်မူလျှင် ရွှေခွက်သည် ရေညာသို့ အတောင်ရှစ်ဆယ်ခန့် ဆန်တက်၍ မြုပ်သွားသည်။

ဆွမ်းဘုဉ်းပေးပြီးသော် ထိုမြစ်အနီးရှိ အင်ကြင်းတောသို့ သီတင်းသုံးတော် မူကာ ကာယဂတာသတိ ဘာဝနာကို စီးဖြန်းသည်။ ညချမ်းသောအခါ မဟာဗောဓိပင် တည်ရှိရာသို့ ကြွတော်မူသည်။ လမ်းတွင် သောတ္ထိယမည်သော မြက်ထမ်းသမားက ကပ်လှူသော မြက်ရှစ်ဆုပ်ကို လက်ခံတော်မူ၍ ဗောဓိပင်သို့ ရောက်သောအခါ မြက်ရှစ်ဆုပ်ကို အဖျားမှကိုင်၍ ကြဲတော်မူလျှင် တစ်ဆယ့်လေးတောင် အပြန့်ကျယ်သော အပရာဇိတပလ္လင် ပေါ်ပေါက်လာသည်။ ထိုပလ္လင်ထက်၌ ထက်ဝယ်ဖွဲ့ခွေ ထိုင်နေတော်မူကာ အာနာပါန ဈာန်ကို ဝင်စားလျက် ဘုရားမဖြစ်သမျှ ဤနေရာက ငါမထပြီဟု နေတော်မူသည်။

ထိုအချိန်တွင် မာရ်နတ်မင်းသည် ဘုရားမဖြစ်နိုင်အောင် လာရောက်၍ အနှောင့်အယှက် ပြုသည်။ ဂိရိမေခလာ အမည်ရှိသော ဆင်ကိုစီး၍ လက်နက်မျိုးစုံ ကိုင်ဆောင်ထားသည့် လက်ရုံးတစ်ထောင်ကို ဖန်ဆင်းလျက် နတ်စစ်သည် ဗိုလ်ပါအပေါင်း ဝန်းရံကာ ဝင်ရောက်တိုက်ခိုက်သည်။ သို့သော် ပါရမီတော် အဟုန်ကြောင့် နေမဝင်မီ မာရ်နတ်ကို အောင်မြင်တော်မူသည်။

မာရ်နတ်ရန်ကို အောင်မြင်ပြီးနောက် ညဉ့်ဦးယံ၌ ပုဗ္ဗေနိဝါသဉာဏ်ကို ရရှိသည်။ ထိုဉာဏ်သည် သတ္တဝါတို့၏ သန္တာန်၌ ဖြစ်ဖူးသော ခန္ဓာအစဉ်၊ အကြောင်းအကျိုးတို့ကို သိမြင်နိုင်သော ဉာဏ်ဖြစ်သည်။ သန်းခေါင်ယံ၌ ဒိဗ္ဗစက္ခုဉာဏ်ကို ရရှိသည်။ ဒိဗ္ဗစက္ခုဉာဏ်သည် ၃၁–ဘုံရှိ သတ္တဝါအပေါင်းတို့၏ ရုပ်ါရုံ အပေါင်းကို ကုန်စင်အောင် သိနိုင်သော ဉာဏ်ဖြစ်သည်။ မိုးသောက်ထအခါတွင်ကား ပဋိစ္စသမုပ္ပါဒ်မှစ၍ အာနာပါန စတုတ္ထဈာန်ကို ဝင်စားကာ ဝိပဿနာကို ပွားရာတွင်

တစ်ထောင့်ငါးရာ ကိလေသာကို ချုပ်ငြိမ်းစေပြီး မဂ်ဖိုလ်ကို ဆင်ခြင်နိုင်သော၊ အလုံးစုံသော တရားကို သိစေတတ်သည့် သဗ္ဗညုတဉာဏ်ကို ရရှိတော်မူသည်။ ဤသို့ဖြင့်သက္ကရာဇ် ၁၀၃ခု ကဆုန်လပြည့် ဗုဒ္ဓဟူးနေ့ အကုန် နေအရဏ်တက်သည်နှင့် လောကသုံးပါး၏ အထွတ်အထိပ်သို့ ရောက်၏။

ဗုဒ္ဓဘုရား အဖြစ်သို့ ရောက်ပြီးသော် ဗောဓိပင်ရှိ ပလ္လင်တော်နှင့် အနီးအနား တစ်ဝိုက်တွင် နေရာ ခုနစ်နေရာတို့၌ တစ်နေရာလျှင် ၇ရက်ကျစီဖြင့် ၄၉ရက်တိတိ သတ္တသတ္တာဟ စံပယ်နေတော်မူသည်။

သတ္တသတ္တာဟ ဌာနမှ ထတော်မူလျှင် ဗုဒ္ဓဘုရား သိတော်မူသော တရားတို့သည် အလွန် ခက်ခဲနက်နဲသဖြင့် ကိလေသာများသော လောကသား တို့သည် နားမလည်နိုင်ရာ ဖြစ်၍ တရားဟောခြင်း မပြုရန် အကြံဖြစ်လေသည်။ ထိုအကြံကို သိသော သဟမ္ပတိဗြဟ္မာမင်းက သတ္တဝါအများ ချမ်းသာရစေရန် တရားဟောပါမည့် အကြောင်း လျှောက်ထား တောင်းပန်သဖြင့် တရားဟောကြားရန် ဆုံးဖြတ်လေသည်။

ထို့ကြောင့် တရားဟောလျှင် ကျွတ်ထိုက်သောပုဂ္ဂိုလ်ကို ရှာကြံလိုက်ရာ ကာလမအမျိုး ဖြစ်သော အာဠာရ ရသေ့ကို သတိရသည်။ သို့သော် အာဠာရ ရသေ့ကား လွန်ခဲ့သည့် ခုနစ်ရက်ကပင် ကွယ်လွန်၍ အာကိဉ္စညာယတန ဘုံ၌ ဖြစ်သည်ကို တွေ့မြင်ရလေသည်။ ထိုရသေ့သော တရားနာရလျှင် တစ်ကြိမ်တည်းဖြင့်ပင် ဘဝပြတ်မည့်အဖြစ်ကို ရှုမြင်သည်။ ထို့နောက် ဥဒက ရသေ့ကို ကြည့်ရှုပြန်သော် ထိုရသေ့သည်လည်း ယမန်နေ့ သန်းခေါင်ယံတွင်ပင် ကွယ်လွန်၍ နေဝသညာ နာသညာယတန ဘုံ၌ ဖြစ်သည်ကို တွေ့မြင်ရလေသည်။

ထို့နောက် တရားဟောအံ့သော သူကို ရှုပြန်ရာ ရှေးက ကျေးဇူး ရှိသော ပဉ္စဝဂ္ဂီ ငါးဦးကို တွေ့မြင်သဖြင့် ထိုပဉ္စဝဂ္ဂီ ငါးဦးရှိရာ မိဂဒါဝုန်တောသို့ ကြွသွားတော်မူသည်။ ထိုတော၌ ပဉ္စဝဂ္ဂီ ငါးဦးတို့ကို တရားဦး ဟောကြားသည်။ ဟောကြားသော တရားသည်ကား ဓမ္မစက္က ပဝတ္တသုတ်ခေါ် သစ္စာလေးပါး တရားဖြစ်သည်။ ဓမ္မစကြာတရား ဟောကြားသော နေ့သည်ကား သက္ကရာဇ် ၁၀၃ခု၊ ဝါဆိုလပြည့် စနေနေ့ ဖြစ်သည်။ ဒေသနာတော်၏ အဆုံး၌ အရှင် ကောဏ္ဍညသည် သောတာပတ္တိဖိုလ်၌ တည်လေသည်။

ထိုအချိန်မှစ၍ မြတ်စွာဘုရားသည် ၄၅ဝါပတ်လုံး နေရာအနှံ့ သို့ လှည့်လည်ကာ သတ္တဝါများ ချမ်းသာရေးအတွက် တရားဓမ္မ ဟောကြား ခဲ့သည်။ မရေတွက်နိုင်သော သတ္တဝါများလည်း သံသရာမှ လွတ်မြောက်သွားခဲ့သည်။ သက်တော် ၈၀အရွယ်၊ ရောက်သောအခါ မြတ်စွာဘုရား ကိုယ်တော်တိုင်ပင် ပရိနိဗ္ဗာန် ပြုသွားသည်။ ပရိနိဗ္ဗာန် စံဝင်သွားသော အချိန်ကာလသည်ကား သက္ကရာဇ် ၁၄၈ခု၊ ကဆုန် လပြည့် အင်္ဂါနေ့ ဖြစ်သည်။ ခရစ်မပေါ်မီ သက္ကရာဇ် ၄၈၇ခုနှစ် ဖြစ်သည်။

မြတ်စွာဘုရား ဝါဆိုတော်မူသော နေရာများမှာ အောက်ပါ အတိုင်း ဖြစ်သည်။

၁။ ပထမဝါ....
မိဂဒါဝုန်တော

၂။ ဒုတိယ၊ တတိယ၊ စတုတ္ထဝါ....
ရာဇဂြိုလ်ပြည် ဝေဠုဝန်ကျောင်း

၃။ ပဥ္စမဝါ....
ဝေသာလီပြည် မဟာဝုန်တော

၄။ ဆဋ္ဌမဝါ....
မကုဋ္ဌတောင် ချယားတော

၅။ သတ္တမဝါ....
တာဝတိံသာ နတ်ပြည်

၆။ အဋ္ဌမဝါ....
ဘဂ္ဂတိုင်း သံသုမာရဂိရိပြည် အင်္ဂါယ သဇနေပုဒ်အနီး

၇။ နဝမဝါ....
ကောသမ္ဗီပြည်၊ ဃောသိတာရုံ၊ ကုက္ကုဋ္ဋာရုံ၊ ပါဝါရိကာရုံ ကျောင်း

၈။ ဒသမဝါ....
ပါလိလေယျက ၊တောအုပ်

၉။ ဧကာဒသမဝါ....
နာဠပုဏ္ဏားရွာ နာဠိကာရုံကျောင်း

၁၀။ ဒွါဒသမဝါ....
ဝေရဥ္စတိုင်း နာဠရ ဘိလူးပိုင် အပင်ရင်း

၁၁။ တေရသမဝါ....
စာလိယတောင်

၁၂။ စုဒ္ဒသမဝါ....
သာဝတ္ထိပြည် ဇေတဝန်ကျောင်း

၁၃။ ပန္နရသမဝါ....
ကပိလဝတ်ပြည် နိဂြောဓာရုံကျောင်း

၁၄။ သောဠသမဝါ....
အာဠဝီပြည် မဟာဝုန်တော

၁၅။ သတ္တရသမဝါ....
ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း

၁၆။ အဋ္ဌာရသမဝါ....
စာလိယတောင်

၁၇။ ဧကူနဝီသတိမဝါ....
စာလိယတောင်

၁၈။ ဝီသတိမဝါ....
ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း

၁၉။ ၂၁ဝါမှ ၃၉ဝါအထိ....
သာဝတ္ထိပြည် ဇေတဝန်ကျောင်း

၂၀။ ဝါ ၄၀မှ ၄၄ဝါအထိ....
ဝိသာခါ၏ ပုဗ္ဗာရုံကျောင်း

၂၁။ ၄၅ဝါ....
ဝေဠုဝရွာ၌ ဝါကပ်သည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန် စံဝင်ချိန်တွင် ရဟန္တာ အရှင်မဟာကဿပသည် အခြားဒေသ တစ်ခုသို့ ရောက်ရှိနေသည်။ ဘုရား ပရိနိဗ္ဗာန် ပြုပြီး ၇–ရက်ကြာသော အချိန်တွင် ရှင်မဟာ ကဿပသည် သံဃာငါးရာနှင့်အတူ ပါဝါပြည်မှ ဘုရား ပရိနိဗ္ဗာန် ပြုရာ ကုသိနာရုံ ပြည်သို့ လာခဲ့ကြသည်။ လမ်းခရီး၌ ဂေါတမ ဘုရားရှင် ပရိနိဗ္ဗာန် ပြုပြီးဖြစ်ကြောင်းကို ကြားသိရသော အခါ ရဟန်း အများအပြား

တို့မှာ ပြင်းထန်စွာ ငိုယိုကြကုန်သည်။ ထိုအခါ အာတုမ ပြည်သား သုဘဒ်အမည်ရှိ ရဟန်းကြီးက ရဟန်းတို့သည် ငိုရန်မလိုကြောင်း၊ ဂေါတမ ပရိနိဗ္ဗာန် ပြုသဖြင့် ကျွတ်လွတ်ကြပြီ ဖြစ်ကြောင်း၊ မိမိတို့ စိတ်တိုင်းကျ နေရတော့မည် ဖြစ်ကြောင်း ပြောဆို လေသည်။

သုဘဒ်ရဟန်း၏ စကားကို ကြားသိရသော ရှင်မဟာ ကဿပ သည် မြတ်စွာဘုရား ပရိနိဗ္ဗာန် စံဝင်ရာသို့ ရောက်ရှိသော အခါ ထိုနေရာ၌ စုဝေးမိသောသံဃာတော် ခုနစ်သိန်းတို့အား သုဘဒ်၏ စကားကို တင်ပြ၍ ထိုသူကဲ့သို့သော အလဇ္ဇီတို့ကြောင့် သာသနာတော် မကွယ်ပျောက်စေရန် မြတ်စွာဘုရား ဟောကြားခဲ့သော သုတ်၊ ဝိနည်း၊ အဘိဓမ္မာတို့ကို သင်္ဂါယနာ တင်ကြရန် အကြံပြုလေသည်။

သံဃာအပေါင်းတို့လည်း ရှင်မဟာကဿပ၏ အကြံကို သဘော တူကြကာ ရှင်မဟာ ကဿပကိုပင် ကြီးမှူးစေ၍ ရဟန္တာ အရှင်ငါးရာ တို့ဖြင့် ပိဋကတ် သုံးပုံတည်းဟူသော ပရိယတ္တိ ဓမ္မတို့ကို နေ့ည ရွတ်ဖတ် သရဇ္ဈာယ်ကာ သင်္ဂါယနာ တင်ကုန်သည်။

သင်္ဂါယနာတင်ပွဲကို အဇာတသတ်မင်းလက်ထက် မဟာသက္ကရာဇ် ၁၄၈ခုနှစ် ဝါခေါင်လပြည့်ကျော်တစ်ရက် ဘုရားရှင် ပရိနိဗ္ဗာန် စံဝင်ပြီး သုံးလတိတိအကြာမှ စတင်၍ တင်ကြရာ ခုနစ်လတိတိ ကြာသည်။ တပေါင်းလပြည့်နေ့တွင် ပြီးစီးသည်။ ဝိနည်းသိက္ခာပုဒ် တို့ကို ရှင်မဟာ ကဿပက မေး၍ ဝိနယဓရ ဆရာအရှင် ဥပါလိ ဖြေကြားသည်။ ဘိက္ခုဝိတင်း ၂၂၇ပါး ရှိ၍ ဘိက္ခုနီဝိတင်း ၄၁၂ပါး ရှိသည်။

သုတ်ကျမ်းများနှင့် အဘိဓမ္မာတို့ကို အရှင်မဟာ ကဿပကပင် မေး၍ အရှင်အာနန္ဒာက ဖြေကြားသည်။ ဒီဃနိကာယ် ၃၄သုတ်၊

ပစ္ဆိမနိကာယ် ၁၅၂သုတ်၊ သံယုတ္တနိကာယ် ၇၇၆၅သုတ်၊ အင်္ဂုတ္တရနိကာယ် ၉၅၅၇သုတ်ဟူ၍ နိကာယ် ၄ခုနှင့် ခုဒ္ဒကပါဌ၊ ဓမ္မပဒ၊ ဥဒါန်း ဣတိဝုတ်၊ သုတ္တနိပါတ်၊ ဝိမာနဝတ္ထု၊ ထေရဂါထာ၊ ထေရီဂါထာ၊ ဇာတ်၊ နိဒ္ဒေသ၊ ပဋိသမ္ဘိဒါမဂ်၊ အပဒါန်၊ ဗုဒ္ဓဝင်၊ စရိယပိဋကတ်တည်း ဟူသော ၁၅ကျမ်းတို့ကို လည်းကောင်း၊ အဘိဓမ္မာ ၇ကျမ်းတို့ကို လည်းကောင်း ဝိနည်း ၅ကျမ်းတို့ကို လည်းကောင်း ထိုမှ ကြွင်းသော စကားတို့ကို ပေါင်း၍ ခုဒ္ဒကနိကာယ်၊ ပေါင်းနိကာယ် ၅ခုဟု သမုတ်လေသည်။ ဤကား ပဌမ သင်္ဂါယနာ တင်ခြင်း ဖြစ်လေသည်။

သင်္ဂါယနာတင်ပွဲ ပြီးသောအခါ အဇာတသတ်မင်းသည် ရှင်မဟာကဿပနှင့် ညှိနှိုင်းတိုင်ပင်၍ မဟာသက္ကရာဇ် ၁၅၀ခုနှစ်မှ ၁၄၈ခုနှစ်ကို ဖြိုကာ သာသနာ သက္ကရာဇ် အဖြစ် သတ်မှတ်၍ ကောဇာသက္ကရာဇ်နှင့် အညီ တည်ထားလေသည်။

သာသနာ သက္ကရာဇ် ၁၀၀ပြည့်မြောက်သော အခါ ဒုတိယ သင်္ဂါယနာ တင်ပွဲကို ဝေသာလီပြည် ကာလာသောကမင်း လက်ထက်တွင် ရှင်မဟာယသတို့ ကြီးမှူး၍ တင်ခဲ့သည်။ (ခရစ်မပေါ်မီ ၄၄၃တွင် ဖြစ်သည်)။ ဒုတိယ သင်္ဂါယနာ တင်ပွဲတွင် ရဟန္တာ ခုနစ်ရာတို့ ပါဝင်ရွတ်ဖတ်ကြပြီး ရှစ်လတိတိ ကြာသည်။

တတိယမြောက် သင်္ဂါယနာကို ပါဋလိပုတ်ပြည် သီရိသောကမင်း လက်ထက်သက္ကရာဇ် ၂၃၅ခုနှစ် (ခရစ်တော် မပေါ်မီ ၃၈၅ခုနှစ်)တွင် အရှင်မောဂ္ဂလိ ပုတ္တတိဿထေရ် ကြီးမှူး၍ တင်ကြသည်။ ထိုပွဲတွင် ရဟန္တာအပေါင်း တစ်ထောင်တို့သည် အသောကာရာမ ကျောင်းတိုက်၌ နယုန်လမှစ၍ တင်ကြရာ ကိုးလကြာမှ ပြီးစီးသည်။

စတုတ္ထမြောက် သင်္ဂါယနာကိုကား သီဟိုဠ်ကျွန်း မလယ ဇနပုဒ်၌ ဝဂ်ဂါမဏိမင်း လက်ထက် သက္ကရာဇ် ၄၅၀ခုနှစ် (ခရစ် မပေါ်မီ ၁၀၁ (ဝါ) ၉၄ခုနှစ်)တွင် တင်ခဲ့ကြသည်။

ပဉ္စမမြောက် သင်္ဂါယနာ တင်ပွဲကို မြန်မာနိုင်ငံ မင်းတုန်းမင်း လက်ထက် မန္တလေးမြို့၌ သာသနာသက္ကရာဇ် ၂၄၁၅ခုနှစ် ခရစ်နှစ် ၁၈၇၁ခုနှစ်)တွင် ကျင်းပခဲ့ပြီး ဆဋ္ဌမ သင်္ဂါယနာကိုလည်း မြန်မာနိုင်ငံတွင် ၂၄၉၈ခုနှစ် ( ခရစ်နှစ် ၁၉၅၄-၅၆ခုနှစ် အတွင်း)တွင် ရန်ကုန်မြို့၌ ကျင်းပခဲ့လေသည်။

## သစ္စာတရား-လေးပါး

ဗုဒ္ဓဘာသာတွင် အကောင်းဆုံး အမွန်မြတ်ဆုံးသော တရားသည်ကား သစ္စာလေးပါး တရားဖြစ်၏။ သစ္စာဆိုသည်မှာ အမှန်တရားဖြစ်၍ အမှန်သစ္စာ လေးပါးပင် ဖြစ်သည်။ သစ္စာလေးပါး တရားသည် ဗုဒ္ဓ၏ ပထမဦးဆုံးသော ဟောပြောချက်တရား ဖြစ်သည်။

သစ္စာလေးပါးကား (၁) ဒုက္ခသစ္စာ (ဝါ) ဆင်းရဲခြင်းအမှန်၊ (၂) သမုဒယသစ္စာ (ဝါ) ဆင်းရဲခြင်း၏အကြောင်း အမှန်၊ (၃)နိရောဓသစ္စာ (ဝါ) အေးငြိမ်းခြင်း အမှန် (၄) မဂ္ဂသစ္စာ၊ (ဝါ) အေးငြိမ်းခြင်း၏ အကြောင်းအမှန်တို့ ဖြစ်သည်။

သံသရာကျင်လည်ကြကုန်သောသတ္တဝါတို့သည် အမှန်တကယ်ပင် ဆင်းရဲနေကြကြောင်းကို ဗုဒ္ဓဘုရားက သိမြင်ခဲ့လေသည်။ လောက၌ သတ္တဝါအဖြစ် မွေးဖွားလာရခြင်း၊ အသက်ရှင်ရန် လုံးပမ်း နေရခြင်း၊ သေဆုံးရခြင်းတို့သည်ကား သတ္တဝါတို့၏ တွေ့ကြုံရသော ဒုက္ခတရား အမှန်ပင် ဖြစ်သည်။

သာမန်အားဖြင့် သတ္တဝါတို့တွင် ရုပ်နာမ်နှစ်ခု ပူးပေါင်းလျက် ရှိသည်။ သို့သော် ဥဒါဘုံရှိ သတ္တဝါတို့အနက် နာမ်သက်သက် ရှိသော သတ္တဝါလည်း ရှိသည်။ ထိုသတ္တဝါတို့ကား အရူပဗြဟ္မာတို့ ဖြစ်သည်။ တစ်ဖန် ရုပ်သက်သက်သာ ရှိသော သတ္တဝါများလည်း ရှိကြသေး၏။ ယင်းတို့ကား အသညသတ် ဗြဟ္မာဘုံရှိ ဗြဟ္မာများပင် ဖြစ်သည်။ ထိုမှ ကြွင်းသော သတ္တဝါ တို့သည်ကား ရုပ်ရော နာမ်ပါ ရှိသော သတ္တဝါများ ဖြစ်သည်။

ရုပ်ဆိုသည်ကား မြင်သော အမာခံကိုယ်ထည် ဒြပ်ပင် ဖြစ်၍ နာမ်မှာမူ ကြံစည်တွေးတောရှိရသော စိတ်နှင့် လှုပ်ရှားပြုပြင်ရသော စေတသိတ်များပင် ဖြစ်သည်။ အရုပ်ဖြစ်ပေါ်မှု အကြောင်းကား ကံ၊ စိတ်၊ ဥတု၊ အာဟာရတို့ ဖြစ်သည်။

ရုပ်နှင့် နာမ်တို့သည် မတည်မြဲဘဲ အမြဲ ဖောက်ပြန်နေသည်။ ရုပ်နှင့်နာမ်တို့ကို ပိုင်ဆိုင်နေသမျှ ကာလပတ်လုံး ဆင်းရဲနေရသည်။ လူတို့သည် နေ့စဉ်နေ့တိုင်းပင် စားသောက်နေထိုင်မှုကို လုပ်ကိုင်ဆောင်ရွက်နေရသဖြင့် ဆင်းရဲနေကြရသည်။ သာမန်ပုဂ္ဂိုလ် ပုထုဇဉ်တို့ ကမူကား ဆင်းရဲသည်ဟု မထင်မှတ်ဘဲ ချမ်းသာသည်ဟု ထင်ကြသည်။

ဤကဲ့သို့ ဆင်းရဲဒုက္ခ ဖြစ်ပေါ်ခဲ့ရသည့် အကြောင်းသည် သမုဒယ သစ္စာဖြစ်၏။ ဆင်းရဲဒုက္ခ ဖြစ်ပေါ်ရသည့် အကြောင်းသည်ကား ရုပ်နာမ်အစု ဖြစ်ပေါ်ရန် ပြင်းပြသော ဆန္ဒပင် ဖြစ်သည်။ လိုချင်မှု တဏှာကြောင့် ဖြစ်သည်။ ဘဝကို စွဲမက်သောတဏှာကြောင့် ဖြစ်သည်။ ထိုသို့ စွဲမက်ရသည့် အကြောင်းကား အဝိဇ္ဇာ ခေါ် အသိပညာ မဲ့မှုကြောင့်ပင် ဖြစ်သည်။

ဆင်းရဲခြင်းကို သိလျှင် ဆင်းရဲခြင်း ကင်းကြောင်းကိုလည်း သိရှိနိုင်သည်။ ဆင်းရဲမှုကင်းသော တရားရှိသည် ဆိုခြင်းသည်လည်း အမှန်တရား ဖြစ်သည်။ ထိုတရားကား နိရောဓသစ္စာပင်တည်း။ ဒုက္ခဆင်းရဲ ပေါ်ပေါက်လာရခြင်းသည် ရုပ်နှင့်နာမ်တို့ကြောင့် ဖြစ်ရာ ရုပ်နှင့် နာမ်တို့၏ ချုပ်ငြိမ်းရာသည် နိရောဓ ဖြစ်သည်။ နိရောဓသည် ချမ်းသာသုခပင် ဖြစ်၏။ နိရောဓ အမှန်တကယ်ရှိနေခြင်းကို အရိယာဖြစ်မှ သိနိုင်သော်လည်း သာမန် လူပုဂ္ဂိုလ်တို့မှာ ဒုက္ခ၏ ဆန့်ကျင်ဘက်သဘောတရားကို မှန်းဆကာ သိရှိနိုင်သည်။

ဆင်းရဲခြင်း၏ ချုပ်ငြိမ်းရာ ဖြစ်သော အမှန်တရားသို့ သွားနိုင်သော လမ်းသည်လည်း ရှိ၏။ ထိုလမ်းကား ဆင်းရဲခြင်း ကင်းအောင် လုပ်နည်းဖြစ်သည်။ ဆင်းရဲခြင်း ကင်းအောင် လုပ်နည်းကို မဂ္ဂသစ္စာဟု ခေါ်သည်။

ဆင်းရဲခြင်း ကင်းအောင် ပြုလုပ်သည့် မဂ္ဂတရားသည် ရှစ်ပါး အပြား ရှိသည်။ ထိုအကျင့်သည် မဇ္ဈိမပဋိပဒါ အလယ်အလတ် ကျင့်စဉ် ဖြစ်သည်။ ယင်းတို့ကား....

(၁) ဖြူစင်သန့်ရှင်း ကောင်းမြတ်မှန်ကန်သော ဉာဏ်အမြင် အယူအဆ ရှိခြင်း (သမ္မာဒိဋ္ဌိ)
(၂) ဖြူစင်သန့်ရှင်း ကောင်းမြတ်သော အကြံအစည် ရှိခြင်း (သမ္မာသင်္ကပ္ပ)
(၃) ဖြူစင်သန့်ရှင်း ကောင်းမြတ်သော ပြောဆိုမှုရှိခြင်း (သမ္မာဝါစာ)
(၄) ဖြူစင်သန့်ရှင်း ကောင်းမြတ်သော အလုပ်ကို လုပ်ကိုင်ခြင်း (သမ္မာကမ္မန္တ)

(၅) ဖြူစင်သန့်ရှင်း ကောင်းမြတ်သော အသက်မွေးမှု ရှိခြင်း (သမ္မာ အာဇီဝ)
(၆) ဖြူစင်သန့်ရှင်း ကောင်းမြတ်သော အားထုတ်မှု လုံ့လရှိခြင်း (သမ္မာဝါယမ)
(၇) ဖြူစင်သန့်ရှင်း ကောင်းမြတ်သော မမေ့လျော့မှု ရှိခြင်း (သမ္မာ သတိ)
(၈) ဖြူစင်သန့်ရှင်း ကောင်းမြတ်သော စိတ်တည်ကြည်မှု ရှိခြင်း (သမ္မာသမာဓိ)

ရှစ်ပါးသော ဤတရားကို ကျင့်ခြင်းဖြင့် ဒုက္ခဆင်းရဲ အေးငြိမ်းရာ နိရောဓတည်း ဟူသော နိဗ္ဗာန်ရွှေပြည်ကို ရောက်ရှိသွားနိုင်ပေသည်။

ဖြူစင် သန့်ရှင်း ကောင်းမြတ်သော ဉာဏ်အမြင် ရှိရမည် ဆိုခြင်းကား သတ္တဝါတို့၏ သဏ္ဌာန်ကို အမှန်အတိုင်း ရှုမြင်နိုင်ရေးပင် ဖြစ်သည်။ သတ္တဝါတို့သည် အဝိဇ္ဇာတရား လွှမ်းခြုံထားမှုကြောင့် အမှန်အတိုင်း မမြင်ကြချေ။ အယူမှားမှုမှ ကင်းဝေးရန် လိုအပ်သည်။ သတ္တဝါတို့သည် ဘဝအဆက်ဆက် ဝိညာဉ်တည်မြဲသည်ဟု ယုံကြည်သော သဿတဒိဋ္ဌိနှင့် သတ္တဝါတို့သည် တစ်ဘဝတည်းနှင့် ဘဝပြတ်စဲ သည်ဟု ယုံကြည်သော ဥစ္ဆေဒဒိဋ္ဌိ အယူတို့မှ လွတ်ကင်းရန် အလွန် အရေးကြီးသည်။

ဖြူစင်သန့်ရှင်း ကောင်းမြတ်သော အကြံအစည် ရှိခြင်း ဆိုသည်မှာ သံသရာမှ ထွက်မြောက်လိုသည့် အကြံမျိုး၊ တစ်ပါးသူကို ချမ်းသာ စေလိုသည့် အကြံအစည်မျိုးနှင့် သူတစ်ပါးကို မေတ္တာရှေ့ထားလိုသည့် အကြံအစည်မျိုး ဖြစ်သည်။

ဖြူစင်သန့်ရှင်း ကောင်းမွန်သော ပြောဆိုမှု ဆိုသည်ကား မဟုတ်မမှန်သော စကားကို ပြောဆိုခြင်း၊ ကြမ်းကြုတ် ခက်ထန်သော စကားမျိုးကို ပြောဆိုခြင်းမှ ရှောင်ကြဉ်ခြင်း၊ အကျိုးမရှိသော စကားကို မပြောဆိုခြင်း၊ ကုန်းတိုက်စကား မပြောဆိုခြင်းတို့ပင် ဖြစ်သည်။

ဖြူစင်သန့်ရှင်းကောင်းမြတ်သောအလုပ် ဟူသည်ကား သူ့အသက်ကို သတ်သောအလုပ်၊ သူ့ဥစ္စာကို ခိုးယူသောအလုပ်၊ မူးယစ်သောက်စားခြင်း အလုပ်တို့မှ ရှောင်ကြဉ်သော အလုပ်ကို ခေါ်ဆိုနိုင်ပေသည်။

ဖြူစင်သန့်ရှင်း ကောင်းမွန်သော အသက်မွေးမှုကား မကောင်းသော အလုပ်ဖြင့် အသက်မွေးမှု မပြုလုပ်ဘဲ မှန်ကန်သော အသက်မွေးဝမ်းကျောင်း အလုပ်ကို ဆိုလိုသည်။

မိမိ၌ ယခင် မဖြစ်ဖူးသော မကောင်းမှုများ မဖြစ်ပေါ်ရအောင် အားထုတ်ခြင်း ဖြစ်ဖူးသော မကောင်းမှုများ ပပျောက်အောင် အားထုတ်ခြင်း၊ မဖြစ်ဖူးသေးသော ကောင်းမှုကုသိုလ် တရားများ ဖြစ်ပွားလာအောင် အားထုတ်ခြင်းနှင့် ဖြစ်ဖူးသော ကောင်းမှုများ တိုးတက်များပြားအောင် အားထုတ်ခြင်းတို့သည် ဖြူစင်သန့်ရှင်း ကောင်းမြတ်သော အားထုတ်လုံ့လပြုမှုပင် ဖြစ်သည်။

မိမိ၏ စိတ်သည် မကောင်းသော ကာမဂုဏ်၌ အာရုံကျက်စား၍ ပျော်ပါးမေ့လျော့ခြင်း မရှိရအောင် ဆင်ခြင်မှုသည် ဖြူစင် သန့်ရှင်း ကောင်းမြတ်သော မမေ့မလျော့မှုပင်တည်း။

ဖြူစင့်သန့်ရှင်း ကောင်းမြတ်သော စိတ်တည်ကြည်မှု ဆိုသည်ကား မိမိ၏ စိတ်ကို ဟိုမှသည်မှ လူးလာ ရွေ့ရှားမှု မရှိစေဘဲ တည်ငြိမ်အောင် ထိန်းသိမ်းထားမှုကို ခေါ်ခြင်း ဖြစ်သည်။

ဤရှစ်ပါးသော တရားတို့ကို စပေါင်း၍ မဂ္ဂသစ္စာဟု ခေါ်ကြသည့်အပြင် သူတော်ကောင်းတို့၏ မြင့်မြတ်သော အကျင့်ဖြစ်၍ ဗြဟ္မာစရိယ အကျင့်ဟုလည်း ခေါ်ဆိုသည်။

မဂ္ဂင်တရားရှစ်ပါးကို အကျဉ်းချုံးလိုက်လျှင် ကောင်းသော ပြောဆိုခြင်း၊ ကောင်းသော လုပ်ကိုင်ခြင်း၊ ကောင်းသော အသက်မွေးခြင်းတို့သည် ကိုယ်နှင့်နှုတ်တို့ကို စောင့်ထိန်းအပ်သော တရားများ ဖြစ်၍ သီလအကျင့်တရား ဖြစ်သည်။

ကောင်းသော အားထုတ်မှု၊ ကောင်းသော မမေ့လျော့မှုနှင့် ကောင်းသော တည်ကြည်မှု တို့သည်ကား စိတ်ဓာတ်စင်ကြည်အောင် ကျင့်ရသော တရားဖြစ်၍ သမာဓိ အကျင့်ဟု ခေါ်ဆိုသည်။ ကောင်းမြတ်သော ဉာဏ်အမြင် အယူအဆ ရှိခြင်းနှင့် ကောင်းသော အကြံအစည် ရှိခြင်း တရားတို့သည် ဆင်းရဲခြင်း၏ အကြောင်းဖြစ်သော ရုပ်နာမ်တို့၏ ကင်းငြိမ်းရာ သိမြင်နိုင်သည့် အတွက် ပညာအကျင့်ဟု ခေါ်သည်။

ထို့ကြောင့် မဂ္ဂင်သစ္စာ၏ အကျဉ်းချုပ် ကျင့်စဉ်မှာ သီလသမာဓိ ပညာဟူသော အကျင့်သုံးပါးပင် ဖြစ်သည်။ ဤအကျင့် သုံးပါးသည် သံသရာမှ လွတ်မြောက်ရေးတရား၊ ရုပ်နာမ်ကြောင့် ခံစားရသော ဒုက္ခမှ ကင်းဝေးရေး တရား၊ နိဗ္ဗာန်ကို မျက်မှောက်ပြုရေး တရားပင် ဖြစ်သည်။

သီလ၊ သမာဓိ၊ ပညာ အကျင့်သုံးပါးတွင် သီလကို ရှေးဦးစွာ ကျင့်ရန် လိုအပ်သည်။ သီလစင်ကြယ်လာမှ သမာဓိနှင့် စိတ်ကို ထိန်းချုပ်ကာ ပညာအမြင်ဖြင့် ဆင်ခြင် သုံးသပ် နိုင်သည်။ ပညာကို အရင်းထား၍ သမာဓိနှင့် သီလတို့ကို ကျင့်နိုင်ကြသော ပုဂ္ဂိုလ်များ

ရှိနိုင်သော်လည်း အလွန်ရှားရှ ထက်မြက်သော ဉာဏ်ရှင် ပုဂ္ဂိုလ်ကြီးများသာ တတ်နိုင်သည်။ သာမန် ပုဂ္ဂိုလ်တို့သည်ကား သီလ ပျက်စီးလျှင် စိတ်ဓာတ်တည်ငြိမ်မှုကို မရနိုင်တော့ဘဲ လမ်းချော်သွားတတ်သည်။ ထို့ကြောင့် သီလကိုသာ ပထမဦးစွာ စင်ကြယ်အောင် ကျင့်သင့်ကြောင်းကို ပညာရှိ အများအပြားက ညွှန်ကြားခဲ့ကြသည်။

ငါးပါးသီလ၊ ဆယ်ပါးသီလ စသည့် သီလ တစ်မျိုးမျိုးကို စောင့်ထိန်းခြင်းသည် လူတို့၏ သီလဝိသုဒ္ဓိ မည်၏။ ရဟန်းတို့တွင်ကား ပါတိမောက္ခသံဝရ၊ ဣန္ဒြိယသံဝရ၊ အာဇီဝပါရိသုဒ္ဓိ၊ ပစ္စယသန္နိဿိတ ဟူသော သီလလေးပါးကို လုံခြုံအောင် စောင့်ထိန်းခြင်းသည် ရဟန်းတော်တို့၏ သီလဝိသုဒ္ဓိ မည်၏။

ဝိပဿနာ လမ်းစဉ်ဖြင့်သာလျှင် မဂ်ဖိုလ်နိဗ္ဗာန်သို့ ရောက်ရှိနိုင်သည်။ ဒါန သက်သက်ဖြင့် လည်းကောင်း၊ သီလ သက်သက်ဖြင့် လည်းကောင်း၊ သမထသက်သက်ဖြင့် လည်းကောင်း မရောက်ရှိနိုင်၊ အမှန်ကား၊ ဒါန၊ သီလ၊ သမထနှင့် ဝိပဿနာတို့ လေးဘက်လေးတန်စုံမှ ရောက်ရှိနိုင်သည်။ ဒါနနှင့် သီလတို့ကြောင့် လူ့ပြည်နှင့် နတ်ပြည်တို့တွင် ဖြစ်ရ၍ စည်းစိမ်ခံစားခွင့် ရရှိနိုင်သည်။

သမထ ဘာဝနာသည်ကား ဗြဟ္မာဘုံ ၂၀တို့သို့ ရောက်ရှိ၍ ဗြဟ္မာကြီးများ ဖြစ်သွားနိုင်သည်။ သမထသည် ဗြဟ္မာဘုံသို့ ရောက်ရှိနိုင်သော ဈာန်သမာပတ် အမျိုးမျိုးကို ရရှိနိုင်သည်။ တေဇစတ္တိ ဆရာတော် ဘုရားကြီး၏ အလိုအရ၊ ဒါန၊ သီလနှင့် သမထတို့သည် မီးရထားတွဲနှင့် တူ၍ ဝိပဿနာ သည်ကား မီးရထား ခေါင်းတွဲနှင့် တူကြောင်း ဥပမာ ပေးထားသည်။ ဝိပဿနာကြောင့်သာ မဂ်ဖိုလ်

ရရှိနိုင်ကြောင်း ပြသခြင်း ဖြစ်သည်။ ဒါန၊ သီလ၊ သမထတို့ကား သူတို့သက်သက်ဖြင့် မရောက်ရှိနိုင်၊ ယင်းသည် အဝိဇ္ဇာ၊ တဏှာ၊ မာန၊ ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာတို့ကို မသတ်နိုင်သောကြောင့် ဖြစ်သည်။ အဝိဇ္ဇာ အသိဉာဏ် မဲ့မှု၊ တဏှာ တပ်မက်မှု၊ မာန ထောင်လွှားမှု၊ ဒိဋ္ဌိ အယူမှားမှုနှင့် ဝိစိကိစ္ဆာ သို့လောသို့လော သံသယ ဖြစ်မှုတို့ ဖြစ်သည်။

ဝိပဿနာလမ်းဖြင့် နိဗ္ဗာန်သို့ သွားလိုသော ပုဂ္ဂိုလ်သည် သီလဝိသုဒ္ဓိ ပြည့်စုံသော အချိန်မှစ၍ ဝိပဿနာတရား၏ အခြေခံဖြစ်သော နာမရူပ ပရိဂ္ဂဟ မိမိသန္တာန်၌ထင်ရှားစွာ ဖြစ်ပေါ်လာသော ရုပ်နာမ်ကို သူ့ပင်ကိုရင်း သဘောမှန်အတိုင်း ရှုမှတ်၍ ဝိပဿနာ အလုပ်ကို အားထုတ်ရသည်။ စိတ္တဝိသုဒ္ဓိ မဖြစ်သေးမီတွင် ပျံ့လွင့်သွားသော စိတ်သည် ရှုမှတ်မှုကြား၌ ဖြစ်ပေါ်တတ်သည်။ သမာဓိအား ကောင်းလာသောအခါတွင်ကား စိတ်ပျံ့လွင့်မှုများ မဖြစ်တော့ဘဲ စိတ်တည်ငြိမ်သွားသည်။ ရုပ်အာရုံတို့ကိုလည်း ပိုင်းခြား၍ သိလာသည်။ ဤသို့ ပိုင်းခြား၍ သိသော ဉာဏ်သည် နာမရူပ ပရိစ္ဆေဒဉာဏ် ဖြစ်သည်။

နာမရူပ ပရိစ္ဆေဒဉာဏ် ရင့်သန်လာသောအခါ ရုပ်နှင့် နာမ်၂မျိုးသာ ရှိကြောင်းကို သိရှိလာသဖြင့် ထိုရုပ်နာမ်၂မျိုးကိုပင် လူပုဂ္ဂိုလ် သတ္တဝါ၊ ငါ၊ သူ၊ ယောကျ်ား၊ မိန်းမ စသည်ဖြင့်၊ ခေါ်ဝေါ်ခြင်း ဖြစ်ကြောင်း၊ ဤရုပ်နာမ် ၂မျိုးမှ တစ်ပါး အခြားသော ငါ၊ ပုဂ္ဂိုလ်၊ သတ္တဝါ၊ ယောကျ်ား၊ မိန်းမဟူ၍ မရှိကြောင်းကို အလိုလို သိရှိလာသည်။ ထိုသို့ သိရှိခြင်းသည် အယူစင်ကြယ်ခြင်း ဖြစ်သော ဒိဋ္ဌိဝိသုဒ္ဓိပင် ဖြစ်သည်။

လူသတ္တဝါတို့၏ ခန္ဓာကိုယ်သည် ရုပ်နာမ် ၂ပါး ဖြင့်သာ တည်ဆောက်ထားခြင်း ဖြစ်သည်။ ရုပ်နှင့်နာမ်တို့သာ အမှန်တကယ်

ရှိသော သစ္စာတရား ဖြစ်သည်။ ပရမတ္ထသစ္စာ ဖြစ်သည်။ ပရမတ်ဟု ခေါ်ကြသည်။ ပုဂ္ဂိုလ်၊ သတ္တဝါ၊ ငါ၊ သူ၍၊ ယောကျ်ား၊ မိန်းမ စသည်ဖြင့် ခေါ်ဝေါ်ခြင်းကား ပညတ် သဘောအရသာ ဖြစ်၏။ ထိုထိုသော ပုဂ္ဂိုလ်၊ သတ္တဝါ၊ သူ၊ ငါ၊ ယောကျ်ား၊ မိန်းမတို့သည် ပရမတ် သဘောအရ မတည်ရှိချေ။

ပရမတ်ဖြစ်သော နာမ်ကို ခွဲခြား ဖော်ပြရလျှင် စိတ်နှင့် စေတသိတ်ဟု ဖြစ်၏။ စိတ်သည် အာရုံကို သိမှုဖြစ်၍ စေတသိတ် သည်ကား စိတ်ကို စေ့ဆော်တတ်သည့်စိတ်၌ ပါဝင် ဖွဲ့စည်းနေသော အချက်တစ်ရပ်ပင် ဖြစ်သည်။

ဗုဒ္ဓ၏ အလိုအရ ဤကမ္ဘာလောကတွင် တကယ်အမှန် ရှိသော ပရမတ်တရားကြီး လေးပါး ရှိသည်။ ယင်းတို့သည်ကား စိတ်၊ စေ တသိတ်၊ ရုပ်နှင့် နိဗ္ဗာန်တို့ပင် ဖြစ်သည်။ ရုပ်သည် (အအေးအပူ စသော ဆန့်ကျင်ဘက် အကြောင်းတို့ကြောင့် ဖောက်ပြန်တတ်သော သဘော)ဖြစ်၍ နိဗ္ဗာန်သည်ကား တပ်မက်ခြင်းမှ ကင်းငြိမ်းမှု ဖြစ်သည်။

ရုပ်သဘောသည် ၂၈မျိုးရှိသည်။ စိတ်သည်ကား ၆–မျိုး၊ ၈၉– မျိုး၊ ၁၂၁မျိုး စသည်ဖြင့် အမျိုးမျိုးရှိသည်။ စေတသိတ်၏ သဘောကို ၅၂မျိုး တွေ့ရှိရမည် ဖြစ်သည်။

## အရိယာ

ဗုဒ္ဓ၏ သာသနာတွင် ပရိယတ္တိသာသနာ၊ ပဋိပတ္တိ သာသနာ၊ ပဋိဝေဓ သာသနာဟူ၍ သာသနာတော် သုံးရပ်ရှိသည်။ ပိဋကတ် စာပေ ကျမ်းဂန်များကို သင်အံ လေ့ကျက် မှတ်သားခြင်းကား ပရိယတ္တိ

သာသနာ မည်၏။ သံသရာမှ လွတ်မြောက်ရေးအတွက် ကမ္မဋ္ဌာန်း ဘာဝနာ တရား အားထုတ်ခြင်းကို ပဋိပတ္တိ သာသနာဟု ခေါ်သည်။ ဝိပဿနာ တရားဓမ္မ အားထုတ်၍ (မဂ်ဖိုလ်နိဗ္ဗာန်ကို သိမြင်ခြင်းသည်) ပဋိဝေဓ သာသနာပင်တည်း။

ကိလေသာတို့ကို ပယ်၍ သံသရာမှ လွတ်မြောက်ရေး တရားကို သိသော ပုဂ္ဂိုလ်ကို အရိယာဟု ခေါ်သည်။ ထိုအရိယာသည် သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာ ဟူ၍ အဆင့်လေးဆင့် ရှိသည်။ သောတာပတ္တိ မဂ်၌ တည်သော ပုဂ္ဂိုလ်၊ သောတာပတ္တိဖိုလ်၌ တည်သော ပုဂ္ဂိုလ်၊ သကဒါဂါမ်မဂ်၌ တည်သော ပုဂ္ဂိုလ်၊ စသည်ဖြင့် ရေတွက်လျှင် အရိယာ ပုဂ္ဂိုလ် ရှစ်ယောက်ရှိသည်။ အရိယာ ပုဂ္ဂိုလ်တို့သည် အစဉ်အတိုင်း အဆင့်ဆင့်သာလျှင် တက်ရောက် ဖြစ်လာနိုင်ပြီး ခုန်ကျော်၍ မဖြစ်နိုင်ပေ။

အရိယာ ပုဂ္ဂိုလ် မဟုတ်သူ (ဝါ) တစ်မဂ်တစ်ဖိုလ် မရသေးသူ များကား ပုထုဇဉ်တို့ပင် ဖြစ်သည်။ လူသာမန်များကို ခေါ်ခြင်းဖြစ်သည်။ ပုထုဇဉ်တွင်လည်း အန္ဓပုထုဇဉ်၊ ကလျာဏ ပုထုဇဉ် ဟူ၍နှစ်ဆင့် ရှိပြန်သေးသည်။

ဉာဘုံတွင် ကျင်လည်နေကြသော သတ္တဝါတို့အနက် အရိယာ ပုဂ္ဂိုလ်တို့မှာ အလွန် နည်းပါးပြီး ပုထုဇဉ် တို့သာ များပြားသည်။ ပုထုဇဉ်သား များပြားရခြင်း သည်လည်း ငါ၊ သူ၊ ယောကျ်ား၊ မိန်းမ ဟူ၍ ဒိဋ္ဌိ မကွဲသောကြောင့် ဖြစ်သည်။

ငါတည်းဟူသော အတ္တဒိဋ္ဌိကြောင့် ခလုတ်ကို မပယ်နိုင်သော ကြောင့် ဖြစ်၏။ ယင်းအတ္တကို မပယ်နိုင်သဖြင့် အဝိဇ္ဇာက ဖုံးလွှမ်း

ထားလျက်ပင် ရှိသည်။ အဝိဇ္ဇာကြောင့် သံသရာဟွင် ကျင်လည်နေကြရခြင်း ဖြစ်သည်။

အရိယာ ပုဂ္ဂိုလ် အရေအတွက်နှင့် ပုထုဇဉ်သားတို့ မည်သည်ကများကြောင်း သိလိုလျှင် သုဂတိဘုံသားများနှင့် ဒုဂ္ဂတိဘုံသားတို့ကို နှိုင်းယှဉ် ကြည့်နိုင်ပေသည်။ လူ့ဘုံ၊ နတ်ဘုံ၊ ဗြဟ္မာဘုံရှိ ဘုံသားများထက် တိရစ္ဆာန် ဘုံသားတို့က အဆမတန် များပြားကြောင်း တွေ့ရှိနိုင်သည်။ ဤတွင် သုဂတိ ဘုံသား အားလုံးမှာ အရိယာများ မဟုတ်ကြသေးချေ။

ပုထုဇဉ်ဘဝက လွတ်မြောက်၍ အရိယာ ဖြစ်ရန်မှာ အတ္တဆိုသော သက္ကာယဒိဋ္ဌိကို သတ်နိုင်ရန် အရေးကြီးသည်။ သက္ကာယဒိဋ္ဌိကို ဖြုတ်နိုင်ရန် ပုဂ္ဂိုလ်သည် ရှေးဦးစွာ သူတော်ကောင်း ဆရာသမားကို ရှာဖွေမှီဝဲ ရန်လိုသည်။ သူတော်ကောင်းတို့၏ တရားကို နာရမည် ဖြစ်၏။ နာရုံသာ နာခြင်းမဟုတ်ဘဲ ကောင်းစွာ နှလုံးသွင်းရမည် ဖြစ်သည်။ လောကုတ္တရာတရား အားလျော်သော အကျင့်ပဋိပတ်များကိုလည်း ကျင့်ကြံရန် လိုအပ်လာသည်။

သူတော်ကောင်းကို မှီဝဲရမည်ဆို၍ သူတော်ကောင်း ဖြစ်ကြောင်း မည်ကဲ့သို့ သိရှိ နိုင်မည်နည်း။ မည်သည့် ပေတံဖြင့် တိုင်းတာ၍ သူတော်ကောင်းကို သိရှိနိုင်မည်နည်း။ သီလစင်ကြယ်ခြင်း၊ အရိုအသေအလေးပြုထိုက်ခြင်း၊ မေတ္တာ တရား ပွားစေတတ်ခြင်း၊ ကောင်းစွာဆုံးမတတ်ခြင်း၊ သည်းခံနိုင်ခြင်း၊ နက်နဲသော တရားကို ဟောကြားနိုင်ခြင်း၊ မသင့်သည်ကို မတိုက်တွန်းခြင်း တည်းဟူသော ဂုဏ်ပုဒ်တို့နှင့် ပြည့်စုံသောသူသည် သူတော်ကောင်း ဖြစ်ကြောင်း သိအပ်သည်။

သူတော်ကောင်းတို့နှင့် တွေ့လျှင် သူတော်ကောင်း တို့၏ သွန်သင် ညွှန်ပြသည့်အတိုင်း လိုက်နာ ကျင့်ကြံကြရသည်။ အရိယာ ၏ ပထမဒုဆင့် ဖြစ်သော သောတာပတ္တိမဂ်ဉာဏ်ကို ရရှိရန်အတွက် ဝိသုဒ္ဓိခြောက်ပါးတည်း ဟူသော စင်ကြယ်ခြင်း တရားခြောက်ပါးကို အစဉ်အတိုင်း ပွားများ ကျင့်ကြံရသည်။

ဝိသုဒ္ဓိ ခြောက်ပါးသည်ကား (၁) သီလဝိသုဒ္ဓိ သီလ စင်ကြယ် ခြင်း၊ (၂) စိတ္တဝိသုဒ္ဓိ စိတ်ဓာတ် စင်ကြယ်စေအောင် သမထရား ပွားများခြင်း၊ (၃) ဒိဋ္ဌိဝိသုဒ္ဓိ အယူစင်ကြယ်စေရန် ရုပ်နာမ်သိအောင် အားထုတ်ခြင်း၊ (၄) ကင်္ခါဝိတရဏ ဝိသုဒ္ဓိ ရုပ်နာမ်၌ ယုံမှားခြင်း ကင်းအောင် ဆောင်ရွက်ခြင်း၊ (၅) မဂ္ဂါ မဂ္ဂဉာဏဒဿန ဝိသုဒ္ဓိမဂ် ဟုတ်မဟုတ် သိအောင် လေ့လာရခြင်း၊ (၆) ပဋိပဒါ ဉာဏဒဿန ဝိသုဒ္ဓိ အကျင့်ဉာဏ် အမြင် စင်ကြယ်အောင် လေ့လာရခြင်းတို့ ဖြစ်သည်။

ရှေးဦးစွာ အခြေခံအားဖြင့် သီလ စင်ကြယ်စေရန် လိုအပ် ပေသည်။ သီလစင်ကြယ်မှသာ အခြား အလုပ်များကို ကောင်းစွာ ကျင့်ကြံနိုင်သည်။ စိတ်ဓာတ်သည်လည်း ကိလေသာ အညစ်အကြေးမှ ကင်းစင် သန့်ရှင်းအောင် ထားရန် လိုအပ်သည်။ ထိုသို့ ကင်းစင်စေရန် အာနာပါန ကမ္မဋ္ဌာန်း အစရှိသော သမထ လုပ်ငန်း လေးဆယ်တို့ကို အားထုတ်ရမည် ဖြစ်သည်။

ဒိဋ္ဌိဝိသုဒ္ဓိကား အနတ္တတရား ထင်ရှားပင် ဖြစ်သည်။ မိမိ၏ ခန္ဓာ၌ ရုပ်နာမ်မှတစ်ပါး အခြား အတ္တဆိုသော အရာမရှိပြာ အမှန် အတိုင်း ထင်ရန် ဖြစ်သည်။ အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ လက္ခဏာရေး

သုံးပါးကို နှလုံးသွင်းရန် ဖြစ်သည်။ အနိစ္စ တရား ထင်လာလျှင် အနိစ္စ မြဲ၏ဟူသော ဒိဋ္ဌိအယူ ပျောက်လျက် လောဘမီး ကင်းငြိမ်းသွား၏။ ဒုက္ခတရား ထင်လျှင် သုခချမ်းသာပါကလားဟု ဒိဋ္ဌိအယူ ပျောက်၍ ဒေါသမီး ကင်းငြိမ်း၏။ အနတ္တ ထင်သောအခါ ငါ၏ကိုယ် မြဲ၏ဟူသော အတ္တဒိဋ္ဌိ ပျောက်ကာ မောဟမီး ကင်းငြိမ်းသွားသည်။ အနိစ္စ၊ ဒုက္ခ၊ အနတ္တတို့သည်ကား ဤရုပ်နာမ်သည် အမြဲမရှိ ဆင်းရဲလှ၏။ အစိုးမရ ပါတကားဟု ရှုမှတ် နှလုံးသွင်းသော တရားပင် ဖြစ်သည်။

ရုပ်နာမ်တို့သည် ရှေးယခင်အခါက ဖြစ်ခဲ့ဖူးသလား၊ နောင်တွင် ဖြစ်ဦးမည်လား စသည်ဖြင့် ယုံမှားခြင်းကိုလည်း ကင်းစင်အောင် ဆောင်ရွက် ရသည်။ ရုပ်နာမ်တို့ ဖြစ်ခြင်း အကြောင်းကို ဆင်ခြင် ရသည်။

ဤသို့ဖြင့် ဝိသုဒ္ဓိ လမ်းစဉ်အတိုင်း ကျင့်၍ ယုံမှားခြင်းကို ကင်းစင်စေသော ဝိသုဒ္ဓိဖြင့် ယုံမှားခြင်းကို ပယ်နိုင်သောအခါ စူဠ သောတာပန် ခေါ် သောတာပန် ကလေးအဖြစ်သို့ ရောက်ရှိသည်။ ဆက်လက်၍ ရှုမှတ်ပြန်သောအခါ သောတာပန် အဖြစ်သို့ ရောက်ရှိနိုင်သည်၊ ဤကား အရိယာ ပထမအဆင့်သို့ ရောက်ရှိပုံတည်း။

သောတာပတ္တိ မဂ်သို့ ရောက်ရှိပြီးသော အရိယာ တို့သည် မိမိတို့၏ သန္တာန်၌ ရှိသော ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာ အားလုံး ချုပ်ငြိမ်း၏။ အတိတ်က ပါလာခဲ့သော မကောင်းမှု ဒုစရိုက် ကံဟောင်းအနန္တနှင့် ရှေးဘဝ ရှိနေသေးလျှင် ထိုဘဝ အဆက်ဆက် မိုက်မဲလတ္တံ့သော ဒုစရိုက်ကံသစ် အနန္တတို့ အားလုံး ချုပ်ပြီးသွားသည်။ အပါယ်ဘဝ

တို့၌ ကျင်လည်ရခြင်း မရှိတော့ဘဲ ကျွတ်လွတ် သွားတော့သည်။ ဤဘဝပြီး နောက်တွင် လူ့ဘုံ၊ နတ်ဘုံ၊ ဗြဟ္မာဘုံ ဟူသော သုဂတိဘုံတို့၌သာ သံသရာ လည်နိုင်တော့သည်။ သုဂတိ သံသရာ တွင်ပင် ဖြစ်သော်လည်း အယူမှားသော မိစ္ဆာဒိဋ္ဌိ လူ့ဘဝ၊ နတ်ဘဝ၊ ဗြဟ္မာဘဝတို့တွင် မဖြစ်တော့ပေ။ ဒုစရိုက်၊ ဒုရာစာရ လူမျိုး၊ နတ်မျိုး၊ ဗြဟ္မာမျိုးတို့၌ တစ်ခါမျှ ဖြစ်ခြင်း မရှိတော့ပြီ။

စည်းစိမ် ကျက်သရေ ဘုန်းတန်ခိုး ညှိုးနွမ်း သေးသိမ်သော လူ နတ် ဗြဟ္မာ အဖြစ်၌ မနေရတော့ချေ။ ကြီးမြတ်သော စည်းစိမ် ချမ်းသာ ဘုန်းတန်ခိုး အရှိန်အဝါ အလိမ္မာနှင့် ပြည့်စုံသော လူ နတ် ဗြဟ္မာတို့၏ ဘဝကိုသာ ရရှိကြတော့သည်။ သုဂတိဘုံ၌ ကျင်လည် ရာတွင်လည်း လက်ရှိ ဖြစ်ဆဲ၊ ရောက်ရှိဆဲသော ဘုံမှ အောက်ဘုံသို့ ပဋိသန္ဓေအားဖြင့် ဆင်းသက် လျောကျကာ ဖြစ်ခြင်းမျိုး မရှိတော့ပေ။ မိမိတို့၏ လက်ရှိ ဖြစ်ဆဲဘုံ၌ကား ထပ်မံ၍ ဖြစ်လိုလျှင် ဖြစ်နိုင် ကြသေးသည်။ အထက်ဘုံ အဆင့်သို့ တက်လိုက တက်ဖြစ်နိုင်သည်။

ဤနည်းအတိုင်းသာ ဘဝပေါင်းများ၊ ကမ္ဘာများစွာ သုဂတိ သံသရာ၌ ကျင်လည်သွား ကြရသည်။ သို့သော်လည်း အခြားသော လူ၊ နတ်၊ ဗြဟ္မာ ပုထုဇဉ်သားတို့ကဲ့သို့ သံသရာဝဋ်တွင် နစ်မျော နေကြ သူများကား မဟုတ်ပေ။ သောတာပတ္တိမဂ်ကို ရရှိပြီးသည့် အချိန်မှစ၍ သက္ကာယဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ဒုစရိုက်၊ ဒုရာစာရ အပါယ် ဒုက္ခတို့မှ ကျွတ်လွတ်ပြီး ဖြစ်သဖြင့် သဉပါဒိသေသနိဗ္ဗာန် တည်း ဟူသော လောကုတ္တရာ အဝတ္ထာ ဘုံကြီးအတွင်းသို့ ဆိုက်ရောက်ကြ ကုန်သည်။ အရိယာဘုံသူ၊ အရိယာ ဘုံသားများ အဖြစ်ဖြင့်သာ

ကျင်လည်ကြရခြင်း ဖြစ်သည်။ လောကုတ္တရာ ဘုံသူ၊ ဘုံသားများ အဖြစ်ဖြင့်သာ ကျင်လည် ကြရကုန်သည်။

ဤသို့ အရိယာဘုံသူ ဘုံသားများ အဖြစ်ဖြင့် ကျင်လည်ကြ၍ လူ့ဘဝချမ်းသာ၊ နတ်ဘဝချမ်းသာ၊ ဗြဟ္မာဘဝ ချမ်းသာတို့ကို ခံစား၊ စံစားပြီး အားရကျေနပ် လာသောအခါ အလိုမရှိပြီး ငြီးငွေ့လာသော အခါတို့တွင် ခန္ဓာငါးပါးကို စွန့်လွှတ်လျက် အနုပါဒိသေသ နိဗ္ဗာန် အဆင့်သို့ ကူးရောက် သွားကြကုန်တော့သည်။

အရိယာ ပုဂ္ဂိုလ်တို့သည် သောတာပတ္တိမဂ်ကို ရသော အချိန်မှစ၍ အရိယာ သူတော်မြတ်တို့၏ ဂုဏ်ကျေးဇူးသည် တည်ကြည်ခိုင်မြဲစွာ ဖြစ်လေကုန်၏။ တစ်ဘဝပြီး တစ်ဘဝ တိုးတက် စည်ပင်၍ လာ၏။ သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်တို့သည် တစ်ဘဝထက် တစ်ဘဝ ကြီးကျယ် ခိုင်မြဲလာတော့၏။

အရိယာတို့သည် သောတာပန် ဖြစ်ရသော ကာလမှ စ၍ ဘဝအဆက်ဆက်၊ ကမ္ဘာအဆက်ဆက် ကျင်လည် ခံစား၍ သွားကြသဖြင့် အနုပါဒိသေသ နိဗ္ဗာန်သို့ ကူးပြောင်း ရောက်ရှိသွားသော ဘဝတိုင်အောင် ဒုက္ခသစ္စာ၊ သမုဒယသစ္စာ၊ နိရောဓသစ္စာ၊ မဂ္ဂသစ္စာ တို့၌ တွေဝေမှု မရှိတော့ပြီ။ နှလုံးသွင်း၍ ဆင်ခြင်လိုက်တိုင်း သစ္စာလေးပါး တရားတို့သည် ပုဂ္ဂိုလ်တို့၏ ဉာဏ်၌ ထင်ရှားလေတော့သည်။

သောတာပန် ပုဂ္ဂိုလ်တို့၌ ကြောင့်ကြ စိုးရိမ်မှုများ ကင်းကြကုန်၏။ ပုထုဇဉ် ပုဂ္ဂိုလ်တို့ သည်ကား၊ လူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်း ပင် ဖြစ်နေကြသော်လည်း ဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ဒုစရိုက်၊ ဒုရာဇီဝ အပါယ်

ဘဝတို့မှာ အပြီး ကျွတ်လွတ်မှု၊ အပြီး လွတ်ငြိမ်းမှုကိုမရကြ၊ ဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ဒုစရိုက်၊ ဒုရာဇိဝတို့နှင့် ရှိနေကြရသည်။

အရိယာပုဂ္ဂိုလ်တို့မှာ ဘဝများစွာ၊ ကမ္ဘာများစွာ နေကြရသော်လည်း အယူမှားမှု၊ မကောင်းမှုတို့၏ အနှောင့်အယှက်မှ ကင်းငြိမ်း၏။ ပုထုဇဉ် ပုဂ္ဂိုလ်တို့သည်ကား ထိုသို့ မကင်းငြိမ်းနိုင်ချေ။ လူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်းပင် ဖြစ်နေရသော်လည်း အယူမှန်နှင့် တွေ့လိုက်၊ အယူမှားနှင့် တွေ့လိုက်၊ ကောင်းမှုနှင့် တွေ့၍ ကြည်လိုက်၊ မကောင်းမှုနှင့် တွေ့၍ နောက်ကျိလိုက်ဖြင့် အနှောင့်အယှက်များနှင့် မလွတ်နိုင်ပေ။

သောတာပန် အရိယာ ပုဂ္ဂိုလ်တို့ ရရှိသော သဉပါဒိသေသ နိဗ္ဗာန်သည် ဘဝများစွာပင် ကြာသည့်တိုင်အောင် အနမတဂ္ဂသံသရာနှင့် အမျှ နိစ္စထာဝရ တည်မြဲသည်။ ပျက်ကွက်ခြင်း မရှိဘဲ ထိုသို့ တည်မြဲခြင်းကြောင့် အသစ်တစ်ဖန် ပြန်လည် ထူထောင် ပြုပြင်ရသည် ဟူသော ဒုက္ခလည်း မရှိတော့ပြီ။ ထိုနိဗ္ဗာန် ဆွေးမြည့်ပျက်ဆုံး၍ မိမိသန္တာန်၌ ထိုနိဗ္ဗာန်ကို အသစ်တစ်ဖန် ပြန်လည်ပေါ်လာစေရန် ဒါနပြုမှု၊ သီလသီတင်း ကျင့်သုံးခြင်းတို့ ပြုလုပ်ရသည့် ဒုက္ခ မရှိတော့ပြီ။ ဤသို့ အဖန်ဖန် ပြုပြင်ရခြင်း ဟူသော သင်္ခါရဒုက္ခမှ လွတ်ငြိမ်းမှုသည် သောတာပန် ပုဂ္ဂိုလ်တို့တွင် ကြွင်းကျန်သော ကိလေသာတို့ ချုပ်ငြိမ်းရေးအတွက်သာ ဒါနသီလ၊ ဘာဝနာတို့ကို ပြုလုပ်ရန် ရှိလေတော့သည်။ ချုပ်ငြိမ်းလေပြီးသော သက္ကာယဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ဒုစရိုက် ဆယ်ပါးတို့ ချုပ်ငြိမ်းဖို့ အတွက်ကား ပြုဖွယ်ကိစ္စ မရှိတော့ချေ။

သောတာပန် ပုဂ္ဂိုလ်တို့တွင် ဘစ်ဘဝလျှင် တစ်ခါ ခန္ဓာငါးပါး ပျက်ဆုံးမှုကား ရှိ၏။ သို့သော် မိမိတို့ ရရှိပြီးသော နိဗ္ဗာန်ကား ခန္ဓာ ပျက်ဆုံးသော်လည်း မပျက်စီးတော့ပေ။ ခန္ဓာဘဝ တစ်ခု ပျက်ဆုံး၍ ခန္ဓာဘဝ အသစ်တစ်ခုသို့ ရောက်ပြန်လျှင် နိဗ္ဗာန်အဆင့်၌သာ ရောက် ကြသည်။ ဆိုလိုသည်မှာ သောတာပန် အဖြစ် ကွယ်လွန်ပြီးနောက် ဘဝ အသစ်သို့ ပြန်လည် ဖြစ်လာရ သော်လည်း သောတာပန် အဆင့်၌သာ ဖြစ်ရသည်။ ထိုနည်းအတိုင်းပင် သကဒါဂါမ် ဘဝမှ စုတေခဲ့သော် နောင်ဘဝအသစ်တွင် သကဒါဂါမ် အဆင့်သို့ ပြန်လည် ရောက်ရှိရခြင်း ဖြစ်သည်။ ပုထုဇဉ်ခန္ဓာသို့ ပြန်ဆင်း၍ ဖြစ်ရသည် ဟူ၍ မရှိချေ။

ခန္ဓာတို့သည် မတာတတ်မျိုး ဖြစ်၍ တစ်ဘဝ တစ်ခါကျ ပျက်ဆုံးကြရသည်။ နိဗ္ဗာန်သည်ကား အမတာတတ်မျိုး ဖြစ်၍ ခန္ဓာပျက်သော်လည်း တစ်ရံတစ်ခါမှ ပျက်ဆုးသည်ဟူ၍ မရှိတော့ပြီ။ အနုပါဒိသေသ နိဗ္ဗာန်နှင့် တစ်ဆက်တည်း ဆက်မိလေတော့သည်။

သောတာပန် ပုဂ္ဂိုလ်တို့သည် ဘဝများစွာ၊ ကမ္ဘာများစွာကို ကျင်လည် သွားလာနေကြသော်လည်း ငြိမ်းချမ်းမှုတည်း ဟူသော ထိုနိဗ္ဗာန် ကုန်ဆုံးသွားမည်ကို စိုးရိမ်ကြောင့်ကြစရာ မလိုတော့ပေ။

အရိယာ ပထမဆင့် ဖြစ်သော သောတာပန် အဆင့်သို့ ရောက် ပြီးနောက် အခြားအဆင့်များဖြစ်သော သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာ အဆင့်သို့ ရောက်ရှိရန် တရား အထူးကို ရှာဖွေရန် မလိုတော့ပေ။ ခန္ဓာ ငါးပါးတရားကိုပင် အထပ်ထပ်နှလုံးသွင်းရန် လိုအပ်လေသည်။ မူလ ကျင့်ပြီးသော တရားကိုပင် အထပ်ထပ် ဖြည့်ကျင့်ရလေတော့သည်။

သောတာပန်တွင် အမျိုးမျိုး ရှိသည်။ တစ်ဘဝသာ ဖြစ်ရပြီး နောက် နိဗ္ဗာန်ကူးသွားသူများ ရှိသည်။ ထိုသောတာပန်မျိုးကို ဧကဗီဇ သောတာပန်ဟု ခေါ်သည်။ တချို့မှာ ခြောက်ဘဝ ဖြစ်ပြီးမှ နိဗ္ဗာန် ကူးသည်၊ ယင်းတို့အား ကော်လံကောလ သောတာပန်ဟု ခေါ်သည်။ အချို့ သောတာပန်တို့မှာ ခုနစ်ဘဝ နေပြီးမှ နိဗ္ဗာန် စံဝင်ရသည်။ သတ္တက္ခတ္တုပရမ သောတာပန်မျိုး ဖြစ်သည်။ ဥဒ္ဓံသောတ သောတာပန် တို့မှာ ဘုံစဉ်စံသွားပြီးလျှင် အကနိဋ္ဌဗြဟ္မာဘုံ ရောက်ပြီးမှ နိဗ္ဗာန် ကူးသွားရသည်။

## နိဗ္ဗာန်

နိဗ္ဗာန်သည်ကား ဗုဒ္ဓ ဘာသာ၏ အမြင့်ဆုံးသော ရည်မှန်း ချက် ပန်းတိုင် ဖြစ်သည်။ ၃၁ဘုံတွင် ကျင်လည်ရသော ဘဝတို့မှ လွတ်မြောက်သွားခြင်းသည် နိဗ္ဗာန်ကူးခြင်း ဖြစ်သည်။ နိဗ္ဗာန်သို့ လူတိုင်း ရောက်လို ကြသည်။ နိဗ္ဗာန်ကို လိုချင်လျှင် ထိုင်နေ၍ မရချေ။ အလုပ် လုပ်ရသည်။ နိဗ္ဗာန် ရောက်ကြောင်း တရားကို ကျင့်ကြံရသည်။ နိဗ္ဗာန် ရောက်ကြောင်း တရားတို့သည်ကား ရှေ့၌ ရေးသားဖော်ပြ ခဲ့သော တရားတို့ပင် ဖြစ်သည်။ သစ္စာလေးပါး တရားပင် ဖြစ်သည်။ သစ္စာလေးပါး တရားကို သိမြင်လာအောင် လုပ်ရသည်၊ သစ္စာလေးပါး တရားကို သဘော ပေါက်၍ အမှန်အတိုင်း နားလည်သွားသော ပုဂ္ဂိုလ်များကား သောတာပန် စသော မဂ်ဖိုလ် ပုဂ္ဂိုလ် ရှစ်ယောက်တို့ ဖြစ်သည်။ နိဗ္ဗာန်သည် နှစ်မျိုး (ဝါ) နှစ်ဆင့် ရှိသည်။

သောတာပန် စသော အရိယာ ပုဂ္ဂိုလ်တို့ ခံစားရသော နိဗ္ဗာန်ကို သဉပါဒိသေသ နိဗ္ဗာန်ဟု ခေါ်သည်။ ဤအဆင့်တွင် ခန္ဓာငါးပါး ကြွင်းကျန်နေသေးသည်။ အရိယာတို့၏ အမြင့်ဆုံး အဆင့်ဖြစ်သော အရဟတ္တဖိုလ် ရောက်ရှိပြီးနောက် ပရိနိဗ္ဗာန် စံသွားသော အခါမှကား အနုပါဒိသေသ နိဗ္ဗာန်ခေါ် ဘဝဖြစ်စဉ် ဆုံးသော နိဗ္ဗာန်သို့ ဆိုက်ရောက်သွားလေတော့သည်။

နိဗ္ဗာန်သည် အလွန်တရာ မြင့်မြတ်၏။ သိမ်မွေ့၏။ နက်နဲ၏။ ချမ်းသာသုခနှင့် ပြည့်စုံပြီး အစဉ်ထာဝရ တည်မြဲသည်၊ ဖျက်ဆီး၍ မရ။ လောဌ နိဗ္ဗာန်နှင့် တူသော တရားသည် မရှိ၊ နိဗ္ဗာန်သည် တုပစရာ မရှိသော အရာဖြစ်သည်၊ နိဗ္ဗာန်ကို သာမန် လူသားတို့၏ ဉာဏ်၊ သာမန် သိတတ်သော ဉာဏ်ဖြင့် မမြင်နိုင်၊ မသိနိုင်ချေ။

နိဗ္ဗာန်သည် ရေ၊ မြေ၊ လေ၊ မီး တည်းဟူသော မဟာဘုတ် ဓာတ်ကြီး လေးပါးဖြင့် တည်ဆောက်ထားသော အရာမဟုတ်၊ ထို ဓာတ်ကြီး လေးပါးကို ကျော်လွန်၏။ ဆင်းရဲမှုကို ကျော်လွန်၏။ ဆင်းရဲ၏ အဆုံးဖြစ်သည်။ တဏှာ ဥပါဒါန် စသော တရားများကို ဖြစ်ပွားစေတတ်သော ဝေဒနာမှ ကင်းစင်သည့် အကောင်းဆုံးသော ချမ်းသာသုခ၊ ဖန်ဆင်းထားသော အရာမဟုတ်၊ အမြဲရှိသော တရား။

နိဗ္ဗာန်တရားကို ဘုရားရှင်နှင့် ရဟန္တာ ပုဂ္ဂိုလ်များသာ အထင် အရှား မြင်နိုင် တွေ့နိုင်သည်။ လူ၊ နတ်၊ ဗြဟ္မာတို့သည် နိဗ္ဗာန်ကို အထင်အရှား မမြင်နိုင်။ နိဗ္ဗာန်ကို အထင်အရှား မြင်လို တွေ့လိုလျှင် ဘုရားရှင်နှင့် ရဟန္တာတို့ ရအပ်သော ဉာဏ်ကို ရအောင် ကြိုးစား ပြီးမှ ထိုဉာဏ်ကို ရရှိသောအခါ မြင်နိုင်သည်။ ရုပ် နာမ်တို့၏

သဘော သဘာဝကို ပိုင်းခြား၍ သိနိုင်သော ဉာဏ်မျိုးတို့ကို ရရှိမှ သာလျှင် နိဗ္ဗာန်ကို တွေ့မြင်နိုင်သည်။

နိဗ္ဗာန်အရပ်တွင် မဟာဘုတ် ဓာတ်ကြီး လေးပါး တို့သာ မရှိသည် မဟုတ်သေး။ ဈာန်လည်းမရှိ၊ ပစ္စုပ္ပန်၊ တမလွန် လောက လည်း မရှိ။ အချိန်အပိုင်းအခြား မရှိ၊ နေ၊ လစသော သဘာဝ နိယာမတို့သည်လည်း မရှိပေ။ နိဗ္ဗာန်၌ ဖြစ်ခြင်း ပျက်ခြင်း တရား တို့သည် မရှိကုန်၊ နိဗ္ဗာန်၏ တည်ရာသည်လည်း မရှိ၊ အာရုံပြုမှုလည်း မရှိချေ။ တဏှာတို့သည်လည်း ကင်း၏။ ခန္ဓာငါးပါးမှ လွတ်မြောက် ရာသည် နိဗ္ဗာန်မည်၏။

နိဗ္ဗာန်သည် နှစ်မျိုး ဖြစ်သည်။ ခန္ဓာငါးပါး အကြွင်းရှိသော သဉပါဒိသေသ နိဗ္ဗာန်နှင့် ခန္ဓာငါးပါး အကြွင်းမရှိသော အနုပါဒိ သေသ နိဗ္ဗာန်တို့ ဖြစ်သည်။ အရိယာ ဖြစ်ပြီးသော်လည်း နောက်ဆုံး ဘဝ၏ ခန္ဓာကိုယ်ကို မစွန့်သေးဘဲ အကြောင်းကံ မကုန်သေးသော ပုဂ္ဂိုလ်တို့၏ နိဗ္ဗာန်သည်ကား သဉပါဒိသေသ နိဗ္ဗာန်ဖြစ်သည်။ ဤ အဆင့်သို့ ရောက်ပြီးသော ပုဂ္ဂိုလ်တို့သည် ကောင်းသော မကောင်းသော အာရုံတို့ကို ခံစားရ၏။ ဆင်းရဲနှင့် ချမ်းသာကို ခံစားရ၏။ ထိုပုဂ္ဂိုလ်၌ ရာဂ၊ ဒေါသ၊ မောဟတရားတို့ ကုန်ခန်းပြီး ဖြစ်၏။

အနုပါဒိသေသနိဗ္ဗာန်ကို ရရှိပြီးသော ပုဂ္ဂိုလ်တို့သည်ကား အာသဝေါတရား ကုန်ခန်းပြီးသူ ဖြစ်သည်။ ခံစားမှု ဝေဒနာတို့ သည်လည်း တစ်ဖန် မဖြစ်တော့၍ ငြိမ်းသွားပြီ ဖြစ်သည်။ မျက် မှောက် ခန္ဓာ အတ္တဘော ပျက်စီးပြီးသောအခါမှ ရောက်နိုင်သည်။ ဤနိဗ္ဗာန်သည် ဘဝအားလုံးတို့ ချုပ်ငြိမ်းလေတော့သည်။ သဉပါဒိ

သေသ နိဗ္ဗာန်တွင်ကား မျက်မှောက်ဘဝ ရှိသေးသည်။ ခန္ဓာငါးပါး ကျန်ရှိနေသေးသည်။

နိဗ္ဗာန်သည် တဏှာ ကုန်ခန်းရာ ဖြစ်သည်။ ကိလေသာ နှိပ်စက်ခြင်း ခံရသောသူတို့၏ ကိုးကွယ်ရာ ဖြစ်သည်။ နိဗ္ဗာန်၌ ကိလေသာ ကုန်ခန်း၏။ ဝဋ်ဆင်းရဲတို့၏ ကုန်ဆုံးရာလည်း ဖြစ်၏။ မသေနိုင်သော နေရာဖြစ်သည်။

နိဗ္ဗာန်သည် အမျိုးမျိုး ကွဲပြားသော တရားကား မဟုတ်ပေ။ သဘောအားဖြင့် လည်းကောင်း၊ ဝတ္ထုအားဖြင့် လည်းကောင်း တစ်ခုတည်းသာ ဖြစ်၏။ အနမတဂ္ဂ အတိတ်သံသရာ ကမ္ဘာ အဆက်ဆက်တို့၌ လည်းကောင်း၊ ယခု ကမ္ဘာ၌ လည်းကောင်း၊ နောင်လာလတ္တံ့သော မရေမတွက်နိုင်သည့် ကမ္ဘာတို့၌ လည်းကောင်း ပရိနိဗ္ဗာန် ပြုပြီး ပြုဆဲ ပြုလတ္တံ့သော ဘုရားပစ္စေက ဗုဒ္ဓါ၊ ရဟန္တာ၊ သာဝကတို့၏ နိဗ္ဗာန်သည် ကွဲပြားခြင်း မရှိဘဲ တစ်ခုတည်းသာလျှင် ရှိသည်။ ဘုရားတစ်ပါး နိဗ္ဗာန်တစ်ခု၊ ပစ္စေဗုဒ္ဓါ တစ်ပါး နိဗ္ဗာန်တစ်ခု မရှိချေ။

## အနတ္တ

ဗုဒ္ဓဘာသာမှ တစ်ပါး ကျန်ဘာသာ အားလုံးတို့သည် အတ္တကို လက်ခံသော ဘာသာများ ဖြစ်သည်။ ဗုဒ္ဓဘာသာကား အတ္တဘာသာ မဟုတ်။ အနတ္တဘာသာ ဖြစ်၏။

အတ္တကို လက်ခံသောဘာသာတို့၏ အလိုအရ လူ၏ ခန္ဓာကိုယ်တွင် ရုပ်နှင့် နာမတို့အပြင် တစ်ပါးသော အရာသည် ရှိသေး၏။ ထိုအရာကား ဝိညာဉ် ခေါ် အတ္တပင်တည်း၊ ဝိညာဉ်သည် အစဉ်

ထာဝရ တည်မြဲသော အရာဖြစ်၏။ လူပုဂ္ဂိုလ် သေသွားသော်လည်း ဝိညာဉ်ကား မသေ။ အစဉ်တည်လျက် ထိုပုဂ္ဂိုလ် နောင်ဘဝ၌ အသစ်တစ်ဖန် မွေးဖွားလာသော အခါ ဝိညာဉ်သည် ခန္ဓာသစ်သို့ ကူးပြောင်း လာခဲ့သည်။ အတ္တသည် ဘဝအဆက်ဆက် လိုက်ပါ သွားသော အမှန်တရား တစ်ခုပင် ဖြစ်သည်။

ဗုဒ္ဓ၏ အလိုအရ အတ္တဆိုသော အရာသည် မရှိချေ။ ပုဂ္ဂိုလ် တို့တွင် ရုပ်နှင့်နာမ်သာရှိ၏။ ခန္ဓာငါးပါး အပေါင်းအစုသာ ရှိ၏။ ငါ၊ ငါဟု ခေါ်သော ဝိညာဉ်သည် မရှိ၊ ကိုယ်ကာယ အပိုင်းသည် ရုပ်ဖြစ်၍ စိတ်ပိုင်းသည် နာမ်ဖြစ်သည်။ သူ၊ငါ၊ ယောကျ်ားမိန်း၊ ပုဂ္ဂိုလ် သတ္တဝါတည်း ဟူသော အတ္တသည် ခန္ဓာကိုယ်ရှိ မည်သည့် အစိတ်အပိုင်းကို ခေါ်သနည်း။ ခြေ၊ လက်၊ မျက်စိ၊ နား၊ ဆံပင် တို့ကိုပင် ခေါ်လေသလား၊ ဤအရာကို အတ္တဟု ခေါ်ကြောင်း ပြသရန် မဖြစ်နိုင်ချေ။ ထို့ကြောင့် လူပုဂ္ဂိုလ်၊ သတ္တဝါ တို့သည် ခန္ဓာငါးပါး အစုအဝေးသာ ဖြစ်သည်။

အတ္တသည် မမြဲသော ခန္ဓာငါးပါး အပေါင်းအစုသာ ဖြစ်သည် ဆိုလျှင် နောင်ဘဝနှင့် ပတ်သက်၍ မည်သို့ ဆိုမည်နည်း။ ဇီဝသည် ယခုဘဝ၏ အကြောင်းကံ ရှိသည်နှင့် အညီ နောင်ဘဝ အသစ်ကို ခံယူရသည်။ သတ္တဝါတို့၏ ရှေ့ဘဝနှင့် နောက်ဘဝ ဆက်သွယ်မှုသည် မီးခွက်တစ်ခုမှ အခြားမီးခွက် တစ်ခုကို ကူးထွန်းညှိလိုက်ခြင်းဖြင့် ဒုတိယ မီးခွက်မှ မီးသည် ပထမ မီးခွက်မှ မီးဟု မဆိုနိုင်တော့ချေ။ ဒုတိယ မီးခွက်မှ မီးသည် ပထမမီးခွက်မှ မီးနှင့် လုံးဝ သက်ဆိုင်ခြင်း မရှိသလော။ ထိုသို့လည်း ယူဆ၍ မရချေ။ ပထမမီးခွက်မှ မီးကို

အမှီပြု၍သာလျှင် ဒုတိယ မီးခွက်မှ မီးဖြစ်လာရသည်။ ထိုနည်းတူစွာပင် ရှေးဘဝသည် နောင်ဘဝကို အထောက်အပံ့ ဖြစ်စေနိုင်သည်။

ပရမတ္ထသစ္စာ တရားဖြစ်သော ရုပ်နှင့် နာမ်တို့သည် ရှေးဘဝနှင့် နောက်ဘဝ ဆက်၍ ဖြစ်၏။ ယခုဘဝမှ ရုပ်နာမ်တို့သည် ကံတရားကို ဖြစ်ပေါ်စေသည်။ ထိုကံတရားသည် နောင်ဘဝ ဖြစ်ထွန်းလာရေး အတွက် များစွာ ကူညီ ထောက်ပံ့သည်။ ထိုကံသည်ပင် နောင်ဘဝ၏ ရုပ်နာမ်တရားကို ဖြစ်စေသည်။ ထို့ကြောင့် ကံသည် အရေးကြီးသော ကဏ္ဍမှ ပါဝင်သည်။

ဝိညာဉ်သည် အစဉ်အမြဲ ဘဝ အဆက်ဆက် လိုက်ပါလျက်ရှိသည်ဟု ယုံကြည်သူများသည် သဿတဒိဋ္ဌိ ဖြစ်သွားသည်။ ရှေးဘဝလည်း မရှိ၊ ယခုဘဝမှ စုတေသွားသော အခါတွင်လည်း နောင်ဘဝ မဖြစ်တော့။ ဘဝပြတ်ပြီဟု ယုံကြည်ကြပြန်လျှင် ဥစ္ဆေဒဒိဋ္ဌိ ဖြစ်သွားသည်။ ဗုဒ္ဓ၏ အယူကား ထိုအစွန်းနှစ်ဖက်မှ လွတ်သော မဇ္ဈိမပဋိပဒါနည်း ဖြစ်၏။ ရှေးဘဝက ကံ စသော အကြောင်းတရားနှင့်ကင်း၍လည်း ဘဝအသစ် မဖြစ်နိုင်ကြောင်းကို ပြဆိုခြင်း ဖြစ်သည်။

ဗုဒ္ဓ၏ အလိုအရကား ဝိညာဉ်သည် မြဲသောတရား မဟုတ်။ ယခုဖြစ်ပြီး ယခုပင်လျှင် ပျက်တတ်သည်။ မမြဲသော အနိစ္စ တရားသာ ဖြစ်သည်။ ဆင်းရဲသော တရားသာ ဖြစ်သည်။ အနှစ်မရှိ၊ မခိုင်မာသော အနတ္တတရားသာ ဖြစ်သည်။ ဝိညာဉ်သည် ဘဝထိုထိုများစွာ တည်မြဲဖို့ ဝေး၍ ယခုဘဝ၌ပင်လျှင် အစဉ် လိုက်ပါနိုင်ခြင်း မရှိဟု ဟောတော်မူသည်။

ယခုဘဝတွင်ပင် ရုပ်တရားနှင့် နာမ်တရားတို့သည် တစ်ချိန်နှင့်တစ်ချိန် မတူတော့ဘဲ ချုပ်ပျောက်လျက် ရှိနေသည်။ ထိုင်လျက်နေစဉ်အတွင်း ဖြစ်ပေါ်နေသော ရုပ်တရားတို့သည် ထသော အချိန်တွင် မပါရှိတော့ဘဲ ချုပ်ငြိမ်း ပျောက်ပျက် သွားပြီ ဖြစ်သည်။ သို့သော် ဖြစ်ခြင်း ပျက်ခြင်း တို့သည် ဆက်စပ်နေသည့် အတွက် မြဲသော တရားဟု ထင်မြင်ရသည်။ ထို့ကြောင့် ပုဂ္ဂိုလ်၊ သတ္တဝါ၊ သူ၊ ငါ၊ ယောကျ်ား၊ မိန်းမဟူ၍ မရှိဘဲ ရုပ်တရား၊ နာမ်တရား တို့သာလျှင် တကယ်ရှိကြောင်း ဟောတော်မူလေသည်။

## ကံတရား

ကမ္မခေါ် ကံသည် ပြုလုပ်ခြင်း အလုပ်ကို ခေါ်သည်။ ကံသည် ကာယကံ၊ ဝစီကံ၊ မနောကံဟု သုံးမျိုးရှိသည်။ ကိုယ်ဖြင့် ပြုလုပ်ခြင်း၊ နှုတ်ဖြင့် ပြုလုပ်ခြင်းနှင့် စိတ်ဖြင့် ပြုလုပ်ခြင်းတို့ ဖြစ်၏။

ကံတွင် ကောင်းသောကံနှင့် မကောင်းသော ကံဟူ၍ ၂မျိုး ကွဲပြားပြန်သည်။ ကောင်းသောကံကား ကုသိုလ်တရားနှင့် ပတ်သက်သော ကံဖြစ်၍ မကောင်းသော ကံသည်ကား လောဘ၊ ဒေါသ၊ မောဟတို့နှင့် ပတ်သက်သော ကံဖြစ်သည်။ ကောင်းသောကံသည် ကောင်းသော ပုဂ္ဂိုလ်၊ သတ္တဝါ ဖြစ်အောင် အကျိုးပေးနိုင်ပြီး မကောင်းသော ကံသည်ကား မကောင်းသော ပုဂ္ဂိုလ်၊ သတ္တဝါ ဖြစ်အောင် အကျိုးပြုသည်။

အကျိုးပေးရာ ဌာန၊ အကျိုးမပေးရာ ကာလ စသည်အားဖြင့် ကံကို အမျိုးမျိုး ခွဲခြား၍ ပြလေသည်။

အချို့ကံသည် ပဋိသန္ဓေမှစ၍ ရုပ်နာမ်တရားကို ဖြစ်ပွားစေနိုင်၏။ အချို့ကံတို့သည်ကား မိမိကိုယ်တိုင်ကမူ အကျိုးကျေးဇူးကို မဖြစ်စေနိုင်သော်လည်း အခြားကံကို အကူအညီ ပေးနိုင်၏။ ဤကံမျိုးသည် မူလကံ၏ အကျိုးပေးရာတွင် အကျိုးပေးခွင့် သာအောင်၊ အကျိုးပေးသန့်အောင် တတ်နိုင်စွမ်းသည်။

အချို့ကံကား မူလကံ၏ အကျိုးပေးခြင်းကို အားနည်းသွားအောင်၊ သေးသိမ်သွားအောင် ပြုလုပ်ပေးရသည်။ အချို့ကံသည် မူလအကျိုးပေးမည့် ကံအကျိုးကို မပေးနိုင်အောင် အကျိုးပေးထားပြီးဖြစ်သော်လည်း ထိုအကျိုး ပြတ်သွားအောင် သတ်ဖြတ်နိုင်သည်။

ကံအချို့မှာ ကြီးလေးသော အကျိုးကျေးဇူးကို ပေးနိုင်သည်။ ထိုကံမျိုးကို အခြားကံမျိုးက တွန်းလှန်နိုင်ရန် ခဲယဉ်းသည်။ အာနန္တရိယကံမျိုးဖြစ်သည်။

တချို့ကံကို သေခါနီးမှ အောက်မေ့ရ၏။ ပုဂ္ဂိုလ်၊ သတ္တဝါတို့၏ လက်ရှိဘဝ သဏ္ဌာန်တွင် ကောင်းမှုကံနှင့် မကောင်းမှုကံတို့သည် ရှိကြစမြဲ ဖြစ်သည်။ အကျိုးပေးရန် ရှိသော ကံများပင်ဖြစ်သည်။ ထိုပုဂ္ဂိုလ် သတ္တဝါ၏ နောက်ဘဝ ပဋိသန္ဓေ ဖြစ်ရေးအတွက် ကြီးလေးသော ကံက တာဝန်ယူရသည်။ ကြီးလေးသော ကံမျိုးမရှိလျှင် သေခါနီး အောက်မေ့အပ်သော ကံကပင် နောက်ဘဝ ပဋိသန္ဓေ နေရေးကို စီမံလေတော့သည်။

ကံတစ်မျိုးကား ထပ်ခါတလဲလဲ ပြုလုပ်ထားခဲ့သော ကံမျိုးဖြစ်သည်။ သေခါနီးမှ အောက်မေ့သော ကံသည် ထပ်ခါတလဲလဲ ပြုလုပ်ထားသော ကံကိုပင် ထိုးဖောက် လွှမ်းမိုး သွားနိုင်သည်ဟု

ဆိုသည်။ သို့သော် ထပ်ခါတလဲလဲ ပြုထားသော ကံသည် ထပ်ခါတလဲလဲ ပြုလုပ်ထားသော အထုံကြောင့် သေခါနီး ကံအဖြစ်သို့ ကူးပြောင်း ဆောင်ရွက်သွားတတ်သည်။ ဥပမာ တစ်ခုကို ပြရလျှင် မှဆိုးအဖြစ် တစ်သက်လုံး အသက်မွေးလာသူသည် သေခါနီး အချိန်၌ မိမိကိုယ်တိုင် အသက်ထင်ရှား ရှိစဉ် အကြိမ်ကြိမ် သတ်ဖြတ်ခဲ့သော အကုသိုလ်တရားကို အောက်မေ့သွားနိုင်ခြင်းမျိုး ဖြစ်သည်။

တချို့ကံကား ယခင့် ယခင် ဘဝ အတိတ်က ပြုခဲ့သော ကုသိုလ်ကံ၊ အကုသိုလ်ကံ အတိုင်းပင် ယခုဘဝ၌ ထိုကံမျိုး အကျိုး ပေးတတ်သည်။ ဒိဋ္ဌ၊ ဓမ္မဝေဒနိယ ကံမျိုးသည် ယခုဘဝတွင်ပင် အကျိုးပေးတတ်သည်။

ကံသည် အလွန် အင်အား ကြီးမား၏၊ ကံကို မည်သည့် ပုဂ္ဂိုလ်မျှ တွန်းလှန်နိုင်ခြင်း မရှိချေ။ သတ္တဝါတိုင်းမှာ ကံ၏ စီမံပြုပြင် သလိုသာ ခံနေကြရသည်။ သံသရာ၌ ကျင်လည် နေကြရသည်။ သံသရာ၌ ကျင်လည်နေကြသော သတ္တဝါ အားလုံးတို့သည် မကောင်း သော ဘဝ၊ ကောင်းသောဘဝ၊ ဆင်းရဲဘဝကို ခံစား စံစားကြရသည်မှာ ကံကြောင့်ပင် ဖြစ်သည်။ ကံသာ အကြောင်းဖြစ်၏။ ကံသာလျှင် အဆွေခင်ပွန်း ဖြစ်၏။ ကံသာလျှင် ကိုးကွယ်ရာ မှီခိုရာ ဖြစ်၏။ ကောင်းမွေ ဆိုးမွေတို့သည် ပြုမိသော ကံ၏ အကျိုးသာ ဖြစ်သည်။

တစ်ဘဝမှ စုတေပြီး နောင်ဘဝ၌ ပဋိသန္ဓေ နေသော အချိန်ကြားတွင် ဝိညာဉ်ဘဝ ရှိသလိုလို အချို့က ယူဆကြသော်လည်း တကယ်၌ မည်သည့်ဘဝမျှ မရှိတော့ချေ။ စုတေသည့် အချိန်မှ စ၍ ပဋိသန္ဓေ နေရမြဲ ဖြစ်သည်။ ရဟန္တာ မဖြစ်သေးသော ပုဂ္ဂိုလ်များ

သေလွန်လျှင် ပဋိသန္ဓေ နေရသည်။ လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာပြည်တို့သည် မည်မျှပင် ကြာဝေးစေကာမူလည်း တစ်နေရာမှ စုတေပြီးလျှင် ပြီးချင်း တခြား ဘုံများသို့ ကူးပြောင်း၍ ပဋိသန္ဓေ နေနိုင်ကြတော့သည်။ တစ်ဘဝနှင့် တစ်ဘဝ ဆက်စပ်သည်ကိုပင် ပဋိသန္ဓေဟု ခေါ်ဆိုသည်။ ပဋိသန္ဓေသည် ရှေးဘဝက မိမိပြုခဲ့သော ကုသိုလ်ကံ အကုသိုလ်ကံကြောင့် ဖြစ်ပေါ်လာရသော အကျိုးတရား ဖြစ်သည်။

ကံကြောင့် ဘဝပြောင်းလဲ ကူးသန်းသွားလာရန် ငါးဌာန ရှိသည်။ နတ်ဘဝ၊ လူ့ဘဝ၊ တိရစ္ဆာန်ဘဝ၊ ပြိတ္တာဘဝနှင့် ငရဲဘဝတို့ ဖြစ်သည်။ ကံ၏ အကျိုးပေးမှုသည် ပုဂ္ဂိုလ် သတ္တဝါအား မဂ်ဖိုလ်ရ၍ နိဗ္ဗာန်စံဝင်နိုင်ခြင်း မရှိသမျှ ဖြစ်လေရာ ဘဝ၌ အကျိုးပေးနေသည်။ နိဗ္ဗာန် စံဝင်နိုင်ပြီးမှသာလျှင် ကံတို့သည် အကျိုးပေးမှု ရပ်ဆိုင်းသွားလေတော့သည်။ ထိုအချိန်တွင်ကား ကုသိုလ်ကံ အကုသိုလ်ကံတို့ပါ အချည်းနှီး ဖြစ်သွားရလေတော့သည်။

၃၁ဘုံ၌ ကျင်လည်နေသမျှသော သတ္တဝါတို့သည် ကံကြောင့်သာ ကျင်လည်ရခြင်း ဖြစ်သည်။ အကုသိုလ်ကံကြောင့် ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ် ဆိုသော အပါယ်လေးဘုံသို့ ရောက်ရှိကြရသည်။

ကာမာဝစရ ကုသိုလ်ကံကြောင့် လူ့ဘုံနှင့် နတ်ပြည် ၆ထပ်တည်းဟူသော ကာမသုဂတိ ၇ဘုံသို့ ရောက်ကြရသည်။ ရူပါဝစရ ကုသိုလ်ကံကား ရူပဗြဟ္မာ ၁၆ဘုံသို့ တွန်းပို့နိုင်သည်။ အရူပါဝစရ ကုသိုလ်ကံသည် အရူပ ဗြဟ္မာ လေးဘုံသို့ ရောက်နိုင်သော ကံ ဖြစ်သည်။

အကုသိုလ်ကံ ဆိုသည်မှာ စိတ်ဓာတ် သန့်ရှင်း စင်ကြယ်မှုကို ဖျက်ဆီး နှောင့်ယှက်သော လောဘ (လိုချင်မှု)၊ ဒေါသ (အမျက်ထွက်မှု)နှင့် မောဟ (တွေဝေမှု)နှင့် စပ်အပ်သော စေတနာ စေတသိတ်တို့ကို ဆိုလိုသည်။ စိတ်သည် ကောင်းသော အရာကို တွေ့လျှင် လိုချင်မှု လောဘဖြစ်၏။ လောဘဖြစ်လာလျှင် ပြိတ္တာဘုံကို ရောက်ရတော့သည်။ မကောင်းသော အရာကို တွေ့ပြန်လျှင် အမျက်ထွက်မှု ဒေါသဖြစ်၏။ ဒေါသ ဖြစ်လျှင် ငရဲဘုံသို့ ရောက်ရတော့သည်။ အလယ်အလတ်ကို တွေ့မြင်ရပြန်လျှင်ကား တွေဝေမှု မောဟဖြစ်ကာ ရိရစ္ဆာန်ဘုံနှင့် အသူရကာယ် ဘုံသို့ ရောက်သွားရတော့သည်။

အကုသိုလ်ကံတို့ ဖြစ်ပေါ်လာရန် အတွက် တွယ်မှီ စရာ အကြောင်း ရှိရသေးသည်။ ကံများ မှီခိုရာ အကြောင်းကို ဒွါရဟု ခေါ်သည်။ ဒွါရ ဆိုသည်မှာ အပေါက်ဖြစ်၏။ စိတ်စေတသိက်တို့ ဝင်ရောက်ရာ အပေါက်ဟု ဆိုလိုသည်။ ကံတို့သည် ကိုယ်၊ စိတ်၊ နှုတ်တို့ကို အမှီပြု၍ ဖြစ်ရသည်။ ကိုယ်ကို အမှီပြု၍ ပေါ်လာသော ကံသည် ကာယကံဟု ခေါ်သည်။ ကာယဒွါရမှ ဖြစ်ပေါ်လာခြင်း ဖြစ်သည်။ ဝစီဒွါရ ခေါ် နှုတ်ကို မှီ၍ ဖြစ်ပေါ်လာသော ကံသည် ဝစီကံ ဖြစ်၏။ ထိုနည်းအတိုင်းပင် မနောဒွါရ ခေါ် စိတ်ကို မှီ၍ ဖြစ်သော ကံသည်ကား မနောကံ ဖြစ်သည်။

သူတစ်ပါး အသက်ကို သတ်ခြင်း၊ သူတစ်ပါး ဥစ္စာကို ခိုးယူခြင်း၊ သူတစ်ပါး သားမယား၊ သူတစ်ပါး တို့၏ လင်ယောကျ်ားတို့နှင့် ကျူးလွန်ခြင်းတို့သည် ကာယကံများ ဖြစ်သည်။ ကာယကံ သုံးပါးတို့ ဖြစ်သည်။

မမှန်ကန်သော စကားကို ပြောဆိုခြင်း၊ ဆဲရေး တိုင်းထွာခြင်း၊ သိမ်ဖျင်းသော စကားကို ပြောဆိုခြင်း၊ ကုန်းတိုက်ချောပစ်ခြင်းသည် ဝစီကံ လေးမျိုး ဖြစ်သည်။

သူတစ်ပါး ပစ္စည်းကို မတရား ယူလိုခြင်း၊ သူတစ်ပါး စီးပွား၊ သူတစ်ပါး အသက်ကို ပျက်စီးစေရန် ကြံဆောင်ခြင်း၊ မှားသော အယူကို အယူမှန်ဟု ဆင်ခြင် ယူဆခြင်း သည်ကား မနောကံတို့ ဖြစ်သည်။ ဤသို့ဖြင့် ဒုစရိုက် ဆယ်ပါး ခေါ် အကုသိုလ်တို့မှာ ဆယ်ပါး အပြားရှိသည်။

သူတစ်ပါး အသက်ကို သတ်ခြင်း၊ ဆဲရေးခြင်း၊ သူတစ်ပါး စီးပွားနှင့် သူတစ်ပါး အသက် ပျက်စီးရာ ပျက်စီးကြောင်း ကြံစည်ခြင်း တို့သည် ဒေါသဖြင့် ဖြစ်ပေါ်လာသည့် ကံများ ဖြစ်သည်။

သူတစ်ပါး သားမယားကို ကျူးလွန်ခြင်း၊ သူတစ်ပါး ပစ္စည်းကို မတရား ယူလိုခြင်း၊ မှားသောအယူကို အယူမှန်ဟု ထင်မြင်ခြင်းတို့ သည်ကား လောဘကြောင့် ဖြစ်လာရသော ကံများ ဖြစ်သည်။

သူ့ဥစ္စာကို ခိုးယူခြင်း၊ သိမ်ဖျင်းသော စကားကို ဆိုခြင်း၊ မမှန်မကန် ပြောဆိုခြင်း ကံတရားတို့သည်ကား လောဘနှင့် ဒေါသ နှစ်မျိုးစလုံးကြောင့် ဖြစ်ရသည်။ အကုသိုလ်ကံ ဆယ်ပါးကို ပြုလုပ် ရခြင်း၏ အကျိုးကျေးဇူးသည်ကား ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူ ရကာယ်တည်း ဟူသော အပါယ်လေးဘုံတို့၌ ဖြစ်ကြရသည်။

ကာမ တစ်ဆယ့်တစ်ဘုံ၌ ဖြစ်ပွားတတ်သော ကံကို ကာမာ ဝစရကံဟု ခေါ်၏။ ကာမ တစ်ဆယ့်တစ်ဘုံ ဆိုသည်ကား အထက်၌ ဆိုခဲ့သည့် ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ် အပါယ်လေးဘုံနှင့်

လူ့ဘုံ၊ နတ်ပြည် ခြောက်ထပ် တို့ကို ခေါ်ဆိုသည်။ ဤကာမဘုံ၌ ဖြစ်ပွားသော ဘုံသားတို့၏ စိတ်၌ ဖြစ်သော ကံကို ကာမာဝစရကံဟု ခေါ်ခြင်းဖြစ်သည်။

ကာမာဝစရ ကုသိုလ်ကံ ဖြစ်ပေါ်လာရခြင်း၏ အကြောင်းကား ဒါန၊ သီလ၊ ဘာဝနာ တရား တို့ပင် ဖြစ်သည်။ ဒါန၊ သီလ၊ ဘာဝနာ ဟု ခေါ်သော ကာမာဝစရ ကုသိုလ်ကံကြောင့် ရရှိခံစားရမည့် လားရာ ဂတိသည်ကား လူ့ပြည်နှင့် နတ်ပြည် ခြောက်ထပ် ဖြစ်သော ကာမ သုဂတိ (၇)ဘုံတို့၌ ဖြစ်သည်။

ဒါန၊ သီလ၊ ဘာဝနာ ဟူသော ကာမာဝစရ ကုသိုလ်ကံ သုံးပါးတွင် ဘာဝနာ ကုသိုလ်ကံသည် သမထ ဘာဝနာ၊ ဝိပဿနာ ဘာဝနာ ဟူ၍ နှစ်မျိုး ကွဲသွားပြန်သည်။

သမထဘာဝနာ၌ ကသိုဏ်းဆယ်ပါး၊ အသုဘ ဆယ်ပါး၊ အနုဿတိ ဆယ်ပါး၊ အပ္ပမညာ လေးပါး၊ ပဋိကူလသညာ တစ်ပါး၊ ဓာတုဝ ဝတ္ထာန် တစ်ပါး၊ အာရုပ္ပက ကမ္မဋ္ဌာန်း လေးပါးဟူ၍ တရား လေးဆယ် ရှိသည်။ ဤလေးဆယ်သော တရားတို့ကို ထိုက်သင့်သလို ပွားများခြင်းကို သမထ ဘာဝနာ ကျင့်သည်ဟု ဆိုကြသည်။

သမထ တရားများ အနက်မှ ကသိုဏ်းဆယ်ပါးနှင့် အာနာ ပါနကို ပွားများလျှင် ပဥ္စမဈာန်အထိ ရရှိသွားနိုင်သည်။ အသုဘ ဆယ်ပါးနှင့် ကာယဂတာ သတိကို ပွားများလျှင် ပထမဈာန်ကို ရရှိနိုင်သည်။ မေတ္တာ၊ ကရုဏာ၊ မုဒိတာများကို ပွားလျှင် စတုတ္ထဈာန် အထိ ရရှိသွားနိုင်သည်။ ဥပေက္ခာတရားကို ပွားများလျှင်ကား ပဥ္စမ ဈာန်ကို ရရှိနိုင်သည်။ သမထတရားကို ပွားများ အားထုတ်၍

ဖြစ်ပေါ်လာသော ပထမဈာန်၊ ဒုတိယဈာန်၊ တတိယဈာန်၊ စတုတ္ထဈာန်၊ ပဉ္စမဈာန် ဆိုသော ဈာန်စိတ်နှင့် ယှဉ်တွဲသည့် စေတနာစေတသိက်ကို ရူပါဝစရ ကုသိုလ်ကံဟု ခေါ်ဆိုသည်။

ရူပါဝစရ ကုသိုလ်ကံမှ ရရှိသော ပဌမဈာန် ကုသိုလ်ကံကြောင့် ဗြဟ္မပါရိသဇ္ဇာ၊ ဗြဟ္မာ ပုရောဟိတာ၊ မဟာ ဗြဟ္မာဘုံများဖြစ်သည့် ပထမဈာန် သုံးဘုံသို့ ရောက်ရှိသွားနိုင်သည်။ ဒုတိယဈာန်နှင့် တတိယဈာန်တို့၏ ကုသိုလ်ကံသည်ကား ပရိတ္တာဘာ၊ အပ္ပမာဏာဘာ၊ အာဘဿရာ ဗြဟ္မာဘုံများ ဖြစ်သော ဒုတိယဈာန် သုံးဘုံတိုင်အောင် ရောက်ရှိနိုင်သည်။ စတုတ္ထဈာန် ကုသိုလ်ကံကြောင့် ပရိတ္တာသုဘာ၊ အပ္ပမာဏာသုဘာ၊ သုဘကိဏှာဘုံသို့ ရောက်ရှိနိုင်သည်။ ပဉ္စမဈာန်၏ ကုသိုလ်အဟုန်ကြောင့်၊ ဝေဟပ္ဖိုလ်၊ အသညသတ်နှင့် သုဒ္ဓါ ဝါသငါးဘုံဟု ဆိုအပ်သော စတုတ္ထဈာန် ခုနစ်ဘုံအထိ ပေါက်ရောက်နိုင်သည်။

ရူပါဝစရ ပဉ္စမဈာန်ကို ရရှိပြီးသော ပုဂ္ဂိုလ်သည် ရူပဗြဟ္မာ ၁၆ဘုံ တိုင်အောင် ရောက်ရှိသွားနိုင်ပြီ ဖြစ်၏။ ရုပ်တရားကို တွေ့ကြုံနေသော ထိုပုဂ္ဂိုလ်သည် ရုပ်တရားအပေါ် အပြစ်မြင်နေသည်။ ရုပ်ရှိ၍ နာကျင်ခံရသော ဆင်းရဲကို တွေ့ကြုံရသည်။ ရုပ်မရှိသော အရူပဘုံတွင်ကား ဤဆင်းရဲမျိုးမှ လွတ်ကင်းနိုင်လိမ့်မည်ဟု ထင်မြင်လာသည်။ ဤသို့ ထင်မြင်သည့် အတွက် ပဉ္စမဈာန်၏ အာရုံဖြစ်သော ကသိဏ်းပညတ်ကို စွန့်ပယ်လျက် ကောင်းကင် ပညတ်ကို ပရိကံ ပြုသောအခါ ပထမ အရူပဈာန်ကို ရရှိသည်။

ပထမ၊ အရူပဈာန်နှင့် ယှဉ်သော စေတနာ စေတသိတ်ကို ပထမဈာန် အရူပ ဝစရကံ ဟူ၍ ခေါ်ဆိုသည်။ ဤပထမအရူပ

ဝစရကကြောင့် ခံစားရသော ဘုံသည်ကား အာကာသာ နဉ္စာယတနဟု ခေါ်သော ပထမ အရူပဗြဟ္မာဘုံ ဖြစ်သည်။

ပထမ အရူပဈာန်ကို ရရှိပြီး၍ ဒုတိယ ဈာန်ကို တက်လိုလျှင် ရပြီးသော ပထမ အရူပဝိညာဉ်ကို အာရုံပြုပြီး စီးဖြန်း ပွားများရသည်။ ထိုအခါ ဒုတိယ အရူပဈာန်ကို ရရှိသည်။ ဒုတိယ အရူပဈာန်နှင့် စိတ်ယှဉ်သော စေတနာ စေတသိက်ကို ဒုတိယ အရူပကုသိုလ်ကံဟု ခေါ်သည်။ ဒုတိယ အရူပကုသိုလ်ကံသည် ဝိညာနဉ္စာယတန ခေါ်သည့် ဒုတိယ အရူပ ဗြဟ္မာဘုံသို့ ပို့ဆောင်ပေးနိုင်သည်။

ဒုတိယ အရူပဈာန်ကို ရရှိပြီးသောအခါ တတိယ အရူပဈာန်ကို တက်လိုပြန်လျှင် ပထမ အရူပ ဝိညာဏ်၏ မရှိခြင်း နတ္ထိသော ပညတ်ကို အာရုံပြု၍ ပရိကံ ပြုရသည်။ ဤကဲ့သို့သော ပရိကံ ပြုသဖြင့် တတိယ အရူပဈာန်ကို ရရှိသည်။ ဤတတိယ အရူပဈာန် စိတ်နှင့် ယှဉ်သော စေတနာ စေတသိက်ကို တတိယ အရူပါဝစရ ကုသိုလ်ကံဟု ခေါ်သည်။ တတိယ အရူပါဝစရ ကံကြောင့် ရရှိအပ်သော အကျိုးကျေးဇူး ဘုံသည်ကား အာကိဉ္စညာယတနခေါ်သည့် တတိယ အရူပဗြဟ္မာဘုံ ဖြစ်သည်။

တတိယ အရူပဈာန်ကို ရရှိပြီး စတုတ္ထ အရူပဈာန်ကို ရရှိလိုသော အခါ တတိယ အရူပ ဝိညာဏ်ကို အာရုံပြုပြီး ပရိကံ ပြုရသည်။ ထိုသို့ ပရိကံ ပြုလေလျှင် စတုတ္ထ အရူပဈာန်ကို ရလာသည်။ စတုတ္ထ အရူပဈာန်နှင့် ယှဉ်သော စေတနာ စေတသိက်ကား စတုတ္ထ အရူပါဝစရ ကုသိုလ်ကံဖြစ်သည်။ စတုတ္ထ အရူပါဝစရ ကုသိုလ်ကံကြောင့် ရောက်ရှိရမည့် ဘုံသည်ကား နေဝသညာ

နာသညာယတန ခေါ်တွင်သော စတုတ္ထ အရူပ ဗြဟ္မာဘုံ ဖြစ်လေတော့သည်။

သံသရာ ဝဋ်အတွင်း ၃၁ဘုံတို့၌ ကျင်လည်ရသော ပုဂ္ဂိုလ်သတ္တဝါတို့ကို ကံတရားက စီမံထားသည်။ မိမိတို့ ပြုလုပ်ထားခဲ့သော ကံ၏ အကျိုးကြောင့်သာ ဒုဂ္ဂတိဘုံနှင့် သုဂတိဘုံတို့တွင် ခံစား စံစား ကြရသည်။ ကံမပါဘဲ ခံရသည်။ ကံမပါဘဲ စံရသည် ဟူ၍ မရှိချေ။ ကံ၏ စွမ်းအားသည် အလွန် ကြီးမားသည်။ ကံ၏ အကျိုး ပေါ်မလာအောင် မည်သူမျှ တားဆီး၍ မရချေ။ တားဆီး၍ မရရုံမက ကံအကျိုးပေးမှ လွတ်အောင် ထွက်ပြေး တိမ်းရှောင်၍လည်း မရပေ။ မလွဲမသွေကံ၏ အကျိုးပေးခြင်းကို ခံကြရမည် သာတည်း။

လောက၌ တန်ခိုးဣဒ္ဓိပါဒ် ဆိုသော တရားသည် တကယ်ပင် ရှိ၏။ ထိုတန်ခိုးသည် အလွန်တရာ အင်အား ကြီးမား၏။ ကမ္မနိယာမ တရားကိုပင် ကပြောင်းကပြန် ပြုလုပ်နိုင်သော အစွမ်းရှိ၏။ သို့သော် ကံ၏ အင်အားနှင့် နှိုင်းယှဉ်လိုက်လျှင် တန်ခိုး၏ အင်အားမှာ မပြောစလောက် ဖြစ်၏။ ရှင်မဟာ မောဂ္ဂလာန်သည် တန်ခိုးအရာ၌ ဧတဒဂ်ရသော ပုဂ္ဂိုလ်ဖြစ်သည်။ သို့သော် အကုသိုလ်ကံ ဖိစီးလာသော အခါ တန်ခိုးကလည်း မတတ်နိုင်တော့ပေ။ ခိုးသားများ ရိုက်သတ်သဖြင့် ပရိနိဗ္ဗာန် စံရလေသည်။

သတ္တဝါတို့သည် သံသရာ တည်းဟူသော မြစ်ထဲ၌ ရေစီးကြောင်းတည်း ဟူသော ကံကိုမှီ၍ အစုန်အဆန် မျောပါ သွားနေရသည်။ ကောင်းသော အလုပ်ကို ပြုလုပ်ခဲ့လျှင် ကောင်းကျိုးကို

ခံစားရသည်။ မကောင်းသော အလုပ်ကို ပြုလုပ်ခဲ့လျှင် မကောင်းကျိုးနှင့် မလွတ်တမ်း တွေ့ရမည်သာ ဖြစ်၏။

' ကျမ်းဂန်တို့တွင် ကံတရားကို လယ်ယာမြေနှင့် ဥပမာ ပြထားသည်။ ကံသည် လယ်ယာမြေနှင့် တူ၏။ ဝိညာဏ်သည် မျိုးစေ့နှင့်တူ၏။ တဏှာသည် အစေးနှင့် တူ၏။* တဏှာအစေး ရှိသောကံ လယ်မြေ ဝိညာဏ် မျိုးစေ့ ကျသောအခါ ဘဝသစ် အဖြစ် အညှောက်ပေါက်လာရသည်ဟု ဆိုလိုခြင်း ဖြစ်သည်။

ကာမာဝစရကံကြောင့် ကာမဘဝ၌ ဖြစ်သည်။ ရူပါဝစရကံကြောင့် ရူပဘဝ၌ ဖြစ်ရသည်။ အရူပါဝစရကံကြောင့် အရူပဘဝ၌ ဖြစ်ရတတ်သည်။ ကံတရားကြောင့် ဘဝ ဖြစ်ရသည်။ ကံကြောင့်ဘဝသစ် ဖြစ်ရသည်။ ဘဝအသစ်သစ် ဖြစ်လာရ၍ သတ္တလောကကြီးတစ်ခုလုံး ဖြစ်ရပျက်ရသည်။

ပုဂ္ဂိုလ်သတ္တဝါတို့သည် သေအံ့ဆဲဆဲအခါ၌ ဂတိနိမိတ် ခေါ်မိမိ၏ နောင်ဘဝ ဖြစ်မည့် ဘဝ၏ အာရုံကို ထင်မြင်သည်။ မိမိသွားရမည့် ခရီးကို ကြိုတင် မြင်ခြင်း ဖြစ်သည်။ စုတေပြီး လူ့ပြည်သို့ ရောက်ရမည့် သူများသည် လူ့ပြည်ဆိုင်ရာ နိမိတ်များ ထင်လာသည်။

နတ်ပြည်သို့ သွားရမည့် လူများသည်လည်း နတ်ဘုံ နိမိတ်များ ထင်ပေါ်လာရသည်။ ဤနည်းအတိုင်းပင် ငရဲဘုံ၊ ပြိတ္တာဘုံ၊ တိရစ္ဆာန်ဘုံ စသည့် အပါယ်ဘုံသို့ ရောက်မည့် သူများသည်လည်း အသီးသီး အတိတ်နိမိတ်များ အာရုံ၌ သိသာ ထင်ရှားစွာ တွေ့မြင်ရတတ်သည်။

---

* အင်္ဂုတ္တရ၊ တိကနိပါတ်၊ အနန္ဒဝဂ္ဂ၊ ပဌမဘဝသုတ္တ၊ ၃၃၄

သတ္တဝါ တစ်ဦးသည် သေလွန်ပြီး နောက်တွင် ပဋိသန္ဓေဘဝ ကား ပြတ်လေတော့သည်။ သို့သော် သံသရာ ဘဝကား မပြတ် သေးချေ။ ထိုသူ၏ ရုပ်ခန္ဓာ၊ နာမ်ခန္ဓာ အစဉ်က မပြတ်သေးသဖြင့် စုတေပြီးလျှင် ပြီးချင်း ဘဝသစ်တွင် ပဋိသန္ဓေ ဝိပါတ်၌ ထင်ရှား ဖြစ်လာရသည်။

ရုပ်မဲ့ အရူပဘုံ လေးဘုံနှင့် နာမ်မဲ့ အသညသတ် ဗြဟ္မာဘုံ တစ်ဘုံမှ တစ်ပါး ကျန်ဘုံ အားလုံးတို့၌ ဖြစ်လာကြရသော ဘုံသား တို့မှာ ရုပ်နှင့် နာမ်နှစ်ပါးစလုံး ပူးတွဲ ပါရှိကြပါသည်။ ရုပ်ရှိသော ဘုံ၌ ပဋိသန္ဓေစိတ် ဖြစ်ပေါ်လာလျှင် ရုပ်အပေါ် အမှီပြု၍ ဖြစ်လာ ရသည်။ ပဋိသန္ဓေစိတ် အမှီပြုရာ ရုပ်လည်း အတူဖြစ်ပေါ် လာ ရသည်။

ရုပ်မဲ့ဘုံ ဖြစ်သော အရူပဘုံတွင် ပဋိသန္ဓေ ဖြစ်လာလျှင်ကား တွယ်မှီရာ ရုပ်မရှိသောကြောင့် နာမ်ပဋိသန္ဓေ သက်သက်သာလျှင် ဖြစ်ပေါ်လာရသည်။ နာမ်မဲ့ဘုံ ဖြစ်သော အသညသတ်ဘုံ၌ ဖြစ်လျှင်မူ ရုပ်ပဋိသန္ဓေသာ ဖြစ်နိုင်သည်။

ဝေတပ္ဖိုလ်ဘုံသည် သဒ္ဓါဝါသ ဘုံတို့မှ အောက်ဘုံများ ဖြစ်သော ဘုံတို့အနက် ထိပ်ဆုံး (ဝါ) အမြင့်ဆုံးသော ဗြဟ္မာဘုံ ဖြစ်သည်။ အကနိဋ္ဌ ဗြဟ္မာဘုံသည်ကား သုဒ္ဓါဝါသဘုံတို့အနက် ထိပ်ဆုံးဘုံ ဖြစ်၏။ နေဝသညာနာသညာယတနဘုံသည် အရူပ ဗြဟ္မာဘုံတို့ အနက် ထိပ်ဆုံးဘုံ ဖြစ်သည်။

အကနိဋ္ဌ ဗြဟ္မာဘုံသည် ကြီးကျယ် မြင့်မြတ်သော ရဟန္တာ ဖြစ်လုဆဲဆဲ ဗြဟ္မာကြီးတို့၏နေရာ ဖြစ်သည်။ ထိုဘုံသို့ ရောက်ပြီး

သူတိုင်း ရဟန္တာဖြစ်၍ နိဗ္ဗာန်စံဝင် ကြရသည်။ အခြား ဘုံသို့လည်း မကူး။ ဤဘုံ၌လည်း ထပ်၍ မဖြစ်တော့ချေ။

အနာဂါမ် ပုဂ္ဂိုလ်များသာလျှင် သုဒ္ဓါဝါသ ငါးဘုံတို့၌ ဖြစ်နိုင်သည်။ အခြားသော ပုဂ္ဂိုလ်တို့မှာ သုဒ္ဓါဝါသ ဗြဟ္မာ ငါးဘုံတို့၌ မဖြစ်နိုင်ပေ။ အနာဂါမ်တို့သည် သုဒ္ဓါဝါသ ငါးဘုံတို့ အနက် မိမိ ကြိုက်ရာ ဘုံတို့၌ ဖြစ်ချင်တိုင်း မဖြစ်နိုင်သေးချေ။ သဒ္ဓိန္ဒြေရင့်သော အနာဂါမ် ပုဂ္ဂိုလ်သည် အဝိဟာဘုံ၌ ဖြစ်၏။ ဝီရိယိန္ဒြေ ရင့်သော အနာဂါမ် ပုဂ္ဂိုလ်သည် အတပ္ပေါဘုံတို့၌ ဖြစ်၏။ သတိန္ဒြေရင့်သော အနာဂါမ် ပုဂ္ဂိုလ်သည် သုဒဿဘုံ၌ ဖြစ်၏။ သမာဓိ န္ဒြေရင့်သော အနာဂါမ် ပုဂ္ဂိုလ်သည် သုဒဿီဘုံ၌ ဖြစ်၏။ မညိန္ဒြေ ရင့်သော အနာဂါမ်သည် အကနိဋ္ဌ ဗြဟ္မာဘုံတို့ ဖြစ်နိုင်၏။

အနာဂါမ် ပုဂ္ဂိုလ်သည် သုဒ္ဓါဝါသ ဗြဟ္မာဘုံ၌သာ ဖြစ်နိုင်သည် မကသေးဘဲ အသညသတ် ကြဉ်သော ရူပဝစရာဘုံတို့ တွင်လည်း ဖြစ်နိုင်သည်။

အနာဂါမ် ပုဂ္ဂိုလ်တို့သည် ကာမရာဂကို အကြွင်းမဲ့ ပယ်ပြီး ဖြစ်သဖြင့် ကာမဘုံ၌ ဖြစ်လိုသော နိကန္တိ မရှိသောကြောင့် ထိုကာမဘုံ တွင် မဖြစ်တော့ပေ။

ဈာန်ရသော အနာဂါမ်တို့သာ ဗြဟ္မာဘုံတို့တွင် ဖြစ်နိုင်သည်။ ဈာန်မရသေးသော အနာဂါမ်ပင် ဖြစ်သော်လည်း သမာဓိတရား ဖြည့်ကျင့်ပြီး ဖြစ်၍ သေခါနီး ကာလတွင် ဈာန်ရပြီးမှ သေရသည်။ ထို့ကြောင့် ဗြဟ္မာဘုံ၌ ဖြစ်ရသည်။

အကနိဋ္ဌ ဗြဟ္မာဘုံ၌ ဖြစ်သော အရိယာ ပုဂ္ဂိုလ်တို့သည် ထိုဘုံမှ အခြားဘုံသို့ ရွှေ့ပြောင်းကောင်း၊ ထိုဘုံ၌ ထပ်၍ လည်းကောင်း မဖြစ်နိုင်တော့သော်လည်း ဝေဟပ္ဖိုလ်ဘုံနှင့် နေဝသညာ နာသညာ ယတနဘုံတို့၌ ဖြစ်သော ပုဂ္ဂိုလ်တို့သည်ကား မိမိတို့ဘုံ၌ ထပ်၍ ဖြစ်နိုင်ပေသေးသည်။ ဗြဟ္မာဘုံ အဆင့်ဆင့်သို့ ရောက်ရှိနေသော အရိယာ ပုဂ္ဂိုလ်သည် မိမိတို့ဘုံ၏ အောက်အောက်သော ဘုံတို့သို့ ကူးပြောင်း၍ မဖြစ်နိုင်တော့ချေ။

မိန်းမများသည် ဗြဟ္မာဘုံကို သွားရောက်၍ မဟာ ဗြဟ္မာကြီး မဖြစ်နိုင်ပေ။ အလုပ်အကျွေး ဗြဟ္မာငယ်သာ ဖြစ်နိုင်သည်။*

ရုပ်နှင့်နာမ် နှစ်ပါးစလုံး ရှိသော ရူပဗြဟ္မာ ၁၅ဘုံသားတို့ သည် ဘုရားဖူးခြင်း၊ တရားနာခြင်း စသော အကျိုးအတွက် စက္ခုနှင့် သောတအာရုံကို ခံစားနိုင်သည်။ မျက်စိနှစ်ဖက်၊ နားနှစ်ဖက် ပါရှိ၍ မြင်မှုကြားမှုကို ခံစားနိုင်သည်။ အနံ့ခံခြင်း၊ အရသာခံခြင်းနှင့် အတွေ့ ကို ထိသိ ခံစားခြင်းမျိုးကို မူကား နှာခေါင်း၊ လျှာနှင့် ကိုယ်တို့ သဏ္ဌာန် ပါရှိသော်လည်း အရသာ ခံစားနိုင်ခြင်း မရှိပေ။

ဗြဟ္မာကိုယ်တွင် အသွေး၊ အသား၊ အရူ၊ အသည်းများ ပါရှိသည်။ နတ်ဒေဝါတို့တွင် နတ်သုဒ္ဓါ ဟူသော အာဟာရကို မှီဝဲကြသော်လည်း ဗြဟ္မာတို့ကား ဈာန်ဖြင့်သာ မျှတနေသည်။ အာဟာရကို စားသောက် မှီဝဲခြင်း မရှိ။

နတ်သား နတ်သမီးဟူ၍ နတ်ပြည်တွင် ခွဲခြားရှိသည်။ ဗြဟ္မာ တွင် ထိုသို့ မဟုတ်။ ယောကျ်ား၊မိန်းမ၊ ဟူ၍ မရှိပေ။ ဗြဟ္မာတို့တွင်

* အဘိဓမ္မာဥာဏ်ရောင်ကျမ်း (စတုတ္ထအကြိမ်–နှာ–၂၆၅)

ယောကျ်ား သဏ္ဌာန် ရှိသည်။ သို့သော် ယောကျ်ားဘာဝ ရုပ်မရှိ။ မိန်းမသဏ္ဌာန် ဗြဟ္မာ လုံးဝ မရှိ။ ယောကျ်ားသဏ္ဌာန် ချည်းသာ ဖြစ်၏။ ယောကျ်ားနှင့် မိန်းမတို့သည် ဈာန်တရားများကို အားထုတ်ခြင်းအားဖြင့် ဗြဟ္မာဘုံသို့ ရောက်နိုင်သည်သာ ဖြစ်၏။ မိန်းမတို့သည် ဗြဟ္မာ့ပါရိသဇ္ဇာ ဘုံ၌ ယောကျ်ား သဏ္ဌာန်၊ ယောကျ်ား အသွင်ဖြင့် ဖြစ်နိုင်သည်။ အထက် ဗြဟ္မာဘုံတို့တွင် မဖြစ်နိုင်ကြောင်း ဆိုသည်။ ဗြဟ္မာ့ ပါရိသဇ္ဇာဘုံသည် ဗြဟ္မာဘုံ ၂၀ အနက် အောက်ဆုံးဘုံ ဖြစ်သည်။

ဗြဟ္မာ၏ ခန္ဓာကိုယ် ပမာဏမှာ ၁၂ယူဇနာ (၉၆)မိုင်ခန့် ကြီးမားသည်။ မဟာဗြဟ္မာ တစ်ထောင်ကျလျှင် အကြီးအကဲ ဗြဟ္မာ တစ်ပါးစီ ရှိသည်။ ဗြဟ္မာအပေါင်းတို့၏ အကြီးဆုံးသော ဗြဟ္မာသည်ကား ဟာရိတ အမည်ရှိသော ဗြဟ္မာပင် ဖြစ်၍ အခြံအရံ ဗြဟ္မာ တစ်သိန်း ရှိသည်။ ဗြဟ္မာကြီး၏ လက်ညှိုးတစ်ချောင်းသည် စကြဝဠာ တစ်ထောင် အကွာအဝေး အထိ လင်းစေနိုင်သည်ဟု အဆိုရှိသည်။

ဗြဟ္မာတို့၏ သက်တမ်းသည် အနည်းဆုံး တစ်ကမ္ဘာ အချိန်၏ သုံးပုံတစ်ပုံ ကာလမှသည် အများဆုံး ကမ္ဘာပေါင်း တစ်သောင်း ခြောက်ထောင်အထိ ကြာမြင့်သည်။

နတ်တို့၏ သက်တမ်းသည်ကား တစ်ဘုံ၏ သက်တမ်းနှင့် တစ်ဘုံ၏ သက်တမ်း မတူချေ။ အောက်ဆုံး စတုမဟာရာဇ် နတ်ဘုံ၏ သက်တမ်းသည် အတိုဆုံး ဖြစ်ပြီး အထက်ဘုံသို့ တက်လေ သက်တမ်း ရှည်ကြာလေ ဖြစ်၏။ နတ်တို့၏ ခန္ဓာကိုယ် ပမာဏမှာ လေးမိုင်မှ ခြောက်မိုင်ခန့် ရှိသည်။

လူ့ဘုံသည် မြင့်မြတ်သောဘုံ ဖြစ်သည်။ လူ့ဘုံ၌သာ ဘုရားများ ပွင့်ကြရသည်။ ရဟန်းဘောင်သို့ ဝင်လိုသူသည် လူသားစစ်စစ်သာ ဖြစ်ရသည်။

အပါယ်ငရဲတို့၌ ကျရောက်သူများသည် ဒုက္ခဆင်းရဲ ကြီးစွာ ခံနေရသဖြင့် ဝိပဿနာ တရားဘာဝနာ တို့ကို အားထုတ် ပွားများခွင့် မရနိုင်ပေ။ အပါယ်ငရဲတွင် ကြောက်စရာ ကောင်းလောက်အောင် ဒုက္ခဆင်းရဲ ခံနေရပုံကို မဟာစည် ဆရာတော် ဘုရားကြီးက ဝိပဿနာ ရှုနည်း အကျဉ်းချုပ် စာအုပ်၌ အောက်ပါအတိုင်း ထင်ရှား သိမြင်နိုင်အောင် ပြဆိုထားရှိသည်။

"ငရဲဘုံ၌ ဖြစ်ရသော သတ္တဝါတို့၏ ကိုယ်ထည် သုံးဂါဝုတ် ပမာဏ ရှိ၏။ မြန်မာတိုင်အားဖြင့် ၄တိုင်နှင့် တာ ၈၀၀ရှိ၏။ ငရဲထိန်းတို့သည် ထိုမျှ ကိုယ်ခန္ဓာ ကြီးမားသော ငရဲသားကို အလျှံ တပြောင်ပြောင် မီးစွဲလောင်သော သံမြေပေါ်၌ ပက်လက် အိပ်စေကုန်၏။ ထို့နောက် ညာဘက် လက်ဝါး၌ ထန်းလုံးခန့်ရှိ ရဲရဲတောက်သော သံတစို့ကြီးကို ရိုက်နှက် သွင်းကုန်၏။ ဘယ်ဘက်လက်ဝါး၌လည်း နည်းတူပင် ရိုက်နှက် သွင်းကုန်၏။ ညာဘက်ခြေ၊ ဘယ်ဘက်ခြေ၊ ခါး၊ လက်တို့၌လည်း နည်းတူပင် ရိုက်သွင်းကုန်၏။

ထို့အတူ မှောက်လျက် အိပ်စေ၍ လည်းကောင်း၊ စောင်းလျက် အိပ်စေ၍ လည်းကောင်း ငါးပါးသော ဌာနတို့၌ သံစို့ကြီးများကို ရိုက်နှက်၍ ညှင်းဆဲနှိပ်စက် ကုန်၏။ အကုသိုလ်ကံ မကုန်သေးမချင်း ငရဲသားကား မသေနိုင်။ ဤသို့ အညှင်းဆဲ ခံရသော ငရဲသားသည် ရဲရဲတောက်သော သံမြေပြင်ကို မြင်ရုံမျှဖြင့်လည်း များစွာ စိတ်ဆင်းရဲ

ရ၏။ အလွန် ကြမ်းတမ်း ရက်စက်စွာ ကြိမ်းမောင်း ပြောဆိုသော ငရဲထိန်းတို့၏ အသံကို ကြားရ၍လည်း စိတ်ဆင်းရဲရ၏။ သံမြေပြင်ပေါ်၌ အတင်း တွန်းလှဲ သိပ်ခြင်း၊ မီးလောင်ခံရခြင်း၊ သံစို့ နှက်ခံရခြင်း တို့ကြောင့်လည်း အတိုင်းမသိ ကြီးစွာသော ကိုယ်ဆင်းရဲ၊ စိတ်ဆင်းရဲတို့ကို ခံစားရ၏။

ထိုသို့သော ကာလ၌ ကယ်ပါ၊ သနားပါ၊ ချမ်းသာ ပေးပါ စသည်ဖြင့် မျက်ရည် ယိုစီး ငိုကြွေး မြည်တမ်းလျက် တောင်းပန်သော်လည်း မည်သူကမျှ မသနား၊ ချမ်းသာ မပေးချေ။ မိဖ့်ဖမဲ့၊ ဆွေမျိုးမဲ့၊ ဆွေခင်ပွန်းမဲ့၍ တစ်ကိုယ်တည်းသာ ဖြစ်လျက် ညှိုးငယ်စွာနှင့် အလွန်ကြီးမားသော ဆင်းရဲတွေကို အော်မြည် ယောင်ယမ်းလျက် မိနစ်စက္ကန့်မခြားဘဲ ခံစား၍ နေရရှာလေတော့၏။ ထိုသို့သော ကာလ၌ ဝိပဿနာ အလုပ်ကို အားထုတ်ခွင့် မရနိုင်တော့ချေ။

ထို့ပြင် သံစို့ငါးချက်နှက်၍ မသေသေးသောငရဲသားကို ငရဲထိန်းတို့သည် အိမ်မိုးတစ်ဖက်ခန့် ရှိသော တံစည်းပေါက်ပြားကြီးတို့ဖြင့် ရှစ်မြှောင့်ပုံ၊ ခြောက်မြှောက်ပုံ စသည် ဖြစ်အောင် မျဉ်းပစ်၍ ရွေခုတ်ကြပြန်၏။ သွေးတို့သည် မြစ်ဖြစ်၍ စီးလေကုန်၏။ ထိုသွေးတို့မှ မီးတောက် ထပြန်၍ ရွေခုတ်ရာ ကိုယ်၌ စွဲလောင်လေ၏။ အတိုင်းမသိသော ဆင်းရဲကို ခံစားရလေ၏။ ထိုစဉ်အခါ၌ ဝိပဿနာအလုပ်ကို အားထုတ်ခွင့် မရနိုင်တော့ချေ။

ထိုမှဖြင့် မသေသေးလျှင် ခေါက်ထိုး တွဲလဲ ဆွဲထား၍ ဗန်းကြီးခန့်ရှိ ပဲကွပ်တို့ဖြင့် ပါးပါးလွှာလျက် ရွေခုတ်ကြပြန်၏။ ထိုမှဖြင့်လည်း မသေသေးလျှင် မီးလျှံရဲရဲတောက်သော သံရထား၌ နွား,မြင်းတို့ကဲ့သို့

တပ်၍ မီးကျီခဲတောင့်ကြီး ပေါ်သို့ တက်စေကုန်၏။ မတက်ဘဲနေလျှင် ရဲရဲတောက်သော သံတုတ်ကြီးများဖြင့် အပြင်းရိုက်၍ တက်စေကုန်၏။ တောင်ထိပ်သို့ ရောက်လျှင် တစ်ဖန်ဆင်းစေကုန်၏။ ဤသို့ တက်ချည် ဆင်းချည် အဖန်ဖန် ပြုစေကုန်၏။ တို့မှုဖြင့်လည်း မသေသေးလျှင် ကျိုက်ကျိုက် ဆူပွက်လျက် ရဲရဲတောက်သော လောဟကုမ္ဘီ ခေါ် သံရည်ပွက်အိုးကြီးထဲသို့ ပစ်ချလိုက်ကုန်၏။ ထိုငရဲသားသည် သံရည် ထဲ၌ ရှဲခနဲကျ၍ အမြှုပ်တစီစီ ထလျက် နစ်မြုပ်သွားရာလေ၏။

အနှစ်သုံးသောင်းကြာမှ ငရဲအိုး၏ အောက်ဝသို့ ရောက်၏။ တစ်ဖန် အနှစ်သုံးသောင်း ကြာမှ ငရဲအိုး၏ အောက်နှုတ်ခမ်းသို့ ရောက်လျက် ပေါ်လာ၏။ အရပ်မျက်နှာများ သို့လည်း ဖီလာသွား၏။ ထမင်းအိုး ပွက်သောအခါ၌ ဆန်စေ့ကလေးများ ကဲ့သို့ပင်တည်း။ အတိုင်း မသိသော ဆင်းရဲမှုနှင့် ရင်ဆိုင် တွေ့နေရလေ၏။ ထိုစဉ်အခါ၌ အားထုတ်ခွင့်ကိုကား မရနိုင်တော့ချေ။

ကံမကုန်သေး၍ ထိုမှုဖြင့် မသေပြန်လျှင် သံရည်ပွက်ထဲမှ ငရဲသားကို ထုတ်ယူ၍ ငရဲထိန်းတို့သည် မီးတဟုန်းဟုန်း အမြဲ တောက်လောင်လျက် ရှိသော ငရဲကြီးထဲသို့ သွင်းလိုက်ကြပြန်၏။ ထိုငရဲသည်ကား အလျား၊ အနံ၊ အမြင့် ယူဇနာတစ်ရာ ရှိလေ၏။ လေးထောင့်ညီသော သံသေတ္တာကြီးနှင့် တူ၏။ အရှေ့ဘက် နံရံမှ မီးလျှံသည် အနောက်ဘက်၌ နံရံကို ဖောက်ပြီးလျှင် အပြင်ဘက်၌ ယူဇနာ တစ်ရာတိုင်အောင် ပူလောင်၏။ အနောက်နံရံ၊ တောင်နံရံ၊ မြောက်နံရံကို ဖောက်ပြီးလျှင် အပြင်ဘက်၌ ယူဇနာ တစ်ရာတိုင်အောင် ပူလောင်၏။

အနောက်နံရံ၊ တောင်နံရံ၊ အထက်သံမိုး၊ အောက်သံမြေပြင်တို့မှ မီးလျှံတို့သည်လည်း နည်းတူချည်း ဟစ်အော် မြည်သတည်း။ ထိုငရဲကြီး အတွင်း၌ ထိုမှဤမှ ပြေးလွှားလူးလိမ့် ဟစ်အော်မြည်တမ်းလျက် ကြီးစွာသော ဆင်းရဲဒုက္ခတို့ကို ခံစားရလေ၏။

နှစ်ပေါင်းများစွာကြာသော် တစ်ခါတစ်ရံ၌ ထိုငရဲကြီး၏ တံခါးဝဆီသို့ အတင်းပြေးကြ၏။ အချို့မှာလည်း လမ်းခရီးတွင် မောပန်းလူးလိမ့်လျက် ရှိကုန်၏။ အချို့မှာ တံခါးဝသို့ ရောက်ကုန်၏။ အနှစ်သိန်းပေါင်းများစွာ ကြာလျှင် ထိုတံခါးကြီးသည် ပိတ်သွားလေသည်။ ထွက်နိုင်သော ငရဲသားသည်လည်း အပြင်သို့ ရောက်သည်နှင့် တပြိုင်နက် ဘင်ပုပ်ငရဲသို့ထဲသို့ ကျသွားလေ၏။ မစင်ဘင်ပုပ်ထဲ၌ နှစ်မြုပ်နေစဉ် ဆင်၏ လည်ပင်းခန့် ရှိသော ပိုးလောက် တို့က ကိုက်ခဲ စားကြလေသည်။

ထိုဘင်ပုပ်ငရဲထဲမှ လွတ်ပြန်လျှင် ပြာပူငရဲထဲသို့ ကျရောက်သွားပြန်၏။ ထိုငရဲ၌ အိမ်ထွတ်ခန့် ရှိသော မီးကျီခဲ၊ ရဲရဲတောက်သော ပြာပူတို့ဖြင့် လောင်ကျွမ်း၍ ဆင်းရဲကြီးစွာကို ခံစားရပြန်၏။

ထိုငရဲမှ လွတ်ပြန်လျှင် လက်ပံတော ငရဲသို့ ရောက်ပြန်၏။ လက်ပံပင်တို့မှာ ၁၆လက်မရှည်သော ဆူးရှိကုန်၏။ ငရဲထိန်းတို့က ရိုက်နှက်၍ ထိုးလက်ပံပင်တို့၌ တက်ချည်ဆင်းချည် ပြုလုပ်စေ၏။ လက်ပံဆူးတို့သည် တက်သောအခါ၌ အောက်ကို လှည့်၍ နေကုန်၏။ ဆင်းသောအခါ၌ အထက်သို့ လှည့်၍ နေကုန်၏။ ကြောက်လန့်တကြားလျင်စွာ တက်ရ၊ ဆင်းရသော ငရဲသားတို့၏ ကိုယ်သည် ထိုလက်ပံဆူးတို့ဖြင့် ထိုးမိ၍ စုတ်ပြဲလျက် ရှိလေ၏။ ထိုငရဲမှ လွတ်ပြန်လျှင် သံလျက်တော ငရဲသို့ ရောက်ပြန်၏။ ရောက်သည်နှင့် တပြိုင်နက်

သံလျက်နှင့် တူစွာ နှစ်သွားရှိသော အရွယ်တို့သည် ကြွေ၍ ငရဲသား၏ ကိုယ်၌ ကျလေကုန်၏။ လက်,ခြေ,နား,လျှာ, ကိုယ်အင်္ဂါတို့သည် အပိုင်းပိုင်း ပြတ်လေကုန်၏။ ထ၍ ပြေးပြန်လျှင် သံမြေပြင်၌ သင်တုံးသွားတို့သည် ထွက်ပေါ်လျက် ရှိကုန်၏။ ရှေ့မှ သံတံတိုလည်း ကာရံလျက် ရှိလေ၏။ ထိုအခါ၌ အားထုတ်ခွင့်ကို မရနိုင်တော့ချေ။

ထိုငရဲမှ လွတ်ပြန်လျှင် ဝေတ္တရဏီ မည်သော ကြိမ်ချောင်း ငရဲသို့ ကျရောက်ပြန်လေ၏။ ထိုငရဲမှာ ကျစ်ကျစ်ဆူသော အရည် အတိ ပြည့်၏။ သင်တုံးသွားနှင့် တူသော နွယ်များ၊ ကြာရွက်များ ရှိ၏။ အောက်မြေပြင်၌ သင်တုံးသွား ခင်းလျက်ရှိ၏။ ကမ်းပါးတို့၌ လည်း သင်တုံးသွားကဲ့သို့ ထက်သော ကြိမ်နွယ်များ သမန်းမြက်များ ရှိ၏။ ငရဲသားတို့သည် ထိုချောင်းကို ဆင်းမိလျှင် မြေပြင်မှ သင်တုံးသွား ရှသောကြောင့် လည်းကောင်း၊ အပူရည်ဖြင့် လောင်းခြင်း၊ စပ်ခြင်း ကြောင့် လည်းကောင်း၊ ဘိုင်းခနဲ လဲရှာလေ၏။ လဲလျှင် ကျစ်ကျစ် ဆူလျက် ပူစပ်သော အရည်ထဲ၌ စုန်ချည်ဆန်ချည် မျောနေလေ၏။ ကမ်းပါး၌ ရှိသော ကြိမ်သမန်းမြက် တို့ဖြင့်လည်းရှ၊ ချောင်းထဲ၌ ရှိသော ကြာရွက် တို့ဖြင့်လည်း ရှ၏။ ငရဲသားတို့၏ ကိုယ်သည် အစုတ်စုတ် အပြတ်ပြတ် ဖြစ်လေ၏။ ထိုစဉ် ခဏ၌ အားထုတ်ခွင့်ကို မရနိုင်တော့ချေ။

စုန်ချည်ဆန်ချည် မျောလျက် အတိဒုက္ခရောက်နေသော ထို ငရဲသားကို ငရဲထိန်းတွေ့လျှင် ငါးမျှားချိတ်ကြီးဖြင့် ဆွဲတင်၍ 'ဘာ အလိုရှိသလဲ'ဟု မေး၏။ ထမင်းဆာသည်ဟု ဆိုလျှင် ရဲရဲတောက် သော အတုံးအခဲဖြင့် ပြည့်သော သံခြင်းတောင်းကြီးကို ယူလာကုန်၏။

ငရဲသားသည် ကြောက်လှသောကြောင့် ပါးစပ်ကြီး အတင်းပိတ်၍ ထားရှာလေ၏။ ထိုအခါ ငရဲထိန်း တစ်ယောက်က ပေါက်ချွန်ကြီး နှင့် အတင်းပေါက်၍ ပါးစပ်ကို ဖွင့်၏ အခြားငရဲထိန်းကလည်း နည်းတူပင် တစ်ဖက်မှ ပေါက်၍ ဖွင့်၏။ ထိုသို့ ဖွင့်၍ ပါးစပ် ဟင်းလင်း ပွင့်နေသော အခါ၌ ရဲရဲတောက်သော ထိုသံတုံးသံခဲတို့ကို တစ်ခုပြီးတစ်ခု ပစ်ထည့်၍ ကျွေးကြလေသည်။

ထိုသံတုံးသံခဲတို့သည် နှုတ်ခမ်း၊ လျှာ၊ အာခေါင်၊ လည်ချောင်း၊ အူတို့ လောင်ကျွမ်းပြီးလျှင် အောက်ဒွါရမှ ထွက်သွားကုန်၏။ ရေငတ် သည်ဟု ဆိုပြန်လျှင် ကျိုက်ကျိုက်ဆူပွက်သော သံရည်တို့ကို လောင်း ထည့်၍ ပေးကုန်၏။ ထိုသံရည်ပူ တို့သည်လည်း နည်းတူပင်လောင်၍ အောက်ဒွါရမှ ထွက်သွားရကုန်၏။ငရဲသားသည် မလှုပ်နိုင်ဘဲ ဆင်းရဲ ကြီးစွာကို ခံစားရလေသည်။ ကံမကုန်၍ မသေသေးပြန်လျှင် ထိုငရဲ သားကို ငရဲကြီးထဲသို့ တစ်ဖန် ပစ်သွင်းလိုက်ပြန်လေ၏။

ငရဲကြီး ရှစ်ထပ်၌ မည်သို့မည်ပုံ ခံကြရကြောင်းကို ကွက်ကွက် ကွင်းကွင်း မြင်သာအောင် ရေးသားထားပုံတည်း။

ဒါန၊ သီလ၊ ဘာဝနာနှင့် ပတ်သက်၍ ဘာဝနာတွင် သမထ ဘာဝနာနှင့် ဝိပဿနာ ဘာဝနာဟူ၍ ရှိပုံကို အကျဉ်းမျှ ဖော်ပြခဲ့ပြီး ဖြစ်သည်။ သီလနှင့် ပတ်သက်၍လည်း ဘာဝနာ တရား ပွားများရာတွင် သီလ စင်ကြယ်ရန် အရေးကြီးပုံတို့ကို ဖော်ပြခဲ့ပြီး ဖြစ်သည်။

ဝိပဿနာ ဘာဝနာကို ပွားများလိုသူသည် ရှေးဦးစွာ ငါးပါး သီလ၊ ရှစ်ပါးသီလနှင့် အာဇီဝဋ္ဌမက သီလတို့အနက် မိမိ အလိုရှိရာ သီလတစ်မျိုးမျိုးကို ဆောက်တည်ရသည်။

သူတစ်ပါး၏ အသက်ကို သတ်ဖြတ်ခြင်း၊ အရှင်မပေးသော သူတစ်ပါး၏ ဥစ္စာကို ခိုးယူခြင်း၊ သူတစ်ပါး၏ အိမ်ရာကို ပြစ်မှား ကျူးလွန်ခြင်း၊ မဟုတ်မမှန်သော စကားကို ပြောဆိုခြင်း၊ သေရည် သေရက်တို့ကို သောက်စားမူးယစ်ခြင်း စသော မကောင်းမှုတို့ကို မပြုလုပ်ဘဲ ရှောင်ကြဉ်ခြင်းကို ငါးပါးသီလ ဆောက်တည်သည်ဟု ဆိုသည်။

သူတစ်ပါး၏ အသက်ကို သတ်ခြင်း၊ သူတစ်ပါး၏ ပစ္စည်း ဥစ္စာကို ခိုးယူခြင်း၊ မြင့်မြတ်သော နေရာ၌ နေထိုင်ခြင်းမှ ရှောင် ကြဉ်ခြင်း၊ မမှန်စကားကို ပြောခြင်း၊ သေရည်သေရက် သောက်စား ခြင်း၊ နေမွန်းလွဲ အစာကို စားသောက်ခြင်း၊ တူရိယာ တီးမှုတ်ကခုန်ခြင်း၊ မေထုန်မှီဝဲခြင်းတို့ကို ပြုလုပ် ကျူးလွန်ခြင်းမှ ရှောင်ကြဉ်ခြင်းကို ရှစ်ပါးသီလ ဆောက်တည်သည်ဟု ဆို၏။

သူတစ်ပါး၏ အသက်ကို သတ်ဖြတ်ခြင်း၊ အရှင်မပေးသော သူတစ်ပါး၏ ဥစ္စာကို ခိုးယူခြင်း၊ သူတစ်ပါး၏ အိမ်ရာကို ပြစ်မှား ကျူးလွန်ခြင်း၊ မဟုတ်မမှန်သော စကားကို ပြောဆိုခြင်း၊ ကုန်းတိုက် ချောပစ်သော စကားကို ပြောဆိုခြင်း၊ ရန့်ရင်း ကြမ်းတမ်းသော စကားကို ပြောဆိုခြင်း၊ အကျိုးမရှိ သိမ်ဖျင်းသော စကားကို ပြောဆိုခြင်း၊ မကောင်းသော သက်မွေးမှု တို့ကို မပြုလုပ်ဘဲ ရှောင်ကြဉ်ခြင်းကို အာဇီဝဋ္ဌမက သီလဆောက်တည်သည်ဟု ခေါ်ဆိုကြသည်။

ဒါနတွင်လည်း ပေးလှူသော အရာဝတ္ထု ပစ္စည်းကို လိုက်၍ အကျိုးပေးမှု အမျိုးမျိုး ကွဲပြားသည်။ ယခုဘဝတွင် အကောင်းကို ပြုလုပ်မှ အကောင်းကို နောင်ဘဝတွင် ရရှိနိုင်သည်။ ယခုဘဝတွင်

မကောင်းမှု ပြုလုပ်လျှင် နောင်ဘဝ၌ မကောင်းမှုနှင့် ကြုံတွေ့ရတတ်သည်။ အလှူခံပုဂ္ဂိုလ် နှစ်သက်သော ပစ္စည်းကို လှူဒါန်းလေ့ရှိသူသည် နှစ်သက်ဖွယ်သော အကျိုးကို ရတတ်သည်။

သဗ္ဗဒါနံ၊ ဓမ္မဒါနံ ဇိနာတိ၊ အားလုံးသော အလှူကို တရားအလှူက အောင်၏ဟု အဆိုရှိ၏။ တရား လှူသည့် အသိအလိမ္မာ၊ ဉာဏ်ပညာကို ပေးတတ်သည်။ အလှူဒါန ကုသိုလ်ကောင်းမှု ပြုလုပ်လျှင် အမှတ်မဲ့ မပြုရချေ။ သာဝကဗောဓိ၊ ပစ္စေကဗောဓိ၊ သဗ္ဗညုဗောဓိ တည်းဟူသော ဗောဓိသုံးပါး အနက် တစ်ပါးပါးကို ရည်သန်၍ ပြုလုပ်ရသည်။ ဗောဓိသည်ကား မဂ်ဉာဏ်ပင်တည်း။

သာဝကဗောဓိ ဆိုရာတွင် အဂ္ဂသာဝက ဗောဓိ၊ မဟာသာဝက ဗောဓိ၊ ပကတိသာဝက ဗောဓိဟူ၍ သုံးပါး ရှိပြန်သည်။

သဗ္ဗညု ဗောဓိသည်လည်း ပညာဓိက၊ သဒ္ဓါဓိ၊ ဝီရိယာဓိက ဟူ၍ သုံးမျိုး ရှိပြန်သည်။

ပညာဓိက ဗောဓိမှာ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီ ဖြည့်ရသည်။ သဒ္ဓါဓိက ဗောဓိမှာ ရှစ်သင်္ချေနှင့် ကမ္ဘာတစ်သိန်း၊ ဝီရိယာဓိက ဗောဓိမှာ ဆယ့်ခြောက်သင်္ချေနှင့် ကမ္ဘာတစ်သိန်း၊ ပစ္စေက ဗောဓိမှာ နှစ်သင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီ ဖြည့်ရသည်။

ရှင်သာရိပုတ္တရာ၊ ရှင်မောဂ္ဂလာန် နှစ်ပါးတို့ကဲ့သို့ အမြတ်ဆုံး လက်ယာရံကြီး၊ လက်ဝဲရံကြီး၊ နှစ်ပါးတို့သည်၊ အဂ္ဂသာဝကမည်၏။ အဂ္ဂသာဝကဗောဓိမှာ တစ်သင်္ချေနှင့်ကမ္ဘာတစ်သိန်း ပါရမီဖြည့်မှ ရသည်။

ရှင်အာနန္ဒာ၊ ရှင်အနုရုဒ္ဓါ၊ ရှင်မဟာ ကဿပ အစရှိကုန်သော လက်ယာရံ လေးကျိပ်၊ လက်ဝဲရံ လေးကျိပ် ပေါင်းရှစ်ကျိပ်သော

ပုဂ္ဂိုလ်တို့သည် မဟာသာဝက မည်ကုန်၏။ မဟာသာဝက ဗောဓိသည် ကမ္ဘာတစ်သိန်း ပါရမီ ဖြည့်ခဲ့ရသည်။ ထိုမှ ကြွင်းသော ဘုရားတပည့်သား၊ အရိယာ သာဝက ဟူသမျှသည် လူဖြစ်စေ၊ ရဟန်းဖြစ်စေ၊ နတ်ပြဟ္မာဖြစ်စေ၊ ပကတိ သာဝက မည်၏။ ထိုပကတိ သာဝကဗောဓိတို့မှာ ကမ္ဘာတစ်ရာ၊ ကမ္ဘာတစ်ထောင် ပါရမီ ဖြည့်ရသည်ဟုဆိုသည်။ ကောင်းကောင်း ပါရမီဖြည့်လျှင် နှစ်ဘဝ၊ သုံးဘဝနှင့်ပင်ရသည် ဟုလည်း ဆိုကြသည်။

တိရစ္ဆာန် သတ္တဝါတို့အား ကျွေးမွေးသော အလှူသည် ဘဝတစ်ရာတို့၌ အာယု၊ ဝဏ္ဏ၊ သုခ၊ ဗလ၊ ဒိသာန ဟူသော ကောင်းကျိုးငါးပါးကိုပေးနိုင်၏။

လူဒုဿီလကို ပေးလှူလျှင် ဘဝတစ်ထောင်၊ သရဏဂုံ မရှိသော* သာသနာပ လူသီလဝန္တတို့အား ပေးလှူလျှင် ဘဝတစ်သိန်း၊ ရှာန်ရရသေ့တို့အား တစ်နပ်စာ ပေးလှူလျှင် ဘဝကုဋေတစ်သိန်း၊ သရဏဂုံ သီလရှိသော လူသာမဏေမှစ၍ သောတာပတ္တိ မဂ်ဖိုလ်ရပုဂ္ဂိုလ်တို့အား ပေးလှူလျှင် ဘဝ အသင်္ချေ့ စသည်ဖြင့် ထိုမှအထက်သို့ရောက်လေ အသင်္ချေ့ပေါင်း များလေသော ဘဝအကျိုး ပေးသွားသည်။

ဝေလာမသုတ်တွင် ခုနစ်နှစ်၊ ခုနစ်လ၊ ခုနစ်ရက် ပတ်လုံးဇမ္ဗူဒီပါ တစ်ကျွန်းလုံးကို ဖိတ်၍ လှူဒါန်းသော ဝေလာမ ပုဏ္ဏားၡ၏အလှူထက် သောတာပန် တစ်ယောက်အား ဆွမ်းတစ်နပ်စာ ကျွေးရသော အလှူသည် အကျိုးကြီး၏။ သောတာပန် တစ်ရာအား ဆွမ်းကျွေးရသည်ထက် သကဒါဂါမ် တစ်ယောက်အား ကျွေးမွေးရသော အလှူ

* သရဏဂုံ မရှိသူ၊ ဘုရား၊ တရား၊ သံဃာတို့ကို မယုံကြည်သူ။

သည် အကျိုးကြီး၏။ သကဒါဂါမ် တစ်ရာအား ကျွေးမွေးရသည်ထက် အနာဂါမ် တစ်ယောက်အား ကျွေးမွေးရသော အလှူဒါနသည် အကျိုးကြီး၏။ အနာဂါမ် တစ်ရာအား ကျွေးမွေးရသည်ထက် ရဟန္တာ တစ်ပါးအား ကျွေးမွေး ရသော အလှူသည် အကျိုးကြီး၏။ ရဟန္တာ တစ်ပါးအား ဆွမ်းတစ်နပ်စာ ကျွေးရသည်ထက် ပစ္စေကဗုဒ္ဓါ တစ်ပါးအား ကျွေးမွေးရသော အလှူသည် အကျိုးကြီး၍ ပစ္စေကဗုဒ္ဓါအား ကျွေးမွေး သည်ထက် သဗ္ဗညုတ ဘုရားတစ်ပါးအား ကျွေးမွေးရသော အလှူသည် အကျိုးကြီး၏။

သဗ္ဗညုတ ဘုရားတစ်ပါးအား ကျွေးမွေးရသည်ထက် ဘုရား အမှူးရှိသော သံဃာတော်တို့အား ကျွေးမွေးရသော အလှူသည် အကျိုး ကြီး၏။ ဘုရား၊ အမှူးရှိသော သံဃာတော်တို့အား ကျွေးမွေးရသည် ထက် စတုဒိသာ သံဃိကကျောင်း တစ်ခုကို ဆောက်လုပ် လှူဒါန်းမှုသည် အကျိုးကြီး၏။ စတုဒိသာ သံဃိက ကျောင်းကို ဆောက်လုပ် လှူဒါန်း သည်ထက် သရဏဂုံ သုံးပါး ဆောက်တည်ရခြင်းသည် အကျိုးကြီး၏။ သရဏဂုံသုံးပါး ဆောက်တည်ရခြင်းထက် သရဏဂုံ ငါးပါးသီလ ဆောက်တည်ရခြင်းသည် အကျိုးကြီး၏။ သရဏဂုံ သုံးပါးနှင့် တကွ ငါးပါးသီလကို ဆောက်တည်ရခြင်းထက် နွားနို့ တစ်ညှစ်ခန့် ကာလ မျှပင် မေတ္တာတရားကို ပွားများ ရခြင်းသည် အကျိုးကြီး၏။ မေတ္တာ တရားကို ပွားများရသည်ထက် အနိစ္စ ဘာဝနာ တရားကို ပွားများ ရခြင်းသည် အကျိုးကြီးမြတ်လှ၏ဟူ၍ ဟောတော်မူသည်။

အလှူဒါနပြုရခြင်းထက် သီတင်းသီလ ဆောက်တည်ခြင်းက ပို၍ မြတ်ကြောင်း၊ သီတင်းသီလ ဆောက်တည်ခြင်းထက် ဘာဝနာ

တရားများကို ပွားများရခြင်းက ပိုမြတ်ကြောင်းကို ထင်ရှား စေပါသည်။

## မဟာယာန

အထက်တွင် ဖော်ပြခဲ့သော အယူဝါဒသည် ထေရဝါဒ ခေါ် တောင်ပိုင်း ဗုဒ္ဓဘာသာ၏ အမြင်ဖြစ်သည်။ ဗုဒ္ဓဘာသာတွင် ထေရဝါဒ နှင့် မဟာယာန ဟူ၍ ဂိုဏ်းကြီး နှစ်ဂိုဏ်း ရှိသည်။ ထေရဝါဒ ဘာသာကို ဟိနယာန ဟူ၍လည်း ခေါ်သည်။

မဟာယာန ဗုဒ္ဓဘာသာသည် မြောက်ပိုင်းဒေသများ ဖြစ်သော နီပေါ၊ ဘူတန်၊ တိဗက်၊ ဆိုဗီယက်၊ တရုတ်၊ ကိုရီးယား၊ ဂျပန်နိုင်ငံများတွင် ထွန်းကားပြီး ဟိနယာနခေါ် ထေရဝါဒ ဗုဒ္ဓဘာသာသည်ကား တောင်ပိုင်း ဒေသများ ဖြစ်သော သီရိလင်္ကာ ၊ မြန်မာ ၊ ယိုးဒယားနှင့် ကမ္ဘောဒီးယား နိုင်ငံများ၌ ထွန်းကားသည်။ မဟာယာန ဗုဒ္ဓဘာသာသည် မြန်မာနိုင်ငံ၌ အနော်ရထာမင်း မတိုင်မီကာလတွင် ထွန်းကားလျက် ရှိကြောင်း သမိုင်း အထောက်အထား တွေ့ရှိကြသည်။ ယခုအချိန်တွင် မြန်မာနိုင်ငံ၏ မြောက်ဘက်အစွန်ဆုံး တိဗက်နှင့် နယ်စပ်ချင်း ဆက်စပ်နေသော ဒေသတို့တွင် မဟာယာန ဗုဒ္ဓဘာသာဝင် တိုင်းရင်းသား လူမျိုး အနည်းငယ် ရှိကြောင်း သိရှိရသည်။

မြန်မာနိုင်ငံ ဗုဒ္ဓဘာသာ ရောက်ရှိလာခြင်းနှင့် ပတ်သက်၍ ဘုရားသမိုင်းတို့၏ အလိုအရ၊ မြတ်စွာဘုရား သက်တော်ထင်ရှား ရှိစဉ်ကပင် ရောက်ရှိလာသည်ဟု ဖော်ပြထားကြသည်။ မြန်မာနိုင်ငံ ဥက္ကလာပတိုင်းမှ တဖုဿနှင့် ဘလ္လိက ကုန်သည်ညီနောင် တို့သည်

မဇ္ဈိမဒေသသို့ ကုန်ရောင်းကုန်ဝယ် သွားရာတွင် ဘုရားပွင့်သည်ကို ကြုံကြိုက်သဖြင့် ဝင်ရောက် ဖူးတွေ့ရာမှ မြတ်စွာဘုရား၏ ဆံတော်ဓာတ်ကို ရရှိခဲ့၍ ဥက္ကလာပတိုင်းသို့ ရောက်သောအခါ ဆံတော်ဓာတ်ကို ဌာပနာ၍ ရွှေတိဂုံစေတီတော်ကို ဥက္ကလာမင်းကြီးက တည်ထားကြောင်း၊ ရွှေတိဂုံ စေတီတော် သမိုင်းကဆိုသဖြင့် ထိုအချိန်ကပင် ဗုဒ္ဓဘာသာ စတင် ထွန်းကားခဲ့သည်ဟု ယူဆကြသည်။

ကျိုက်ထီးရိုး ဘုရားသမိုင်း၏ အလိုအရ ဂဝမ္ပတိရဟန္တာသည် မြတ်စွာဘုရားအား သုဝဏ္ဏဘုမ္မိသို့ ပင့်ဆောင်လာ၍ သုဝဏ္ဏဘုမ္မိ မင်းကြီးနှင့် ရသေ့ညီနောင်တို့ကို ဆံတော်ဓာတ် ပေးသနားတော်မူကာ ပြန်ကြွသွားသည့် အချိန်မှစ၍ သုဝဏ္ဏဘုမ္မိတွင် ဗုဒ္ဓဘာသာ ထွန်းကားလိမ့်မည်ဟု ယူဆကြသည်။

မြန်မာနိုင်ငံသို့ ထေရဝါဒ ဗုဒ္ဓဘာသာသာသာ ရောက်ရှိလာသည့် အချိန်ကို တရားဝင် အတိအကျ အထောက်အထား တွေ့ရှိနိုင်သော အစောဆုံး ကာလကား သက္ကရာဇ် အေဒီ ငါးရာစုအတွင်း ကာလ ဖြစ်သည်။ အရှင် ဗုဒ္ဓဃောသသည် သီဟိုဠ်ကျွန်းမှ ပိဋကတ်တော်တို့ကို ကူးယူ၍ သာသနာသက္ကရာဇ် ၉၅၆ခုနှစ်တွင် သုဝဏ္ဏဘုမ္မိသို့ ရောက်ရှိ လာသည်။ ထိုသက္ကရာဇ်ကို မြန်မာနိုင်ငံသို့ ထေရဝါဒ ဗုဒ္ဓဘာသာ စတင် ရောက်ရှိသော ကာလဟု သတ်မှတ်ထားနိုင်သည်။ ထိုထက်စော၍ ရောက်ရှိနိုင်ဖွယ်ရာ ရှိသော်လည်း အထောက်အထား မတွေ့ရှိကြသေးပေ။ သက်ဆိုင်ရာ ပညာရှင်များ သုတေသန ပြုနေကြောင်း သိရှိရပေသည်။

မြောက်ပိုင်း ဗုဒ္ဓဘာသာ ခေါ် မဟာယန ဗုဒ္ဓဘာသာဂိုဏ်း သည် ဒုတိယမြောက် သင်္ဂါယနာ တင်ပွဲကစ၍ ကွဲထွက်သွားသည်။

သာသနာနှစ် ၁၀၀ခုနှစ်တွင် ဝေသာလီပြည် ဝဇ္ဇီတိုင်းရင်းသား ရဟန်းတို့သည် ဝိနည်းနှင့်စပ်၍ ယွင်းချော်သော အချက် ဆယ်ချက်တို့ကို ဟောပြော ကျင့်ဆောင်နေကြသည်။ (အချို့က ပထမသင်္ဂါယနာတင်ပွဲက စ၍ ကွဲသည်ဟု ဆိုကြသည်။)

ဝိနည်းသည် သာသနာတော်၏ အသက်ဟုပင် ဆိုနိုင်သဖြင့် သာသနာတော်၏ အညစ်အကြေး ဘေးအန္တရာယ်ဖြစ်လာသော ယင်းဝိနည်းတို့ကို ရှင်းလင်းရန် လိုအပ်လာသည်။ ထို့ကြောင့် ရှင်မဟာယသ၊ ရှင်ရေဝတ၊ ရှင်သဗ္ဗကာမိတို့က ကြီးမှူး၍ ဒုတိယ သင်္ဂါယနာတင်ပွဲကို ကျင်းပပေးလေသည်။

ဝိဝါဒ ကွဲပြားသော ဝေသာလီရဟန်း တို့ကလည်း စင်ပြိုင်ပြု၍ သင်္ဂါယနာတင်ပွဲ တစ်ခုကို ကျင်းပသည်။

မူရင်းဖြစ်သော ရှင်မဟာယသ ကြီးမှူးသည့် ဂိုဏ်းကို ရှေးမထေရ်ကြီးများ၏ အယူအဆ မူရင်းမှန်ကို လိုက်နာကြသောကြောင့် 'ထေရဝါဒဂိုဏ်း'ဟု ခေါ်သည်။ ကောသမ္ဗိသို့ ဂိုဏ်းခွဲ၍ သင်္ဂါယနာတင်သောဂိုဏ်းကိုကား သံဃာ တစ်သောင်းမျှ များပြားသော ပရိသတ်နှင့် တင်သောကြောင့် "မဟာသင်္ဂီတိဂိုဏ်း"ဟု ခေါ်သည်။ ထေရဝါဒဂိုဏ်းတွင် တက်ရောက်သော ရဟန်း အရေအတွက်ပေါင်း တစ်သန်းနှစ်သိန်းရှိသော်လည်း မထေရ်ကြီး ၇၀၀ဖြင့်သာ သင်္ဂါယနာ တင်သည်။

ထေရဝါဒ ဗုဒ္ဓဘာသာတို့၏သင်္ဂါယနာတင်ပွဲများမှာ (၁)ရာဇဂြိုဟ်၊ (၂) ဝေသာလီ၊ (၃) ပါဋလိပုတ်၊ (၄) သီဟိုဠ်၊ (၅) မန္တလေး၊ (၆) ရန်ကုန် ဖြစ်၍ မဟာယာန တို့၏ သင်္ဂါယနာ တင်ပွဲများမှာ (၁) ရာဇဂြိုဟ်၊ (၂) ဝေသာလီ၊ (၃) ကသ္မီရဟူ၍ သုံးပွဲသာ ရှိသည်။

ကသျှမီရ သင်္ဂါယနာ တင်ပွဲကို ကျင်းပခဲ့သော ကနိုနစ်ဘုရင်မင်းသည် ထေရဝါဒ နှင့် မဟာယာန နှစ်ဂိုဏ်းစလုံးကို သက်ဝင်ယုံကြည်သူ ဖြစ်၍ ဂိုဏ်းနှစ်ဂိုဏ်း ညီညွတ်ရေး ရရှိစေရန် သာသနာ သက္ကရာဇ် ၇၀၀ခုနှစ်ခန့် (အေဒီ ၁၀၀ခန့်)တွင် သင်္ဂါယနာတင် ပွဲတော်ကို ပြုလုပ်ခဲ့ခြင်း ဖြစ်သည်။

ကသျှမီရသင်္ဂါ ယနာတင်ပွဲကို ကြီးမှူးခဲ့သော နာယက အရှင်အဿဃောသသည် "ဗုဒ္ဓစာရိတ' အမည်ရှိသော ကျမ်းကို ပြုစုခဲ့ရာ ထိုကျမ်း၌ အကျင့်သုံးမျိုးကို ဖော်ပြထားသည်။ (၁) သာဝကယာန၊ (၂) ပစ္စေကဗုဒ္ဓယာန၊ (၃) ဗုဒ္ဓယာန ဟူ၍ ဖြစ်သည်။ ဤယာန သုံးမျိုးသည် တောင်ပိုင်း ဗုဒ္ဓဘာသာ၌ ပါရှိသော (၁) သာဝက ဗောဓိ၊ (၂) ပစ္စေက ဗောဓိ၊ (၃) သဗ္ဗညုဗောဓိတို့နှင့် အတူတူပင် ဖြစ်သည်။

ယာန ဆိုသည်မှာ သွားစရာ ယာဉ်ကို ခေါ်ခြင်းဖြစ်သည်။ နိဗ္ဗာန်သို့ ကူးသွားရာတွင် ယာဉ်ဟု ဆိုလိုသည်။ အကျင့်တရားဟူ၍ အဓိပ္ပာယ်ရသည်။ သာဝကယာန ဆိုသည်မှာ လူရှင်ရိုးရိုး အဖြစ်နှင့် ကျင့်ခြင်းဟု ဆိုလိုသည်။ ပစ္စေကဗုဒ္ဓယာန ဆိုသည်မှာ ပစ္စေကဗုဒ္ဓ ဖြစ်ရန် ကျင့်ခြင်းဖြစ်ပြီး ဗုဒ္ဓယာန ဆိုသည်ကား ဘုရားအဖြစ်ဖြင့် ကျင့်ခြင်း၊ နိဗ္ဗာန်သို့ ကူးခြင်းဟု ဆိုလိုသည်။

ထေရဝါဒ ဗုဒ္ဓဘာသာ၏ အလိုအားဖြင့် အဆိုပါ ယာန သုံးမျိုးစလုံးနှင့် နိဗ္ဗာန်သို့ ကူးပြောင်းနိုင်သည်၊ မဟာယာနတို့ အနေနှင့်မူ သာဝက ယာနနှင့် ပစ္စေက ဗုဒ္ဓယာနတို့မှာ မိမိ တစ်ကိုယ်တည်းသာ နိဗ္ဗာန်သို့ ကူးပြောင်းနိုင်၍ တစ်ကိုယ်ကောင်း အကျင့် ဖြစ်သည်ဟု ယူဆသည်။ ဝေနေယျ သတ္တဝါများကို ကယ်တင်နိုင်သော အကျင့်

မဟုတ်။ ဗုဒ္ဓယာန အကျင့်သည် သာလျှင် သတ္တဝါများကို ကယ်တင်နိုင်သည်။ ဗုဒ္ဓယာနသည်သာ အမြင့်မြတ်ဆုံး ဖြစ်ကြောင်း လက်ခံကြသည်။ အမြင့်မြတ်ဆုံး ဖြစ်၍ မဟာ ဟူသော စကားလုံးကို သုံးကာ မဟာယာနဟု ခေါ်တွင်စေသည်။

ဂေါတမဗုဒ္ဓ ဘုရားရှင်သည် သုမေဓာ ရှင်ရသေ့ ဘဝက ဒီပင်္ကရာ ဘုရားခြေရင်း၌ ဗျာဒိတ်ခံယူစဉ်ကပင် နိဗ္ဗာန်ကူးရောက်နိုင်ပါလျက် ဝေနေယျ သတ္တဝါ အများကို ကယ်တင်လိုသေး၍ နိဗ္ဗာန်မကူးသေးဘဲ ဘုရားအလောင်း အဖြစ်ဖြင့် ဆင်းရဲပင်ပန်းခံကာ ပါရမီဆယ်ပါးကို ဖြည့်ဆည်းခဲ့သဖြင့် ဗုဒ္ဓဘာသာဝင်တိုင်းသည် ဘုရားလောင်းကဲ့သို့ ကျင့်ကြံရမည်ဟု ဆိုသည်။

ထေရဝါဒ ဗုဒ္ဓဘာသာက သတ္တဝါအများကို ကယ်ချွတ်တော်မူသည့် ဗုဒ္ဓဘုရားဆုကို ပန်သော ဗုဒ္ဓယာနာသည်လည်း ကောင်းကြောင်း၊ သို့သော် သတ္တဝါတို့တွင် အယုတ်၊ အလတ်၊ အမြတ်၊ အနု၊ အရင့်ဟူ၍ ရှိသေးရာ ဘုရားဆုကို ပန်နိုင်သူလည်း ပန်ဆင်၍ မိမိတစ်ဦးတည်း သာဝကယာန၊ ပစ္စေက ဗုဒ္ဓယာနတို့ဖြင့် နိဗ္ဗာန်ကူးလိုသူတို့သည်လည်း ကူးနိုင်ပါစေဟု သဘောထားကြသည်။

မဟာယာနတို့က ထေရဝါဒ သမားတို့ကို ချိုးနှိမ်သည့် အနေဖြင့် "ဟိနယာန"ဟူ၍ ခေါ်ဆိုသဖြင့် ထင်ရှားလာခြင်း ဖြစ်လေသည်။

အရှင်အဿဃောသ၏ အယူအဆများကို အရှင်နာဂဇုနက ဆက်လက် ထိန်းသိမ်းသွားရာ နှောင်နှစ်ပေါင်း သုံးရာခန့် အကြာတွင် အလွန် လူကြိုက်များလာသည်။ ဗောဓိသတ္တခေါ် ဘုရားလောင်း ဝါဒ အယူအဆ တိုးတက်ကြီးပွား လာသည်။

ဗုဒ္ဓဘာသာဝင် တိုင်းသည် သတ္တဝါအများကို ကယ်တင်နိုင်ရန် အတွက် ဘုရားဆုကို ပန်ရမည် ဆိုကာ ဘုရားလောင်း ဂုဏ်အမျိုးမျိုး တင်ကာ ဖော်ကျူးကြသည်။ နောက်ပိုင်းတွင် မဟာယာန ဗုဒ္ဓဘာသာ သည် ဗုဒ္ဓဘာသာ အယူအဆ သက်သက်သာ မဟုတ်တော့ဘဲ အခြား ဘာသာ အယူအဆများကိုပါ ရောထွေးလက်ခံလာသည်။ ဘုရားသည် လူသား ဘုရားသာ မဟုတ်တော့ဘဲ ထာဝရ တည်ရှိနေသော နတ် ဘုရားမျိုး အဖြစ်သို့ ကူးပြောင်းရောက်ရှိ သွားတော့သည်။

ဘုရားလောင်းသည် လူတို့အတွက် နိဗ္ဗာန်တည်း ဟူသော လောကုတ္တရာအကျိုးတို့သာမက လောကီအကျိုးကိုပါ ပေးစွမ်းနိုင် သည်ဟု ယူဆလာကြသည်။ ဘုရားလောင်းသည် သတ္တဝါ အားလုံးကို ဘုရားဖြစ်အောင် ကူညီ မစရမည်။ ဗောဓိဉာဏ်ကို ရယူပြီး နောက် တွင်လည်း ထာဝရ အသက် တည်မြဲရမည်။ သတ္တဝါတို့ကို ကယ်ဆယ်ရန် လူ့ပြည်သို့ လူ့ဘဝဖြင့် ရောက်ရှိလာရခြင်း ဖြစ်သည်ဟူ၍ ထာဝရ ဘုရားမျိုး ဖြစ်လာသည်။

ထေရဝါဒ ဗုဒ္ဓဘာသာကို လက်ခံယုံကြည်သော ဒေသများတွင် နတ်ကိုးကွယ်မှု အယူအဆများ ရှိသော်လည်း ထိုအယူအဆများကို ဗုဒ္ဓဘာသာနှင့် ရောထွေးယှက်တင် မဖြစ်စေဘဲ သီးခြား ကိုးကွယ်မှုမျိုး ရှိသည်။ မဟာယာန ဗုဒ္ဓဘာသာတွင်ကား ထိုနတ်များကို ဘုရားလောင်း ဝင်စားသူများ ဖြစ်လေဟန် ပြုလုပ်ကြသည်။

ဝိနည်းတော်များကိုလည်း အလေးဂရု မထားတော့ချေ။ ဘုရား ဆုပန်သော ဘုရားလောင်းများ အတွက် ကျပ်တည်းသော ကိုယ်ကျင့် တရားများကို မလိုဟု ယူဆကြသည်။

ဗုဒ္ဓဘာသာ၌ မဟာယာနနှင့် ဟီနယာန ဂိုဏ်းကြီး နှစ်ဂိုဏ်း ကွဲပြီးနောက် တောင်ပိုင်း ဗုဒ္ဓဘာသာတွင် နောက်ထပ် ဂိုဏ်းကွဲမှု မရှိတော့ဘဲ တစ်စုတစ်ရုံးတည်း ရှိနေသည်။ မဟာယာန ဗုဒ္ဓဘာသာ တွင်ကား ဂိုဏ်းပေါင်းများစွာ ကွဲသွားခဲ့သည်။

တရုတ်ပြည်၊ ဂျပန်ပြည်၊ တိဗက်ပြည်ရှိ မဟာယာန ဂိုဏ်းတို့သည် တစ်ပြည်နှင့်တစ်ပြည် မတူညီဘဲ အယူအဆ ကွဲပြားလျက် ရှိကြသည်။

လူတိုင်းလူတိုင်း၊ သတ္တဝါတိုင်း၊ သတ္တဝါတိုင်းသည် လူတိုင်း လူတိုင်း၊ သတ္တဝါတိုင်း သတ္တဝါတိုင်းကို ကယ်တင်ရန်အတွက် ဘုရား လောင်းဆုကို ရယူကြသည်။ ကမ္ဘာပေါ်ရှိ ထင်ရှားသော ပုဂ္ဂိုလ်တိုင်း၊ ဘာသာအသီးသီးကို တည်ထောင်သူတိုင်းသည် ဗုဒ္ဓဘုရားပင် ဖြစ် သည်ဟု ယူဆကြသည်။

လောကတွင် အရာခပ်သိမ်း အားလုံးတို့သည် သဘော အရ သာ တည်ရှိပြီး ရုပ်နာမ် အကောင်အထည် အနေဖြင့် တည်ရှိခြင်း မဟုတ်ပေ။

ကိုယ်ကျင့်တရားတွင် ဒါန၊ သီလ၊ ခန္တီ၊ ဝီရိယ၊ ဈာန်၊ ပညာ ဟူသော ပါရမီခြောက်ပါးကို ဖြည့်ကျင့်ကြရသည်။ စရိုက်ကို ကြည့်၍ လိမ္မာသော မာယာဖြင့် ချွတ်ခြင်း၊ ကောင်းစွာ ဆောက်တည် စွဲမြဲခြင်း၊ အားအစွမ်း ရှိခြင်း၊ သိမြင်ခြင်း စသော ပါရမီလေးပါး ရှိသေးသော် လည်း အရေးမကြီးသော ပါရမီများသည်။

ကိုယ်, နှုတ်, စိတ်,တွင် စိတ်သာ အရေးကြီး၏။ သူ့အသက် ကို မသတ်ရ ဆိုသော်လည်း အကြောင်းမှန်၍ အများအကျိုးရှိလျှင် ဘုရားလောင်းသည် စစ်တိုက်ရန်ကိုပင် ဝန်မလေးပေ။

တရုတ်ပြည် မဟာယာနတို့၏ အလိုအားဖြင့် နိဗ္ဗာန်သည် အေးငြိမ်းခြင်းကို ဆိုသဖြင့် သံသရာ အတွင်း၌ပင် ရှိနေစေကာမူလည်း စိတ်အေးချမ်းခြင်း ရှိလျှင် သံသရာမှ လွတ်မြောက်သည် (ဝါ) နိဗ္ဗာန် ရောက်သည်ဟု ဆိုနိုင်သည်။

နိဗ္ဗာန်ကို လေးမျိုး လေးစား ခွဲခြား ထားရှိသည်။ ပရမတ် သဘော နိဗ္ဗာန်သည် အရာခပ်သိမ်းတို့ တည်ရှိပုံကို ပြဆိုသည်။ ဤ နိဗ္ဗာန်မျိုးကို သတ္တဝါတိုင်း ရနေကြသည်။ ပါရမီဖြည့်၍ ထိုနိဗ္ဗာန်မျိုးကို ရရှိနိုင်သည်။

သဉပါဒိသေသ နိဗ္ဗာန်သည်ကား အကြွင်း ရှိသော နိဗ္ဗာန် ဖြစ်သည်။ ဤနိဗ္ဗာန်ကား မွေးခြင်း၊ သေခြင်း ရှိသေး၍ သာဝကများ နှင့် ပစ္စေက ဗုဒ္ဓါများရသော နိဗ္ဗာန်မျိုး ဖြစ်သည်။

အနုပါဒိသေသ နိဗ္ဗာန်သည် အကြွင်းမရှိသော နိဗ္ဗာန်ဖြစ်၏။ သာဝကများနှင့် ပစ္စေက ဗုဒ္ဓါများသည် ခန္ဓာကိုယ်ကို စွန့်ပြီး နောက်မှ ရရှိသော နိဗ္ဗာန်မျိုး ဖြစ်သည်။

ဘုံဌာန မရှိသော နိဗ္ဗာန်ကား ဗုဒ္ဓဘုရားတို့သာ ရောက်နိုင်သော နိဗ္ဗာန်မျိုး ဖြစ်သည်။ ထိုနိဗ္ဗာန်သို့ ရောက်သော ပုဂ္ဂိုလ်မှာ သံသရာမှ လွတ်မြောက်ပြီး ဖြစ်သည်။ နိဗ္ဗာန်ကို ခံစားရာ ဘုံအဖြစ် တွယ်တာမှု မရှိတော့ပြီ။ သံသရာနှင့် နိဗ္ဗာန်တို့ နှစ်နေရာမှ လွတ်မြောက်ခြင်း ဖြစ်သည်။ မိမိအတွက် တစ်စုံတစ်ရာမျှ မရှိတော့ပေ။ သူတစ်ပါးကို ကယ်ဆယ်ရန်သာ ရှိတော့သည်။

မဟာယာနနှင့် ထေရဝါဒ ဗုဒ္ဓဘာသာတို့၏ သက်တမ်း နှစ် ထောင်ကျော် ကာလအတွင်း ထေရဝါဒသည် သာသနာပ အယူဝါဒများ

ဝင်ရောက်လာခြင်းကို မဟာယာန ဗုဒ္ဓဘာသာထက် ပို၍ ခံနိုင်ရည် ရှိခဲ့သည်။ ထိုကာလ အတွင်း သင်္ဂါယနာ တင်ပွဲ ခြောက်ကြိမ် တိုင်တိုင် ကျင်းပကာ သာသနာကို သန့်စင်စေနိုင်ခဲ့သည်။ မဟာယာန ဗုဒ္ဓဘာသာ သည်ကား သာသနာ သက္ကရာဇ် ခုနစ်ရာ ကာလအတွင်း သုံးကြိမ်သာ ကျင်းပနိုင်ခဲ့ပြီး နောက်ပိုင်းတွင် သာသနာ သန့်စင်ရေးကို မဆောင်ရွက်နိုင်တော့ချေ။ ဘာသာခြား အယူအဆ အမျိုးမျိုးတို့ ဝင်ရောက် ရောထွေးသွား၍ ပျော့ပျောင်းသော ဘာသာတစ်ခု အဖြစ် သာ တည်ရှိနေတော့သည်။

* * *

## ယေဟောဝါ

ခရစ်ယာန် ဘာသာ၏ ဘုရားကား ထာဝရ ဘုရားဖြစ်၏။ အမည်အားဖြင့် ယေဟောဝါ[၁] ဟု ခေါ်သည်။ ယေဟောဝါ ထာဝရ ဘုရားသည် တစ်ဆူတည်းသော ဘုရားဖြစ်သည်။ "ဘုရားသခင် တစ်ဆူတည်း ရှိတော်မူ၏။ ထိုဘုရားသခင်မှ တစ်ပါး အခြားသော ဘုရားသခင် မရှိ"[၂]ဟူ၍ သမ္မာကျမ်းတွင် ဖော်ပြထားလေသည်။

ယေဟောဝါ ထာဝရ ဘုရားသည် သက်ရှိသက်မဲ့ အရာအာလုံးကို ဖန်ဆင်းသော အနန္တ တန်ခိုးရှင် ဖြစ်သည်။ ထာဝရ ဘုရားသခင် မလုပ်နိုင်သော အရာ ဟူ၍ မရှိချေ။ မစွမ်းဆောင် နိုင်သော အရာ ဟူ၍ မရှိ။ ချွတ်ယွင်းချက် ဟူ၍ မရှိ။ ထာဝရ ဘုရားသခင်သည် အကန့်အသတ် အချုပ်အချယ် မရှိဘဲ အားလုံး ပြီးပြည့်စုံသော ဝိညာဉ်တော်ပင် ဖြစ်သည်။

---

၁။ Jehovah  ၂။ မာ၊ ၁၂:၃၂-၃၃

ထာဝရ ဘုရားသည် အနန္တ တန်ခိုးရှင် တစ်ဦးသာ မဟုတ်သေးချေ။ အရာရာကို ပိုင်းခြားသိမြင်တော် မူသော ဉာဏ်ရှင်တစ်ဦးလည်း ဖြစ်သည်။ ထာဝရ ဘုရားသည် ဝိညာဉ် ပုဂ္ဂိုလ်သာ ဖြစ်၏။ ရုပ်ကို ဆောင်သော ပုဂ္ဂိုလ် မဟုတ်ပေ။ အကယ်၍ ထာဝရဘုရားသည် ရုပ်ကိုဆောင်သော ပုဂ္ဂိုလ်ဖြစ်အံ့၊ ဘုရားသခင်သည် တစ်စုံတစ်ခုသော အရွယ်အစားနှင့် ပုံပန်းသဏ္ဍာန်၊ ရရှိလိမ့်မည်။ ဤသို့ဖြစ်လျှင် ထာဝရဘုရားမှာ အကန့်အသတ် ရှိသော ပုဂ္ဂိုလ်မျိုး ဖြစ်သွားနိုင်သည်။ ထာဝရ ဘုရားကား မည်သည့်ကိစ္စတွင် သော်မှလည်း အကန့်အသတ် မရှိချေ။ အချိန်ကာလ အားဖြင့်လည်း အစမရှိ အဆုံးမရှိ ထာဝရ တည်မြဲသည်။

ထာဝရဘုရား ရှိကြောင်းကို သူဖန်ဆင်းထားသော နေ၊ လ၊ နက္ခတ်တာရာ၊ သစ်ပင်၊ ရေနေသတ္တဝါ၊ ကုန်းနေသတ္တဝါ၊ စသည်တို့ကို တွေ့မြင်ရ၍ သိရှိနိုင်သည်။

ထာဝရ ဘုရားသခင်သည် မြင့်မြတ်၍ ကောင်းသော စိတ်ထားရှိသော ပုဂ္ဂိုလ်ဖြစ်သည်။ မကောင်းသော စိတ်ထားမျိုး စိုးစဉ်းမျှမရှိ၊ ဘုရားသခင်သည် ချစ်ခင်အပ်သော၊ လိုလား အပ်သော ပုဂ္ဂိုလ်ဖြစ်သည်။ ထာဝရဘုရားသခင်သည် ပျော်ရွှင်မှု အပြည့်အဝ ရှိသော ပုဂ္ဂိုလ်လည်း ဖြစ်၏။

ဘုရားသခင်သည် နေရာတိုင်း၌ ရှိ၏။ သို့သော် ဝိညာဉ် ပုဂ္ဂိုလ် ဖြစ်၍ သာမန်မျက်စိဖြင့် မမြင်နိုင်၊ မတွေ့နိုင်။

လူတို့သည် ထာဝရဘုရားထံသို့ ယုံယုံကြည်ကြည် ဆုတောင်းဝတ်ပြုလျှင် မိမိတို့၏ အလိုဆန္ဒ အောင်မြင်တတ်သည်။

## ဖန်ဆင်းခြင်း

ဤကမ္ဘာ လောကဓာတ်ကြီး တစ်ခုလုံးရှိ သက်ရှိ သက်မဲ့ သတ္တဝါ အရာဝတ္ထု ဟူသမျှကို ထာဝရ ဘုရားသခင်က ဖန်ဆင်း ထားခြင်း ဖြစ်သည်။ ဤကမ္ဘာကြီးကို ဖန်ဆင်းစဉ်က ဘုရားသခင်သည် ခုနစ်ရက်အတွင်း ဖန်ဆင်းခဲ့သည်။

ကမ္ဘာမြေကြီးကို ဖန်ဆင်းခြင်းမှာ ဘုရားသခင်သည် မေတ္တာရှင် တစ်ဦး ဖြစ်သည်နှင့် အညီ မိမိနှင့် အတူ အခြား သတ္တဝါများတို့ ပါရှိစေလိုသောကြောင့် ဖြစ်သည်။ အပြစ် မကျူးလွန်သော လူသား များဖြင့် ကမ္ဘာကို ဖန်ဆင်းထားလိုသည်။ လူသားတို့အား ဘုရား၏ ဂုဏ်ရည်များ ဖြစ်သောချစ်ခင်မှု အသိဉာဏ်ရှိမှုနှင့် တရားမျှတမှု တို့ကို ပေးအပ်လျက် ရေသတ္တဝါ၊ ကုန်းသတ္တဝါနှင့် ကောင်းကင် သတ္တဝါတို့၏ အရှင်သခင် အဖြစ် ထားရှိစေလိုသည်။

ပထမအစတွင် ထာဝရ ဘုရားသည် ကောင်းကင်နှင့် မြေကြီးကို ဖန်ဆင်းတော်မူသည်၊ ဘာမှမရှိသော လဟာပြင်ကြီးထဲ၌ ကမ္ဘာမြေကြီး ပေါ်ပေါက်အောင် ဖန်ဆင်းလိုက်ခြင်း ဖြစ်၏။ ထာဝရ ဘုရားသည် မှောင်အတိ ဖုံးလွှမ်းသော လဟာပြင်ကြီးတွင် အလင်းရောင်ကို စတင် ဖန်ဆင်းသည်။ အလင်းရောင် ပေါ်ထွက်လာသော အခါ အလင်းရောင်ရှိ ကာလနှင့် အမှောင်ကာလ နှစ်ခု ဖြစ်ပေါ်လာကာ နေ့နှင့်ည ဖြစ်လာသည်။ ဤကား ပထမနေ့ ဖန်ဆင်းခြင်း ဖြစ်၏။

အပြောကျယ်လှသော နေရာတွင် ကောင်းကင်ကြီးကို စတင် ဖန်ဆင်းသည်။ ထိုသို့ ဖန်ဆင်းပြီးသောအခါ တစ်နေ့တာ ကုန်သွား တော့၏။ ဒုတိယနေ့ ဖန်ဆင်းခြင်း ပြီးစီး သွားသည်။

တတိယနေ့တွင် ဖန်ဆင်း ထားပြီးသော ကောင်းကင်၏ အောက်၌ ရှိသော ရေတို့ကို တစ်နေရာ၌ စုဝေးစေကာ ကုန်းမြေ အဖြစ် ခြောက်သွေ့၍ မြေကြီး ဖြစ်ပေါ်လာစေသည်။ ရေကို တစ်နေရာ ရာသို့ ရွေ့လျားပစ်၍ ကုန်းမြေ ပေါ်လာခြင်း ဖြစ်သည်။ ကုန်းမြေကို ကမ္ဘာမြေကြီးဟုခေါ်၍ တစ်နေရာသို့ စုဝေးထားသောရေတို့ကို ပင်လယ် သမုဒ္ဒရာဟု ခေါ်သည်။ ကုန်းမြေတွင် သစ်ပင်ချုံနွယ် ပိတ်ပေါင်းတို့ကို ပေါက်ရောက်လာစေသည်။

စတုတ္ထနေ့တွင် ထာဝရ ဘုရားသခင်သည် နေနှင့် လ၊ ကြယ်၊ နတ်က္ခတ်တာရာ တို့ကို ဖန်ဆင်းသည်။ ရေသတ္တဝါများနှင့် ကောင်းကင် ရှိ သတ္တဝါ အားလုံးတို့ကိုကား ပဉ္စနေ့တွင် ဖန်ဆင်းသည်။

ဆဋ္ဌမနေ့တွင် ကုန်းသတ္တဝါများ နှင့် အမြင့်မြတ်ဆုံးသော လူသားတို့ကို ဖန်ဆင်းသည်။ ဖန်ဆင်းထားသော သတ္တဝါ အားလုံး တို့သည် လူသားတို့၏ လက်အောက်ခံများ ဖြစ်ကြရသည်။ လူသားကို ဖန်ဆင်းရာတွင် ထာဝရ ဘုရားသည် မိမိ၏ သဏ္ဍာန်နှင့် အလားတူစွာ ဖန်ဆင်းသည်။ လူယောကျ်ားနှင့် လူမိန်းမတို့ကို ဖန်ဆင်းခြင်း ဖြစ် သည်။ သစ်ပင်ချုံနွယ် တို့သည် လူနှင့် တိရစ္ဆာန် သတ္တဝါတို့၏ အစားအစာအဖြစ် သတ်မှတ်ထားသည်။

ခြောက်ရက်တိုင်တိုင် ဖန်ဆင်းခြင်း အလုပ်ကို ပြုလုပ်ပြီးစီးပြီး နောက် ခုနစ်ရက်နေ့တွင် အနားယူသည်။ ထို့ကြောင့် သတ္တမမြောက် နေ့ကို မြင့်မြတ်သော နေ့အဖြစ် သတ်မှတ်ကာ အလုပ်များ အားလုံးကို မလုပ်ကိုင်ဘဲ ရပ်နားထားရသည်။

ပထမဦးဆုံး ဖန်ဆင်းလိုက်သောလူသားကား အာဒမ်[၁] အမည်ရှိ၏။ ဘုရားသခင်သည် အရှေ့ဘက် အရပ်၌ အေဒင်[၂] အမည်ရှိသော ဥယျာဉ်တစ်ခုကို ဖန်ဆင်းကာ ထိုဥယျာဉ်တွင် အာဒမ်ကို နေထိုင်စေသည်။ အာဒမ်၌ အဖော်အဖြစ် ဧဝ[၃] ခေါ် မိန်းမတစ်ဦးကိုလည်း ဖန်ဆင်း ပေးသည်။ ဧဝကို ဖန်ဆင်းရာတွင် ဘုရားသခင်သည် အာဒမ်ကို အိပ်ပျော်စေပြီးနောက် အာဒမ်၏ နံရိုးတစ်ချောင်းကို ထုတ်ကာ ဧဝအဖြစ် ဖန်ဆင်းခြင်း ဖြစ်သည်။ အာဒမ်နှင့် ဧဝတို့သည် တသွေးတသားတည်း ဖြစ်သွားသကဲ့သို့ လင်နှင့်မယားတို့သည် တသွေးတသားတည်းကဲ့သို့ ချစ်ခင်ပေါင်းသင်းရမည်ဟု ယူဆကြသည်။

အာဒမ်ကို အေဒင်ဥယျာဉ်၌ နေထိုင်ခွင့် ပြုရာတွင် ဘုရားသခင်သည် စည်းကမ်းအချို့ကို ချမှတ် ပညတ်ထားသည်။ ဥယျာဉ်တွင်းရှိ အသီးအနှံ အပင်အားလုံးမှ ခူးယူ စားသုံးခွင့် ပြုထားသော်လည်း အကောင်းနှင့် အဆိုးကို ခွဲခြား သိမြင်နိုင်သော အသိဉာဏ် သစ်ပင်မှ အသီးကိုမူ မစားသုံးရဟု ပညတ်ထားရှိသည်။ ထိုအသီးကို စားမိလျှင် ထာဝရ အသက်ရှင်ခြင်းမှ သေဆုံးရမည် ဖြစ်သည်။

မြွေနဂါးကဲ့သို့ ဟန်ဆောင်နေသော စာတန် မာရ်နတ်သည် ဧဝထံသို့ ချဉ်းကပ်၍ တားမြစ်ထားသောအသီးကို စားရန် သွေးဆောင်သည်။ ထိုအသီးကို စားလျှင် စားသူသည် မသေဘဲ ထာဝရ ဘုရားသခင်ကဲ့သို့ပင် အကောင်းနှင့် အဆိုးကို သိသောဉာဏ် ရရှိလိမ့်မည် ဖြစ်ကြောင်း ဧဝကို ပြောပြသည်။

၁။ Adam ၂။ Eden အာရှအနောက်ဒေသ၌ရှိသည်။
၃။ Eve

ဘုရားသခင်က တားမြစ်ထားသော သစ်သီးတို့ သည်လည်း မြင်လျှင် စားချင်စဖွယ် လှပကြော့ရှင်းသဖြင့် ဧဝက ခူးယူ စားသုံး မိသည်။ သူမ၏ လင်ယောကျ်ားဖြစ်သူ အာဒမ်ကိုလည်း စားစေ သည်။ ထိုသို့ စားမိကြသည်နှင့် တပြိုင်နက် သူတို့သည် အရှက်တရားကို သတိပြုမိကြလေ၏။ ထို့ကြောင့် သစ်ရွက်များကို ဆွတ်ခူးကာ အရှက် ကာစေရန် မိမိတို့ကိုယ်ကို ဖုံးကွယ်သမှု ပြုကြလေသည်။

ထာဝရ ဘုရားသခင် လာသောအခါ၌ သူတို့သည် ရှက်ကြောက် ခြင်း ဖြစ်၍ သစ်ပင်ကြားဝယ် ပုန်းနေကြ၏။ ဘုရားက အကြောင်းစုံကို သိရှိသောအခါဝယ် ကျိန်စာထား၍ ဒဏ်ခတ်လေသည်။ မူလ သွေးဆောင် ဖြားယောင်းသော မြွေသည် အစဉ်အဆက် ဝမ်းဖြင့် တွားသွားရ၍ မြေမှုန်များကိုသာ စားရမည်။ လူသားနှင့် ရန်သူဖြစ်၍ လူသားက မြွေ၏ဦးခေါင်းကို ရိုက်သတ်မည်။ မြွေကလည်း လူသား၏ ခြေထောက် ကို ကိုက်သတ်မည်ဟု ဒဏ်ခတ် ကျိန်စာထားလေသည်။ လူသားများ အားလည်း အသက်ရှင်နေသရွေ့ ဆင်းရဲ ပင်ပန်းပြီး သေဆုံးသော အခါ မြေမှုန်မှ လာသကဲ့သို့ပင် မြေမှုန့်ဘဝသို့ ရောက်ရှိသွားလိမ့်မည်ဟု ဒဏ်ပေး လေသည်။

ထို့နောက် လူသားသည် အကောင်း အဆိုးတို့ကို သိရှိသွားပြီး ဖြစ်သည့်အပြင် အချိန် အကန့်အသတ် မရှိ အသက်ရှင် နေနိုင်မည့် အသီးကို ခူးယူစားသုံးမှု မပြုနိုင်စေရန် အတွက် အာဒမ်နှင့် ဧဝတို့အား အေဒင် ဥယျာဉ်မှ အပြီးအပိုင် နှင်ထုတ်ပစ်လိုက်သည်။ လူသားတို့အား မြေကြီးကို ကိုယ်တိုင် ထွန်ယက် စားသောက်ကြရန် စေလွှတ်လိုက်ခြင်း ဖြစ်သည်။

လူ၏ ကိုယ်နှင့် တောင်ပံများ ပါရှိသော ခေရုပ်[၁] ခေါ် ကောင်းကင်တမန်များအား အေဒင်ဥယျာဉ်၏ အရှေ့ဘက်တွင် အစောင့်ချထားကာ ထာဝရ အသက်ရှည်သော သစ်သီး သီးသည့် သစ်ပင်ကိုလည်း ဓားစကြာဖြင့် ကာကွယ် စောင့်ရှောက်ထားရှိလေသည်။

အာဒမ်သည် အနှစ် ၉၃၀တိတိ နေထိုင်ပြီးနောက် ကွယ်လွန်ခဲ့သည်။ အာဒမ်မှစ၍ လူမျိုးဆက် ကိုးဆက်ရှိသော အခါ နောဧ[၂] ခေါ် ပုဂ္ဂိုလ်ကို ဖွားမြင်ခဲ့သည်။ ဘုရားသခင်က ကမ္ဘာကြီးကို ဖန်ဆင်းသော အချိန်သည် ခရစ်မပေါ်မီ သက္ကရာဇ် ၄၀၂၆ခုနှစ်ဟု အယူရှိကြသည်။ အာဒမ်မှစ၍ ၇ဆက်မြောက် ဖြစ်သူ ဧနောက်[၃] (၃၄၀၄-၃၀၃၉)ကား ထာဝရ ဘုရားသခင် အပေါ် သစ္စာရှိသော ပထမဦးဆုံး လူ့သားပရောဖက်[၄] ဖြစ်သည်။

ဧနောက်၏ မြစ်တော်သူ နောဧသည်လည်း ထာဝရ ဘုရား၏ အမိန့်ကို နာခံလိုက်နာသူ ဖြစ်၏။ ဤအချိန် လောကတွင် ကမ္ဘာလူဦးရေ အတော်ပင် များပြားလာနေပြီ ဖြစ်၏။ အဓမ္မအကြမ်းဖက်မှုများ ဖြစ်ပေါ်၍ ကမ္ဘာပေါ်၌ မတရားမှုများ လွှမ်းမိုးစ ပြုလာတော့သည်။ ဘုရားသခင် ဖန်ဆင်းထားသော ဝိညာဉ်သက်သက် ရုပ်မဲ့သော ပုဂ္ဂိုလ် ကောင်းကင်တမန် အချို့သည် လူသားအမျိုးတို့ကို သဘောကျ၍ ပေါင်းသင်း နေထိုင်လာကြသည်။

ဤအခြေအနေမျိုးကို ထာဝရ ဘုရားသခင်က မနှစ်မြို့နိုင်၍ ကမ္ဘာကြီးကို ရှင်းလင်းပစ်ရန် ကြံရွယ်သည်။ ကမ္ဘာကြီးကို ရေလွှမ်းကာ သန့်စင်ပစ်ရန် ဖြစ်၍ နောဧအား သင်္ဘောကြီး တစ်စင်းကို

၁။ Chèrub ၂။ Noah
၃။ Enoch ၄။ Prophe

တည်ဆောက်ရန် အမိန့်ရှိလေသည်။ လူသား အများမှာ ကောက်ကျစ်စဉ်းလဲမှုများဖြင့် လွှမ်းမိုးနေသော်လည်း နောဧကား အပြစ်ကင်းသောသူတစ်ယောက် ဖြစ်နေသည်။ ထို့ကြောင့် ဘုရားသခင်သည် နောဧကို မျက်စိကျခြင်း ဖြစ်သည်။

သင်္ဘောပေါ်တွင် နောဧက သူ၏သား သုံးယောက် တို့ကို သူတို့၏ ဇနီးများနှင့် အတူ လိုက်ပါစေသည်။ အားလုံး လူသား လေးစုံ ရှစ်ယောက်နှင့် တိရစ္ဆာန် တစ်မျိုးလျှင် တစ်စုံကျစီ သင်္ဘောပေါ်သို့ တင်ဆောင်ခဲ့သည်။

နောဧတို့ သင်္ဘောပေါ်သို့ တက်၍ ခုနစ်ရက်ကြာသော အခါ ရေတက်၍ လာသည်။ ကမ္ဘာကြီးကို ဖန်ဆင်းသည့် ဒုတိယမြောက် နေ့က စီးဆင်းရွေ့လျားခဲ့သော ရေများသည် ရေတံခါးများကို ဖွင့်ထုတ်လိုက်သကဲ့သို့ စီးဆင်းလာကာ ရက်ပေါင်း လေးဆယ် တိုင်တိုင် ကြာအောင် တက်နေသည်။

ရေစတင် တက်လာသည့်နေ့သည် နော့ဧ၏ အသက် နှစ်ပေါင်း ၆၀၀ပြည့်သောနေ့ ဖြစ်သည်။ ကမ္ဘာကြီး တစ်ခုလုံးကို ရေလွှမ်းမိုးသော အခါ သင်္ဘော၌ မပါဘဲ ကျန်နေသော သက်ရှိ သတ္တဝါ အားလုံး နစ်မြုပ်သေဆုံး သွားကြသည်။ ရေသည် ရက်ပေါင်း ၁၅၀လုံးလုံး ကမ္ဘာကြီးကို ဖုံးလွှမ်းထားသည်။ ထို့နောက် တဖြည်းဖြည်း ရေများ ကျသွားရာ နဂိုပုံမှန်အတိုင်း ရောက်ရှိ လာသည်။ ရေလွှမ်းမိုးသော ခုနစ်ကား ဘီစီ ၂၃၇၀-၂၃၆၉ခုနှစ် အတွင်း ဖြစ်သည်။

ပထမတွင် နောဧသည် သင်္ဘောပေါ်မှ ချိုးဖြူတစ်ကောင်ကို စေလွှတ် ပျံသန်းစေသည်။ မြေကြီး မပေါ်လာသေးသော အချိန်ဖြစ်၍

နားရန် နေရာ မရှိသဖြင့် ချိုးဖြူ ပြန်လာကာ သင်္ဘောပေါ်သို့ နားသည်။ ခုနစ်ရက် ကြာသောအခါ ထိုချိုးဖြူအား လွှတ်လိုက်ပြန်ရာ သံလွင်ရွက် တစ်ခုကို ကိုက်ချီ၍ ပြန်လာသည်ကို တွေ့ရှိကြသဖြင့် ကမ္ဘာမြေကြီး ပေါ်လာပြီး ဖြစ်ကြောင်း သိရှိကြရသည်။ နောက်ထပ် ခုနစ်ရက် နေပြီးမှ ထိုချိုးဖြူကို လွှတ်လိုက်သော အခါ ပြန်မလာ တော့ချေ။

နောဧ၏ အသက် ၆၀၁နှစ်တိတိတွင် ရေကျခြင်း အားလုံး ပြီးစီးသွားကာ နောက်ထပ် ရက်ပေါင်း ၂၇ရက် ကြာသော အခါ ကမ္ဘာ မြေပြင်မှာ ခြောက်သွေ့လာသည်။ ထာဝရဘုရားသည် နောဧတို့မိသားစု ကို သွန်သင်ဆုံးမကာ ကမ္ဘာမြေကြီး၌ လုပ်ကိုင်စားသောက် စေသည်။

နောဧသည် လယ်ယာလုပ်ကိုင်၍ အသက်မွေးသည်။ နောဧ၏ သားတစ်ဦး ဖြစ်သူ ဟေမ[၁]မှ ရသော သားခါနန်[၂]အား နောဧက ကျိန်စာထားခြင်း ခံရသဖြင့် ဟေမမှာ ဖခင်၏ အရိုက်အရာကို မရ ရှိချေ။ အခြားသား တစ်ဦးဖြစ်သူ ရှေမ[၃]သာ အမွေကို ဆက်ခံရသော သားဖြစ်လာသည်။ သို့သော် ဟေမ၏ အခြားသား တစ်ဦးမှ သူ၏ မျိုးဆက် ပြန့်သွားရသည်။ ထိုသား၏ အမည်ကား ကုရှ်[၄] ဖြစ်၏။ ကုရှ်၏သား နိမ်ရောဒ [၅] သည် ယေဟောဝါ ဘုရားကို ဖီလာ ဆန့်ကျင် ပြုလုပ်သော မုဆိုးတစ်ဦး ဖြစ်သည်။

နိမ်ရောဒသည် မိမိကိုယ်ကို ဘုရင်အဖြစ် အုပ်စိုးသော ပထမ ဦးဆုံး လူသားဖြစ်သည်။ သူသည် ဘေဘီလုံ၌ ထီးနန်း စိုးစံခဲ့သည်။

၁။ Ham ၂။ Cannan ၃။ Shem
၄။ Cush ၅။ Nimrod

ထာဝရ ဘုရားသည် သူ့အပေါ် သစ္စာမရှိသော လူများက ဘာသာ အတုအယောင်ကို ကိုးကွယ်သည့် အဆောက်အအုံများဖြင့် ပြည့်နှက်သော မြို့တော်ကို တည်ဆောက်နေကြသည့် အတွက် လူသားတို့၏ ဘာသာ စကား တစ်မျိုးဖြင့် ရှုပ်ထွေးစေကာ ဖြိုဖျက်ပစ်လိုက်သည်။

ဘုရားအများကို ကိုးကွယ်သူများ ပြိုကွဲခဲ့ကြသော်လည်း ယင်း တို့သည် ဘာသာအမှား ဖြစ်သော ဘေဘီလုံ ဘာသာကိုပင် ရောက်လေရာ အရပ်တွင် ကိုးကွယ်နေကြသည်။ ဘေဘီလုံ အင်ပါယာတစ်ခုကိုပင် တည်ထောင်သွားကြသေးသည်။

ရေ့မှစ၍ ရေတွက်သော် နောက်ထပ် လူမျိုးဆက် ဆယ်ဆက် တွင် ဘုရားသခင်ကို သစ္စာရှိသူ တစ်ယောက် ပေါ်ထွက်လာပြန်သည်။ ထိုသူကား အာဗြဟံ[၁] ဖြစ်၏။ အာဗြဟံသည် ဘေဘီလုံ နိုင်ငံ၏ အရှေ့တောင် အရပ်၌ ရှိသော ကော်ဒီယမ် လူမျိုးတို့၏ အူးမြို့တွင် နေထိုင်လျက် ရှိသည်။ ဘီစီ ၂၀၁၈ခုနှစ်တွင် ဖွားမြင်ခဲ့သည်။

ထာဝရ ဘုရားသခင်သည် အာဗြဟံအား ခါနန်နိုင်ငံသို့ သွား ရောက်ရန် ညွှန်ကြားလေသည်။ ဘုရားသခင်သည် အာဗြဟံမှ ဆင်းသက် လာသူများဖြင့် နိုင်ငံကြီး တစ်နိုင်ငံ တည်ထောင်ပေးမည် ဖြစ်ကြောင်း ဗျာဒိတ် ပေးလေသည်။

အာဗြဟံ၏ ဇနီးဆာရာမှာ ထိုအချိန်တွင် သားသမီး မရနိုင် တော့သော အရွယ်သို့ ရောက်ရှိနေပေပြီ။ သို့သော် ဘုရားသခင်၏ စောင်မမှုကြောင့် ဆာရာသည် မကြာမီ သားယောကျ်ားလေး တစ်ယောက် ကို ဖွားမြင်သည်။ ထိုသားကို ဣဇက်[၂] ဟု အမည်ပေးထားသည်။

၁။ Abraham ၂။ Issac

နှစ်အတော်ကြာသော အခါ ဘုရားသခင်သည် အာဗြဟံ၏ သစ္စာရှိမှုကိုစမ်းသပ်လို၍ အာဗြဟံ၏ တစ်ဦးတည်းသောသား ဣဇာက် အား လူသားယဇ်ကောင် အဖြစ် ယဇ်ပူဇော်ရမည်ဟု အမိန့်ပေးလေသည်။ အာဗြဟံသည် ဘုရားသခင်၏ အမိန့်အတိုင်း ဣဇက်အား ယဇ်ပူဇော်ရန် ယဇ်စင်ပေါ်သို့ တင်၍ အဆင်သင့် ဖြစ်နေချိန်တွင် ဘုရားသခင်က ဣဇက်၏ အသက်ကို ကယ်ဆယ်လိုက်သည်။

အဗြဟံမှ ဆင်းသက် ပေါက်ဖွားမည့် သူများသည် ကောင်းကင် တွင် ရှိသော မရေမတွက်နိုင်သည့် ကြယ်တာရာများကဲ့သို့ လည်းကောင်း၊ မြေထဲ ပင်လယ် ကမ်းရိုးတန်းရှိ သဲလုံးရေတမျှ အရေအတွက် လည်း ကောင်း၊ တိုးပွား စေရမည်ဟု ဘုရားသခင်က ဗျာဒိတ်ပေးတော် မူလေသည်။

ဣဇက်တွင် သားနှစ်ဦး ထွန်းကားသည်။ ဧသော[၁] နှင့် ယာကုပ်[၂] တို့ ဖြစ်သည်။ သားဦးအရာကို ရသော ဧသောသည် ဥစ္စာ ပစ္စည်း ကိုသာ အမွေဆက်ခံရသည် မဟုတ်သေးဘဲ ဝိညာဉ်နှင့် ဆိုင်သော ကောင်းချီးမင်္ဂလာ များကိုလည်း ခံစားရသည်။ သားဦး အရာကို လိုချင်သော သားငယ် ယာကုပ်သည် မိခင် ရေဗက္ကနှင့် ပေါင်းကာ ဥပါယ်တံမျဉ်ဖြင့် မျက်စိမမြင် ဖြစ်နေသော ဖခင် ဣဇက်ထံမှ သားဦးအရာကို လက်ခံရရှိလိုက်သည်။ ဤနည်းဖြင့် ယာကုပ်သည် မျိုးရိုးကို ဆက်ခံခွင့် ရရှိသွားသည်။

ယာကုပ်သည် ထာဝရ ဘုရားသခင်၏ ကောင်းချီးပေးခြင်းကို ခံရသဖြင့် ဘုရားသခင်က ယာကုပ်ကို ဣသရေလဟု အမည်သစ်ကို

---

၁။ Esau ၂။ Jacob

ပေးသည်။ ဣသရေလတွင် သားယောကျ်ား ၁၂ဦးနှင့် သမီးများကို ရရှိသည်။ သား ၁၂ဦးတို့၏ အမည်များမှာ ကြီးစဉ်ငယ်လိုက်အားဖြင့် ၁။ ရုဗင်၊ ၂။ ရှိမောင်၊ ၃။ လေဝိ၊ ၄၊ ယုဒ၊ ၅၊ ဒန်၊ ၆၊ နတ်သလိ၊ ၇၊ ဂဒ်၊ ၈၊ အာရှာ၊ ၉၊ ဣတကာ၊ ၁၀၊ ဇာဗုလုန်၊ ၁၁။ ယောသပ်၊ ၁၂၊ ဗင်္ယာမိန်တို့ ဖြစ်ကြသည်။

ယာကုပ်သည် ဒုတိယ နောက်ဆုံးမွေးသော သားဖြစ်သော ယောသပ်ကို အချစ်ဆုံး ဖြစ်သည်။ အလိုလိုက်သည်။ ထို့ကြောင့် ကျန်သားများက ယောသပ်ကို မျက်မုန်းကျိုးနေကြသည်။ ထာဝရဘုရားသခင်ကလည်း ယောသပ်ကို အိပ်မက်နှစ်ခု ပေးသည်။ လယ်တောထဲရှိ ညီအစ်ကို ၁၁-ဦးတို့၏ ကောက်လှိုင်းများသည် ယောသပ်၏ ကောက်လှိုင်းများကို ဝိုင်း၍ ရှိခိုးကြသည်ဟု မြင်မက်သည်။ နေ၊ လ၊ ကြယ်၊ နက္ခတ်တာရာ အားလုံး တို့သည်လည်း ယောသပ်ကို ရှိခိုးကြသည်ဟု မြင်မက်ပြန်သည်။ မူလကပင် ယောသပ်ကို မနာလိုဖြစ်နေကြသော ညီအစ်ကို ၁၁-ဦးတို့သည် ယောသပ်အား ဖခင်မသိအောင် အီဂျစ်ပြည်သို့ သွားသော ကုန်သည်များထံသို့ ရောင်းချလိုက်ကြသည်။

အီဂျစ်နိုင်ငံတွင် ကျေးကျွန် အဖြစ် ရောင်းချခြင်း ခံရသော ယောသပ်သည် အခက်အခဲ ပြဿနာပေါင်း များစွာကို ရင်ဆိုင်ရ

| | | |
|---|---|---|
| ၁။ Reuben | ၅။ Dan | ၉။ Issachar |
| ၂။ Simeon | ၆။ Naphtali | ၁၀။ Zebulun |
| ၃။ Levi | ၇။ Gad | ၁၁။ Joseph |
| ၄။ Judah | ၈။ Asher | ၁၂။ Benjamin |

သော်လည်း ဘုရားသခင်ကို သစ္စာရှိသဖြင့် တဖြည်းဖြည်း ကြီးပွားလာရာ အီဂျစ်နိုင်ငံ၏ ဝန်ကြီးချုပ် အဖြစ်သို့ ရောက်ရှိသွားသည်။ ဘီစီ ၁၇၂၈ခုတွင် ခုနစ်နှစ်လုံးလုံး မိုးခေါင်သော အစာရှားပါးမှုနှင့် တွေ့ကြုံရသော အခါ ယောသပ်၏ အစ်ကို များသည် အီဂျစ်ပြည်သို့ ရောက်လာကာ ယောသပ်နှင့် စေ့စပ်မှု ပြုလုပ်ကြသည်။ ယောသပ်သည် မိမိ၏ ဖခင် ယာကုပ်နှင့် မိသားစု အားလုံးတို့ကို အီဂျစ်နိုင်ငံသို့ လာရောက် နေထိုင်စေသည်။ ယာကုပ်သည် မသေမီ သူ၏သားများ အနက်မှ စတုတ္ထမြောက် သားဖြစ်သူ ယုဒ၏ အဆက်အနွယ်သည် မျိုးရိုးကို ဆက်ခံလိမ့်မည် ဖြစ်ကြောင်း ကြိုတင် ဟောကိန်းထုတ်ခဲ့သည်။

ယာကုပ်၏ သား ၁၂ဦးမှ ဆင်းသက် ပေါက်ဖွားလာသော ဆွေမျိုးများကို "ဣသရေလ၏ မျိုးနွယ် ၁၂ခု"ဟု ခေါ်တွင်သည်။ ယောသပ် ကွယ်လွန်သော အခါ အီဂျစ်နိုင်ငံ၌ ဣသရေလ လူမျိုးစုများအား မုန်းတီးစိတ်များ ပြင်းထန်လာသည်။

ထိုအချိန်တွင် အုတ်ခေါ်ဒေသ၌ ထာဝရ ဘုရားကို သစ္စာရှိသော ယောဘ[၁] အမည်ရှိ ရှေမမျိုးနွယ်မှ ဆင်းသက်လာသူ တစ်ဦး နေထိုင်လျက် ရှိနေသည်။

ယောသပ် ကွယ်လွန်ပြီး ခြောက်ဆယ့်လေးနှစ်ကြာ၍ ဘီစီ ၁၅၉၃ခုနှစ် ရောက်သောအခါ (ဣသရေလ) မျိုးနွယ်ဖြစ်သော လေဝိမျိုးနွယ်စုမှ မောရှေ[၂] ကို အီဂျစ်နိုင်ငံ၌ ဖွားမြင်လေသည်။

ဣသရေလ လူမျိုး တို့မှာ အီဂျစ်နိုင်ငံ၌ ကျေးကျွန်အဖြစ် စေခိုင်းခံနေရ၍ အလွန် ပင်ပန်းစွာ လုပ်ကိုင်ကြရသည်။ ဣသရေလ

၁။ Job ၂။ Moses

လူဦးရေ များပြားလာသဖြင့် ဖာရော ဘုရင်က အစ္စရေး တို့တွင် သားယောကျ်ား မွေးဖွားတိုင်း ရေထဲသို့ ပစ်ကာ သတ်ပစ်လေ့ ရှိသည်။

မောရှေ၏ မိခင်သည် မိမိ၏ သားငယ်ကို မွေးဖွားပြီး သုံးလကြာအောင် အိမ်၌ထိန်ဝှက်ထားပြီးနောက် ကလေးကို ပုခက်တွင် ထည့်ကာ မြစ်ကမ်းနား ကိုင်းတောထဲ၌ ထားခဲ့သည်။ ဖာရောဘုရင်၏ သမီးတော်သည် ကလေးကို တွေ့မြင်သောအခါ ချစ်ခင် ကြင်နာ၍ သားအဖြစ် မွေးစားထားသည်။ ကလေးအား မောရှေဟု အမည်ပေး၍ ကြည့်ရှုစောင့်ရှောက်ရန် နို့ထိန်း ရွေးသောအခါ မောရှေ၏ မိခင်ကိုပင် ရရှိသွားသည်။

မောရှေ၏ မိခင်သည် ကလေးငယ်တို့ အသက် ဆယ့်နှစ်နှစ် အရွယ်ရောက်သည့် တိုင်အောင် ကြည့်ရှု စောင့်ရှောက်လျက် မှန်ကန်သော ဘုရားဆိုင်ရာ သမ္မာကျမ်း တရားတို့ကို သွန်သင်ပေးခဲ့သည်။

မောရှေသည် နှစ်ပေါင်း လေးဆယ်တိတိ နန်းတော်၌ နေထိုင်ခဲ့သည်။ ဖာရောဘုရင်သည် မောရှေအား မိမိ၏ အရိုက်အရာကို ဆက်ခံစေလိုသဖြင့် အုပ်ချုပ်ရေးရာများကို သင်ကြားပေးသည်။ သို့သော် မောရှေကား မပျော်ပိုက်ပေ။ သူ၏ လူမျိုးများမှာ အဖိအနှိပ် အညှင်းဆဲ ခံနေရသည်ကို မရှုစိမ့်နိုင် ဖြစ်နေသည်။

ဣသရေလ လူမျိုးတစ်ဦးကို အီဂျစ်လူမျိုးတစ်ဦးက ရိုက်ပုတ်သည့် အတွက် မောရှေမှာ မခံမရပ်နိုင် ဖြစ်ကာ ရိုက်ပုတ်သည့် အီဂျစ် အမျိုးသားကို သတ်၍ အီဂျစ်နိုင်ငံမှ ထွက်ပြေးသွားခဲ့ ရသည်။ မိဒီယံ[၁] ပြည်သို့ ရောက်ရှိ သွားကာ ထိုပြည်၌ အိမ်ထောင်ကျ၍ နှစ်ပေါင်း လေးဆယ်တိုင်တိုင် သိုးထိန်းအဖြစ် အသက်မွေးနေသည်။

၁။ Midian

မောရှေသည် သိုးများကို ထိန်းကျောင်းရင်း တစ်နေ့သော အခါ ယေဟောဝါ ထာဝရ ဘုရားသခင် ရှိသော တောင်ပေါ်သို့ ရောက်ရှိသွားသည်။ ထိုတောင်တွင် ထာဝရ ဘုရားသခင်ကို တွေ့ဆုံ၍ ဘုရားသခင်နှင့် စကားပြောခွင့် ရရှိလေသည်။ ထာဝရ ဘုရားက မိမိသည် မောရှေ၏ ဘိုးဘေးဘီဘင်များ ဖြစ်ကြသော အဗြဟံ၊ ဣဇက်နှင့် ယာကုပ်တို့ကိုးကွယ်သောဘုရားဖြစ်ကြောင်း၊ အီဂျစ်နိုင်ငံတွင် ဣသရေလ လူမျိုးများ ကျေးကျွန်အဖြစ် ဒုက္ခရောက်နေသည်ကို သိရှိကြောင်း၊ မောရှေကိုယ်တိုင် အီဂျစ်ပြည်သို့ သွားရောက်၍ ဣသရေလ လူမျိုးများကို ဘုရားသခင်ရှိရာသို့ ခေါ်ဆောင်လာရန် လိုကြောင်း၊ ဣသရေလ လူမျိုးများအတွက် သာယာဝပြောသော နိုင်ငံတစ်ခုကို ပေးမည်ဖြစ်ကြောင်း ပြောကြားလေသည်။

မောရှေသည် သူ၏အစ်ကို အာရုန်[၁] ကို ခေါ်၍ အီဂျစ်နန်းတော်သို့ သွားရောက်ကာ ဣသရေလ လူမျိုးများအား ထာဝရ ဘုရားရှင်သခင်ရှိရာ အရပ်၌ ပွဲလုပ်ရန် သွားရောက် ခွင့်တောင်းသည်။ ဖာရောဘုရင်သည် ဣသရေလ လူမျိုးများအား ထွက်ခွာခွင့်ကို အလွယ်တကူ မပေးချေ။ မောရှေသည် ဘုရားသခင်က စေလွှတ်လိုက်သူ ဖြစ်ကြောင်း အထောက်အထား အဖြစ် မြွေဖြစ်စေနိုင်သော တုတ် ပါရှိလာသဖြင့် ထိုတုတ်ချောင်းမှ မြွေဖြစ်အောင် ပြုလုပ် ပြသသော်လည်း ဖာရောဘုရင်က ခေါင်းမာနေဆဲပင်။

မြစ်ရေကို သွေးဖြစ်အောင် ပြုလုပ်ခြင်း၊ နိုင်ငံ အနှံ့အပြားတွင် ဖားကောင်များကို ကျရောက်စေခြင်း၊ မြေမှုန်များမှ ခြင်ကောင်များ

၁။ Aaron

အဖြစ်သို့ ပြောင်းလဲစေခြင်း၊ ယင်ရဲများ ပေါများအောင် ပြုလုပ်ခြင်း၊ လူနှင့် တိရစ္ဆာန်များတွင် အနာရောဂါ ပေါက်စေခြင်း အစရှိသော ဘေးဒဏ်တို့ကိုပါ တစ်ခုပြီးတစ်ခု ဆယ်ကြိမ်တိုင်တိုင် ကျရောက်စေသော အခါမှ ဖာရောဘုရင်မှာ ဣသရေလများကို တိုင်းပြည်မှ ထွက်သွားခွင့် ပြုလေသည်။ ကိုးကြိမ်မြောက် ဘေးဒဏ်ဖြစ်သော အီဂျစ်နိုင်ငံ တစ်ခုလုံး အမှောင်ထု ဖုံးလွှမ်းသွားအောင် မောရှေက သူ၏ လက်ကို ကောင်းကင်သို့ မြှောက်တင်လိုက်သော အခါ အီဂျစ်နိုင်ငံ တစ်ခုလုံး အမှောင်ထု ဖုံးလွှမ်းသွားပြီး ဣသရေလတို့ နေထိုင်ရာ အရပ်၌သာ အလင်းရောင် ကျန်ရှိတော့သည်။

ထိုအချိန်ရှိ ဖာရောဘုရင်သည် ဣသရေလတို့ကို နိုင်ငံမှ ထွက်ခွာခွင့် ပြုသော်လည်း သူတို့ပိုင် တိရစ္ဆာန်များကို သယ်ဆောင်သွားခွင့် မပြုချေ။ ဤအချက်ကို မောရှေက သဘောမကျသဖြင့် ညဉ့်သန်းခေါင် အချိန်တွင် အီဂျစ်လူမျိုးတို့၏ သားဦးများကို သတ်ဖြတ် ဖျက်ဆီးသည့် ဆယ်ကြိမ်မြောက် ဘေးဒဏ်ကို ကျရောက်စေလေသည်။

ဣသရေလတို့၏ အိမ်ထောင်စုတိုင်းသည် သိုးငယ်တစ်ကောင်ကို သတ်၍ စားကြရန် အမိန့်ပေးထားသည်။ ထိုသိုးငယ်မှ သွေးကို တံခါးပေါင်တွင် သုတ်လိမ်းထားရမည်။ ဤသွေး အမှတ်အသား ရှိသော အိမ်များကို ညဉ့်သန်းခေါင်တွင် သားဦးများကို လိုက်လံ ဖျက်ဆီးသည့် ကောင်းကင်တမန်[၁] များက ကျော်သွားလိမ့်မည် ဖြစ်သည်။ ဤအထိမ်းအမှတ်ပွဲကို ပသခါ[၂]ပွဲဟု ခေါ်တွင်၍ နှစ်စဉ်ကျင်းပ ကြရသည်။ ပသခါ သိုးငယ်သည် ခရစ်တော်ကဲ့သို့ပင် လောကကြီး

---

၁။ Angel ၂။ Passover

ကို ကယ်ဆယ်ရန် အသေသတ်ခြင်း ခံရသည်။ ဣသရေလတို့မှာ ဘုရားသခင်၏ အမိန့်ကို နာခံကြရသဖြင့် ကောင်းကင် တမန်များ လာရောက်သောအခါ ကျော်သွားကြသည်။ ဖာရော နန်းတော်မှအစ အီဂျစ်အိမ်ထောင်စုတိုင်းတွင် သေကြေပျက်စီးမှုနှင့် တွေ့ကြုံရသဖြင့် သန်းခေါင်ယံတွင် အော်ဟစ်သံတို့ဖြင့် ဆူညံနေလေသည်။

ဖာရောဘုရင်သည် ဣသရေလတို့အား သူတို့ပိုင် ပစ္စည်းဥစ္စာများ အားလုံးကို ယူဆောင်ကာ လျင်မြန်စွာ ထွက်ခွာသွားရန် တိုက်တွန်းလေတော့သည်။ အီဂျစ်လူမျိုးများက ဣသရေလတို့အား ရွှေငွေဥစ္စာများကို လက်ဆောင်အဖြစ် ပေးလိုက်ကြလေသည်။

ဘီစီ ၁၅၁၃ခုနှစ်တွင်အစ္စရေးတို့ ထွက်ခွာသွားကြသော အခါ အီဂျစ်တို့မှာ မကျေမနပ် ဖြစ်ကာ နောက်မှ လိုက်လာခဲ့ကြသည်။ ဣသရေလတို့ စိုးရိမ်ကြောင့်ကြမှု ဖြစ်ကြသည်။ သို့သော် ဘုရားသခင်က အစ္စရေးနှင့် လိုက်လာသော အီဂျစ်တို့ အကြားတွင် တိမ်တိုက်ဖြင့် ကာဆီးပေးသည်။

ပင်လယ်နီသို့ ရောက်ရှိသော အခါ ဣသရေလတို့ တစ်ဖက်ကမ်းသို့ လွယ်ကူ ချောမောစွာ ရောက်ရှိနေနိုင်ရန် ဘုရားသခင်သည် ပင်လယ်ရေကို ခွဲခြား၍ လမ်းအဖြင့် ဖန်ဆင်းပေးသည်။ ဣသရေလတို့မှာ ထိုလမ်းအတိုင်း ကူးလာကြသည်။ အီဂျစ်တို့ကလည်း ထိုလမ်းအတိုင်း လိုက်လာခဲ့ကြရာ ဣသရေလတို့ အားလုံး တစ်ဖက်ကမ်းခြေသို့ ရောက်ရှိလာသော အခါ မူလက ခွဲထားသော ရေတို့ကို ပုံမှန်အတိုင်း ပြုလုပ်လိုက်သဖြင့် နောက်မှ လိုက်လာသော အီဂျစ်တို့ အားလုံး ရေနစ် သေဆုံးကြသည်။

ထိုမှစ၍ ကုလားရေလတို့သည် ထာဝရ ဘုရားသခင်နှင့် မောရှေအပေါ် တိုး၍ ယုံကြည်မှု ရှိလာကြသည်။

ပင်လယ်နီကို ဖြတ်ကူးပြီးနောက် ကုလားရေလတို့သည် တောထဲ၌ ခရီးဆက်လက် သွားလာကြရာ အစာရေစာ ရှားပါး၍ ငတ်မွတ်မည့် အခြေသို့ ရောက်ရှိလာသည်။ လူအများ ညည်းတွားလာကြသည်။ ထိုအခြင်းအရာကို သိရှိတော် မူသော ဘုရားသခင်သည် နံနက်တိုင်းတွင် မုန့်မိုးကို ရွာချပေးသည်။ ဆဋ္ဌမမြောက် နေ့များတွင် နှစ်ရက်စာ ရွာချပေးသည်။ သတ္တမမြောက်နေ့တွင် အလုပ်မှ အနားယူရမည့် ဖြစ်သောကြောင့် ဖြစ်သည်။ ဤတော၌ လှည့်လည်သွားလာ နေရသော နှစ်ပေါင်းလေးဆယ် လုံးလုံး အစားအစာကို ဘုရားသခင်က စီမံပေးထားသည်။ ဘုရားသခင်သည် လူအများ ဒုက္ခတွေ့သော အခါ ကူညီ စောင်မပေးခြင်းဖြင့် ဘုရားသခင်ကို ပို၍ ယုံကြည် ကိုးစားလာစေရန် ကြံဆောင်ခြင်း ဖြစ်သည်။

ကုလားရေလတို့ လွတ်မြောက်လာပြီးနောက် သုံးလအကြာတွင် ဆိုင်းနိုင်းသဲကန္တာရရှိ ဆိုင်းနိုင်းတောင်ခြေ၌ စခန်းချကြလေသည်။ ထိုနေရာတွင် တစ်နှစ်ခန့် စခန်းချနေထိုင်စဉ် အတွင်း ကုလားရေလ လူမျိုးများနှင့် ဘုရားသခင်တို့ ကတိဝတ်ပြု၍ စာချုပ်ကြသည်။ ထာဝရ ဘုရားသည် ကုလားရေလ လူမျိုးများကို ပညတ်တော် ဆယ်ပါးနှင့် အခြား ဥပဒေများကို ချပေးတော် မူသည်။

ဆိုင်းနိုင်းတောင်ခြေရင်းတွင် ကုလားရေလ လူမျိုးများ စခန်းချနေစဉ်အတွင်း ဘုရားသခင်က ခေါ်တော်မူသဖြင့် မောရှေသည် ဆိုင်းနိုင်းတောင်ပေါ်သို့ တက်သွားသည်။ ဘုရားသခင်က မိမိသည်

အိဂျစ်နိုင်ငံ၌ ကျွန်ဖြစ်နေသောဣသရေလ လူမျိုးများ လွတ်မြောက်အောင် ဆောင်ရွက်ခဲ့ပြီး ဖြစ်ကြောင်း ဣသရေလသည် ဘုရားသခင်၏ စကားကို နားထောင်မည် ဆိုလျှင် ကမ္ဘာပေါ်ရှိ လူမျိုးများ အနက် ဣသရေလတို့မှာ ဘုရားသခင်၏ အထူး ကောင်းချီးပေးခြင်းကို ခံရသော လူမျိုးများ ဖြစ်လာမည်ဟု ပြောဆိုကာ မောရှေအား ဣသရေလ လူမျိုး အကြီးအကဲတို့နှင့် တိုင်ပင်စေသည်။

ဣသရေလတို့က ဘုရားသခင်၏ အမိန့်ကို နာခံရန် သဘောတူကြသောအခါ ဆိုင်းနိုင်း တောင်ထိပ်ပေါ်တွင် ဘုရားသခင်သည် မောရှေနှင့် တွေ့ဆုံ၍ ပညတ်တရားတော်ကို ပေးရန် ရက်ချိန်းပေးသည်။ မောရှေနှင့် သူ၏ အစ်ကို အာရုန်တို့ကိုသာ တောင်ပေါ်သို့ တက်ခွင့်ပေး၍ ကျန်လူအားလုံးမှာ တောင်ခြေရင်းမှာသာ စောင့်နေရမည် ဖြစ်သည်။ အမိန့်ကို မနာခံဘဲ သတ်မှတ်ထားသော နေရာကို ဝင်ရောက် ကျူးလွန်သူမှာ သေဆုံးရမည် ဖြစ်သည်။

ချိန်းဆိုထားသော နေ့နံနက်တွင် တောင်ပေါ်၌ မိုးချုန်းခြင်း၊ လျှပ်စီးလက်ခြင်းတို့ ဖြစ်ပေါ်ပြီး မိုးတိမ်တိုက်ကြီး လွှမ်းမိုးနေလျက် တံပိုးမှုတ်သော အသံဖြင့် မြည်ဟည်းလေရာ လူများ ကြောက်ရွံ့ကြသည်။ ထာဝရ ဘုရားသည် မီးဖြင့် ဖုံးလွှမ်းကာ ဆိုင်းနိုင်း တောင်ပေါ်သို့ ဆင်းသက်လာသည်။ တောင်တစ်ခုလုံး ဖုံးလွှမ်းလျက် ရှိသည်။ တံပိုးမှုတ်သံဖြင့် ဆူညံလျက် တစ်တောင်လုံး တုန်လှုပ်နေသည်။

မောရှေသည် ဘုရားသခင်ကို ခေါ်လိုက်ရာ ဘုရားသခင်က ထူးတော်မူ၏။ ထာဝရ ဘုရားသည် ဆိုင်းနိုင်းတောင်ပေါ်သို့ ဆင်းသက်၍ မောရှေကို တောင်ထိပ်သို့ လာရန် ခေါ်ပေသည်။ ထို့နောက်

ယဇ်ပုရောဟိတ်[၁]တို့ကိုပင် တောင်ထိပ်ပေါ်သို့ တက်ခွင့်မပြုဘဲ အာရုန်တစ်ဦးကိုသာလျှင် တက်ခွင့် ပြုသဖြင့် မောရှေမှာ တောင်အောက်သို့ ဆင်းပြေးရသည်။

ဤအချင်းအရာကို တွေ့မြင်ကြသော ဣသရေလတို့သည် အလွန်ကြောက်လန့်ကြ၍ ထာဝရ ဘုရားသခင်နှင့် တိုက်ရိုက် မတွေ့ဆုံလိုကြဘဲ မောရှေမှ တစ်ဆင့်သာ တွေ့၍ ဆက်သွယ်ကြရန် မောရှေကို တောင်းပန်ပြောဆိုကြသည်။

ထို့နောက် ထာဝရ ဘုရားသခင်သည် ဣသရေလ လူမျိုးများ လိုက်နာရမည့် ပညတ်တော် ဆယ်ပါးနှင့် အခြား ဥပဒေများကို ပြောကြားလေသည်။ ပညတ်တော် ဆယ်ပါးကား-

၁။ ထာဝရ ဘုရားမှ တစ်ပါး အခြားဘုရားကို မကိုးကွယ်ရ၊ ရုပ်တု၊ ဆင်းတု ထုလုပ်၍ မကိုးကွယ် မဆည်းကပ်ရ။

၂။ ထာဝရဘုရား၏ အမည်ကို မုသားနှင့် စပ်လျဉ်း၍ မမြွက်ဆိုရ။

၃။ ဥပုသ်နေ့တွင် အလုပ်မလုပ်ရ။

၄။ မိဘကို ရိုသေကိုင်းရှိုင်းရမည်။

၅။ သူတစ်ပါး၏ အသက်ကို မသတ်ရ။

၆။ သူတစ်ပါး၏ သားမယားကို မပြစ်မှားရ။

၇။ သူတစ်ပါး၏ ဥစ္စာကို မခိုးရ။

၈။ မိမိနှင့် နီးစပ်သူများကို ဆန့်ကျင်၍ မတရားသက်သေ ထွက်ဆိုခြင်း မပြုရ။

၉။ မိမိနှင့် နီးစပ်သူ၏ သားမယားကို လိုချင် တပ်မက်မှု မရှိစေရ။

---

၁။ Priest

၁၀။ မိမိနှင့် နီးစပ်သူ၏ ပစ္စည်းဥစ္စာ တို့ကို တပ်မက်မှု မရှိစေရတို့ ဖြစ်သည်။

ထာဝရ ဘုရား၏ ပညတ်တော်များကို ကျောက်ပြားနှစ်ချပ် ပေါ်တွင် ဘုရားကိုယ်တိုင် ရေးသားပေသည်။ ဣသရေလ လူမျိုးများ ကိုးကွယ်ရန် ယာယီတဲနန်းတော် တစ်ခုကို ဆောက်လုပ်ကြသည်။ ယာဇ်ပုရောဟိတ် ဆရာများက ဣသရေလတို့အတွက် ယာဇ်ပူဇော်ပွဲ ကို ပြုလုပ်နိုင်ရန်ဖြစ်သည်။ ယေဟောဝါ ဘုရားသခင်သည် မောရှေ ၏ အစ်ကို အာရုန်ကို ယာဇ်ပုရောဟိတ်တို့ ဆရာကြီးအဖြစ် ရွေးချယ် ပြီး အာရုန်၏ သားများနှင့် လေဝိမျိုးနွယ်များကို ယဇ်ပုရောဟိတ် ငယ်များအဖြစ် အသိအမှတ်ပြုလေသည်။ ထိုအချိန်မှစ၍ ထိုသူတို့ သည် ယေဟောဝါ ဘုရား၏ ယာဇ်ပုရောဟိတ် ဆရာများအဖြစ် ဆောင်ရွက်လာခဲ့ကြသည်။

ဣသရေလ လူမျိုးများအနက် အသက်အရွယ်ကြီးသူအချို့မှာ ယေဟောဝါဘုရားကို ဆန့်ကျင် တော်လှန်မှုများ ပါဝင်ခဲ့ကြသည်။ သို့ဖြစ်၍ ထာဝရဘုရားသခင်သည် ဣသရေလတို့အား ဘုရားသခင် ချီးမြှင့် ပေးအပ်မည့် နိုင်ငံသို့ ဝင်ရောက်ခွင့် မပြုသေးဘဲ နှစ်ပေါင်း လေးဆယ်တိုင်တိုင် တောထဲ၌ လှည့်လည်သွားလာ နေထိုင်စေခဲ့သည်။ တဖြည်းဖြည်း သွားလာရင်း ဘုရားသခင် ကတိပေးထားသော နိုင်ငံ၏ တောင်ဘက်ဒေသသို့ ရောက်ရှိလာခဲ့သည်။ အသက်ကြီးသူများ ကွယ် လွန်ပြီးမှ နိုင်ငံသို့ ဝင်ခွင့်ပြုလေသည်။ မောရှေ ကိုယ်တိုင်လည်း ဘုရားသခင်အပေါ် အပြစ်ကျူးလွန်မိသဖြင့် ဘုရားသခင် ကတိပေး ထားသော နိုင်ငံသို့ ဝင်ရောက်ခွင့် မရခဲ့ပေ။ မောရှေ ကွယ်လွန်ပြီးမှ

ဣသရေလတို့ ဘုရားသခင် ကတိပေးထားသော နိုင်ငံသို့ ဝင်ရောက်ခွင့် ရရှိလေသည်။

မောရှေသည် ကွယ်လွန်မသွားမီအချိန်တွင် သမ္မာကျမ်းရှိ စာအုပ်များအနက်မှ ပထမစာအုပ်ဖြစ်သော ကမ္ဘာဦးကျမ်း၊ ထွက်မြောက်ရာကျမ်း၊ ဝတ်ပြုရာကျမ်း၊ တောလယ်ရာကျမ်း၊ တရားဟောရာကျမ်းတို့ကို ရေးသားခဲ့သည်။ ယောဘဝတ္ထုကျမ်းနှင့် ဆာလံကျမ်းမှ အခန်းအချို့ကိုလည်း ရေးသားခဲ့သည်။

မောရှေကို ဆက်ခံရန်အတွက် ယောသပ်၏ အဆက်အနွယ်ဖြစ်သူ ယောရှုအား ဣသရေလတို့၏ ခေါင်းဆောင်အဖြစ် အသိအမှတ်ပြု၍ ဘိသိက် သွန်းပေးခဲ့သည်။ မောရှေသည် ပင်လယ်သေဒေသ အရှေ့ဘက်ရှိ နီဘိုတောင်၌ ကွယ်လွန်ခဲ့သည်။

ယောရှုသည် ဂျော်ဒန်မြစ်ကို ဖြတ်ကူးကာ ဘုရားသခင် ကတိပေးထားသော နိုင်ငံသို့ ဣသရေလတို့ ခေါင်းဆောင်၍ ဝင်ရောက်သွားသည်။ ဣသရေလတို့ ဂျော်ဒန်မြစ်ကို ကူးဖြတ် သွားနိုင်ရန် ဘုရားသခင်သည် မြစ်ရေကို ဆီးဖြတ်၍ တားပေးထားသည်။

ခါနန်ပြည် မြို့တော်ဖြစ်သော ဂျာရီချိုမှာ ပထမဦးဆုံး ဣသရေလတို့ လက်သို့ ကျရောက်သွားပြီး ယောရှုသည် ခါနန်ပြည်သားတို့ကို ခြောက်နှစ်အတွင်း နှိမ်နင်းအောင်မြင်သည်။

ဟောမ၏သား ခါနန် အဆက်အနွယ်များ ဖြစ်သော ခါနန်ပြည်သားတို့ကို သုတ်သင်ပစ်ရန် ထာဝရဘုရားသခင်က ခွင့်ပြုခဲ့သည်။ ဘုရားသခင်သည် အာဗြဟံကို ပေးခဲ့သော ကတိကို အကောင်အထည် ဖော်နိုင်ခြင်းဖြစ်သည်။ ယေဟောဝါဘုရား ကိုယ်တိုင်ပင်

ဣသရေလတို့ဘက်မှ ဝင်ရောက် တိုက်ခိုက်ပေးခဲ့ရာ တိုက်ပွဲ တစ်ပွဲ၌ နေနှင့်လတို့ပင်လျှင် သွားလာခြင်း မပြုဘဲ ရပ်ဆိုင်းနေခဲ့သည်။

ခါနန်နိုင်ငံကို သိမ်းယူပြီးနောက် ဣသရေလ မျိုးနွယ်စု ၁၂-စုတို့သည် မဲချ၍ နယ်မြေများကို ခွဲဝေယူကြသည်။ ယဇ်ပရောဟိတ်များနှင့် လေဝိမျိုးနွယ်စုတို့မှာ နယ်မြေသစ်မယူဘဲ နိုင်ငံအနှံ့ရှိ မြို့ပေါင်း ၄၈ မြို့ကိုသာ ယူကြသည်။

ဣသရေလတို့ကို ဘုရင်မရှိဘဲ အုပ်ချုပ်သည်။ ထာဝရဘုရားကို မမြင်ရသော ဣသရေလတို့၏ ဘုရင်ဆိုက ဆိုနိုင်မည်ဖြစ်သည်။ ယောရှုမှစ၍ နှစ်ပေါင်း ၃၆၂ နှစ်တိုင်တိုင် ဘုရားသခင်က ရွေးချယ်သော တရားသူကြီး ၁၅ ဦးတို့က အုပ်ချုပ်ခဲ့သည်။ နောက်ဆုံး တရားသူကြီး ဖြစ်သော ပရောဖက် ရှမွေလ လက်ထက်တွင် ဣသရေလတို့သည် ဘုရင်စနစ်ဖြင့် အုပ်ချုပ်ရန် တောင်းဆိုကြသည်၊ ယေဟောဝါ ထာဝရ ဘုရားသခင်ကို ဣသရေလတို့၏ ဘုရင်အဖြစ်မှ ငြင်းပယ်လိုက်သည့်သဘော ရောက်ရှိသွားသည်၊ ဘုရားသခင်သည် ရှမွေလအား ဣသရေလတို့၏ ဘုရင်အဖြစ် ဗင်ယာမိန် မျိုးနွယ်မှ ဆင်းသက်သော ရှောလု[၁]ကို ခန့်ထားပေးရန် ညွှန်ကြားလေသည်။

တရားသူကြီးများခေတ် ကုန်ဆုံးခါနီးလောက်တွင် ယုဒမျိုးနွယ်စုတို့မှ အုပ်ချုပ်သော ဘက်သလီဟင်းမြို့၌ ယုဒမျိုးဆက်မှ ဗောဇ[၂] အအမည်ရှိသူတစ်ဦး နေထိုင်လျက်ရှိသည်၊ ယာကုပ် သေဆုံးခါနီးတွင် သူ၏သား ယုဒမျိုးဆက်မှ ဘုရင်ဖြစ်လိမ့်မည်ဟု ကောင်းချီးပေးခဲ့သည်၊ ဗောဇ၏ ဆွေမျိုးတစ်ဦးသည် ဣသရေလ လူမျိုးမဟုတ်သော

---

၁။ Soul ၂။ Buaz

ရုသ[၁] ခေါ် အမျိုးသမီးတစ်ဦးနှင့်လက်ထပ်ခဲ့သည်၊ ရုသသည် နောက်ပိုင်းတွင် ဣသရေလတို့နှင့် လက်ထပ်ခဲ့သည်၊ ရုသသည် နောက်ပိုင်းတွင် ဣသရေလတို့၏ ယေဟောဝါဘုရားကို ကူးပြောင်း ကိုးကွယ်လာခဲ့သည်၊ နောင်အခါ ရုသသည် ဘုရားသခင်၏ ဥပဒေအရ ဗောဇနှင့် ထိမ်းမြား ခဲ့သည်၊ ထိုသူတို့မှ ဩဗက်[၂] ခေါ် သား တစ်ယောက် ထွန်းကားခဲ့ရာ ဩဗက်သည် ဒါဝိဒ်[၃] (ဒေးဗစ်)၏ အဘိုးပင် ဖြစ်လေသည်။

ရှောလုမှစ၍ ဘုရင်စနစ်ဖြင့် အုပ်ချုပ်လာခဲ့ရာ နှစ်ပေါင်း ၅၁၀ တိုင်အောင် ကြာမြင့်ခဲ့သည်၊ ရှောလုသည် ထာဝရဘုရားသခင်ကို မရိုသေသဖြင့် ထာဝရဘုရားသည် ရှမွေလအား ရှောလုကို နန်းမှချရန် ညွှန်ကြားသည်၊ ဘက်သလီဟင်မြို့တွင် ရှိနေသော သိုးထိန်း ဒါဝိဒ်ကို ဣသရေလ နိုင်ငံတစ်ခုလုံး၏ ဘုရားအဖြစ် ခန့်အပ်ပေးရန် ရှမွေလကို စေလွှတ်လိုက်သည်။

ဒါဝိဒ်သည် ဖိလိစတင်[၄] လူသန်ကြီး ဂေါလိယက်ကို လောက်လေးကြီးဖြင့် သတ်ဖြတ် ပစ်နိုင်သဖြင့် ရှောလုသည် ဒါဝိဒ်အား စစ်ဗိုလ်ချုပ်ကြီးအဖြစ် ခန့်အပ်ထားသည်၊ ရှောလုဘုရင် ကွယ်လွန်သောအခါ ရှောလု၏သားက ဆက်လက်စိုးစံသော်လည်း ယုဒမျိုးနွယ်စုက ဒါဝိဒ်ကို သူတို့ဘုရင်အဖြစ် အုပ်ချုပ်စေသည်၊ ယုဒ၏ဘုရင်အဖြစ် ခုနစ်နှစ်ခွဲမျှ အုပ်ချုပ်ပြီးနောက် ရှောလု၏သား လုပ်ကြံခံရသောအခါ ဣသရေလ မျိုးနွယ်စု ၁၁ စုတို့က ဒါဝိဒ်ကိုပင် မိမိတို့အားလုံး၏ ဘုရင်အဖြစ် အသိအမှတ်ပြုကာ အုပ်စိုးစေသည်။

၁။ Ruth ၂။ Jobed ၃။ David
၄။ Philistine (Palestine)

ဒါဝိဒ်သည် ဂျေရုစလင်မြို့ကို သိမ်းယူပြီးနောက် မြို့တော်အဖြစ် သတ်မှတ်ကာ ထီးနန်းကို စိုးစံသည်၊ ဒါဝိဒ်၏ နန်းတော်အနီးရှိ ဇိယွန်တောင်ပေါ်၌ အထူးတဲနန်း တစ်ဆောင် တည်ဆောက်ပြီးလျှင် ဘုရားသခင်၏ ဓမ္မသေတ္တာကို ကိန်းဝပ်စေသည်၊ မောရှေသည် ထာဝရဘုရားသခင့်ထံမှ ဆိုင်းနိုင်းတော်ပေါ်တွင် လက်ခံယူပြီးနောက် ထိုဓမ္မသေတ္တာတော်ကို အာရုန်၏ ယဇ်ပုရောဟိတ်များက ထိန်းသိမ်းစောင့်ရှောက်ထားခဲ့သည်။

ယေဟောဝါ ဘုရားသခင်သည် ဂျေရုစလင်မြို့ရှိ ဇိယွန်တောင်ပေါ်၌ စိုးမိုးနေစဉ် ဒါဝိဒ်ဘုရင်က ဘုရားသခင်၏ ကိုယ်စားလှယ်အဖြစ် ဣသရေလ လူမျိုးစုတို့ကို စိုးမိုးအုပ်ချုပ်သည်၊ ယာယီတဲနန်းဖြင့် ဓမ္မသေတ္တာတော်ကို ကိုးကွယ် ဆည်းကပ်ရုံဖြင့် မကျေနပ်နိုင်သေး၍ ဒါဝိဒ်သည် ဓမ္မသေတ္တာတော်ကို နေရာချထားပေးရန်နှင့် ယေဟောဝါ ဘုရားကို ပူဇော်သမှု ပြုလုပ်နိုင်ရန် ကြီးကျယ်ခမ်းနားသော ဘုံဗိမာန်ကြီးတစ်ခုကို တည်ဆောက်လိုကြောင်း ပရောဖက်နာသန်[၁]ကို ပြောပြသည်။

ယေဟောဝါ ဘုရားသခင်က ဒါဝိဒ်မင်းသည် စစ်မက်ရေးရာနှင့် ပတ်သက်သူဖြစ်၍ ဘုံဗိမာန်တော်ကို တည်ဆောက်ခွင့် မရှိကြောင်း၊ သူ၏သားက တည်ဆောက်လိမ့်မည် ဖြစ်ကြောင်း၊ သို့သော် ဘုရားသခင်က ဣတ္တိယ မျိုးရိုးသည် ဒါဝိဒ်ဘုရင် မျိုးရိုးမှ ဆင်းသက်ပေါက်ဖွားလာမည် ဖြစ်ကြောင်းကို ပရောဖက်နာသန်မှတစ်ဆင့် ဒြော ကြားသည်။

---

၁။ Nathan

ဒါဝိဒ်သည် ဉာဏ်ပညာ ထက်မြက်သော သားတော် ရှောလမုန်[၁] ကို ထီးနန်းဆက်ခံခွင့် ပေးသည်၊ ရှောလမုန်ဘုရင် ထီးနန်းစိုးစံ၍ လေးနှစ်ကြာသောအခါ ယေဟောဝါ ဘုရားသခင် ဘုံဗိမာန်တော်ကို စတင်တည်ဆောက်ရန် နေရာကို ရွေးချယ်ရာ ဇီယွန်တောင်၏ မြောက်ဘက်တွင်ရှိသော မောရိယတောင်ကို တွေ့ရှိသည်၊ ဗိမာန်တော် ပြီးစီးသောအခါ ယာယီတဲနန်းမှ ဓမ္မသေတ္တာကို ရွှေ့ပြောင်းထားသည်။

ဗိမာန်တော်ကို ခရစ်မပေါ်မီ ၁၀၂၇ ခုနှစ်တွင် တည်ဆောက်ပြီးစီးရာ နှစ်ပေါင်း လေးရာနှစ်ဆယ်တိုင်အောင် တည်ရှိခဲ့သည်၊ ၆၀၇ ခုနှစ်ဝွင် ဘေဘီလုံနိုင်ငံက ဝင်ရောက်တိုက်ခိုက်သောအခါမှ ပျက်စီးသွားသည်၊ နှစ်ပေါင်း ခုနစ်ဆယ်တိတိ ကြာ၍ ဖမ်းဆီးသွားခြင်း ခံရသော ဣသရေလများ ဘေဘီလုံနိုင်ငံမှ ပြန်လာပြီး ဗိမာန်တော်ကို ပြန်လည်တည်ဆောက်ရာ ခရစ်နှစ် ၇၀ ခုနှစ်တွင် ရောမတို့ ဝင်ရောက် တိုက်ခိုက်ပြန်သဖြင့် ပျက်စီးသွားရသည်။

ရှောလမုန်ဘုရင်သည် နိုင်ငံအများမှ မိဖုရားများကို ပေါင်းသင်းခဲ့ရာ ဣသရေလလူမျိုး မဟုတ်သော မိဖုရားများသည် ဘုရားအမှားများကို ကိုးကွယ်သူများဖြစ်၍ ယေဟောဝါ ထာဝရ ဘုရားမှာ နှလုံးမသာမယာ ဖြစ်ရသည်၊ ဣသရေလ မျိုးနွယ်စု ၁၂ စုအနက်မှ ယုဒနှင့် ဗင်ယာမိန်း မျိုးနွယ်စု ၂ ခုမှအပ ကျန်မျိုးနွယ်ဆယ်စုတို့ကို ထီးနန်းစိုးစံခွင့် မပေးရန် ထာဝရဘုရားက ရှောလမုန်ကို မိန့်ကြားသည်၊ ထို့ကြောင့် ရှောလမုန်သည် ဖိနှိပ်ချုပ်ချယ်မှုများကို ပြုလုပ်လာရသည်။

---

၁။ Solomou

ရှောလမုန်ဘုရင်ကြီးသည် ဒေသနာကျမ်း ရှောလမုန်သီချင်းနှင့် (သုခမိန်ကျမ်း[၁]) ကျမ်းအချို့တို့ကို ရေးသားခဲ့သည်။

ရှောလမုန်၏သား ရှောဗောင်[၂]က ထီးနန်းကို ဆက်ခံသောအခါ အခြေအနေမှာ ပို၍ဆိုးရွားသည်။ ဣသရေလမျိုးစု ၁၀ စုတို့က တော်လှန်ပုန်ကန်လျက် ရွှေနွားရုပ်ကလေးကို ထုလုပ်ကိုးကွယ်ကြသည်၊ ဆိုင်းနိုင်းတောင်ပေါ်တွင် မောရှေသည် ထာဝရဘုရားသခင်ထံ တွေ့ဆုံ၍ ပညတ်တရားတော်များကို လက်ခံရယူနေစဉ် တောင်ခြေရှိ ဣသရေလအချို့တို့က ရွှေ၊ ငွေ ပစ္စည်းများကို ရွှေနွားရုပ် ထုလုပ်ကာ ကိုးကွယ်နေကြသည်၊ မောရှေတောင်မှ ဆင်းလာသောအခါ ရွှေနွားရုပ်ကလေးကို ဖျက်ဆီးပစ်ခဲ့သည်။

ဣသရေလ မျိုးနွယ်စုတို့သည် တဖြည်းဖြည်း ရုပ်တုကိုးကွယ်မှုများကို ပြုလုပ်၍ လာခဲ့ကြသဖြင့် ထာဝရဘုရားသခင်သည် ဣသရေလတို့ နိုင်ငံအား ပျက်စီးစေခဲ့လေသည်၊ ဗာဗီလုံဘုရင် နေဗုခဒ်နက်ဇာက တိုက်ခိုက် သိမ်းယူခဲ့လေသည်။

## ယေရှုခရစ်တော်

ထာဝရဘုရားသခင် ဖန်ဆင်းလိုက်သော ပထမဦးဆုံးလူသား အာဒမ်မှစ၍ အပြစ်ကျူးလွန်ခဲ့ရာ ထိုအပြစ်ကို လူသားအဆက်ဆက် ခံယူခဲ့ရသည်၊ အာဒမ်၏ အပြစ်ကို သူ၏မျိုးဆက် နောင်လာ နောက်သားများသို့ မွေးရာပါ အပြစ်အဖြစ် အစဉ်အဆက် ပါလာခဲ့သည်၊ လူသားတိုင်းသည် အပြစ် နှစ်မျိုးကို ကျူးလွန် တတ်ကြသည်၊ မိမိ

၁။ The Proverbs ၂။ Rehoboan

ကိုယ်တိုင် ပြုလုပ်ကျူးလွန်သော အပြစ်နှင့် အာဒမ်မှစ၍ အမွေဆက်ခံရရှိခဲ့သော မူလအပြစ်ဟူ၍ ဖြစ်သည်။

ယေဟောဝါ ဘုရားသခင်သည် လူသားများအပေါ် အလွန်ချစ်ခင် သနားသဖြင့် လူသားတို့အား အပြစ်မှ လွတ်မြောက်စေရန် ကယ်တင်ရှင်တစ်ဦးကို စေလွှတ်ကာ လူဝင်စားဘဝဖြင့် ကယ်တင်စေသည်၊ ကယ်တင်ရှင်သည်ကား ယေရှုခရစ်တော်ပင် ဖြစ်သည်၊ ယေရှုခရစ်တော်သည် ထာဝရဘုရားသခင်၏ သားတော်ဖြစ်၍ လူ့ဘဝဇာတိကို ခံယူကာ လက်ဝါးကပ်တိုင်ဖြင့်အသေခံ၍ လူသားတို့ကို ကယ်တင်ခဲ့သည်၊ လူသားတို့အားလုံး ကျူးလွန်ထားသော အပြစ်ဟူသမျှကို ခရစ်တော်က တာဝန်ယူ၍ အသေခံကာ လူသားတို့အား အပြစ်မှ လွတ်မြောက်စေခဲ့သည်။

ခရစ်တော်သည် လူ့ဇာတိကို မခံယူမီအချိန် နှစ်ရာစုပေါင်းများစွာ ကပင် ဘုရားသခင်သည် လူသားတို့၏ ကယ်တင်ရှင်ကို စေလွှတ်မည်ဖြစ်ကြောင်း ပရောဖက်တို့မှတစ်ဆင့် အသိပေးခဲ့သည်။ သို့သော် ကယ်တင်ရှင်သည် အာဗြဟံ၊ ယာကုပ်၊ ယုဒမျိုးနွယ်မှ ဆင်းသက်လာသူ ဖြစ်မည်ဆိုသော်လည်း အကျယ်ကား ဖော်ပြခြင်း မရှိပေ။

ခရစ်တော်ကို မမွေးဖွားမီ နှစ်ပေါင်း ၈၀၀ လောက်ကျမှသာလျှင် ပရောဖက်ဟေရှာယ[၁]က ကယ်တင်ရှင်အကြောင်းကို အနည်းငယ် ဖော်ပြခဲ့သည်။ ကယ်တင်ရှင်သည် အပျိုစစ်စစ် အမျိုးသမီးမှ ဖွားမြင်မည် ဖြစ်ကြောင်းနှင့် ဘုရားသခင်ကိုယ်တိုင် ဆင်းသက်၍ လူ့ဇာတိကို

၁။ Isaiah

ခံယူမည်ဖြစ်ကြောင်းကို ဖော်ပြခဲ့သည်။ ဟေရှာယနှင့် တစ်ခေတ်တည်း ဖြစ်သော ပရောဖက် မိက္ခာ[၁] ကလည်း ကယ်တင်ရှင်၏ မွေးဖွားရာအရပ်သည် ဘက်သလီဟင်မြို့ ဖြစ်လိမ့်မည်ဟု ဟောကြားခဲ့သည်။

နောက် နှစ်ပေါင်းတစ်ရာခန့် ကြာသောအခါ ပရောဖက် ယေရမိ[၂]သည် ယုဒယနိုင်ငံ ပြိုကွဲ ပျက်စီးသွားသည်ကို မျက်ဝါးထင်ထင် တွေ့မြင်ခဲ့ရသည်။ ယင်းက နောင်တွင် ပေါ်ထွက်လာမည့် ကယ်တင်ရှင်သည် တရားမျှတမှုရှိ၍ ပညာဉာဏ် အမြော်အမြင်နှင့် ပြည့်စုံမည့် ဘုရင်ဖြစ်မည်ဟု ဟောကြားခဲ့သည်။ ပရောဖက် ယေဇကျေလ[၃] ကလည်း ကယ်တင်ရှင်ကို ဒါဝိဒ်ဘုရင်နှင့် နှိုင်းယှဉ်ပြခဲ့လေသည်။

ဂျူးလူမျိုးများ ဘေဘီလုံနိုင်ငံသို့ ခေါ်ဆောင်သွားခြင်း ခံရသည့် အချိန် ခရစ်တော်ကို မဖွားမီ နှစ်ပေါင်း ၆၀၀ ခန့်တွင် ပရောဖက် ဇာခရိ[၄]က ကယ်တင်ရှင်သည် မြည်းကိုစီး၍ လာမည်ဖြစ်ကြောင်း၊ ထိုဘုရင်သည် စစ်မက်ကို လိုလားသူမဟုတ်ဘဲ ငြိမ်းချမ်းရေးကိုသာ ကမ္ဘာတစ်ခုလုံး ရရှိအောင် ဆောင်ရွက်မည့်သူဖြစ်ကြောင်း ဗျာဒိတ်ပေးလေသည်။

ဘေဘီလုံနိုင်ငံသို့ သုံ့ပန်းအဖြစ် ဖမ်းဆီးခေါ်ဆောင်သွားခြင်းကို ခံရသော ပရောဖက် ဒံယေလ[၅]သည် ကယ်တင်ရှင် လာမည့် အကြောင်းကို နောက်ဆုံး ဟောကြားခဲ့သူ ဖြစ်သည်။ ယင်းက

---

၁။ Micheas ၂။ Jaremiah ၃။ Ezekiel
၄။ Zechariah ၅။ Daniel

"ထိုည၌အခါ ငါသည် အာရုံပြု၍ လူသားနှင့် တူသော သူတစ်ဦးသည် မိုးတိမ်ကို စီးလျက် အသက်ကြီးသောသူ၏ အထံတော်သို့ ရောက်လာ၏။ ထိုသူကို အထံတော်ပါးသို့ သွင်းကြ၏။ အရပ်ရပ်တို့၌နေ၍ အသီးသီး အခြားခြားသော ဘာသာစကားကိုပြောသော လူမျိုးတကာတို့ကို အုပ်စိုးစေခြင်းငှာ ထိုသူသည် နိုင်ငံနှင့် တကွ အာဏာစက်တန်ခိုးကိုရ၏။ အာဏာစက်တော်သည် ကမ္ဘာအဆက်ဆက်တည်၏။ နိုင်ငံတော် ပျက်စီးခြင်းသို့ မရောက်နိုင်"* ဟု ခရစ်တော် ဒုတိယအကြိမ် ရောက်လာမည်ကို ကြိုတင်ဟောကြားခဲ့လေသည်။

ထိုအချိန်မှ နောက်ပိုင်းကာလတွင် ဘက်သလီဟင်မြို့၌ ကယ်တင်ရှင် ပေါ်ပေါက်လာမည်ကို မျှော်တွေးလျက် ကောလာဟလ ဖြစ်ပေါ်၍ နေလေသည်။

ဂျေရုဆလင်မြို့ကို ဘေဘီလုံတို့ တိုက်ခိုက်သိမ်းပိုက်ပြီးနောက် နှစ်ပေါင်း ၇၀၀ တိတိ ကြာသောအခါ ဘေဘီလုံနိုင်ငံကို ပါရှားဘုရင် ဆိုင်းရပ်က တိုက်ခိုက်အောင်မြင်သဖြင့် သုံ့ပန်း ဖြစ်နေသော အစ္စရေးတို့မှာ နေပြည်တော်သို့ ပြန်ခွင့်ရရှိခဲ့ကြသည်။

ဘီစီ ၆၃ ခုတွင် ဂျေရုစလင်မြို့မှာ ရောမတို့ လက်အောက်သို့ ကျဆုံးသွားရပြန်သည်။ သြဂတ်စရပ်ဆီဇာသည် ဘီစီ ၂၇ ခုတွင် ရောမအင်ပါယာ၏ ဧကရာဇ်အဖြစ် အုပ်စိုးလေ၏။ ယာကုပ်၏ သားအကြီးဖြစ်သူ ဧသောအနွယ်မှ ဆင်းသက်လာသူ ဟေရဒ်[၁]သည် ရောမ အင်ပါယာတွင် ဂျေရုစလင်မြို့၏ ဘုရင်ခံအဖြစ် အုပ်ချုပ်လျက် ရှိနေလေသည်။ ဟေရဒ်သည် ဖခင်ကြီး အာဗြဟံမှ ဆင်းသက်

* ဒံ–၇:၁၃–၁၄ ၁။ Herod

လာသူပင် ဖြစ်သော်လည်း ထာဝရ ဘုရားသခင်၏ ကြည့်ရှုစောင်မခြင်းကို ခံရသော ဒါဝိဒ်ဘုရင်တို့ ဆင်းသက်သည့်အနွယ်မှ မဟုတ်ချေ။ ဒါဝိတ်၏ သားနှစ်ဦး ဖြစ်သော ရှောလမွန်နှင့် နာသန်တို့မှ ဆင်းသက်လာကြသော အနွယ်တို့တွင် ယောသပ်နှင့် မာရီ[၁] တို့ကို ထိမ်းမြား ပေးစားရန် စေ့စပ်ထားသည်။ နာသန်မှစ၍ ဆင်းသက်လာသော လူမျိုးဆက် ၄၀ မြောက်တွင် မာရိကို ဖွားမြင်ခဲ့ခြင်း ဖြစ်သည်။

ယောသပ်နှင့် မာရိ နှစ်ဦး စလုံးကို ဘက်သလီဟင်မြို့တွင် ဖွားမြင်ခဲ့ကြသော်လည်း ထိမ်းမြားရန် စေ့စပ်ထားချိန်တွင် နာဇရက်မြို့၌ ရှိနေကြသည်။ ယောသပ်သည် လက်သမားအဖြစ် အသက်မွေးနေသူ ဖြစ်သည်။

ထာဝရဘုရားသခင်သည် ကောင်းကင်တမန် ဂါဗြေလ[၂] ကို ခေါ်၍ ယဇ်ပရောဖက်ဆရာကြီး ဇာခရိထံသို့ စေလွှတ်လေသည်။ ဇာခရိနှင့် သူ၏ဇနီး ဧလိဇဗက်တို့သည် အသက်အရွယ် ကြီးရင့်ပြီ ဖြစ်သော်လည်း သားတစ်ယောက် ရရှိလိမ့်မည်ဖြစ်ကြောင်း၊ ထိုသားကို ယောဟန်[၃]ဟု အမည်ပေးရမည်ဖြစ်ကြောင်း ပြောကြားစေသည်။ ယောဟန်သည် ဗတ္တိဇံဆရာယောဟံ[၄]ဟု အမည်တွင်၍ ကယ်တင်ရှင် ယေရှုခရစ်တော်မှတစ်ပါး နောက်ဆုံး ပရောဖက် တစ်ဦးပင် ဖြစ်သည်။

ဇာခရိ၏ဇနီး ပဋိသန္ဓေ ရှိ၍ ၆ လကြာသောအခါ ထာဝရ

၁။ Mary　　၂။ Angel Gabriel
၃။ John　　၄။ John the Baptist

ဘုရားသခင်သည် ကောင်းကင်မှ တမန်ဂါဗြေလကိုပင် တစ်ဖန် လေဝီဇဗက်၏ ဆွေမျိုးဖြစ်သူ မာရိထံသို့ စေလွှတ်ပြန်သည်။

ဒါဝိဒ်ဘုရင်ကြီး၏ ရာဇပလ္လင်ကို အစဉ်မပြတ် အုပ်စိုးမည့်သူအား မွေးဖွားပေးရမည့်သူအဖြစ် မာရိကို ထာဝရ ဘုရားသခင်က ရွေးချယ်လိုက်ပြီဖြစ်ကြောင်း၊ မာရိ၏သားကို ယေရှုဟု အမည်ပေးရမည်ဖြစ်ကြောင်း၊ ထိုသားသည် အမြင့်ဆုံးသော ဘုရား၏ သားတော်ဟု ခေါ်ဝေါ်ခြင်းကို ခံရလိမ့်မည်ဖြစ်ကြောင်း ဂါဗြေလက ပြောကြားသဖြင့် မာရိလည်း ကျေနပ်ဝမ်းမြောက်ခြင်း ဖြစ်လေသည်။ မာရိသည် ယောသပ်နှင့် မယှက်တင်သေးသဖြင့် မွေးဖွားလာသော ကလေးမှာ သန့်ရှင်းသော ဝိညာဉ်တော်၏ သက်ရောက်မှုကြောင့် ပဋိသန္ဓေရရှိခြင်းဖြစ်၍ မြင့်မြတ်သော ဘုရားသားတော်ဟု ခေါ်လေသည်။

ထိုအချိန်တွင် ရောမ ဧကရာဇ်ဘုရင်သည် လူဦးရေစာရင်းကောက်ယူသည်နှင့် ကြုံကြိုက်သဖြင့် ပြည်သူအပေါင်းတို့သည် မိမိတို့၏ မွေးဖွားရာ အရပ်၌ မှတ်ပုံတင်ကြရသည်။ ယောသပ်နှင့် မာရိတို့သည်လည်း မိမိတို့မွေးဖွားရာ ဘက်သလီဟင်မြို့သို့ မှတ်ပုံတင်ရန် နာဇရက်မြို့မှ ထွက်ခွာလာခဲ့ကြသည်။ ဘီစီ ၂ခုနှစ် ရောမဧကရာဇ် ဩဂတ်စတပ်ဆီဇာ လက်ထက်တွင် ဖြစ်သည်။

ဘက်သလီဟင်မြို့တွင် ယောသပ်တို့ ဇနီးမောင်နှံမှာ တည်းခိုစရာ နေရာမရ၍ အခက်အခဲ တွေ့နေရသည်။ ထိုအချိန်တွင်ပင် ကိုယ်ဝန် အရင့်အမာရှိသော မာရိသည် ခရစ်တော်ကို ဖွားမြင်သည်။

မွေးဖွားသော ကလေးကို အဝတ်ဖြင့် ရစ်ပတ်ကာ နွားစာခွက်ထဲ၌ ထည့်၍ သိပ်ထားသည်။

သိုးထိန်း တစ်စုသည် တောထဲ၌ သိုးများ ထိန်းကျောင်းရင်း စခန်းချ အိပ်နေကြသည်။ ထိုနေရာသို့ ကောင်းကင် တမန်သည် တောက်ပစွာ ပေါ်လာသဖြင့် သိုးထိန်းတို့ ကြောက်ရွံ့ ကြသည်။ ကောင်းကင်တမန်က မကြောက်ကြရန် ပြောကြားပြီး ကယ်တင်ရှင် ယေရှုခရစ်တော် ဖွားမြင်ပြီဖြစ်ကြောင်းနှင့် ဖူးတွေ့နိုင်သောနေရာကို ညွှန်ကြား ပြောဆိုလေသည်။ သိုးထိန်းတို့လည်း လာရောက် ကြည့်ရှု ကြရာ လွန်စွာ အံ့သြခြင်း ဖြစ်ကြသည်။

ခရစ်တော်ကို ဖွားမြင်သောအချိန်တွင် ကောင်းကင်၌ ကြယ်တံခွန်ကြီး ထွန်းလင်းတောက်ပသည်။ ထိုကြယ်တံခွန်ကို တွေ့မြင်ရသော အရှေ့တိုင်းမှ ပညာရှိကြီး တို့သည် ခရစ်တော်ကိုဖူးရန် လိုက်လာကြသည်။ ခရစ်တော် မည်သည့်နေရာ၌ ဖွားမြင်ကြောင်းကို ဟေရုဒ်ဘုရင် နန်းတော်သို့ ဝင်ရောက်စုံစမ်းကြရာ ဟေရုဒ်ဘုရင်မှာ ဘုရင်ဖြစ်မည့် မင်းလောင်းပေါ်မည်ကို သိရ၍ များစွာ စိုးရိမ်သောက ဖြစ်လေသည်။ နန်းတော်ရှိ ယဇ်ပုရောဟိတ်များနှင့် ကျမ်းပြုဆရာ[၁] တို့ကို မေးမြန်းသောအခါ ဘက်သလီဟင်မြို့၌ ဖြစ်နိုင်ဖွယ်ရှိကြောင်း ရှေးပရောဖက် ဟောကိန်းကို ရည်ညွှန်း၍ လျှောက်ထားကြသည်။ ဟေရုဒ် ဘုရင်သည် အရှေ့တိုင်းမှ ပညာရှိ တို့အား အပြန်တွင် နန်းတော်ကို ဝင်ရောက်၍ ခရစ်တော် ဖွားမြင်သည့် အရပ်ကို ပြောပြခဲ့ကြရန် မှာကြားလိုက်သည်။

အရှေ့တိုင်းမှ ပညာရှိတို့သည် ယေရှုခရစ်တော်ကို ဖူးတွေ့ကြရသည်။ သို့သော် ထာဝရ ဘုရားသခင်သည် သူတို့အား အိပ်မက်

၁။ Scribes

ပေး၍ တခြားလမ်းမှ ပြန်စေသည်။ ယောသပ်ကိုလည်း အိပ်မက် ပေး၍ ကလေးနှင့် မိခင်တို့ကို ခေါ်၍၊ အီဂျစ်ပြည်သို့ လျင်မြန်စွာ ထွက်ခွာသွားရန် ညွှန်ကြားသည်။ ယောသပ်လည်း ဘုရားသခင်၏ အမိန့်အတိုင်း အီဂျစ်ပြည်သို့ ထွက်သွားသည်။

ဟေရုဒ်ဘုရင်သည် အရှေ့တိုင်းမှ ပညာရှိများက တစ်ပတ် ရိုက်သွားပြီကို သိသောအခါ လွန်စွာ ဒေါသထွက်လေသည်။ ဘက် သလီဟင်းမြို့နှင့် အနီးပတ်ဝန်းကျင် ဒေသရှိ ၂ နှစ်အောက် ကလေးများကို သတ်စေသည်။

ဟေရုဒ်ဘုရင်ကြီး ကွယ်လွန်သော အခါ ဘုရားသခင်သည် ယောသပ်ကို အိပ်မက်ပေး၍ ပါလက်စတိုင်းသို့ ပြန်လာစေသည်။ သို့သော် ဂျေရုစလင်မြို့တွင် ဟေရုဒ်၏သားက အုပ်ချုပ်နေသဖြင့် ဂါလီလဲပြည်[၁] နာဇရက်မြို့သို့ သွားရောက် နေထိုင်စေသည်။

သူငယ်ကို ရှစ်ရက်မြောက်သော နေ့တွင် ဂျူးတို့၏ ထုံးစံ အတိုင်း အရေပြား လှီးခြင်း ပြုလုပ်၍ ကောင်းကင်တမန် အမိန့်ရှိသည့် အတိုင်း ယေရှု အမည်ကို မှည့်လေသည်။

ယေရှုသူငယ်ကို ဂျေရုစလင် မြို့သို့ ခေါ်ယူ၍ မောရှေ၏ ပညတ်တရားအတိုင်း ထာဝရ ဘုရားထံ ဆက်ကပ်ပြီး ယဇ်ပူဇော်ပွဲ ပြုလုပ်သည်။ ဂျေရုစလင်တွင် ရှိမောအမည်ရှိသော သူတစ်ယောက် သည် ဘုရားတရား ကြည်ညိုပြီး ဖြောင့်မတ်သူ တစ်ဦး ဖြစ်သည်။သူသည် သန့်ရှင်းသော ဝိညာဉ်တော် တည်ခြင်းကို ခံယူသူ ဖြစ်၍ ထာဝရဘုရား၏ ခရစ်တော်ကို မမြင်ရဘဲ မသေရဟု ဗျာဒိတ် ရရှိထားသူ ဖြစ်သည်။

---

၁။ Galilee

သူငယ်ယေရှုကို ပညတ်တရားအတိုင်း ဆောင်ရွက်ရန် သွားရာတွင် ဗိမာန်တော်သို့ သွားသော ရှိမောနှင့် တွေ့ဆုံသဖြင့် ယေရှုကို ပိုက်ချီကာ ထာဝရ ဘုရားသခင်၏ ဗျာဒိတ်အတိုင်း အေးဆေးစွာ စုတေခွင့် ရရှိပြီ ဖြစ်ကြောင်း ပြောဆိုလေသည်။ ကယ်တင်ရှင်သခင့်ကို မျက်စိဖြင့် ဖူးတွေ့ရပြီ ဖြစ်ကြောင်း ပြောဆိုလေသည်။ ထိုအခြင်းအရာကို တွေ့မြင်ရသော ယောသပ်နှင့် မယ်တော် မာရိတို့သည် အံ့သြကြသည်။

ယေရှု၏ မိဘတို့သည် အမှုကိစ္စ ဆောင်ရွက်စရာများကို ဆောင်ရွက်ပြီးနောက် နာဇရက်မြို့သို့ ပြန်သွားကြသည်။ သူငယ်သည် ဉာဏ်ပညာနှင့် ပြည့်စုံသူ တစ်ဦးအဖြစ် ထင်ရှားလေသည်။

မိဘတို့သည် နှစ်စဉ်နှစ်တိုင်း ပသခါပွဲ ရောက်လျှင် ဂျေရုစလင်မြို့သို့ သွားလေ့ရှိသည်။ ယေရှုအသက် ၁၂နှစ် ရှိသောအခါ ဂျေရုစလင်မြို့သို့ သွားရောက်၍ မိမိတို့ နေရပ်သို့ မိဘများ ပြန်လာရာ လူငယ်ယေရှုမှာ ဂျေရုစလင်မြို့၌ ကျန်ရစ်ခဲ့သည်။ တစ်နေ့ခရီး ရောက်သောအခါ တွင်မှ ယေရှုပါမလာကြောင်းကို သိရှိကြသည်။

ဂျေရုစလင်မြို့ ပြန်လာ၍ သူငယ်ကို ရှာဖွေကြရာ သုံးရက်ကြာမှ ဗိမာန်တော်၌ လူကြီးများနှင့် ဆွေးနွေးနေသည်ကို တွေ့ရှိကြသည်။ သူငယ် ယေရှု၏ စကားကို ကြားရသူများသည် သူ၏ ပညာကို လည်းကောင်း၊ ပြောဆိုပုံကို လည်းကောင်း၊ အံ့သြကြသည်။ မယ်တော် မာရိက မိန်းမောတွေဝေကာ ယေရှုအား လိုက်လံ ရှာပုံကို သားငယ်အား ပြောပြရာ ယေရှုက သူ့ကို လိုက်ရှာရန် မလိုကြောင်း၊ အဘ၏ အိမ်၌ နေရကြောင်းကို ပြောဆိုလေသည်။ သို့သော် ယေရှု၏

စကားကို သဘောမပေါက်ကြချေ။ ဤအကြောင်းအားလုံးကို မယ်တော်က စိတ်ထဲ၌ စွဲမြဲစွာ မှတ်သားထားသည်။

ယေရှုသည် မိဘတို့နှင့် လိုက်ပါ သွားပြီးနောက် မိဘတို့စကားကို နားထောင်၍ နာဇရက်မြို့တွင် နေထိုင်သည်။ ဖခင်ယောသပ် ကဲ့သို့ လက်သမားလုပ်၍ နေထိုင်ခဲ့သည်မှာ အသက် ၃၀ တိုင်အောင်ပင် ကြာညောင်းခဲ့သည်။

ထိုအချိန်တွင် ဗတိဇံ ဆရာယောဟန်သည် ကောင်းကင်နိုင်ငံ တည်လုနီးပြီ ဖြစ်ကြောင်း၊ လူများ နောင်တရချိန် တန်ပြီဖြစ်ကြောင်းတို့ကို ယုဒတောတွင် ဟောကြားနေသည်။ ယောဟန်သည် ကုလားအုတ် အမွေးဖြင့် ရက်လုပ်သော အဝတ်ကို ဝတ်၍ ခါးတွင် သားရေခါးပန်းကို စည်းကာ ကျိုင်းကောင်နှင့်ပျားရည်ကို မှီဝဲလျက် နေသည်။

ယုဒပြည်သူ ပြည်သားတို့သည် ယောဟန်ထံ သွားရောက်ပြီး မိမိတို့ ကျူးလွန်ထားသော အပြစ်များကို ဖော်ပြောလျက် ဂျော်ဒန်မြစ်တွင် နှစ်ခြင်းကို ခံကြသည်။ နှစ်ခြင်း ခံယူရန် လာရောက်သူများကို ယောဟန်သည် ထာဝရဘုရားကို ယုံကြည်ကြရန် တရားပြဆုံးမပေးသည်။ သူ၏ နောက်တွင် ကြွလာမည့် သူသည် သူ့ထက်ပင် တတ်စွမ်းနိုင်သေးကြောင်း ယောဟန်ပင်လျှင် ထိုသူ၏ ခြေနင်းတော်ကိုပင် ဆောင်ခြင်းငှာ မထိုက်ကြောင်း တို့ကို ပြောဆိုလေသည်။ ယောဟန်၏ နောက်မှ လာသူသည် သန့်ရှင်းသော ဝိညာဉ်တော်နှင့် မီးတို့ဖြင့် နှစ်ခြင်း ပေးလိမ့်မည် ဖြစ်ကြောင်း အသိမ်အဖျင်း စပါးတို့ကို ရှင်းလင်း သုတ်သင်ပြီးနောက် အကောင်းတို့ကို သိမ်းဆည်းလိမ့်မည်ဖြစ်ကြောင်း ပြောပြ သွန်သင်သည်။

ယေရှုသည်လည်း နှစ်ခြင်း ခံယူရန် ယောဟန် ရှိရာ ဂျော်ဒန် မြစ်သို့ ရောက်ရှိသည်။ ယောဟန်က သူသာလျှင် ယေရှုထံတွင် နှစ်ခြင်းကို ခံရမည် ဖြစ်ကြောင်း၊ ယခုမူ ထိုသို့ မဟုတ်ဘဲ ယေရှု ကသာ သူ့ထံသို့ နှစ်ခြင်းခံရန် ရောက်ရှိလာကြောင်း ပြောဆိုသည်။ ယေရှုက ကိစ္စမရှိကြောင်း၊ ကောင်းသည်မှန်သည် အားလုံးကို ဆောင်ရွက် ကြရမည် ဖြစ်၍ ယခု နှစ်ခြင်း ပြုပေးရန် တောင်းဆိုလေသည်။

ယောဟန်သည် ယေရှုကို ဂျော်ဒန်မြစ်တွင် နှစ်ခြင်း ပြုလုပ် ပေးသည်။ နှစ်ခြင်း ခံရပြီး၍ ရေပေါ်မှ ထစဉ်တွင် ကောင်းကင်ဖွင့်လှစ်ပြီး ဘုရားသခင်၏ ဝိညာဉ်တော်သည် ချိုးငှက် အသွင်ဖြင့် ဆင်းသက်လျက် ကိုယ်တော်ပေါ်၌ နားလေသည်။ "ဤသူကား ငါနှစ်သက်မြတ်နိုးရာ ငါ၏ ချစ်သားပေတည်း"ဟု ကောင်းကင်မှ အသံကို ကြားရသည်။ ဤသို့ဖြင့် ခရစ်နှစ် ၂၉ခုတွင် ယေရှုခရစ်တော်သည် လူသားတ ို့၏ ကယ်တင်ရှင် ဖြစ်လာခဲ့သည်။

သန့်ရှင်းသော ဝိညာဉ်တော်နှင့် ပြည့်စုံသော ယေရှုသည် ဂျော်ဒန်မြစ်မှ ပြန်လာရာတွင် ဝိညာဉ်တော်သည် ယေရှုအား တောသို့ ပို့ဆောင်ပေးသည်။ ရက်ပေါင်း ၄၀တိတိ မာရ်နတ်၏ သွေးဆောင် ဖြားယောင်း စုံစမ်းခြင်းကို ခံရသည်။ ထိုကာလအတွင်း အစာအာဟာရ ကို လုံးဝ သုံးဆောင်ခြင်း မရှိချေ။ ထိုကာလလွန်မှ မွတ်သိပ်ခြင်း ဖြစ်တော်မူသည်။

မာရ်နတ်က ယေရှုအား ဘုရားသခင်၏ သားတော်မှန်လျှင် ကျောက်ခဲကို မုန့်ဖြစ်အောင် ပြုလုပ်ရန် ပြောသော အခါ ယေရှု ကလည်း လူသည် မုန့်ဖြင့်သာ အသက်မွေးသည် မဟုတ်၊ ဘုရားသခင်

မိန့်တော်မူချက်တို့ဖြင့် အသက်မွေးရမည်ဟု ကျမ်းစာ ရှိကြောင်း ပြောဆိုလေသည်။

တစ်ဖန် မာရ်နတ်သည် ယေရှုကို မြင့်မားသော တောင်ပေါ်သို့ ခေါ်ဆောင်သွားပြီး ကမ္ဘာပေါ်တွင် ရှိသမျှသော တိုင်းပြည်တို့ကို ခဏအတွင်း ပြသကာ ထိုဘုန်းတန်ခိုးတို့ကို မိမိအနေဖြင့် ပေးချင်သူကို ပေးနိုင်ကြောင်း၊ ယေရှုသည် မာရ်နတ်ကို ကိုးကွယ်မည် ဆိုလျှင် ထိုဘုန်းတန်ခိုးတို့ကို ပေးမည်ဟု သွေးဆောင်ပြန်သည်။ ယေရှုကလည်း ထာဝရဘုရားကိုသာ ဝတ်ပြု ကိုးကွယ်ရမည်ဟု ကျမ်းစာသာ ရှိကြောင်း ပြန်ပြောတော် မူသည်။

ထို့နောက် မာရ်နတ်သည် ယေရှုကို ဂျေရုစလင်မြို့ရှိ ဗိမာန်တော်ထိပ်တွင် တင်ထား၍ ဘုရားသားတော် ဖြစ်သော ယေရှုအား မြေကြီးရှိ ကျောက်တို့နှင့် မထိစေရအောင် ကောင်းကင်တမန် တို့ကို စောင့်ကြပ် ထားစေသည်ဟု ကျမ်းစာတွင် ဆိုထားသဖြင့် ဘုရားသားတော် ဟုတ်မှန်လျှင် အောက်သို့ လွှတ်ချလိုက်ပါဟု စမ်းသပ်ပြောဆိုပြန်သည်။ ယေရှုကလည်း ထာဝရဘုရားကို စမ်းသပ်ခြင်းမပြုရဟု ကျမ်းစာ လာရှိကြောင်းကို ပြောပြလိုက်သည်။ ထိုပြီးနောက်တွင်ကား မာရ်နတ်သည် လက်လျှော့ကာ ပြန်သွားလေတော့သည်။

ယေရှုသည် ဝိညာဉ်တော်၏ တန်ခိုးဖြင့် ဂါလိလဲ ပြည်သို့ ပြန်သွားလေ၏။ ခရစ်တော်၏ သတင်းသည် တစ်ပြည်လုံး အနှံ့သို့ ပျံ့နှံ့သွားသည်။ ယေရှုသည် တရားဇရပ်တို့တွင် တရားဟော၍ လူအများကို ဆုံးမဩဝါဒ ပေးသည်။ လူအပေါင်းတို့ကလည်း ချီးမွမ်း ပြောဆို ကြကုန်၏။

နောက်တွင် ယေရှု၏ တပည့်တော်ကြီးများ ဖြစ်လာကြမည့် သူများလည်း ယေရှုသခင်ထံ ချဉ်းကပ်လာကြသည်။ ပထမဦးဆုံး တပည့်တော်ကြီး ဖြစ်လာသူကား အန္ဒြေပင် ဖြစ်သည်။ ထို့နောက် ဇေဗေဒ၏ သား ယောဟန် ဖြစ်သည်။ နောက်မှ ရှိမုန်ပေတရု ရောက်ရှိလာသည်။ အန္ဒြေသည် ပေတရု၏ ညီဖြစ်သည်။

ခရစ်တော်သည် ထူးဆန်းအံ့ဩဖွယ်သော တန်ခိုးတို့ကို ပြသခဲ့သည်။ မုန့်ငါးလုံးနှင့် ငါးရှစ်ကောင်ဖြင့် လူငါးထောင်ကို ကျွေးမွေးနိုင်ခြင်း၊ နူနာစွဲနေသူ တစ်ယောက်ကို နူနာရောဂါမှ သန့်ရှင်းအောင် ပြုလုပ်ခြင်း၊ နားပင်း၍ စကားအသူ တစ်ယောက်ကို ချမ်းသာစေခြင်း၊ မျက်စိကန်းနေသူကို မျက်စိမြင်စေတော် မူခြင်း၊ ခြေလက် သေနေသူကို ကောင်းအောင် ပြုလုပ်ပေးခြင်း စသည်တို့ကို ပြုလုပ်ခဲ့သည်။ ဂါလိလဲ အိုင်ထဲတွင် မိုးသက်မုန်တိုင်း ကျရောက်သည်ကိုလည်း ယေရှုသခင်သည် ငြိမ်သက်အောင် ပြုလုပ်နိုင်ခဲ့သည်။ သေနေသော လူကိုလည်း အသက်ပြန်ရှင်အောင် ပြုလုပ် ပြသခဲ့သေးသည်။

ယေရှု၏ ညွှန်ကြားချက်ဖြင့် တပည့်တော်ကြီးများသည် နောင်တ တရား ရရှိလာကြသော ဂျူးတို့ကို နှစ်ခြင်း ပြုလုပ်ပေးရာ ဗတ္တိဇံဆရာ ယောဟန်၏ လုပ်ငန်းမှာ ရပ်ဆိုင်းသွားတော့သည်။ ဂါလိလဲ တောင်ပေါ်တွင် ယေရှုသည် မိမိ၏ တပည့်တော်ကြီး ၁၂ဦးကို ရွေးချယ်လေသည်။ ထို့နောက် အရပ်ရပ်သို့ စေလွှတ်ပြီး တရား ဟောစေသည်။

တစ်ကျိပ်နှစ်ပါးသော တပည့်တော်ကြီး တို့၏ အမည်သည် ကား ၁။ ပေတရု ခေါ် ရှိမုန်၊ ၂။ ပေတရု၏ညီ အန္ဒြေ၊ ၃။ ဇေဗေဒ၏

သား ယာကုပ်၊ ၄။ ယာကုပ်၏ညီ ယောဟန်၊ ၅။ ဖိလိပ္ပု၊ ၆။ ဗာသောလမဲ၊ ၇။ သောမ၊ ၈။ မဿဲ၊ ၉။ အာလာဖဲ၏သား ယာကုပ်၊ ၁၀။ သန္ဒအမည်ရသော လေဗိ၊ ၁၁။ ကာနနိတ်ရှိမုန်၊ ၁၂။ ရှဒရှကာရုတ်တို့ ဖြစ်သည်။

ယေရှုသည် ကဲသရိယ လိပိကျေးရွာသို့ အသွားတွင် လမ်း၌ သူ၏ တပည့်တော်ကြီးများအား မိမိသည် မည်သူဖြစ်ကြောင်း သိသလားဟု မေးတော်မူရာ ရှိမုန် ပေတရုက ယေရှုသည် ထာဝရ ဘုရားသခင်၏ သား ခရစ်တော် ဖြစ်ကြောင်းကို အမှန်အတိုင်း ပြောဆိုနိုင်သည်။ ထို့ပြင် ယေရှုသည် ယဇ်ပုရောဟိတ် အကြီးအကဲ၊ ကျမ်းပြုဆရာ အကြီ;အကဲတို့၏ အသိအမှတ် ပြုခြင်းကို ခံရမည် မဟုတ်ဘဲ၊ အသေသတ်ခြင်းကို ခံရမည် ဖြစ်ကြောင်း၊ သို့သော် သုံးရက်မြောက်သော အခါ ထမြောက်တော် မူမည်တို့ကို ပြောပြလေသည်။

ခြောက်ရက်ခန့် ကြာသောအခါ ယေရှုသည် ပေတရု၊ ယာကုပ်နှင့် ယောဟန်တို့ တပည့်ကြီး သုံးဦးကိုသာ ခေါ်၍ အလွန်မြင့်မားသော တောင်ပေါ်သို့တက်လာခဲ့သည်။ ထိုတောင်ထိပ်တွင် ယေရှုသည် ပရောဖက်များ ဖြစ်သည့် မောရှေ၊ ဧလီယတို့နှင့် စကားပြောဆိုနေလေသည်။

---

၁။ Simon Peter
၂။ Andrew
၃။ James of Zebcbee
၄။ John
၅။ Philip
၆။ Bartholonmew
၇။ Phomas
၈။ Mathew
၉။ James of Alphaens
၁၀။ Thaddaeus
၁၁။ Simon the Cananaeun
၁၂။ Judas Iseariet

ခရစ်နှစ် ၃၃ခု ပသခါ ပွဲရာသီတွင် ယေရှုသည် ဂျေရုစလင်မြို့သို့ ရောက်ရှိလာခဲ့သည်။ ဂျေရုစလင်မြို့ ဖျက်ဆီးခံရမည်ကို ကြိုတင် နိမိတ် ဖတ်ကြား ပြောဆိုလေသည်။ ယဇ်ပုရောဟိတ်အကြီးအကဲတို့နှင့် ဘာသာရေး ကျမ်းပြု ဆရာကြီးတို့မှာ ယေရှုအား ဖမ်းဆီး သတ်ပစ်ရန် ကြံစည်နေလေပြီ။ ယေရှုကလည်း ထိုသူများကို ပြစ်တင် ပြောဆိုလေသည်။

ပသခါပွဲ မတိုင်မီ နှစ်ရက် အလိုတွင် ယေရှုက သူ့အား လက်ဝါးကပ်တိုင်မှ ရိုက်သတ်စေခြင်းငှာ အပ်နှံကြလိမ့်မည်ဟု မိန့်ကြားသည်။ ယဇ်ပုရောဟိတ်နှင့် ကျမ်းပြု ဆရာတို့သည် ကယာဖ[၁] အမည်ရှိသော ယဇ်ပုရောဟိတ် ဆရာကြီး၏ နေအိမ်တွင် စည်းဝေးကြပြီး ယေရှုကို ပရိယာယ် ဆင်ကာ ဖမ်းဆီး၍ သတ်ရန် တိုင်ပင်ကြသည်။ သို့သော် လူများ ရုန်းရင်းဆန်ခတ် ဖြစ်မည်ကို စိုးရိမ်း၍ ပွဲနေ့တွင် မပြုလုပ်ရန် သဘောတူကြသည်။

ယေရှုသည် ဗေသနိရွာ၌ ရှိမုန် အမည်ရှိသော လူနူတစ်ဦး၏ အိမ်တွင် လဲလျောင်းနေစဉ် မိန်းမတစ်ယောက်သည် ဆီမွှေးတို့ဖြင့် ထည့်ထားသော ခွက်တစ်ခုကို ယူဆောင်လာကာ ယေရှု၏ ခေါင်းပေါ်သို့ သွန်းလောင်းလိုက်သည်။ ထိုအခြင်းအရာကို တွေ့မြင်ရသော တပည့်တော်ကြီး တို့က ထိုမိန်းမကြီးကို ပြစ်တင်စကား ပြောဆိုကြလေရာ ယေရှုက ထိုမိန်းမသည် ကောင်းသော အလုပ်ကို ပြုခြင်းသာ ဖြစ်ကြောင်း ဆီမွှေးဖြင့် သွန်းလောင်းခြင်းမှာ ယေရှု၏ အလောင်းကို သင်္ဂြိုဟ်မည်ဟု ပြင်ဆင်ခြင်းသာ ဖြစ်မည်ဟု မိန့်ကြား ပြောဆိုသည်။

၁။ Caiayhas

ထိုအခါတွင် တပည့်တော် တစ်ကျိပ်နှစ်ပါး တို့တွင် ပါဝင်သော ယုဒရှကာရုတ်သည် သစ္စာဖောက်ကာ ယဇ်ပုရောဟိတ်ကြီးထံ သွားရောက်လျက် ယေရှုကို ဖမ်းဆီးပေးနိုင်လျှင် အသပြာငွေ မည်မျှ ပေးမည်နည်း မေးမြန်းလေသည်။ ယဇ်ပုရောဟိတ်တို့က အသပြာငွေ ၃၀–ကျပ် ပေးမည်ဟု ဆိုသော အခါ ဖမ်းဆီးပေးနိုင်မည့် အချိန်ကို စောင့်ဆိုင်းနေလေသည်။

ပသခါပွဲတော်နေ့ ညတွင် ယေရှုနှင့် တပည့်တော် ၁၂ဦးတို့သည် ဂျေရုစလင်မြို့ရှိ ဝိုညာဉ်ရိပ်သာ တစ်ခုတွင် ညစာ စားသောက်ကြသည်။ စားသောက်နေကြစဉ် ယေရှုက သင်တို့အနက်မှ တစ်ယောက်သော သူသည် ယေရှုကို အပ်နှံ ဖမ်းဆီးပေးလိမ့်မည် ဖြစ်ကြောင်း မိန့်တော်မူလေရာ တပည့်တော်တို့ သည်လည်း အကျွန်ုပ်လောဟု အသီးသီး မေးလျှောက်ကြသည်။ ယေရှုက သူနှင့်အတူ ပန်းကန်တွင် လက်နှိုက်သူ ဖြစ်ကြောင်း ပြောဆိုရာ ယုဒရှကာရုတ် ဖြစ်ကြောင်း တွေ့ရှိရသည်။ ယုဒရှကာရုတ်မှာ ပွဲမှ ထွက်သွားရလေသည်။

ယေရှုသည် မုန့်ကို သူ၏အသားအဖြစ် လည်းကောင်း၊ စပျစ်ရည်ကို အသွေးအဖြစ် လည်းကောင်း၊ အထိမ်းအမှတ် ဖြစ်စေကာ တပည့်တော်တို့ကို စားသောက်စေသည်။ ထို့နောက် သီချင်းဆိုပြီးမှ သံလွင်တောင်သို့ ထွက်သွားကြသည်။ ယေရှုက တပည့်တော်ကြီးတို့သည် ထိုနေ့ညတွင် ခရစ်တော်ကြောင့် စိတ်ပျက်ကြလိမ့်မည် ဖြစ်ကြောင်း၊ သို့သော် ယေရှုသည် ရှင်သန်ထမြောက်ပြီးမှ ဂါလိလဲပြည်သို့ သွားမည် ဖြစ်ကြောင်းကို မိန့်ဆိုလေရာ ပေတရုက တခြားသူများစိတ်ပျက်သော်လည်း မိမိအနေဖြင့် စိတ်ပျက်မည် မဟုတ်ဟု ပြန်လျှောက်

လေ၏။ ယေရှုက ပေတရုသည် ထိုနေ့ည ကြက်မတွန်မီ သုံးကြိမ်တိုင် အောင်ပင် ခရစ်တော်ကို ငြင်းပယ်သည့် စကား ပြောလိမ့်မည်ဟု နိမိတ်စကား ပြောလေသည်။ ပေတရုကလည်း မငြင်းပယ်ပါဟု ပြန်လျှောက်သည်။

ဂေသရေမန် ဥယျာဉ်သို့ ရောက်သောအခါ ယေရှုသည် ဘုရား သခင်ထံသို့ ဆုတောင်း ဝတ်ပြုသည်။ သုံးကြိမ်ကြိမ် တိုင်တိုင် ဆုတောင်းပြီးနောက် တပည့်တော်တို့ထံ လာ၍ ဖမ်းဆီး မည့်သူများ လာနေပြီ ဖြစ်ကြောင်း ပြောကြားလေသည။ ထိုစဉ်တွင်ပင် ယုဒ ရှကာရုတ် ရောက်လာ၏။ သူ၏ နောက်တွင် လက်နက်များ ကိုင် ဆောင်ထားသော ယဇ်ပုရောဟိတ်တို့၏ တမန်များ ပါရှိလာသည်။

ယုဒရှကာရုတ်သည် သူ၏နောက်မှ လိုက်လာသူများအား မိမိနမ်းသော သူသည် ယေရှုပင် ဖြစ်၍ ထိုသူကို ဖမ်းဆီးကြရန် အချိန်းအချက် ထားခဲ့ပြီး ယေရှုအနီးသို့ ချဉ်းကပ်ကာ အရှင်ဘုရား မင်္ဂလာ ရှိပါစေဟု ဆိုလျက် လက်ကို နမ်းလေ၏။ ယေရှုက ယုဒ ရှကာရုတ်အား မည်သည့် အရေးကိစ္စကြောင့် လာခဲ့သနည်းဟု မေးမြန်း စဉ်မှာပင် အဖမ်းခံရလေသည်။

ယေရှု၏ နောက်လိုက် တစ်ယောက်သည် ဓားကို ဆွဲထုတ် ပြီးလျှင် ယဇ်ပုရောဟိတ်တို့၏ ကျွန်တစ်ယောက်ကို ဝင်ခုတ်ရာ နားရွက် ပြတ်လေသည်။ ထိုအခါ ယေရှုက ခုတ်သော သူအား ဓားကို ပြန်လည် ရုပ်သိမ်းရန် ပြောကြားပြီး ဓားကို ကိုင်သူတို့သည် ဓားဖြင့် သေရကြောင်း၊ မိမိအနေနှင့် အဖ ဘုရားသခင်ထံသို့ အကူအညီ တောင်းလျှင် ကောင်းကင် တမန်များကို စေလွှတ်လိမ့်မည် ဖြစ်ကြောင်း၊

ဤသို့ ပြုလုပ်ခဲ့ပါက ကျမ်းစာတွင် ဟောကြားထားချက်များ အတိုင်း ဖြစ်လာနိုင်ဖွယ်ရာ မရှိတော့ကြောင်း၊ ယဇ်ပုရောဟိတ်တို့၏ တမန်များသည် ယေရှုအား ဓားပြကို ဖမ်းဆီးသကဲ့သို့ ဖမ်းဆီးရန် လာကြကြောင်း၊ ဗိမာန်တော်တွင် နေ့စဉ် ထိုင်၍ တရားဟောနေစဉ် လာမဖမ်းကြကြောင်း ပြောဆိုလေသည်။ တပည့်တော် အပေါင်းတို့သည်လည်း ယေရှုကို စွန့်ပစ်၍ ပြေးကြလေသည်။

ယေရှုအား ဖမ်းဆီး၍ ယဇ်ပုရောဟိတ် အကြီးအကဲ ဖြစ်သူ ကယာဖထံသို့ ခေါ်ဆောင်သွားကြရာ ပေတရုလည်း နောက်မှ လိုက်၍ လူအုပ်ကြားထဲမှ ထိုင်ကာ အခြေအနေကို လေ့လာနေလေ၏။ ပရိသတ် အထဲမှ အချို့သည် ပေတရုကို ယေရှု၏ တပည့်တစ်ဦး အဖြစ် မှတ်မိ၍ စွပ်စွဲ ပြောဆိုကြရာ ပေတရုက ယေရှုကို မသိကြောင်း သုံးကြိမ်တိုင်ပင် ငြင်းပယ် ပြောဆိုရလေသည်။ ထိုခဏ၌ပင် ကြက်တွန်သံကို ကြားရလေသည်။ ကြက်မတွန်မီ သုံးကြိမ် တိုင်တိုင် ငြင်းပယ်လိမ့်မည်ဟု ယေရှု၏ မိန့်ဆိုသော စကားကို သတိရသဖြင့် ပေတရုသည် အပြင်သို့ ထွက်၍ ပြင်းထန်စွာ ငိုကြွေးလေသည်။

ယဇ်ပုရောဟိတ်တို့သည် ယေရှုကို သတ်ရန်အတွက် သက်သေ အထောက်အထားကို ရှာဖွေကြသော်လည်း မတွေ့ရှိဘဲ ဖြစ်နေကြသည်။ မိုးလင်းသော အခါ မြို့ဝန်မင်း ပုန္တိပိလတ်[၁]ထံသို့ ပို့ဆောင်ပေးကြသည်။

မြို့ဝန်က ယေရှုအား ယုဒရှင်ဘုရင်ဟုတ်မှန်သလားဟု မေးရာ ယေရှုက ဟုတ်မှန်ကြောင်း ပြောဆိုလေသည်။ ယဇ်ပုရောဟိတ်က

၁။ Pontius Pilate

ယေရှုအား အပြစ်တင် စကား ပြောဆိုကြသော်လည်း တစ်ခွန်းမှ ပြန်မပြောချေ။ ထိုပွဲမျိုးတွင် မြို့ဝန်သည် အကျဉ်းသားများ အနက်မှ လူအများ အလိုရှိသော လူတစ်ယောက် လွှတ်ပစ်သော ထုံးစံရှိလေသည်။ ထိုအချိန်တွင် အကျဉ်းသားအနက် ဗာရဗ္ဗ[၁] အမည်ရှိသော နာမည်ကျော် လူဆိုးတစ်ဦးလည်း ရှိနေသည်။

ယေရှုခရစ်တွင် အပြစ်မရှိကြောင်း သိရှိသော မြို့ဝန်မင်းသည် လူအများ ယေရှုနှင့် ဗာရဗ္ဗတို့ အနက် မည်သူ့ကို လွှတ်စေချင်သနည်းဟု မေးလေသည်။ မြို့ဝန်၏ ဇနီးက လူတစ်ယောက်ကို တရားခွင်သို့ စေလွှတ်ကာ ယေရှုအား လွှတ်ရန် ပြောကြားစေသည်။ သို့သော် ယဇ်ပုရောဟိတ် ဆရာကြီးတို့ကား လူအုပ်ကို ဗာရဗ္ဗအား လွှတ်ရန် သွေးဆောင်သည်။

လူအုပ်က ဗာရဗ္ဗကို လွှတ်ရန် ပြောဆိုသော အခါ မြို့ဝန်သည် ယေရှုအား မည်သို့ ပြုလုပ် ရမည်နည်းဟု မေးမြန်း ပြန်သည်။ လူအုပ်က ယေရှုအား လက်ဝါးကပ်တိုင် ရိုက်သတ်ရန် ဖြေဆိုကြ၏။ မြို့ဝန်က ယေရှုသည် မည်သည့် အပြစ်ကို ကျူးလွန်သနည်း ဟု မေးမြန်းရာ လူအုပ်က လက်ဝါးကပ်တိုင်မှာ ရိုက်သတ်ခံပါစေဟူ၍သာ ထပ်တလဲလဲ ဖြေဆိုကြသည်။

မြို့ဝန်ကိုလည်း ဖြောင့်မတ်သော ယေရှုနှင့် ကင်းရှင်းကြောင်းကို သစ္စာဆိုလျက် မတရားသော ပြစ်မှုကို လူအုပ်၌ တည်စေ၏။ ထို့နောက် ယေရှုကို သတ်ရန် အပ်လိုက်သည်။

မြို့ဝန်၏ အမှုထမ်းတို့သည် ယေရှုသခင်ကို နှိပ်စက်ကလူ ပြုကြသည်။ အဝတ်တော်ကို ချွတ်၍ နီသော အဝတ်ကို ခြုံစေသည်။

[၁] Barabas

ဆူးပင်နှင့် ရက်သော ဦးရစ်ကို ခေါင်းပေါ်တွင် တင်ကြ၏။ ပြက်ရယ် ပြုကြ၏။ တံတွေးနှင့် ထွေးကြ၏။ ထို့နောက် အဝတ်တော်ကို ပြန်ဝတ်စေပြီး သတ်ရန် ခေါ်ဆောင်သွားကြသည်။

ဦးခေါင်းခွံ အရပ်ဟု ခေါ်တွင်သော ဂေါလဂေါသသို့ ရောက်ကြသော် ဆေးခါးနှင့်ရောစပ်သော ပုန်းရည်ကို သောက်စေသည်။ ယေရှုကို လက်ဝါးကပ်တိုင်တွင် ရိုက်ထားပြီးသော် ယေရှု၏ အဝတ်တို့ကို မဲချ၍ ခွဲဝေယူကြသည်။ ယေရှုကို စွပ်စွဲသော စွဲချက်ကို ခေါင်းပေါ်၌ ကမ္ပည်းထိုးထားရာ "ဂျူးတို့၏ ရှင်ဘုရင်ယေရှု"ဟူ၍ ဖြစ်သတည်း။ ဓားပြနှစ်ယောက် တို့ကိုလည်း ယေရှု၏ တစ်ဖက်တစ်ချက်စီတွင် လက်ဝါးကပ်တိုင်ဖြင့် ရိုက်ထားကြသည်။

လမ်းသွားလမ်းလာသူများလည်း ယေရှုကို ပြက်ရယ် ပြုကြသည်။ မိမိကိုယ်ကို ကယ်တင်လော့၊ ဘုရားသားတော် မှန်လျှင် လက်ဝါးကပ်တိုင်မှ ဆင်းလာလော့ စသည်ဖြင့် ကဲ့ရဲ့ပြောဆို ကြသည်။

ယေရှု "အိုအဖ၊ ထိုသူတို့၏ အပြစ်ကို လွှတ်တော်မူပါ၊သူတို့သည် ကိုယ်ပြုသော အမှုကို မသိကြ"ဟု မြွက်ဆိုတော်မူရာ ခရစ်တော်၏ ရန်သူအပေါ် ခွင့်လွှတ်နိုင်ပုံကို သက်သေပြလိုက်ခြင်း ဖြစ်လေသည်။

မွန်းတည့်ချိန်မှစ၍ သုံးချက်တီးချိန် တိုင်အောင် မြေတစ်ပြင်လုံး မှောင်မိုက်အတိ ဖြစ်လေသည်။ ယေရှုသည် ရေငတ်သဖြင့် ပုန်းရည်ကို သောက်ပြီးမှ အမှုပြီးပြီဟု မိန့်ဆိုတော် မူလျက် ခေါင်းကို ငိုက်စိုက် ညွတ်၍ အသက်ကို စွန့်တော်မူလေသည်။

ထိုနေ့ည ရောက်သောအခါ အရိမသဲ အရပ်မှ ယောသပ် အမည်ရှိသော သူသည် ယေရှုအလောင်း သင်္ဂြိုဟ်ရန် ပိတလက်မင်းထံ

တောင်းရာ ခွင့်ပြုလေသည်။ ယောသပ်သည် ယေရှု အလောင်းကို အဝတ်ဖြူဖြင့် ရစ်ပတ်လျက် ကျောက်ဆောင်တွင် ထွင်းထားသော သူ၏ သင်္ချိုင်းဂူထဲတွင် ထားခဲ့ပြီး တွင်းဝကို ကြီးမားသော ကျောက်ဖျာဖြင့် ကာဆီးပိတ်ဆို့ ထားရှိလေသည်။ မာဂဒလမရိ [၁] နှင့် ခြားမာရိတို့သည် ထိုသင်္ချိုင်းရှေ့တွင် ထိုင်စောင့်နေကြလေသည်။

ယေရှု မသေမီက သူသေပြီး သုံးရက် ကြာလျှင် ရှင်သန်ထမြောက်မည်ဟု ပြောကြားခဲ့သည်ကို သတိရရှိကြသော ယဇ်ပုရောဟိတ်နှင့် ဖာရိရှ [၂] တို့သည် ယေရှု၏ အလောင်းကို သူ၏ တပည့်များက ယူ၍ သေခြင်းမှ ထမြောက်သည်ဟု ပြောဆိုလာမည်ကို စိုးရိမ်လာသဖြင့် သုံးရက်တိုင်တိုင် သင်္ချိုင်း၌ အစောင့်ချထားရန် ပိလတ်ထံ တင်ပြကြသည်။ ပိလတ်ကလည်း သဘောတူသဖြင့် ယဇ်ပုရောဟိတ်တို့သည် သင်္ချိုင်းသို့ သွားရောက်ကာ တံခါးကို တံဆိပ် ရိုက်နှိပ်ပြီး အစောင့်အရှောက်ထား၍ ပြန်သွားကြသည်။

ယေရှုသခင် ကွယ်လွန်ပြီးနောက် သုံးရက်မြောက်နေ့ နံနက်တွင် မာဂဒလမာရိနှင့် အခြားသော မာရိတို့သည် သင်္ချိုင်းတော်သို့ သွားရောက်ကြလေ၏။ ထိုအချိန်တွင် မြေကြီး ပြင်းစွာ တုန်လှုပ်လေသည်။ ထာဝရဘုရား၏ ကောင်းကင်တမန်သည် ကောင်းကင်ဘုံမှ ဆင်းလာကာ တံခါးဝရှိ ပိတ်ထားသော ကျောက်ပြားကို လှန်ချပြီး ထိုကျောက်ပြားပေါ်တွင် ထိုင်နေလေသည်။

အစောင့်တို့မှာ များစွာ ကြောက်ရွံ့ကြလေသည်။ ကောင်းကင်တမန်က မကြောက်ရန် ပြောကြားပြီး သခင်ယေရှု ရှင်သန်ထမြောက်

၁။ Magdalene ၂။ Pharisee

သွားပြီ ဖြစ်ကြောင်း၊ တွင်းထဲတွင် မရှိတော့ပြီ ဖြစ်ကြောင်းကို ပြောလေ၏။ ယေရှုသည် ဂါလိလဲ ပြည်သို့ သွားပြီ ဖြစ်ကြောင်း တပည့်တော်ကြီးတို့ထံ သွား၍ ပြောကြားရန် မာရိတို့ကို စေလွှတ်လေ၏။ မာရိတို့လည်း အလျင်အမြန် ပြန်သွားကာ တပည့်တော်ကြီးတို့ကို ပြောကြားလေသည်။

ပေတရုနှင့် အခြားတပည့် တစ်ယောက်တို့သည် အလျင်အမြန် ပြေးလွှား၍ သင်္ချိုင်းသို့ သွားရောက် ကြည့်ရှုကြသည်။ တွင်းထဲတွင် ပုဆိုးနှင့် ခေါင်းပေါင်း ပဝါတို့ကိုသာ တွေ့မြင်ကြရ လေသည်။

မာရိသည် သင်္ချိုင်းနားတွင် ငိုကြွေး နေလေသည်။ ထိုစဉ် ကောင်းကင်တမန် နှစ်ပါးသည် တွင်းထဲရှိ ယေရှုအလောင်းထားရာ ခေါင်း၌ တစ်ပါး၊ ခြေရင်း၌ တစ်ပါး ထိုင်နေသည်ကို တွေ့မြင်လေ၏။ ထိုသူတို့သည် မာရိအား မည်သည့် အကြောင်းကြောင့် ငိုကြွေးရသနည်းဟု မေးလျှင် မာရိက ယေရှုကို မည်သည့် အရပ်သို့ ယူဆောင် သွားကြောင်းကို မသိ၍ ငိုရကြောင်း ပြန်ပြောလေ၏။

မာရိ၏ နောက်တွင် ယေရှုလာ၍ ရပ်နေသော်လည်း ထိုသူကို ယေရှု ဟု မသိချေ။ ယေရှုကိုပင် ဥယျာဉ်စောင့် အမှတ်ဖြင့် ယေရှု အရှင်ကို မည်သည့် အရပ်သို့ ယူဆောင်သွားကြောင်း သိသလားဟု မေးမြန်းလေ၏။ ယေရှုကလည်း မာရိဟု ခေါ်လိုက်ရာ မာရိက အရှင်ဘုရားဟု ထူးလေ၏။ ထို့နောက် ယေရှုက သူသည် ဖခမည်းတော်ထံသို့ မတက်ရသေးကြောင်း၊ ဖခမည်းတော် ထံသို့ တက်ရမည် ဖြစ်ကြောင်းကို တပည့်တော်တို့ထံသို့ သွားရောက် ပြောကြားစေသည်။ မာရိကလည်း တပည့်တော်တို့ ထံသို့ လာရောက်၍ ပြောကြားလေသည်။

ယေရှုသည် ထမြောက်တော် မူပြီးမှ ရက်ပေါင်း လေးဆယ် တိုင်တိုင် ကောင်းကင်ဘုံသို့ မတက်သေးဘဲ တပည့်တော်များကို ကြိမ်ဖန်များစွာ တွေ့ဆုံခဲ့သေးသည်။ တစ်နေရာ၌ လူပေါင်း ငါးရာခန့် တို့သည် ထမြောက်တော် မူပြီးသော ယေရှုကို တွေ့မြင်ကြရသည်။ ခမည်းတော် ဘုရားသခင်သည် ယေရှုခရစ်တော်အား စေလွှတ်၍ လူအများ၏ အပြစ်မှ လွတ်အောင် ဆောင်ရွက်စေသကဲ့သို့ ယေရှုသခင် ကလည်း တပည့်တော်တို့ကို စေလွှတ်၍ လူအများ အပြစ်လွတ်အောင် ဆောင်ရွက်ကြရန် တိုက်တွန်း ပြောဆိုလေသည်။

ရက်ပေါင်း လေးဆယ်ပြည့်သော နေ့တွင် ယေရှုသည် တပည့် တော်ကြီးတို့ထံ ပေါ်လာ၍ သူတို့ကို ဂျေရုစလင်မြို့ အနီးရှိ သံလွင် တောင်ပေါ်သို့ ခေါ်ဆောင်သွားသည်။ ထိုနေရာတွင် ယေရှုသည် တပည့်တော်ကြီးများကို နောက်ဆုံး ဩဝါဒ ပေးတော်မူသည်။ ခရစ် တော်ကို ယုံကြည်သူများထံသို့ သန့်ရှင်းသော ဝိညာဉ်တော် ဆင်း သက်လိမ့်မည် ဖြစ်ကြောင်း၊ ကမ္ဘာ အရပ်ရပ်သို့ တိုင်အောင် ခရစ်တော် ၏ သက်သေများ ပျံ့နှံ့လိမ့်မည် ဖြစ်ကြောင်း မိန့်ကြားပြီးနောက် တပည့်တော်တို့ ကြည့်ရှု နေစဉ်မှာပင် ခရစ်တော်အား ကောင်းကင် သို့ သယ်ဆောင်ခြင်းကို မြင်ကြရလေသည်။ တဖြည်းဖြည်း မြင့်တက် သွားလေရာ မိုးတိမ်များကြားသို့ ဝင်ရောက် ပျောက်ကွယ် သွားလေ သည်။

ထိုခဏ၌ပင် ဖြူစင်သော အဝတ်ကို ဝတ်ဆင်သော လူနှစ်ယောက် သည် တပည့်တော်တို့ အနားတွင် ပေါ်လာ၍ ကောင်းကင်ဘုံသို့ သယ်ဆောင်ယူခြင်းကို ခံရသော ယေရှု ခရစ်တော်သည် ဒုတိယ

အကြိမ် ကမ္ဘာလောကကြီးသို့ ယခုတက်သွား သကဲ့သို့ပင် တစ်ဖန် ဆင်းသက်လာလိမ့်မည် ဖြစ်ကြောင်း ပြောဆိုကြသည်။

ခရစ်တော် ရှင်သန် ထမြောက်သောနေ့မှ ငါးဆယ်ရက်မြောက်သော နေ့တွင် တေကုပွဲနေ့[၁] ရောက်သောအခါ တပည့်တော် အပေါင်း ၁၂၀တို့သည် ဂျေရုစလင် မြို့ရှိ တစ်ခုသော ဝိညာဉ် ရိပ်သာတွင် တစ်စုတစ်ဝေးတည်း ရောက်ရှိနေကြသည်။ ထိုနေရာတွင် လေမုန်တိုင်းကဲ့သို့သော အသံသည် ခဏအတွင်း ကောင်းကင်ပေါ်မှ လာ၍ ထိုဝိညာဉ်ရိပ်သာ အခန်းတစ်ခုလုံးတွင် ပြည့်နေလေ၏။ ထိုခဏတွင် မီးလျှံနှင့် တူသော လျှာတို့သည် ပေါ်လာ၍ တပည့်တော်တို့ အပေါ်၌ တည်လေကုန်၏။ ထိုသူတို့သည် သန့်ရှင်းသော ဝိညာဉ်တော်နှင့် ပြည့်စုံသွားကြသဖြင့် ဘာသာစကား အမျိုးမျိုးကို ပြောဆိုလာနိုင်ကြသည်။

ထိုအချိန်တွင် အရပ်ရပ်မှ ဘုရား တရားကို ကြည်ညိုသော လူအပေါင်းသည် ဂျေရုစလင်မြို့တွင် ရောက်နေကြသည်။ ထိုသူတို့သည် အသံကိုကြား၍ ဝိညာဉ်ရိပ်သာသို့ စုဝေးလာကြရာ ဘာသာစကား အမျိုးမျိုးကို ပြောဆိုနေကြသော တပည့်တော်တို့ကို မြင်၍ အံ့ဩနေကြသည်။ သူတို့ကို ပေတရု တရားဟောသဖြင့် အကျွတ်တရား ရရှိသွားကြသော လူများကို နှစ်ခြင်းခံပေးကြသည်။ ထိုနေ့တစ်နေ့တည်းတွင် လူပေါင်း ၃၀၀၀ခန့် ခရစ်ယာန် ဘာသာဝင်များ ဖြစ်လာကြလေသည်။

---

၁။ Pentecost ငါးဆယ်

## သုံးပါးတစ်ဆူ [၁]

ခရစ်ယာန် ဘာသာတွင် ထာဝရ ဘုရားသည် ပုဂ္ဂိုလ်အားဖြင့် သုံးပါးရှိသည်။ ဖခမည်းတော်၊ သားတော်နှင့် သန့်ရှင်းသော ဝိညာဉ်တော်တို့ ဖြစ်သည်။ သို့သော် ဤသုံးပါးတို့သည် ပုဂ္ဂိုလ်ရေးအရ ကွဲပြား နေသော်လည်း တစ်ဆူတည်းသော ထာဝရဘုရားသာ ဖြစ်သည်။ ပုဂ္ဂိုလ်သုံးဦး စလုံးသည် အရာရာတွင် တန်းတူညီမျှမှု ရှိသည်။ ဖခမည်းတော်သည် ဘုရားသခင် ဖြစ်သလို သားတော်သည်လည်း ဘုရားသခင်ပင် ဖြစ်၍ သန့်ရှင်းသော ဝိညာဉ်တော် သည်လည်း ဘုရားသခင်ပင် ဖြစ်သည်။ သို့သော် ယင်းတို့သည် ထာဝရ ဘုရား သုံးပါးကား မဟုတ်ချေ။ တစ်ပါးတည်းသာ ဖြစ်သည်။

ဖခမည်းတော်သည် ပထမပုဂ္ဂိုလ်ဖြစ်၏။ သူသည် မည်သူ့ ကိုမျှ မှီခိုနေရခြင်း မရှိချေ။ သုံးပါးတို့ အနက် သားတော်သည် ခမည်းတော်ကို မှီရသဖြင့် ဒုတိယ ပုဂ္ဂိုလ် ဖြစ်၏။ သန့်ရှင်းသော ဝိညာဉ်တော်သည် ဖခမည်းတော် ထံမှ လည်းကောင်း၊ သားတော်ထံမှ လည်းကောင်း ဘုရားသခင်၏ အရည်အချင်း တို့ကို ခံယူရရှိသဖြင့် တတိယပုဂ္ဂိုလ် ဖြစ်သည်။ ခမည်းတော်သည် သားတော်ကို ဖန်ဆင်း ပေးခဲ့ခြင်း မဟုတ်ဘဲ မွေးထုတ်ယူခဲ့ခြင်းသာ ဖြစ်သည်။ သန့်ရှင်းသော ဝိညာဉ်တော်သည်လည်း ဤနည်းနှင်နှင်ပင်။

သုံးပါးစလုံးသည် အနန္တ တန်ခိုးရှင် အဖြစ် ထာဝရ တည်ရှိ နေသော အရှင်သခင် တစ်ပါးတည်းသာ ဖြစ်သည်။ ဖန်ဆင်းရှင် ဖခမည်းတော်သည် လူသားများ ရှေ့တွင် လာရောက်၍ မိမိအား

၁။ Trinity

ပြသခြင်း မရှိချေ။ နောက်ကွယ်မှ နေတတ်သည်။ သားတော်မူကား ဖခမည်းတော်က လူသားများအပေါ်ထားရှိသော မေတ္တာတော်ကို ပြသလို၍ လည်းကောင်း၊ လူသားတို့၏ မိုက်မှားမှုကို ပြုပြင်ကယ်ဆယ်လို၍ လည်းကောင်း၊လူသားရှေ့မှောက်သို့ရောက်ရှိလာခဲ့သည်။လူပုဂ္ဂိုလ်တိုင်းသို့ ဘုရားသခင်၏ အသက်နှင့် ဘုရားသခင်၏အင်အား တို့ကို ဖြည့်ဆည်းပေးရာတွင် သန့်ရှင်းသော ဝိညာဉ်တော်က ဆက်သွယ်ပေးသည်။

ပုဂ္ဂိုလ်သုံးဦးလုံးသည် တစ်ဦးတည်းသာ ဖြစ်၍ အသိဉာဏ်ပညာ၊ အရာ၊ ကောင်းမြတ်မှု အရာနှင့် တန်ခိုးအရာတို့တွင် အားလုံးညီတူညီမျှ ခံစား စံစားကြရသည်။

ပရိုတက်စတင့်တို့၏ အလိုအရ[၁] သားတော်ကို မယ်တော်မာရိက ပဋိသန္ဓေ မရှိမီကာလက ဆိုလျှင် ဖခမည်းတော်နှင့် သားတော်တို့သည် ဘုရားသခင် နိုင်ငံတော်၏ မူလအဖွဲ့ဝင် နှစ်ဦးတို့ ဖြစ်ကြသည်။ ခမည်းတော်ကဲ့သို့ပင် သားတော်သည်လည်း ထာဝရ အသက်ရှင်လျက် ရှိသည်။ မယ်တော် မာရိထံ ပဋိသန္ဓေ မယူမီက သားတော်ဟုဆိုသော ဝေါဟာရ မရှိသေး။ သားတော်၏ လူ့သဘာဝ အဖြစ်မွေးဖွားလာခြင်းသည် သူ၏ ပထမဦးဆုံးသော ဖွားခြင်းပင် ဖြစ်သည်။ သားတော်သည် သူ၏ ခမည်းတော် ဖြစ်သော ဘုရား ပုဂ္ဂိုလ်နှင့် တူညီမှု ရှိသော ဂုဏ်အရည်အချင်းကို လက်လွှတ် စွန့်ပယ်ခဲ့သည်။ လူသားအဖြစ် မွေးဖွားလာခဲ့ပြီးနောက် လူသား တစ်ခုလုံး၏ အပြစ်အားလုံးကို တာဝန်ယူသွားကာ ကယ်ဆယ်သွားသည်။

---

၁။ An International Course of Biblical Understandings Lesson 8

မယ်တော် မာရီထံမှ ယေရှုခရစ်တော် မွေးဖွားလာခြင်းကား အခြား လူသားတို့ မွေးဖွားခြင်းနှင့် လုံးဝ မတူဘဲ သန့်ရှင်းသော ဝိညာဉ်တော်မှ တစ်ဆင့် မွေးဖွားလာခဲ့ခြင်း ဖြစ်သည်။ မယ်တော် မာရီသည် အပျိုစစ်ဘဝဖြင့် ယေရှုကို ပဋိသန္ဓေ ရရှိခဲ့သည့် ပြင် မွေးဖွားပြီးသော်လည်း အပျိုစစ်အတိုင်း ရှိနေသည်။

## ကောင်းကင်ဘုံ

ကောင်းကင်ဘုံသို့ ရောက်ရှိခြင်း မည်သည်ကား မသေသော၊ ထာဝရ တည်မြဲသော အသက်ကို ရခြင်းမည်၏။ ကောင်းကင်ဘုံသည် လူသားတို့အား ဘုရားသခင်က ပေးသော ဆုများအနက် အကြီးဆုံး အမြင့်မြတ်ဆုံး ဖြစ်၏။ လူသားတို့၏ အန္တိမပန်းတိုင်လည်း ဖြစ်၏။ ထာဝရ ပျော်ရွှင် ချမ်းမြေ့မှုကို ရရှိနိုင်သော နေရာ ဖြစ်သည်။

ကောင်းကင်ဘုံတွင် ဖခမည်းတော် ထာဝရ ဘုရားသခင် စံပယ် လျက် ရှိသည်။ သားတော် ယေရှုခရစ်သည် ထိုဘုံမှ နေ၍ လူသားများ ထံသို့ ဆင်းလာခဲ့ခြင်း ဖြစ်သည်။ အစဉ် ထာဝရ တည်မြဲလျက် ရှိသော ယင်း ဘုရားသခင် နိုင်ငံတော်သို့ တက်ရောက်ခွင့် ရှိရေးသည် ခရစ်ယာန် ဘာသာဝင်တို့၏ ရည်မှန်းချက် ဖြစ်သည်။ ခရစ်တော်သည် လူသားများ ကောင်းကင်ဘုံသို့ ရောက်ရှိ နိုင်ရေးအတွက် လူ့လောကသို့ လာရောက်ခဲ့ခြင်း ဖြစ်သည်။

ယေရှုက မိမိသည် ဖခမည်းတော်ထံ သွားခြင်း ဖြစ်ကြောင်း၊ ကောင်းကင်ဘုံတွင် ဘုံဗိမာန် များစွာ ရှိကြောင်း၊ နောက်တစ်ခါ ပြန် လာကာ လူသားတို့အား ထိုဘုံသို့ ရောက်ရှိအောင် ဆောင်ကြဉ်းပေးမည်

ဖြစ်ကြောင်း ပြောခဲ့သည်။ ကောင်းကင်ဘုံတွင် ရောက်ရှိသွားသူတို့သည် ထာဝရ ဘုရားသခင်နှင့် သားတော် ယေရှုခရစ်ကို ဖူးမြင်ရ၍ ထာဝရ ချမ်းသာပီတိနှင့် ပြည့်စုံကြရသည်။ ထာဝရ ဘုရားသခင်ကို မျက်နှာချင်းဆိုင် ဖူးတွေ့ရသည်။ ခရစ်တော်သည် ဘုရားသခင်၏ လက်ယာဘက်တွင် ထိုင်လျက်ရှိသည်။ ထာဝရ အသက်ဟူသည်ကား ဘုရားသခင်ကို တစ်ပါးတည်းသော ဘုရားအဖြစ် အမှန်အကန်ဖူးတွေ့ရခြင်းပင် ဖြစ်သည်။

ကောင်းကင်ဘုံ၌ သဒ္ဒါယုံကြည်မှုလည်း မရှိတော့ပေ။ ဘဝ၏ မျှော်လင့်ချက်များလည်း ကုန်ဆုံး သွားကြပြီ ဖြစ်သည်။ အစဉ်ဆက်လက် ရှိနေသေးသည်ကား မေတ္တာတရားသာ ဖြစ်သည်။

လူ့လောကတွင် အပြစ်လုံးဝ မရှိသော သူတို့ ကွယ်လွန်သောအခါ ကောင်းကင်ဘုံသို့ သွားရောက်ကြရသည်။ ထာဝရ ပျော်ရွှင်ချမ်းမြေ့မှုသည် မည်သည့်အခါမျှ ပျောက်ပျက်ခြင်း မရှိတော့။ သို့သော် ဘဝ တစ်လျှောက်တွင် ဘုရားကို အာရုံပြုမှု၏ အကျိုးအားနိသင်ကြောင့် ရရှိခြင်း ဖြစ်၍ သုခ ခံစားမှုတွင် အရည်အချင်း အတူတူချည်း မဟုတ်ချေ။

ထာဝရ ဘုရားသခင်သည် လူသားတိုင်းကို မေတ္တာတရား ပြည့်ပြည့်ဝဝဖြင့် ချစ်ခင်မှု ရှိသော်လည်း လူသားတိုင်းသည် ထာဝရ ဘုရားက ထားရှိသော မေတ္တာစေတနာ အတိုင်း တုံ့ပြန်မှု မရှိကြ။ ဘုရားသခင်အပေါ် ထားရှိသော လူသားတို့၏ မေတ္တာ ဒီရေအဟုန် အတိုင်းအတာသည် လူသားတစ်ဦးနှင့် တစ်ဦး မတူညီဘဲ ခြားနားမှု ရှိသည်။ လူသားတစ်ဦးစီ တစ်ဦးစီက ဘုရားသခင် အပေါ် ထားရှိသော

မေတ္တာစေတနာ၏ အတိုင်းအတာ အလိုက်သာလျှင် ကောင်းကင်ဘုံ၏ သုခကို ခံစား စံစားကြရသည်။ မေတ္တာကို ချမ်းသာ ပျော်ရွှင်မှုဖြင့် ပေးဆပ်သည်။ ချမ်းသာသုခသည် ကောင်းသောအလုပ်၏ ဆုလာဘ် ပင်တည်း။

တရားအားထုတ်ခြင်းဖြင့် ဝိညာဉ်တို့သည် အကန့်အသတ် အချုပ်အချယ် မရှိသော ဘုရားသခင်၏ ချမ်းသာမှုကို ရရှိနိုင်သည်။ ဘုရားသခင်သည် လူသားတို့၏ ဝိညာဉ်များအား သူ၏ အရည် အချင်းများကို ဆပ်စပ်ပေးခြင်းဖြင့် ဘုရားသခင်၏ စင်ကြယ်မှု၊ ပျော်ရွှင်ချမ်းမြေ့မှုများကို ရရှိကြသည်။ ကောင်းကင်ဘုံ၌ ရောက်ရှိ နေကြသော ဝိညာဉ် တို့သည် ထာဝရ ဘုရားသခင်ကို စိတ်ဖြင့် အာရုံ ပြုနိုင်ကြသဖြင့် ဘုရားသခင်၏ ဘဝ၌ ပါဝင်နိုင်ခြင်းပင် ဖြစ်သည်။ စိတ်သည် အနှောင့်အယှက် မရှိ၊ တည်ငြိမ် ချမ်းမြေ့မှုမရှိသဖြင့် ဘုရားသခင်ကို အာရုံပြု ခံစားနိုင်သည်။ ထာဝရ ဟည်မြဲကြောင်း ပုဂ္ဂိုလ်အားဖြင့် သုံးပါးဖြစ်ကြောင်းကို သိကြရသည်။ ဘုရားသခင်၏ အဆုံးအမ ရှိသော မေတ္တာတရားနှင့် တန်ခိုးအာဏာတို့ဖြင့် ဖန်ဆင်း ထားသော အရာများကို ခံစားမှု အပြည့်အဝ ရရှိလာသည်။ ကိုးကွယ် ယုံကြည်မှုဆိုင်ရာ ခက်ခဲ နက်နဲမှုတို့ကိုလည်း နားလည်လာသည်။ ခရစ်တော်၊ မယ်တော်၊ သူတော်စင်ကြီးများနှင့် ကောင်းကင်တမန် တို့ကိုလည်း သိရှိနိုင်သည်။

တရားအားထုတ်ခြင်း အားဖြင့် ဝိညာဉ်အစိတ်အပိုင်း အတွင်း သို့ မေတ္တာ တရားကို ကျေနပ် ဝမ်းမြောက်မှုကို ဖြစ်စေသော ပီတိ ဝင်ရောက်လာနိုင်စေမည် ဖြစ်သည်။ ကောင်းကင်ဘုံတွင် မေတ္တာတရား

သည် ဆုံးစမထင်သော ချမ်းသာခံစားမှုနှင့် ထာဝရ တည်မြဲသော ပျော်ရွှင် ဝမ်းမြောက်မှုများ ဖြစ်သည်။

ဘုရားသခင်ကို ဖူးတွေ့ရ၍ ရရှိသော ချမ်းသာ ၁ပျော်ရွှင် ချမ်းမြေ့မှုသည် မည်သည့် အခါမှ ပြီးဆုံးသွားသည် ဟူ၍ မရှိ။ ပြောင်းလဲသွားခြင်း မရှိဘဲ နည်းပါး ယုတ်လျော့သွားခြင်းမျိုးလည်း မဖြစ်တော့ချေ။ ထာဝရ တည်မြဲသောဘဝ၌ လုံးဝဥဿုံ ပါဝင်ဖွဲ့စည်း သွားခြင်း ဖြစ်သည်။ ကြီးထွား ဖွံ့ဖြိုးမှုလည်း မရှိတော့ပေ။ အစဉ် တည်ငြိမ်လျက် များပြားလှသော ချမ်းသာကိုသာ ခံစားရလေတော့ သည်။

ကောင်းကင်ဘုံသည် မပျက်စီး မပျောက်ကွယ်သော သဘော ရှိသည်။ ဘုရားသခင်နှင့် ပတ်သက်သော အမှန်တရား အားလုံးကို သိရှိကြရလေသည်။

## ကောင်းကင်းတမန်များ

ထာဝရ ဘုရားသခင်၏ ပထမဦးဆုံး ဖန်ဆင်းခြင်း ခံရသော သူများကား ကောင်းကင်တမန်များ ဖြစ်သည်။ ဘုရားသခင် ဖန်ဆင်းခြင်း ခံရသူများ အနက် အကောင်းဆုံးသော ပုဂ္ဂိုလ်များ ဖြစ်သည်။ ကောင်း ကင်တမန်များသည် ရုပ်မရှိသော ဝိညာဉ် သက်သက် ပုဂ္ဂိုလ်များ ဖြစ်သည်။ ပုံပန်းသဏ္ဌာန်အားဖြင့် ဘုရားသခင်နှင့် ဆင်တူသည်။

ကောင်းကင်တမန်သည် အသိဉာဏ် ပညာရှိသူများ ဖြစ်သည့် အပြင် လွတ်လပ်သော သူများ ဖြစ်ကြသည်။ သို့သော် သူတို့မှာ ဖန်ဆင်းခြင်း ခံရသူများ ဖြစ်သဖြင့် ဘုရားသခင်ကဲ့သို့ အကန့်အသတ်

မရှိ၊ သိနိုင်စွမ်း ရှိသော ဉာဏ်ပညာနှင့် အလုံးစုံ စွမ်းဆောင်နိုင်သော အရည်အချင်း မရှိချေ။

လူသားတို့ထက် ကောင်းကင်တမန်တို့မှာ ဘုရားသခင်နှင့် ပို၍ နီးကပ်စွာ နေကြရသည်။ ထိုသူတို့ကို သူရဲကောင်းများ၊ တန်ခိုးအာဏာ ရှိသူများ၊ စေတမန်များ ဟူ၍ ခေါ်ဆိုကြသည်။ ကောင်းကင်တမန်တို့သည် လူသားများ သေဆုံးပြီးနောက် ကောင်းကင်ဘုံတွင် ဝိညာဉ်အဖြစ် ရောက်ရှိလာကြသူများ မဟုတ်ပေ။ ကောင်းကင်တမန်တို့သည် ယခင်ဘဝတွင် လူ့ဘဝ၌ လူအဖြစ် အသက်ရှင် နေထိုင်ခဲ့ဖူးသူများ မဟုတ်၊ ကောင်းကင်ဘုံ၌ ဝိညာဉ်သဘော ရှိသော ကောင်းကင်တမန်များနှင့် ကမ္ဘာမြေပေါ်၌ ရုပ်လက္ခဏာ သဘော ရှိသော လူသားတို့ကား တစ်မျိုးနှင့်တစ်မျိုး မတူ ခြားနားသော သတ္တဝါများသာ ဖြစ်ကြသည်။ အချင်းချင်းကို ရောနှော၍ မရချေ။ လူသားတို့ထက် စောစွာ ကောင်းကင်တမန်များကို ဖန်ဆင်းခဲ့သည်။

ကောင်းကင်ဘုံတွင် ဝိညာဉ် ဘဝဖြင့် ဖန်ဆင်းထားသဖြင့် ကောင်းကင်တမန်တို့သည် လူသားတို့ထက် သာလွန်မြင့်မြတ်သည်။ လူသား တို့ကား ကောင်းကင်တမန်တို့ထက် အနည်းငယ် နိမ့်ကျသည်။ ယင်းတို့အား 'ဘုရားကဲ့သို့ ပုဂ္ဂိုလ်များ' ဟု ဖော်ညွှန်းထားကြသည်။ အမြင့်ဆုံးသော ဝိညာဉ်များနှင့် ရုပ်ဖုံးလွှမ်းထားသည့် ဝိညာဉ် (ဝါ) လူသားများ အကြားတွင် ကောင်းကင်တမန်တို့မှာ အဆင့်တစ်ဆင့် အဖြစ် တည်ရှိသည်။

ထာဝရ ဘုရားသခင်သည် အသက်မဲ့ရုပ်များကို အောက်ဆုံး အဆင့် ထား၍ အသိဉာဏ်ပညာ ရှိသော သတ္တဝါများအထိ အဆင့်

အမျိုးမျိုးကို ဖန်ဆင်းခဲ့သည်။ လူသားတို့ ဘဝတွင် စိတ်တိုးတက် ဖြစ်ပေါ်မှုကြောင့် ထိန်းသိမ်း ချုပ်တည်း၍ မရသောအခါ အမှား အယွင်း များကို ပြုမိတတ်သည်။ သို့ဖြစ်၍ ရုပ်မရှိ ဝိညာဉ်သက်သက် သတ္တဝါတစ်မျိုးကို ဖန်ဆင်းရလေသည်။

ကောင်းကင် တမန်တို့သည် တစ်ချိန်တည်းတွင် နေရာအရပ်ရပ် မရှိချေ။ သို့သော် စိတ်ကူးမိသည်နှင့် တစ်ပြိုင်နက် စကြဝဠာ အတွင်း မည်သည့် နေရာမရှိ ရောက်ရှိအောင် ရွေ့လျား သွားလာနိုင်သည်။ ကောင်းကင်တမန်တို့၏ ဦးရေမှာ မရေမတွက်နိုင်အောင် များပြား သည်။

လူသားတို့သည် မိမိ၏ ရုပ်ခန္ဓာကိုယ်ကို ဖျောက်၍ ဝိညာဉ် ဘဝဖြင့် မနေနိုင်ပေ။ သို့သော် ထာဝရဘုရားသည် ကောင်းကင်တမန် တို့အား ရုပ်ခန္ဓာကိုယ်ကို ရယူ၍ လူသားများကဲ့သို့ နေထိုင်သွားလာ နိုင်သည့် တန်ခိုးအာဏာကို ပေးအပ်ထားသည်။ ဘုရားသခင်က စေခိုင်းသော အလုပ်တာဝန်များကို ဆောင်ရွက်ပြီးသော အခါ ရုပ် ခန္ဓာကိုယ်ကို စွန့်၍ ဝိညာဉ်သက်သက် ဘဝသို့ ပြောင်းရွှေ့နိုင်ကြသည်။ ထိုအခါ လူသားတို့မှာ ကောင်းကင်တမန်တို့ကို မမြင်နိုင်တော့ချေ။

ကောင်းကင်တမန်တို့သည် မိမိတို့ကို လူသားများ မြင်သာအောင် ပြသသော ကိစ္စမျိုးကို ကျမ်းစာများတွင် တွေ့ရှိသည်။ သောဒုံနှင့် ဂိုမိုရာမြို့များအား ဖျက်ဆီးလို၍ အာဗြဟံ၏တူ လောတ[၁] နှင့် မိသားစုကို ကယ်ဆယ်လိုသော အခါ ကောင်းကင်တမန် နှစ်ဦးက လူကဲ့သို့ ဖန်ဆင်း၍ ကူညီခြင်း၊ ယေရှုခရစ်တော် မယ်တော် မာရိ၏ -

၁။ Lot

ဝမ်း၌ ပဋိသန္ဓေ ယူခါနီးတွင် ကောင်းကင်တမန် ဂါဗြေလ မာရီကို အသိပေးရန် လာရောက် တွေ့ဆုံခြင်း၊ ခရစ်တော် ဖွားမြင်သောအခါ ကောင်းကင်တမန် တစ်ပါးက သိုးထိန်း တို့ကို သတင်းပေးခြင်း စသည်တို့ကို တွေ့ရှိနိုင်သည်။

ကောင်းကင်တမန်တို့မှာ လူသားများကို ကောင်းကင်ဘုံ၌ နေထိုင်ကြစေရန် ယူဆောင်သွားခြင်း ခံရသူများ မဟုတ်ကြသကဲ့သို့ပင် လူသားတို့သည်လည်း လူ့လောက ကမ္ဘာမြေတွင် နေထိုင်နိုင်ကြရန် အတွက် ကောင်းကင်ဘုံမှ ကောင်းကင်တမန်များကို ယူထားခြင်းမျိုး မဟုတ်ပေ။ လူသားများကို ဖန်ဆင်းခြင်း မပြုမီကပင် ကောင်းကင် တမန်များကို ဖန်ဆင်းထားခဲ့ခြင်းသာ ဖြစ်သည်။

ဘုရားသခင်ဖန်ဆင်းစဉ်က ကောင်းကင်တမန်တို့သည် မကောင်းမှုများ မပြုလုပ်ကြဘဲ အပြစ်ကင်းသူစင်သူများ ဖြစ်ခဲ့ကြသည်။ သို့သော် မကြာပါချေ။ ယင်းတို့အနက် အချို့မှာ အပြစ်ကို ကျူးလွန်ခဲ့ကြသည်။

နောလက်ထက်က ကမ္ဘာကြီးကို အပြစ်ကျူးလွန်သူ များပြား၍ ရေလွှမ်းမိုးပြီး ဆေးကြော သုတ်သင်ခြင်း မပြုမီ အခါကပင် ကောင်းကင် တမန်တို့မှာ အပြစ်ကို ကျူးလွန်ခဲ့ကြပြီ ဖြစ်သည်။ ကောင်းကင်တမန် တို့သည် ရုပ်ရည် ချောမောလှပသော လူ့သမီးများနှင့် ချစ်ကြိုက်၍ အိမ်ထောင်ကျကာ မိမိတို့ဌာနသို့မပြန်နိုင်ဘဲ ရှိနေခဲ့ကြသည်။ အပြစ်ကို ကျူးလွန်ခဲ့ကြသော ကောင်းကင်တမန် တို့မှာ နတ်ဆိုး [၁] ဘဝသို့ ရောက်ကြရလျက် ဘုရားသခင် ဖန်ဆင်းထားသော ငရဲဘုံသို့ ရောက်ရှိ သွားကြရသည်။

---

၁။ Devil

ကောင်းကင်တမန်တို့တွင် အမှားကို နောင်တရ၍ ဝန်ချတောင်းပန်သည်ဟူ၍ မရှိ။ ဆုံးဖြတ်ချက် တစ်ခုကို ချမှတ်ပြီးလျှင် ပြန်လည် ပြင်ဆင်ခြင်း မပြုတော့။ ပြဿနာ တစ်ခုကို ခဏလေး အတွင်း ခြုံငုံမိအောင် သဘောပေါက် နားလည်၍ အကျိုးအကြောင်း အားလုံးကို ဆင်ခြင် သဘောပေါက်ကာ ဆုံးဖြတ်ချက် ချမှတ်လိုက်လျှင် ထိုဆုံးဖြတ်ချက်ကို ပြုပြင်၍ မရတော့ပေ။ စိတ်ထဲမှာ ဆုံးဖြတ်လိုက်သည်နှင့် မည်သည့် အရာပင် ဖြစ်စေ၊ ပြောင်းလဲ မရတော့ချေ။ ယင်း၏ အလိုဆန္ဒသည် ကောင်းသည်ဖြစ်စေ၊ ဆိုးသည်ဖြစ်စေ အစဉ် စွဲမြဲလျက် ရှိလေတော့သည်။

ဘုရားသခင်သည် တရားမျှတမှု ရှိပြီး အရာရာတွင် ကောင်းသော စိတ်ထားရှိသူ ဖြစ်၍ မှားသော အမှုကို ပြုလုပ်ဖွယ်ရာ မရှိ။ နတ်ဆိုးတို့ကို ထာဝရ အပြစ်ပေးထားခြင်းမှာ သူတို့ ကျူးလွန်ထားသော အပြစ်အတွက် ထိုက်သင့်သော ပြစ်ဒဏ်ဟု ဆိုရပေလိမ့်မည်။

ကောင်းကင်တမန်များသည် လူသားများအား မကောင်းမှု ပြုလုပ်စေရန် သွေးဆောင် ဖြားယောင်းခွင့်ကို ထာဝရ ဘုရားသခင်က ခွင့်ပြုထားခဲ့သည်။ နတ်ဆိုးတို့၏ အကြီးအကဲ အမည်ကား စာတန်[၁]၊ သို့မဟုတ် လူစီဖာ[၂]၊ သို့မဟုတ် ဘီဇေဘတ်[၃] ဟူ၍ အမျိုးမျိုး ခေါ်ဝေါ်ကြသည်။

လူစီဖာသည် စိတ်ထားယုတ်ညံ့သော၊ ရက်စက်သော လူသားတို့ကို မနာလို ဝန်တို၍ မုန်းတီးသော နတ်ဖြစ်သည်။ ယင်းတို့နှင့်အတူ လူသားများ အားလုံး ငရဲဘုံသို့ ကျသွားအောင် သွေးဆောင် တတ်သည်။

---

၁။ Satan ၂။ Lucifer ၃။ Beelzebub

ဘုရားသခင်သည် ကောင်းကင်တမန်များကို မိမိ၏ ကိစ္စများအား လူသားတို့ထံ ပို့ဆောင် ဆက်သွယ်ရာတွင် စေတမန်များအဖြစ် အသုံးပြုသည်။ လူသားများ အတိဒုက္ခ မရောက်ရအောင် ကာကွယ် စောင့်ရှောက်ပေးသူများ အဖြစ်လည်း ကောင်းကင်တမန်များ ဆောင်ရွက်ရသည်။ သစ္စာရှိသော ကောင်းကင် တမန်များကား မိခေလ[၁]၊ ရာဖေလ[၂] နှင့် ဂါဗြေလတို့ ဖြစ်သည်။ ကောင်းကင်တွင် တမန်များကို အဆင့်အတန်းအားဖြင့် ၉မျိုး ခွဲခြားထားရှိသည်။

အပြစ် ကျူးလွန်ခြင်း မရှိသော ကောင်းကင်တမန် များမှာ ကောင်းကင်ဘုံတွင် နေထိုင် ကြသည်။

ကောင်းကင်တမန်များသည် ထာဝရ ဘုရားကို အလွန်ပင် ကြည်ညို နှစ်သက်ကြသည်။ ဘုရားသခင်၏ ရှေ့မှောက်တွင် ဒူးထောက်၍ ဘုရားသခင်၏ ထူးမြတ်ပုံကို ချီးကျူးပြောဆိုကြသည်။ ဘုရားသခင်၏ ပလ္လင်ရှေ့တွင် ရပ်လျက် နေ့ရောညပါ ဘုရားသခင်၏ ဗိမာန်တော်၌ အသုံးတော် ခံကြသည်။ အတောင်ခြောက်ခုရှိသော ဆီရာဖာ[၃] အမျိုးနှင့် အတောင်လေးခု ရှိသော ခေရုဗိမာန်[၄] အမျိုး ကောင်းကင်တမန်တို့သည် ဘုရားသခင်အား သီချင်းသီဆို၍ ခစားကြရသည်။ သူတို့သည် ဘုရားသခင်၏ မျက်နှာတော်ကို အမြဲလိုပင် တွေ့မြင်နေကြရသည်။

ကောင်းကင်တမန်တို့သည် ထာဝရ ဘုရားသခင်ကိုသာ ခစားကြရသည် မဟုတ်၊ လူသားများထံတွင်လည်း စေစားခံကြရသည်။

---

၁။ Michael
၂။ Ruphael
၃။ Seraph
၄။ Cherubim

ဘုရားသခင်က လူများအား ပြောကြားလိုသော စကားကို တစ်ဆင့် ပို့ဆောင်ကြသေးသည်။ ကောင်းကင်တမန် အသီးသီးတို့၏ အမည် များသည် သူတို့ ထမ်းဆောင်ရသော တာဝန်၏ သဘောကို ဖော်ညွှန်း လျက် ရှိသည်။ ဂါဗြေလသည် ထာဝရ ဘုရားသခင်၏ တန်ခိုးအာဏာဟု အဓိပ္ပာယ်ရသည်။ ရာဖလေသည် ဘုရားသခင်၏ ကုသမှု တန်ခိုး အာဏာ ဟူသတည်း။

အေဒင်ဥယျာဉ်၌ လူသားသည် အပြစ်ကို ကျူးလွန်ပြီးနောက် ထာဝရ အသက်သစ်ပင်သို့ သွားသည့်လမ်းကို ဓားစကြာ ကိုင်၍ စောင့်ကြပ်နေသောသူကား ခေရုဗိန်အမျိုး ကောင်းကင်တမန် ဖြစ်သည်။

ယေရှုခရစ်တော်သည် မာရ်နတ်ထံတွင် ရက်ပေါင်း လေးဆယ် တိတိ စုံစမ်းစစ်ဆေးမှုကို ခံနေရချိန်တွင် ကောင်းကင်တမန်များက စောင့်ကြပ်ထားရှိသည်။ ခရစ်တော် ရှင်သန်ထမြောက်ပြီး၍ ကောင်း ကင်ဘုံသို့သွားသည်ကို ကြည့်ရှုနေကြသော တပည့်တော်များ အလယ်၌ ကောင်းကင်တမန် နှစ်ပါးတို့သည် ယေရှုသခင် ဒုတိယ အကြိမ် ပြန်လာမည့် အကြောင်းကို ပြောပြခဲ့သည်။

နောက်ဆုံး တရားဆုံးဖြတ်သော နေ့တွင် ကောင်းကင်တမန် များစွာတို့သည်လည်း လာရောက် ကြလိမ့်မည် ဖြစ်၏။ သူတို့သည် ဘုရားသခင်၏ အမျက်ကို နှိုးဆွပေးမည့် တံပိုးခရာကို တီးမှုတ်ကြ လိမ့်မည် ဖြစ်သည်။ ထာဝရ တည်ရှိနေသော မီးကန်ထဲသို့ နဂါးတည်း ဟူသော မာရ်နတ်ကို ဖမ်းဆီး၍ ပစ်ချလိမ့်မည် ဖြစ်သည်။

ကောင်းကင်တမန်တို့သည် ဝိညာဉ်ပုဂ္ဂိုလ်များ ဖြစ်၍ ထာဝရ အသက်ကို ရသောသူများ ဖြစ်သည်။ ယင်းတို့သည် ရုပ်နှင့် သော်

လည်းကောင်း၊ ရုပ်နှင့် ပတ်သက်သည့် အရာများနှင့် သော်လည်းကောင်း သီးခြား ကင်းလွတ် နေသူများ ဖြစ်သည်။ ကောင်းကင်တမန်တို့၏ အသိဉာဏ်သည် လူသားတို့၏ အသိဉာဏ်မျိုးနှင့် မတူဘဲ အတွေ့အကြုံကို အမှီပြုရသော အသိဉာဏ်များ မဟုတ်၍ မွေးရာကပင် ပါလာသော အသိမျိုးဖြစ်သည်။ လူသားတို့၏ အသိသည် ဆင်ခြင်တုံ တရားကို အသုံးပြုကာ အတွေ့အကြုံမှ နိဂုံးထုတ်ယူ၍ သိသော အသိမျိုး ဖြစ်၏။ ကောင်းကင်တမန်တို့၏ အသိသည်ကား တိုက်ရိုက် သိခြင်းမျိုး ဖြစ်သည်။ စကြာဝဠာကို ဘုရားသခင်က ဖန်ဆင်းသည်ဟု အတိအလင်း သိလေသည်။

လူသားများကို ဖန်ဆင်းခြင်း မပြုမီကပင် ကောင်းကင်တမန်များကို ဖန်ဆင်းထားပြီး ဖြစ်၍ ယင်းတို့အား "ဘုရားသခင်၏ သားများ"ဟု ခေါ်ကြသည်။ ပထမဦးဆုံး လူသားကို ဖန်ဆင်းသော အခါ ဘုရားသခင်သားများသည် ကောင်းချီးသြဘာ ပေးကြသည်။ မကောင်းသော ကောင်းကင်တမန် များကို နတ်ဆိုးများဟု ခေါ်သည်။ နတ်ဆိုးများမှာ လူသားများကို မဖန်ဆင်းမီကပင် ရှိနေပြီး ဖြစ်သည်။ စာတန်သည် ပထမဦးဆုံး လူသား တို့ကို အပြစ်ကျူးလွန်စေရန် သွေးဆောင်ဖြားယောင်း ခဲ့သည်။

နတ်ဆိုးသည် လူသတ်ကောင်ပင် ဖြစ်သည်။ အမှန်တရားကို လက်မခံသူ ဖြစ်သည်။ ခြင်္သေ့မင်းသည် သားကောင်ကို လိုက်လံ ရှာဖွေသကဲ့သို့ နတ်ဆိုးသည် မည်သူ့အား နှောင့်ယှက်ရလျှင် ကောင်း မည်နည်း ဟူသော ရည်ရွယ်ချက်ဖြင့် သွားလာ လှုပ်ရှားနေလေသည်။ စာတန်သည် ဘုရားသခင်ကို တော်လှန်ပုန်ကန် သွားသည်သာမက

အခြား သတ္တဝါတို့ကိုလည်း ဘုရားသခင်ကို တော်လှန်အောင် ဘုရားသခင်ဖြင့် ကင်းကွာအောင် ပြုလုပ်နေလေသည်။ လူသားတို့ကို ဘုရားသခင်၏ နောက်သို့ မလိုက်စေဘဲ သူ၏နောက်လိုက် ဘက်တော်သားများ ဖြစ်အောင် ကြိုးစားသည်။ ဤနည်းဖြင့် စာတန်သည် ကောင်းကင်ဘုံနှင့် ကမ္ဘာလောကကြီး၏ အရှင်သခင် ဖြစ်အောင် စည်းရုံးခြင်း ဖြစ်သည်။

ကောင်းကင်တမန်နှင့် နတ်ဆိုးတို့ကို လူသားတို့ မျက်စိဖြင့် မမြင်နိုင်ကြချေ။ စာတန်သည် လူသား ဧဝကို သွေးဆောင်ရာတွင် မြွေနဂါးအသွင်ပြင်ဖြင့် ဆက်သွယ်ခဲ့သည်။ ထို့ကြောင့် မြွေနဂါးသည် စာတန်နတ်ဆိုး၏ အမှတ်သညာ ဖြစ်လာသည်။

အေဒင်ဥယျာဉ်၌ ကျူးလွန်သော အပြစ်အတွက် စာတန်ကို ပြစ်ဒဏ် စီရင်ထားပြီး ဖြစ်သော်လည်း ယင်းအား အခြားသော ကောင်းကင်တမန်များနှင့် ကောင်းကင်ဘုံတွင် အဆက်အသွယ် ပြုနေခြင်းမှ ဘုရားသခင်က တားမြစ်ခဲ့ခြင်း မရှိချေ။ နှောင်နှစ်ပေါင်း ၂၀၀၀-ခန့်အကြာတွင် အစ္စရေးမျိုးနွယ်စု ၁၂စုတို့က အီဂျစ်ပြည်၌ နေထိုင်စဉ် ကာလ၌ နတ်ဆိုးစာတန်သည် ကောင်းကင်ဘုံ၌ ထာဝရဘုရားကို သစ္စာရှိသော ကောင်းကင်တမန်များထံသို့ ရောက်ရှိနေသေးကြောင်း တွေ့ရှိရသည်။

ဗျာဒိတ်ပေးထားသော ဘုရားသခင် နိုင်ငံတော် ပေါ်ပေါက်လာသည့် အချိန်ကာလအထိ စာတန်မာရ်နတ်သည် ကောင်းကင်ဘုံ၌ ဆက်လက်ရှိနေလိမ့်မည် ဖြစ်ကြောင်းကို တပည့်တော်ကြီး[၂] ရှင်ယောဟ

၁။ တောဘာ၊ ၁:၆-၇ ၂။ Apostle

ဟန်က ဖော်ပြခဲ့သည်။ မိကွေလနှင့် ယင်း၏ ကောင်းကင်တမန်တို့သည် မြွေနဂါးနှင့် သူ၏ ကောင်းကင်တမန် နတ်ဆိုးတို့နှင့် ကောင်းကင်ဘုံတွင် စစ်ဖြစ်ပွားကြကြောင်း၊ နဂါးနှင့် သူ၏ တမန်တို့သည် စစ်တိုက်၍ မနိုင်ကြချေ။ စာတန်နှင့် သူ၏ ဘက်တော်သားများကို ကောင်းကင်ဘုံမှ နေ၍ မြေကြီးသို့ ပစ်ချလိုက်လေသည်။[၁] နတ်ဆိုးတို့သည် ထာဝရ ဘုရားသခင်ကို မုန်းတီးကြသည်။

ဤသို့ဖြင့် စာတန် မာရ်နတ်တွင် ကောင်းကင်ဘုံ၌လည်း ဘက်တော်သားများ ရှိသည်။ ကောင်းကင်ဘုံ၌ စာတန်တွင် ဤမျှများပြားသော ဘက်တော်သားများ ရရှိသွားခြင်းသည် ပရောဖက်နောလေက်ထက်က အစပြုခဲ့သည်ဟု ယေဟောဝါ သက်သေများခေါ် ခရစ်ယာန်ဂိုဏ်းက ယူဆကြသည်။

အချို့ ကောင်းကင်တမန်တို့သည် ချောမောလှပသော လူ့သမီးတို့ကို မျက်စိကျ၍ လူ့ခန္ဓာကိုယ်ကို ဖန်ဆင်းကာ ထိမ်းမြားလက်ထပ်၍ နေထိုင်ခဲ့ကြကြောင်း၊ ထိုသူတို့မှ သားသမီးများကိုပင် ရရှိကြ၍ ထိုသားသမီးတို့မှာ အလွန်ခွန်အားဗလနှင့် ပြည့်စုံကြကြောင်း၊ ထာဝရဘုရားသခင်သည် ဝိညာဉ် ပုဂ္ဂိုလ်များ ဖြစ်သော ကောင်းကင်တမန်တို့ကို ရုပ်ခန္ဓာကိုယ်ကို ရယူကာ အချိန်အကန့်အသတ် မရှိ နေထိုင်ခွင့်ကို မပေးလို၍ အနှစ်တစ်ရာ့ရှစ်ဆယ်စီသာ ခွင့်ပြုကြောင်း၊ ကောင်းကင်တမန်တို့သည် မိမိတို့ဘုံရှိ တာဝန် ဝတ္တရားများကို မေ့လျော့ပျက်ပြားကာ သတ်မှတ်ထားသော အချိန်ကာလထက် ကျော်လွန်၍ နေခဲ့ကြသည်ဟု ယူဆကြသည်။

---

၁။ ဗျာဒိတ်ကျမ်း။ ၁၂း၁ ၁၀

ကမ္ဘာကြီးကို ရေလွှမ်းမိုးလာသောအခါ ထိုပုဂ္ဂိုလ်တို့မှာ နောစ၏ သင်္ဘောပေါ်သို့ တက်ခွင့် မရခဲ့ကြ၊ မိမိတို့၏ မူလ ဝိညာဉ်နိုင်ငံသို့ လူ့ခန္ဓာကိုယ် ရုပ်ကို စွန့်၍ ပြန်သွားကြရသည်။ သို့သော် အပြစ်မဲ့သော ထာဝရ ဘုရားသခင်၏ သားတော်များသာ နေထိုင်ခွင့် ရှိသော ကောင်းကင်ဘုံသို့ သူတို့အား ဝင်ရောက်လာခွင့် မပေးတော့ချေ။ တာတာရပ်စ်[၁] ခေါ် အောက်နိမ့်သော အဆင့်၌သာ ခွဲခြားပေးထားသည်။ ထိုနေရာသို့ ရောက်ရှိနေသူများမှာ နောက်ဆုံး တရားဆုံးဖြတ်ရာ နေ့အထိ စောင့်နေရသည်။ တပည့်တော်ကြီး ပေတရုသည် ထိုသူများကို 'အကျဉ်းကျခံ နေရသော ဝိညာဉ်များ'[၂] ဟု ခေါ်ဆိုသည်။

အကျဉ်းကျ ဝိညာဉ်တို့သည် ယခင်ကကဲ့သို့ ရုပ်ခန္ဓာကိုယ်ကိုလည်း ဖန်ဆင်းနိုင်ခြင်း မရှိတော့ချေ။ လူမိန်းမတို့နှင့် အိမ်ထောင်နိုင်ခြင်း မရှိတော့။ သို့သော် လူတို့နှင့် အနီးကပ်ဆုံး နေထိုင်ကြသည်။ အထူးသဖြင့် မိန်းမများထံသို့ တပူးကပ်ကပ် နေ၍ နတ်ကတော်များ အဖြစ် အသုံးပြုခံကြရသည်။ ထိုသူတို့ကို ကောင်းကင်တမန်များဟု မခေါ်တော့ဘဲ နတ်ဆိုးများဟုသာ ခေါ်နိုင်သည်။

လူတို့ကို စောင့်ကြပ်သော ကိုယ်စောင့်နတ်များလည်း ရှိသည်။ ယင်းနတ်မှာ နတ်ကောင်းများဖြစ်၍ ကောင်းကင် တမန်တို့ပင် ဖြစ်သည်။ ကိုယ်စောင့်နတ်တို့သည် လူသားတို့အား ကိုယ်ရောစိတ်ပါ စောင့်ရှောက် ကာကွယ်ပေးသည်။ ဘုရားသခင်၏ အလိုတော် အတိုင်း နေထိုင်ရန် လမ်းညွှန်မှုကို ပေးသည်။ လူသားတို့၏ မူလသိစိတ်ကို

၁။ Tartarus ၂။ ၁ ပေ။ ၃:၁၉-၂၀

အသုံးပြု၍ ဘေးအန္တရာယ်များကို ကြိုတင် သတိပေးတတ်သည်။ လူသားများ ဝတ်ပြုရာတွင် ဘုရားသခင်နှင့် လူသားတို့ အကြား ဆက်သွယ်ပေးရသော စေတမန်များလည်း ဖြစ်သည်။ ကိုယ်စောင့်နတ်တို့တွင် ဘုရားသခင်၏ မေတ္တာ ကရုဏာများနှင့် ပြည့်စုံနေသဖြင့် လမ်းမှားသော သူများကို အမှန်ရောက်အောင် ကူညီ စောင့်မတတ်သည်။ အထူးသဖြင့် သေဆုံးသော အချိန်များတွင် အကာအကွယ် ပေးတတ်လေသည်။

## ငရဲဘုံ

ကျွန်ုပ်တို့ ကွယ်လွန်ပြီးနောက် တရားဆုံးဖြတ်ရာကို ခံကြရမည်။ ဆုံးဖြတ်ရာတွင် အကျွန်ုပ်တို့ ပြုလုပ်ခဲ့သော အလုပ်အတိုင်း ကောင်းကင်ဘုံသို့ သော်လည်းကောင်း၊ ငရဲဘုံသို့ သော်လည်းကောင်း၊ မရဏာဘုံ[၁] သို့သော် လည်းကောင်း၊ သွားကြရမည် ဖြစ်သည်။ ငရဲဘုံသည်ကား အပြစ်ကျူးလွန်သူများ ဒုက္ခဆင်းရဲကို ကျခံနေရသော နေရာပင် ဖြစ်သည်။ ငရဲဘုံသည် အပြစ်သားများကို ညှင်းဆဲနှိပ်စက်ရာ အလွန် နက်သော တွင်းကြီးဟုလည်း ခေါ်နိုင်၏။ မသေနိုင်သော မီးပုံ(ဝါ) မီးကန်ဟုလည်း ခေါ်ကြသည်။ အလွန် မှောင်မိုက်သော နေရာလည်း ဖြစ်သည်။

နောက်ဆုံး တရားဆုံးဖြတ်ရာ နေ့၌ မရဏာနိုင်ငံနှင့် ငရဲဘုံတို့၌ အချုပ်အနှောင် ခံနေရသူများသည် တရား ဆုံးဖြတ်ရာသို့ ရောက်ရှိလာကြကာ မိမိတို့ ပြုလုပ်ခဲ့သော အလုပ်အတိုင်း ဆုံးဖြတ် စီရင်ခြင်းကို

၁။ Hades = Sheel = Pit = Grave = Limbo

ခံကြရသည်။ အပြစ်ရှိသူများကို မီးကန်ထဲ ပစ်ချ၍ သေဆုံးကြသည်။ ဤသေဆုံးမှုကား ဒုတိယ သေဆုံးခြင်းပင်တည်း။ ထာဝရ အသက်ကို ရရှိမည့် သူများ စာရင်းစာအုပ်တွင် အမည်မပါသူများသည် မီးကန်ထဲ၌ ပစ်ချခြင်းကို ခံကြရသည်။

ထာဝရ ဘုရားသခင်သည် မည်သူ့ကိုမျှ ငရဲဘုံသို့ ရောက်စေလိုသော ဆန္ဒ မရှိပေ။ မိမိတို့၏ ပင်ကိုယ်ဆန္ဒဖြင့် ဘုရားသခင်၏ မေတ္တာစေတနာကို ငြင်းပယ်ခြင်း၊ ဘုရားသခင်၏ တရားကို ဂရုမစိုက်၊ မလေးမစားခြင်း ပြုသော သူများအတွက် အပြစ်ဒဏ် ပေးရာသည်ကား ငရဲဘုံပင် ဖြစ်သည်။ ငရဲဘုံ၌ ကျခံရသူများသည် မည်သည့်အခါမှ မလွတ်မြောက်နိုင်တော့ဘဲ ထာဝရ ပြစ်ဒဏ်ကို ကျခံနေရလေတော့သည်။

ငရဲဘုံ၌ ကျရောက်နေသူများမှာ ဘုရားသခင်ကိုလည်း ဖူးတွေ့ခွင့် မရရှိတော့ပေ။ ငရဲမီး၏ နှိပ်စက်ညှင်းပန်းခြင်းကို ခံနေရသည်။ ငရဲဘုံသားတို့၏ ပြစ်ဒဏ်များသည် တစ်ဦးနှင့်တစ်ဦး မတူညီသေးချေ။ တရား ဆုံးဖြတ်သောနေ့တွင် ဘုရားသခင်သည် သူ၏လက်ဝဲဘက်ရှိသော သူများကို စာတန်နှင့် သူ၏ တမန်များ ကျခံရာ ထာဝရ ငရဲဘုံသို့ ပို့လိမ့်မည်။

ယေရှုဘုရားသခင်သည် ကောင်းကင်ဘုံမှ ကြွလာတော်မူသောအခါ ထာဝရ ဘုရားသခင်ကိုမသိသောသူ၊ ယေရှု ဘုရားသခင်၏ တရားတော်တို့ကို မလိုက်နာသော သူများကို မီးကန်ထဲသို့ ပစ်ချ၍ အပြစ်ပေးလိမ့်မည်။ မီးကန်ထဲသို့ ပစ်ချသည် ဆိုသည်ကား ငရဲဘုံသို့ ပို့ခြင်းပင် ဖြစ်သည်။

ပျော်ရွှင် ချမ်းမြေ့မှု ဆိုသည်ကား ဘုရားသခင်ကို ဖူးတွေ့ရမှသာ ရရှိနိုင်သည်။ ငရဲကျသူများကား ဘုရားသခင်ကို ဖူးတွေ့နိုင်ရန် အခွင့်အလမ်း မရှိတော့၍ ပျော်ရွှင်ချမ်းမြေ့မှု ကင်းဝေလေ၏။ ထိုသူတို့၏ အတိတ်က ပြုလုပ်ခဲ့သော အလုပ်၏ အကျိုးကျေးဇူးပင် ဖြစ်သည်။

ငရဲဘုံရှိ ဝိညာဉ်တို့သည် မိမိတို့ အနေနှင့် ထာဝရ ချမ်းသာသုခကို မရနိုင်တော့ကြောင်းကို သိသည်။ မည်သည့် အကြောင်းကြောင့် မရနိုင်တော့ကြောင်းကိုလည်း နားလည်၏။ ဘုရားသခင်၏ ကောင်းချီးပေးခြင်းကို မရနိုင်တော့သည်ကိုလည်း သိသည်။ ထို့ကြောင့် များစွာ ဝမ်းနည်း ကြေကွဲမှု ဖြစ်၍ များစွာ ဆင်းရဲရလေသည်။

ဘုရားသခင်ကို ဖူးတွေ့ရခြင်းမှ လက်လွှတ် ဆုံးရှုံးမှု ဒုက္ခဝေဒနာကို ခံစားရပြီးနောက် ငရဲမီးဖြင့် နှိပ်စက်မှုကို အကြိမ်ပေါင်း ၇၀တိုင် ခံစားကြရပြန်သည်။ စိတ်ရောကိုယ်ပါ နှိပ်စက် ညှင်းပန်းခြင်း ခံရသည်။

အပြစ်သားတိုင်းသည် မိမိတို့ ကျူးလွန်ထားသော အပြစ်၏ အတိုင်းအတာအရ ခံကြရသည်။ တစ်ကြိမ်တစ်ခါသာ မကောင်းမှုကို ကျူးလွန်ရုံဖြင့် ငရဲဘုံသို့ မရောက်ရှိနိုင်။ ဘုရားသခင် အပေါ်တွင် အစဉ်အမြဲ မကောင်းသော သဘောထားမျိုးကို ထပ်တလဲလဲ ကျူးလွန်မှုမျိုးကြောင့် သာလျှင် ရောက်ရှိနိုင်သည်။ ထာဝရ ဘုရားသခင်သည် လူသားတို့ အပြစ်ကျူးလွန်အောင် ထောင်ချောက် ထား၍ အမိဖမ်းဆီးခြင်းမျိုး မဟုတ်ဘဲ တစ်သက်တာအတွင်း ပြုလုပ်ခဲ့ဖူးသော အလုပ်များကို စဉ်းစားကာ ဆုံးဖြတ်ခြင်း ဖြစ်သည်။ ပြုလုပ် ကျူးလွန်ခဲ့သော

အပြုအမူကိုသာ ကြည့်ရှုသည် မဟုတ်။ ဝိညာဉ်၏ အခြေအနေ၊ တာဝန်ရှိမှုတို့ကို ထည့်သွင်း စဉ်းစားသည်။

ထာဝရ ဘုရားသည် လူသားတို့ကို အမြဲတမ်း ထောက်ထားသည်၊ ညှာတာသည်၊ အစဉ်လိုပင် တရားမျှတစွာ အရေးယူသည်သာ ဖြစ်လေသည်။

## မရဏနိုင်ငံ

လူသားများ ယခုဘဝမှ နေ၍ စတေ ပြီးနောက် ရှင်သန်ထမြောက်သော ကာလအထိ မရဏနိုင်ငံ၌ ရောက်ရှိနေကြရသည်၊ ယေဟောဝါ သက်သေများ (ပရိတက်စတင့်)၏ အယူအဆ အရ ခရစ်တော်သည်လည်း လက်ဝါးကပ်တိုင်တွင် အသေခံပြီးနောက် ရှင်သန်ထမြောက်သည့် အချိန်အထိ သုံးရက်လုံးလုံး ဥဘုံတွင် ရောက်ရှိခဲ့သည်။ သေဆုံးသူများ ရှင်သန်ထမြောက်သော အခါတွင် ဥဘုံမှ ကျွတ်လွတ်ကြ၍ သင်္ချိုင်းဂူများမှ ထွက်မြောက်လာကြရသည်။

ယေရှုခရစ်တော်သည် မရဏဘုံမှ လွတ်မြောက် သွားသော အခါ လူတို့၏ သွေးသားကိုယ်ဖြင့် မဟုတ်တော့ဘဲ ဝိညာဉ်အားဖြင့်သာလျှင် အသက်ရှင်လာခဲ့ခြင်း ဖြစ်သည်။ ခရစ်တော်၏ အသင်းတော်အဖွဲ့ဝင်ပေါင်း ၁၄၄,၀၀၀တို့သည်လည်း ခရစ်တော်နှင့်တကွ ကောင်းကင်ဘုံသို့ ရောက်ရှိသွားကြမည် ဖြစ်၍ ယင်းတို့ ရှင်သန်ထမြောက်သော အခါ၌လည်း ဝိညာဉ်အားဖြင့်သာ ရှင်သန်လာကြလိမ့်မည်။ ထိုမှ ကြွင်းသော ပုဂ္ဂိုလ်တို့သည်ကား သင့်တော်သော လူသား အသွင်ဖြင့် ထမြောက် လာကြမည် ဖြစ်သည်။

ခရစ်တော် ကြွလာသော အချိန်တွင် တံပိုးခရာတို့ မှုတ်၍ ခရစ်တော်၏ အသင်းဝင်တို့သည် ထမြောက်လာကြလိမ့်မည် ဖြစ်သည်။ ခရစ်တော်၏ ဒုတိယအကြိမ်မြောက် ကြွလာတော် မူပြီးနောက် အသက်ရှင်နေသေးသူများနှင့် ခရစ်တော် ကြွလာပြီးနောက် သေဆုံးသူများသည် မရဏာဘုံ၌ ခရစ်တော်၏ အလာကို စောင့်ဆိုင်းနေစရာ မလိုတော့ချေ။ ထိုသူများကား အပြစ်သား ခန္ဓာကိုယ်ကို စွန့်ပစ်၍ သေဆုံးသည်နှင့် တစ်ပြိုင်နက် မျက်စိတစ်မှိတ် လျှပ်တစ်ပြက် အတွင်း ဝိညာဉ်ဘဝကို ရရှိကာ အသက်ရှင်နေလိမ့်မည် ဖြစ်သည်။ သူတို့သည် ဝိညာဉ်ဆိုင်ရာ ကောင်းကင်ဘုံ ကိုယ်ခန္ဓာများကို ရရှိကြလိမ့်မည်။ ထိုအခါ ကောင်းကင်ဘုံသား တို့၏ ပုံသဏ္ဍာန် အတိုင်းပင် ဖြစ်လာ၍ မျက်စိဖြင့် မမြင်နိုင်သော ကောင်းကင်ဘုံ ဝိညာဉ် သတ္တဝါများ ဘဝကို ရရှိသွားကြမည် ဖြစ်သည်။

ခရစ်တော်၏ အသင်းကို မတည်ဆောက်ရသေးမီ အချိန်က သေဆုံးခဲ့ကြသော လူများနှင့် ထိုကာလ နောက်ပိုင်းတွင် သေဆုံးခဲ့ကြသော်လည်း ၁၄၄,၀၀၀ကုန်သော ခရစ်တော်၏ အသင်းတော်ဝင် မဟုတ်သူများသည် ခရစ်တော်၏ အသင်းတော်ဝင် ပုဂ္ဂိုလ်များ ထမြောက် ပြီးမှသာလျှင် ရှင်သန် ထမြောက်လာကြရမည် ဖြစ်သည်။ ခရစ်တော်၏ အသင်းဝင်များ ရှင်သန် ထမြောက်ခြင်းကို ပထမ ဦးဆုံးအကြိမ် ထမြောက်ခြင်းဟု ခေါ်ဆိုကြသည်။ ဤပုဂ္ဂိုလ်များ၏ ထမြောက်မှုသည် အချိန်ကာလအားဖြင့်သာ ပထမ မြောက်သည် မဟုတ်သေး။ အရေးပါမှုနှင့် အရည်အချင်းတို့တွင်လည်း ပထမတန်း ကျသော သူများ ဖြစ်ကြသည်။ ယေရှုခရစ်တော်ကပင်လျှင် ထိုသူများကို

မရဏာနိုင်ငံ၌ အိပ်ပျော်သော သူများ အနက် ပထမဦးဆုံးသော အသီးအပွင့်များဟု ခေါ်ဆိုခဲ့သည်။

ခရစ်တော်၏ အသင်းတော်ဝင် ပုဂ္ဂိုလ်များသည် ခရစ်တော်နှင့် အတူ အနှစ်တစ်ထောင် တိုင် ဘုရင်အဖြစ် အုပ်စိုးကြလိမ့်မည်ဖြစ်၏။ ထိုမှ ကြွင်း၍ မရဏာဘုံတွင် ကျန်နေသူများကား အနှစ် တစ်ထောင်စေ့မှ ထမြောက်ကြလိမ့်မည်။ ပထမအကြိမ်အဖြစ် ထမြောက် ခဲ့ကြသော ခရစ်တော်အဖွဲ့ဝင်တို့သည် ဒုတိယမြောက် သေဆုံးမှုမျိုးကို မတွေ့ကြုံ ရတော့ပေ။ ထာဝရ ဘုရားသခင်နှင့် ခရစ်တော်တို့၏ တရားဟော ဆရာများအဖြစ် အုပ်စိုးလိမ့်မည် ဖြစ်သည်။ ကောင်းကင်ဘုံရှိ ဝိညာဉ် သတ္တဝါများအဖြစ် ထာဝရအသက်ကို ရရှိကြပြီး ဖြစ်၍ မသေကြရခြင်း ဖြစ်သည်။ ထိုသူများတွင် ဖောက်ပြန်မှုများလည်း မရှိတော့ပေ။

စာတန်မာရ်နတ်နှင့် သူ၏နတ်ဆိုးများကို အသူတစ်ရာ နက်သော ချောက်ကြီးထဲ၌ 'ဖမ်းဆီး ချုပ်နှောင်ထားကာ အနှစ်တစ်ထောင်တိုင် ခရစ်တော်နှင့် အတူ ဘုရင်များ အဖြစ် အုပ်ချုပ်ရစဉ် ခရစ်တော် အသင်းဝင် ပုဂ္ဂိုလ်တို့သည် လူသားအတွက် တရားဟော ဆရာများ အဖြစ်ကိုလည်း ဆောင်ရွက်ကြရမည် ဖြစ်သည်။

ယေရှုခရစ်တော်နှင့် သူတို့၏အသင်းဝင်ပုဂ္ဂိုလ်များသည် မရဏာ နိုင်ငံမှ ထွက်မြောက်လာပြီး နောက်တစ်ဖန် ထိုနေရာသို့ မသွားရောက် သကဲ့သို့ မရဏာဘုံမှ လွတ်မြောက်လာသူများသည် တစ်ဖန် ပြန်၍ မသွားရတော့ချေ။

ခရစ်တော် စွန့်ပစ်ထားခဲ့သော ရုပ်ခန္ဓာကိုယ်ကို ထာဝရ ဘုရား သခင်က ဖျောက်ဖျက်ပစ်ခဲ့ခြင်း ဖြစ်သည်။ 'ထို့ပြင် ယေရှုခရစ်တော်

သည် ယဇ်ပူဇော်ခြင်းတို့ ခံရသည့် လူသားခန္ဓာကိုယ်ဖြင့် ထမြောက်ခဲ့ခြင်း မဟုတ်ချေ။ အပြစ်ကို ခံယူပြီး သေခြင်းနှင့် ပတ်သက်၍ ခရစ်တော်သည် တစ်ကြိမ်တည်းနှင့် အပြီးသေခြင်းပင် ဖြစ်သည်။ ခရစ်တော် ထမြောက်တော် မူခဲ့ခြင်းသည် သွေးသားပါသော လူသားတို့၏ ခန္ဓာကိုယ်ကြီး မဟုတ်ဘဲ ဝိညာဉ်ကိုယ်ဖြင့် ဖြစ်သည်။ ခရစ်တော်၏ လူသား ဘဝ ခန္ဓာကိုယ်ကို ထာဝရ ဘုရားသခင်သည် လူ့ပြည်တွင် ဖျက်ဆီးပစ်ခဲ့သည်။ ခရစ်တော်က ကောင်းကင်ဘုံသို့ ယူဆောင်သွားခြင်း မရှိဟု ယေဟောဝါ သက်သေများက ယုံကြည်ကြသည်။ ကက်သလစ်တို့ကမူ ခရစ်တော်သည် လူ့ခန္ဓာကိုယ်ဖြင့်ပင်-ကောင်းကင်ဘုံသို့ တက်ရောက် သွားသည်ဟု ယုံကြည်ကြသည်။

ခရစ်တော်၏ အသင်းဝင် ပုဂ္ဂိုလ်များသည်လည်း ခရစ်တော်ကဲ့သို့ပင် ဝိညာဉ်ကိုယ်ဖြင့် ထမြောက်သွားကြလိမ့်မည်။ သို့သော် ကျန်သောသူများ သည်ကား သင့်တော်သော လူ့ခန္ဓာကိုယ်များဖြင့်ပင် ထမြောက်သွားကြလိမ့်မည် ဖြစ်သည်။ သေဆုံး၍ မရဏာဘုံ၌ ကျန်နေသေးသူများကား စာတန်မာရ်နတ်နှင့် ယင်း၏ အပေါင်းအပါ နတ်ဆိုးတို့ ကောင်းကင်ဘုံတို့တွင် ခရစ်တော်က နှိမ်နင်းအောင်မြင် ပြီးသော အခါတွင်မှ ထမြောက် ကြလိမ့်မည် ဖြစ်သည်။

တရားဆုံးဖြတ်သော နေ့တွင် ခရစ်တော်သည် ပလ္လင်ထက်တွင် ထိုင်၍ မှတ်တမ်းနှစ်စောင်ကို ကြည့်ရှုကာ ဆုံးဖြတ်ပေးလိမ့်မည်။ မှတ်တမ်းတစ်စောင်ကား အပြစ်ကျူးလွန်သူများ စာရင်းဖြစ်၍ အခြားတစ်စောင်သည်ကား ထာဝရ အသက် ရရှိမည့် သူများ စာရင်းဖြစ်သည်။ သေဆုံးသူများကို ထိုမှတ်တမ်းများတွင် ရေးသား ဖော်ပြထားသည်။

သူတို့၏ အပြုအမူများအရ ဆုံးဖြတ်ချက် ချပေးသည်။ ပင်လယ် သမုဒ္ဒရာသည် လည်းကောင်း၊ မရဏာဘုံသည် လည်းကောင်း၊ သေဆုံး သူများကို တရားဆုံးဖြတ်ရာသို့ လွှတ်ပေးသည်။ သေဆုံးသူများကို တစ်ဦးချင်းအလိုက် စီရင်သည်။ မရဏာနိုင်ငံက မီးကန်ထဲသို့ ပစ်ချခံရ သူများကား ဒုတိယအကြိမ် သေရသော သူများပင်တည်း။

အာဒမ်မှစ၍ အမွေရခဲ့သော သေခြင်းတရားသည်လည်း မီးကန် ထဲသို့ ပစ်ချခံရသဖြင့် သေခြင်းတရားသည်လည်း ဒုတိယ အကြိမ် သေခြင်းနှင့် တွေ့ကြုံရလေသည်။ သေသူများ၏ ဘုံသင်္ချိုင်းဖြစ်သော မရဏာဘုံသည် နောက်ထပ် လက်ခံယူစရာ မရှိ တော့ဘဲ အစဉ်ထာဝရ ကုန်ဆုံးခြင်းသို့ ရောက်ရှိလိမ့်မည်။ သင်္ချိုင်းဂူများလည်း အစဉ်ထာဝရ ပျောက်ကွယ်သွားတော့မည် ဖြစ်သည်။

ကက်သလစ် ဘာသာဝင်တို့ကား Purgatoay ခေါ် ကြား အဆင့် ဘုံတစ်ခုရှိသေးသည်ဟု ယုံကြည်ကြသည်။ ထိုဘုံသို့ ရောက်ရှိ ကြသူများမှာ အပြစ်လုံးဝ ကင်းစင်ခြင်း မရှိသေးသူများ ဖြစ်၍ ထိုဘုံတွင် မိမိတို့၏ ဝိညာဉ်များကို သန့်စင်အောင် ဆေးကြောသုတ်သင် ကြရသည်။

အပြစ်ငယ်အချို့ကို ကျူးလွန်ကြသူများကို အပြစ်ပေးသည့် အနေဖြင့် ဤဘုံသို့ ပို့၍ သန့်စင်အောင် ပြုလုပ်စေသည်။ ကောင်း ကင်ဘုံ သည်ကား အပြစ် လုံးဝ မရှိသူ မြင့်မြတ်သော သူများ ကိုသာ ဝင်ခွင့်ပြုသည်။ ကောင်းကင်ဘုံသို့ မဝင်ရောက်မီ မိမိတို့တွင် ရှိသော အပြစ်တိုင်းကို ကင်းပျောက်လာအောင် ဆောင်ရွက်ရသည်။ အပြစ် ကျူးလွန်လျက် သေဆုံး သူများသည် ဤဘုံသို့ ရောက်ရှိ

သွားကြရာ ထိုသူများသည် အပြစ်မှ လွတ်ငြိမ်းစေရန် ဆုတောင်း ပေးကြသည်။

ထိုသူများသည် ဘုရားသခင်ကို ဖူးမြော်ခွင့် မရနိုင်ပေ။ ဝိညာဉ်ကို သန့်ရှင်းအောင် ပြုလုပ်မှု အရှိန် ရလာသည်နှင့် အမျှ ဘုရားသခင်ကို ဖူးတွေ့ခွင့် ရရှိရန် တောင့်တ လာကြသည်။ ဘုရားသခင်ကို ဖူးမြော်ခွင့် မရရှိသည့်အတွက် စိတ်ထဲတွင် ပြင်းထန်စွာ ခံစားလာရသည်။ ထိုအခါမျိုးတွင် ယင်းတို့သည် ဘုရားသခင်၏ အလိုအတိုင်း ပြုလုပ်စေရန် စိတ်လျှော့ပေးရသည်။ ဘုရားသခင်ကို တမ်းတသည့် စိတ်မှာ တဖြည်းဖြည်း အားကောင်းလာရာ ယင်းတို့ စောင့်မျှော်နေကြသော ကယ်တင်ခြင်း အတွက် မျှော်လင့်ချက်လည်း ပို၍ သေချာလာသည်။

ဘုရားသခင်ကို တမ်းတချစ်ခင်မှုနှင့် နောက်ဆုံးတွင် ဖူးတွေ့ရမည်ဟု မမိုတ်မသုန် ယုံကြည်မှုတို့ကြောင့် ထိုဘုံ၌ပင် ဘုရားသခင်ကို မဖူးတွေ့ရသေးသော်လည်း ပျော်ရွှင်ချမ်းမြေ့မှုကို အသင့်အတင့် ခံစားနိုင်ကြသည်၊ ထိုဘုံသို့ ရောက်ရှိကြသူများ ကျူးလွန်ထားသော အပြစ်ကို ကျေအောင် ပေးဆပ်ရန် လိုသဖြင့် လူသားများက ကူညီ၍ ဆုတောင်း ပေးကြရသည်။ လူသားများက ဆုတောင်းဝတ်ပြုခြင်း၊ အလှူအတန်း ပြုခြင်းတို့ကြောင့် ထိုဘုံသားတို့သည် မကြာမီပင် ဘုရားသခင်ကို ဖူးတွေ့ နိုင်သော ကောင်းကင်ဘုံသို့ ရောက်ရှိသွားကြသည်။

မည်သူမဆို ဘုရားသခင်ကို မဖူးတွေ့နိုင်မီ နှစ်ခြင်းကို ခံယူကြရသည်။ နှစ်ခြင်းကို မပြုလုပ်လျှင် မည်သူမျှ ဘုရားသခင်ကို

မဖူးတွေ့နိုင်။ တစ်စုံတစ်ဦးသည် နှစ်ခြင်း မပြုလုပ်နိုင်မီ သေဆုံးသွားရန် ကိစ္စပြီးလျှင် ထိုသူကို မည်သူမဆို နှစ်ခြင်း ပြုလုပ်ပေးနိုင်ပေသည်။ ထိုကဲ့သို့ အရေးပေါ် ကိစ္စမျိုးမှ တစ်ပါး နှစ်ခြင်း ပြုလုပ်ပေးနိုင်သူမှာ ဘုန်းကြီးများသာ ဖြစ်ကြသည်၊

အရွယ်ရောက်ပြီးသူကို သူ၏ သဘောတူညီချက်ဖြင့် သာလျှင် နှစ်ခြင်းပေးနိုင်သည်၊ နှစ်ခြင်းခံပြီးမှ ချက်ချင်း လတ်တလော သေဆုံးခဲ့ပါက ကောင်းကင်ဘုံသို့ တိုက်ရိုက် ရောက်ရှိသွားသည်၊ ထိုသူတွင် ယခင်က ကျူးလွန်ထားသော အပြစ်များနှင့် ကျခံရမည့် အပြစ်ဒဏ်များ အားလုံးသည် နှစ်ခြင်း ခံသဖြင့် အားလုံး ပျောက်ကွယ်သွားသောကြောင့် ကောင်းကင်ဘုံသို့ ရောက်ရှိနိုင်ခြင်း ဖြစ်သည်၊

ကလေးတွင် ကိုယ်တိုင် ကျူးလွန်သော ပြစ်မှုမျိုး မရှိနိုင်သေးသော်လည်း အာဒမ်မှ အမွေ ရရှိခဲ့သော မူလ ပြစ်မှုကား ရှိနေတုန်းပင် ဖြစ်သည်၊ ထိုကလေးသည် နှစ်ခြင်း မခံရမီ သေဆုံးမည့် ကလေးအား မိဘများက သဘောမတူသော်လည်း နှစ်ခြင်း ပြုလုပ်ပေးရသည်၊

နှစ်ခြင်း မခံယူဘဲ သေဆုံးသွားသော ကလေးသည် ကောင်းကင်ဘုံသို့ မရောက်ရှိနိုင်။ ကိုယ်တိုင် ကျူးလွန်ထားသော အပြစ်များလည်း မရှိသေး၍ ငရဲဘုံသို့လည်း မသွားရ။ ထိုကလေး၏ ဝိညာဉ်သည် ပျော်ရွှင်စရာ ဖြစ်သော နေရာ Limbo သို့ သွားရောက် ရသည်။ ကောင်းကင်ဘုံကား ဘုရားသခင်၏ ပျော်ရွှင်ရာ ဖြစ်၍ Limbo ကား လူသားတို့ ပျော်ရွှင်မှုမျိုး ရရှိသည့် နေရာဖြစ်၏။ Limbo တွင် ရောက်ရှိ နေသူများသည် ဘုရားသခင်ကို သိ၏။ ချစ်ခင်မှုလည်း ရှိ၏။ သို့သော် ဖူးတွေ့ခွင့် မရရှိကြချေ။

## လူသားများ သေရခြင်း အကြောင်း

ထာဝရ ဘုရားသခင်သည် လူသားများကို ဖန်ဆင်းခြင်းမှာ ကမ္ဘာပေါ်တွင် လူသားတို့သည် ပရဒိသုခဘုံ[၁] မည်သည့်အခါတွင်မှ မသေသော ထာဝရ အသက်ဖြင့် နေထိုင်စေလို၍ ဖြစ်သည်။ သေခြင်းသည် လူသားနှင့် သက်ဆိုင်ခြင်း မရှိခဲ့။

ပထမဦးဆုံးသော လူသားဖြစ်သည့် အာဒမ်ကို အားလုံး ပြီးပြည့်စုံသော လူသားအဖြစ် ဖန်ဆင်းခဲ့သည်။ ပရဒိသုခဘုံ၏ ချမ်းသာသုခများကို အမြဲ ခံစားလျက် နေထိုင်စေရန် ဖန်ဆင်းခြင်း ဖြစ်သည်။ လူသား၏ ခန္ဓာကိုယ်တွင် အပြစ် ချွတ်ယွင်းချက် မရှိအောင် ပြုလုပ်ပေးသည်။ အာဒမ်၏ဇနီး ဧဝကိုလည်း မည်သည့် အခါမျှ မသေသော လူသားအဖြစ် ဖန်တီးပေးခဲ့သည်။ ဧဝသည် ဘုရားသခင်၏ စကားကို လိုက်နာခဲ့ပါက သူမ၏ မိသားစုများနှင့် ထာဝရ အသက်ရှင် နေထိုင်ရလိမ့်မည် ဖြစ်သည်။

ထာဝရ ဘုရားသည် ဤကမ္ဘာမြေကြီးကို ဖန်ဆင်းရခြင်းမှ တိရစ္ဆာန်တို့ထက် အဆင့်မြင့်မားသော လူသားတို့ဖြင့် ပြည့်နှက်နေစေရန် အတွက် ဖြစ်သည်။ ထို့ကြောင့်ပင် အာဒမ်အတွက် အဖော်မိန်းမတစ်ဦးကို ဖန်ဆင်းပေးခဲ့ခြင်း ဖြစ်သည်။ ထိုအခါ ပရဒိဘုံသည် အေဒင် ဥယျာဉ်သာ မဟုတ်တော့ဘဲ ကမ္ဘာတစ်ခုလုံးသို့ ကျယ်ပြန့်လာလိမ့်မည် ဖြစ်သည်။

လူသား၏ ပထမဦးဆုံးသော အာဒမ်သည် ဘုရားသခင်၏ စကားကိုသာ နားထောင်ခဲ့ပါက လူသားအားလုံးသည် ယခုကဲ့သို့

၁။ Paradise

သေခြင်း တရားကို ရင်ဆိုင်ရလိမ့်မည် မဟုတ်ချေ။ ယခုမူ သေခြင်းဘေးမှ မလွတ်သည်သာ မဟုတ်သေး။ အသက်ရှင်စဉ်တွင်လည်း ပင်ပန်းဆင်းရဲစွာ ရှာဖွေ စားသောက်ရသေးသည်။

ယေဟောဝါ သက်သေများ၏ အလိုအရ ဘီစီ ၃၀၉၆ ခုနှစ်တွင် အာဒမ် ကွယ်လွန်သွားသော အခါ အာဒမ်မှာ ဘဝပြတ်သွားပြီ ဖြစ်၍ မည်သည့် နေရာတွင်မှ မဖြစ်တော့ပေ။ အာဒမ်သည် အပြစ်ကို စိတ်ပါလက်ပါ ကျူးလွန်ခဲ့သူ ဖြစ်၍ ပြန်လည် ရှင်သန် ထမြောက်ရေး မျှော်လင့်ချက်ကိုပင် မထားနိုင်ချေ။ ကောင်းကင်ဘုံတွင် အသက်ရှင်နေသေးမည့် ပထမဦးဆုံး ပရောဖက် အဖြစ်ကိုလည်း မရရှိတော့ပေ။

အာဒမ်ကို အေဒင်ဥယျာဉ်ရှိ အပင်များမှာ အသီးအပွင့်များကို စားသုံးခွင့် မပေးတော့ဘဲ မြေကြီးမှ ပေါက်သော ချုံနွယ်ပေါင်းပင်များကိုသာ စားသောက်နိုင်ရန် စီရင်ခဲ့သည်။ အာဒမ်သည် ပြစ်ဒဏ်ခံရပြီးမှသာလျှင် သားသမီး ရရှိခြင်း ဖြစ်သည်။ ထို့ကြောင့် ထိုသားသမီးတို့သည်လည်း သေမျိုးချည်းသာ ဖြစ်လာရသည်။ အပြစ်သားမိဘများက အပြစ်ကင်းစင်သော သားသမီးများကို မွေးဖွားမပေးနိုင်သောကြောင့် ဖြစ်သည်။ ယခုခေတ် လူသားတို့ သည်လည်း သေခြင်းတရားကို အာဒမ်ထံမှ အမွေခံ ယူရသဖြင့် သေခြင်းနှင့် ရင်ဆိုင်ရသည်။

အာဒမ် ကျူးလွန်ခဲ့သော အပြစ်ကို ငွေကြေးဖြင့် ဝယ်ယူကာ ဖျောက်ဖျက်ပစ်၍ မရနိုင်ချေ။ တိရစ္ဆာန်တို့၏ သွေးသားကို ယဇ်ပူဇော်၍လည်း မရနိုင်သေး။ ဂျူးလူမျိုးများသည် မရေမတွက်နိုင်သော သိုး၊ ဆိတ်၊ တိရစ္ဆာန်တို့ဖြင့် ယဇ်ပူဇော်ခဲ့ကြသော်လည်း

အာဒမ် ကျူးလွန်ခဲ့သော အပြစ်ကို ကျေစေခြင်းငှာ မတတ်နိုင်ချေ။ အကြောင်းကား တိရစ္ဆာန်တို့မှာလူသားတို့ထက် ယုတ်ညံ့သော သတ္တဝါများ ဖြစ်၍ လူသားတို့ ကျူးလွန်သော အပြစ်ကို ပျောက်သွားစေရန် မစွမ်းနိုင်ပေ။

လူသားတို့ ကျူးလွန်သော အပြစ်ကို ပျောက်ပျက် စေရန်မှာ လူသားကပင် ယဇ်ကောင်အဖြစ် အသေခံမှသာလျှင် ဖြစ်နိုင်ပေသည်။ လူသားတို့၏ အပြစ်မှာ အာဒမ်ကြောင့် ဖြစ်သည်။ သို့သော် အာဒမ် အပြစ်ကျူးလွန်ချိန်က အပြစ်ကင်းသော လူသားတစ်ဦး အဖြစ်ဖြင့် သာ ကျူးလွန်ခဲ့ခြင်း ဖြစ်သည်။ အပြစ်ကို ကျူးလွန်မိ၍ ပြစ်ဒဏ်ကို စီရင်ခံရပြီးမှ သားသမီးများ ထွန်းကားလာရာ ထိုသားသမီးများမှာ အပြစ်သားများ ဖြစ်လာရခြင်း ဖြစ်သည်။ ပြစ်ဒဏ် အမွေခံကို အစဉ်အဆက် ရယူခဲ့သော လူသားတစ်ဦးက ယဇ်ကောင်အဖြစ် အသေပင် ခံသော်လည်း အပြစ်ကင်းသူ အဖြစ်ဖြင့် အာဒမ် ကျူးလွန်သော အပြစ်များကို ပပျောက်စေရန် မတတ်စွမ်းနိုင်ချေ။ ထို့ကြောင့် အပြစ်အမွေကို မခံရဖူးသူ လူသားတစ်ဦးကသာလျှင် အာဒမ် ကျူးလွန်ခဲ့သော အပြစ်များကို ပပျောက်သွားအောင် ယဇ်ကောင်အဖြစ် အသေခံခြင်းဖြင့် အပြစ်သား ဖြစ်နေသော လူသားတို့ကို ကယ်တင်နိုင်မည် ဖြစ်သည်။

ထိုသို့ ကယ်တင်နိုင်မည့် လူသားကား ယေရှုခရစ်တော်ပင် ဖြစ်သည်။ ယေရှုကို ဘုရားသခင်၏ သိုးငယ်ဟု ခေါ်တွင်ခြင်းမှာ ခရစ်တော် ယေရှုသည် လူသားတစ်ခုလုံး၏ အပြစ်ကို ယဇ်ကောင်အဖြစ် အသေခံကာ တာဝန်ယူသွားသောကြောင့် ဖြစ်သည်။

F - 21

ယေရှုသည် အာဒမ်မှ ရခဲ့သော အပြစ်ဒဏ် အမွေကို ဆက်ခံ ရခဲ့သူ မဟုတ်ဟု ဆိုရခြင်းကား မယ်တော် မာရိမှာ အပြစ်သား အမွေကို ခံယူရသူ တစ်ဦးပင် ဖြစ်လင့်ကစား ယေရှုသည် ထာဝရ ဘုရားသခင်၏ သန့်ရှင်းသော ဝိညာဉ်တော်ကြောင့် ရရှိလာသော သားဖြစ်သောကြောင့်တည်း၊ မယ်တော် မာရိသည်လည်း အပျိုစင် မပျက် ယေရှုသခင်ကို ဖွားပေးရသောကြောင့် ဖြစ်သည်။ မာရိ၏ ခင်ပွန်း ယောသပ် သည်လည်း၊ ယေရှု၏ ဖခင် အမည်ခံရရုံသာ ရှိသောကြောင့် ဖြစ်၏။ ဤသို့ဖြင့် ယေရှုခရစ်တော်မှာ အပြစ်မရှိ၊ ချွတ်ယွင်းမှု မရှိသော လူသား တစ်ဦး ဖြစ်လာသည်။ ကမ္ဘာပေါ် ရှိသမျှ လူသားများနှင့် မတူသော ထူးခြား မြင့်မြတ်သည့် လူသား (ဝါ) ဘုရားလောင်းတော် တစ်ဦးပင် ဖြစ်သည်။ ဤနေရာတွင် ကက်သလစ်တို့က ခရစ်တော်ကို သာမန် လူသားတစ်ဦး၊ လူထဲက လူသားသာ ဖြစ်သည်ဟု ယုံကြည်ကြသည်။ ဆိုလိုသည်မှာ ထာဝရ ဘုရား၏ သားတော်သည် လူသားဇာတိကို ခံယူခဲ့၍ မွေးဖွားလာရာ သာမာန် လူသားကဲ့သို့ပင် ဖြစ်သည်ဟု ယူဆခြင်း ဖြစ်သည်။

အပြစ်ကင်းစင်သော ပထမဦးဆုံး လူသား အာဒမ် တစ်ယောက် တည်း ကျူးလွန်သည့် အတွက် သူ၏ သားသမီး လူသားတစ်ခုလုံး သည် သေခြင်းတည်း ဟူသော အပြစ်ကို ခံယူခဲ့ကြရာ ထိုလူသား တစ်ခုလုံး ကျူးလွန်ခံစား နေရသော အပြစ်အားလုံးကို ခရစ်တော် တည်းဟူသော အပြစ်ကင်း လူသားတစ်ဦးတည်းကပင် ပြန်လည် ရွေးယူ သွားခြင်းဖြင့် လူသားတို့သည် အပြစ်အားလုံးမှ ကင်းစင် လွတ်မြောက် သွားကြရလေသည်။

၅

**စာပေဟောင်းလေးအိုးကြီး**

## နောက်ဆုံး စီရင်ချက်ချသောနေ့

ခရစ်တော် ဒုတိယအကြိမ် ပြန်လာခြင်း၊ နောက်ဆုံးတရား စီရင်သောနေ့တို့နှင့် ပတ်သက်၍ ယေဟောဝါ သက်သေများ၏ အယူအဆတို့မှာ နားလည်ရန် လွယ်ကူသဖြင့် ယင်းတို့၏ ယုံကြည်ချက်များကိုပင် ကင်ပြလိုက်ရပါသည်။

ဘုရားသခင်က လူသားများအားလုံးကို မိမိတို့ ပြုလုပ်ခဲ့သည့် အလုပ်အတိုင်း နောက်ဆုံး[illegible] ဂီရင်ချက်ကို ချမှတ်ပြီးသောအခါ ဤကမ္ဘာကြီးမှာ ပျက်စီးသွားမည် မဟုတ်သေးဘဲ ဆက်လက် တည်ရှိနေဦးမည်ဖြစ်သည်။ သို့သော် လက်ရှိစနစ်ဟောင်း အားလုံးမှာ ပျက်စီးသွားရမည် ဖြစ်သည်။ ဘဝသစ်၊ ကမ္ဘာသစ်၊ စကြဝဠာသစ် အဖြစ်ဖြင့် ဆက်လက် တည်ရှိသွားလိမ့်မည် ဖြစ်သည်။

ပရောဖက်ဒယေလ၏ အနာဂတ္တိ ဟောကြားချက်များအနက် 'ရက်သတ္တပတ်' ဆိုသော စကားများလည်း လာရှိခဲ့သည်။ ထို'ရက်သတ္တပတ်'ကို အဓိပ္ပာယ်ဖွင့်ဆိုရာတွင် ယေဟောဝါ သက်သေများသည် သာမန်ရက်များကဲ့သို့ မသတ်မှတ်ဘဲ ခေတ်တစ်ခေတ်အဖြစ် တွက်ချက်ယူကြသည်။

ခေတ်တစ်ခေတ်လျှင် နှစ်ပေါင်း ၃၆၀ ကျဖြင့် တွက်ချက်၍ ခုနစ်ခေတ်အတွက် နှစ်ပေါင်း ၅၂၀ နှစ် ရရှိသည်။ ဤမျှသော အချိန်ကာလသည် ဘုရားသခင် ရွေးချယ်ခြင်းမရှိသော (ဝါ) ဣသရေလ မဟုတ်သော လူမျိုးများက ကမ္ဘာကြီးကို အုပ်ချုပ်မည့် အချိန်ကာလ ဖြစ်သည်။ ဘုရားသခင် ရွေးချယ်ခြင်းခံရသော ဂျူးလူမျိုးများမှအပ ကျန်လူမျိုးများက ကမ္ဘာကို အုပ်စိုးခွင့်ရရှိမည့် အချိန်ကာလဖြစ်သည်။

ဘုရားသခင်၏ အချစ်တော် အစ္စရေးလူမျိုးတို့ကို ဘီစီ ၆၀၇ ခုနှစ်တွင် ဘေဘီလုံလူမျိုးတို့က တိုက်ခိုက် သိမ်းယူသွားသည့် အချိန်မှစ၍ နှစ်ပေါင်း ၂၅၂၀ ခုနှစ်ကို စတင်ရေတွက်ခဲ့သော် အေဒီ ၁၉၁၄ နှစ်တွင် ရောက်သည်။ ဤကာလအတွင်း ယေဟောဝါ ဘုရားသခင်၏ ပလ္လင်ကို ဆက်ခံသော ဒါဝိဒ်ဘုရင်မျိုးရိုးတို့မှာ ထီးကျိုးစည်ပေါက် ဖြစ်ခဲ့ရ၍ ဘေဘီလုံ၊ ပါရှား၊ ဂရိ၊ ရောမ စသည်ဖြင့် ဘုရားသခင်ကို လက်မခံသောသူများက အစဉ်အဆက် ကမ္ဘာကို လွှမ်းမိုး အုပ်ချုပ်လာခဲ့သည်။

သို့သော် ဂျူးမဟုတ်သူများက ကမ္ဘာကြီးကို အုပ်စိုးမှုသည် ၁၉၁၄ ခုနှစ်တွင် အဆုံးသတ်၍ ထိုနှစ် အောက်တိုဘာလမှ စ၍ ဘုရားသခင်က ပြန်လည် အုပ်စိုးသွားတော့မည် ဖြစ်သည်၊ ဘုရားသခင်၏ နိုင်ငံတော်ကို တည်ဆောက်သွားတော့မည် ဖြစ်၏။ ထိုနိုင်ငံကို ဒါဝိဒ်မျိုးနွယ်မှ ဆင်းသက်သူက ဆက်ခံသွားရမည် ဖြစ်သည်၊ သို့သော် ဒါဝိဒ်မင်းကြီး စိုးစံခဲ့သော ဂျေရုစလင်မြို့တွင် မဟုတ်တော့ဘဲ ကောင်းကင်နိုင်ငံတွင်သာ ဖြစ်သည်။ ဒါဝိဒ်မျိုးနွယ် ယေရှုခရစ်တော်သည် ၁၉၁၄ ခုနှစ်မှစ၍ ကောင်းကင်ဘုံတွင် ဘုရားသခင်၏ နိုင်ငံတော်ကို စိုးမိုး အုပ်ချုပ်နေလေပြီ။

လက်ရှိစနစ်ဟောင်းများကို စိုးမိုးအုပ်ချုပ်နေသော စာတန်မာရ်နတ်သည် ခရစ်တော်၏နိုင်ငံ တည်ရှိလာခြင်းကို မလိုလားသဖြင့် အပြင်းအထန် တိုက်ခိုက်သည်။ ထို့ကြောင့် ၁၉၁၄ ခုနှစ်မှစ၍ ကမ္ဘာကြီးကို စိုးမိုးနိုင်ခွင့် ရရှိရေးအတွက် ပထမကမ္ဘာစစ်ကြီးဖြစ်ပေါ်ခဲ့ရသည်။ မာရ်နတ်သည် ကမ္ဘာစစ်ကြီးများကိုသာ ဖန်တီး

ပေးခဲ့သည် မဟုတ်သေး၊ ဝတ်မွတ်ခေါင်းပါး၍ သေစေခြင်း၊ ရောဂါ အနာတရ ရ၍ သေစေခြင်း စသော ကပ်သုံးပါး ဘေးအန္တရာယ် များကိုလည်း ဖန်တီးပေးခဲ့သည်။

ကမ္ဘာလောကနိုင်ငံကြီးသည် ခရစ်တော်၏ ဘုရားသခင် နိုင်ငံ တော်ကြီး ဖြစ်လာကာ ခရစ်တော်ကပင်လျှင် အစဉ်ထာဝရ အုပ်စိုး သွားတော့မည် ဖြစ်သည်။ ခရစ်တော်သည် အနှစ်တစ်ထောင်လုံးလုံး အုပ်ချုပ်စဉ်အတွင်း၊ မာရ်နတ်နှင့် သူ၏နတ်ဆိုးတို့ကို အပြီးတိုင် နှိမ်နင်းပစ်လိမ့်မည် ဖြစ်သည်။

ယေရှုခရစ်တော်သည် ၁၉၁၄ ခုနှစ်မှစ၍ ကောင်းကင်နိုင်ငံနှင့် ကမ္ဘာကြီးတို့ကို ကောင်းကင်မှနေ၍ အုပ်စိုးနေပြီဖြစ်၏။ သို့သော် ကျမ်းဂန်များတွင် လာရှိသည့်အတိုင်း ခရစ်တော်သည် ဘုရားသခင် နိုင်ငံကို တည်ထောင်ရန် လာသည်ကို မည်သူမျှ မတွေ့မြင်သေး ကြောင်း ပြောဆိုကြမည် ဖြစ်သော်လည်း ခရစ်တော်ကား လောက ကြီးကို အုပ်ချုပ်နေပြီဖြစ်သည်၊ ခရစ်တော် ဒုတိယအကြိမ် ဆင်းလာ သည်ကို လူသားတို့၏ သာမန်မျက်စိဖြင့် မြင်တွေ့ရမည် မဟုတ်သော ကြောင့် မမြင်နိုင်ခြင်း ဖြစ်သည်။

ခရစ်တော် ထမြောက်ပြီးနောက် တပည့်တော်ကြီးများ ကြည့်ရှု နေစဉ်မှာပင် ကောင်းကင်ဘုံသို့ တက်ရောက် ပျောက်ကွယ်သွားခဲ့၏။ ထိုစဉ် အဝတ်ဖြူ ဝတ်ထားသော လူနှစ်ယောက်က ခရစ်တော်သည် ကောင်းကင်ဘုံသို့ တက်သွားသကဲ့သို့ပင် ဒုတိယအကြိမ် ပြန်လာမည် ဆိုခဲ့ရာ ကောင်းကင်ဘုံသို့ တက်သွားသောအခါ မမြင်ရတော့ဘဲ တက်သွားနိုင်သလိုပင် ပြန်လည် ဆင်းသက်လာသော အခါတွင်လည်း

လူသားမျက်စိဖြင့် မြင်ရမည် မဟုတ်ဟု ဆိုသည်။ ကောင်းကင်တမန် နှစ်ဦး၏ ဆိုလိုရင်းကား ယေရှုခရစ်တော်သည် ပြန်လာသောအခါ တက်သွားသည့် ခန္ဓာကိုယ်ဖြင့်ပင် ဆင်းလာမည် မဟုတ်ဟု ဆိုလို သည်။

ခရစ်တော်သည် ပြန်လည်ထမြောက်သွားသောအခါ ဝိညာဉ် ကိုယ် ဝိညာဉ်ဘဝဖြင့်သာ ထမြောက်သွား၏။ ထို့ကြောင့် ခရစ်တော် သည် ဝိညာဉ်ပုဂ္ဂိုလ် ဖြစ်သည်။ ဝိညာဉ်ပုဂ္ဂိုလ်ကို လူသားမျက်စိဖြင့် မမြင်တွေ့နိုင်။ သို့သော် ရုပ်ခန္ဓာကိုယ်ကို ဖန်ဆင်းနိုင်သဖြင့် လူသား များကို တွေ့မြင်စေလိုလျှင် ရုပ်ခန္ဓာကိုယ်ဖြင့် ပြသနိုင်၏။ ဤသို့ဖြင့် ယေရှုခရစ်တော်သည် ကောင်းကင်ဘုံမှ ပြန်လာခြင်းသည် ဝိညာဉ် ပုဂ္ဂိုလ် အဖြစ်သာ လာရောက်ခြင်းဖြစ်၍ လူသားတို့၏ သဘာဝ မျက်စိဖြင့် မြင်နိုင်စွမ်း မရှိချေ။

၁၉၁၄ ခုနှစ်မှစ၍ ခရစ်တော်သည် ဘုရားသခင် နိုင်ငံကို စိုးမိုးလျက် ရှိပြီဖြစ်၍ ထိုအချိန်မှစ၍ စနစ်ဟောင်းတို့သည် ချုပ် ငြိမ်းရန် အစပြုခဲ့ပြီဖြစ်သည်။ ခရစ်တော်သည် ရုပ်ဝတ္ထု မဟုတ်သော ရာဇပလ္လင်တွင်ထိုင်လျက် ကျက်သရေဖြင့် စံပယ်နေပြီဖြစ်၏။ ဝိညာဉ် ပုဂ္ဂိုလ်ဖြစ်၍ ဂျေရုစလင်မြို့၌ လည်းကောင်း၊ ကမ္ဘာပေါ်ရှိ အခြား တစ်နေရာတွင် လည်းကောင်း စိုးစံရန်မလိုဘဲ ကောင်းကင်ဘုံတွင် စိုးစံနေထိုင်နိုင်သည်။

ခရစ်တော် အနှစ်တစ်ထောင်ပတ်လုံး အုပ်စိုးစဉ် အတွင်း ကောင်းကင်ဘုံနှင့် ကမ္ဘာမြေကြီးရှိ စာတန်မာရ်နတ်နှင့် သူ၏ နတ်ဆိုး တို့ကို အားလုံး သုတ်သင် ရှင်းလင်း ပြီးသော အခါတွင်ကား

ကောင်းကင်ဘုံ အသစ်နှင့် ကမ္ဘာလောကကြီး အသစ်တို့ဖြင့် ပြန်လည် တည်ဆောက်ပေးလိမ့်မည်။ ဤကမ္ဘာလောကကြီး အသစ်တွင်သာလျှင် အသက်ရှင်နေသူနှင့် သေဆုံးပြီးသူ လူသားများကို ဘုရားသခင်က စီရင်ချက် ချပေးလိမ့်မည်။

ဘုရားသခင်သည် ဖြူစင်သော ပလ္လင်ထက်တွင် ထိုင်လျက် အထက်ကောင်းကင်ဘုံနှင့် မြေကြီးတို့သည် ဟင်းလင်းပွင့်ကာ သေဆုံး သွားခဲ့သူ အားလုံးတို့သည် ပလ္လင်ရှေ့တွင် မတ်တတ်ရပ် နေကြရ၏။ မှတ်တမ်းစာစောင် နှစ်ခုကိုလည်း ဖွင့်ထားရာ တစ်ခုမှာ ထာဝရ အသက် မှတ်တမ်း ဖြစ်သည်။ သေဆုံးသူများအား မှတ်တမ်းတွင် ရေးမှတ် ပါရှိသော သူတို့၏ အပြုအမူ အကျင့်အတိုင်း စီရင်ချက်ကို ချမှတ်သည်။ ပင်လယ်သမုဒ္ဒရာသည် ယင်းထံ၌ ရေနစ်သေဆုံးသူများကို ပို့ဆောင်ပေးသကဲ့သို့ မရဏာဘုံသည်လည်း ယင်းဘုံ၌ သေဆုံးနေသူ များကို လွှတ်ပေးသည်။ စီရင်ချက်ကို တစ်ဦးချင်းအလိုက် စီရင်သည်။

ပလ္လင်ပေါ်တွင် ထိုင်နေသူကား ယေဟောဝါ ဘုရားသခင်ပင် ဖြစ်၏။ ခရစ်တော်ဘုရင်အဖြစ် စိုးစံသော အနှစ်တစ်ထောင်အတွင်း ထာဝရဘုရားသခင် ကိုယ်တိုင် တရားစီရင်ခြင်း မပြုဘဲ ယေရှုခရစ်တော်မှ တစ်ဆင့်သာလျှင် ဆောင်ရွက်သည်။ ထာဝရ ဘုရားသခင်ကား လုံးဝ ပါဝင် ဆုံးဖြတ်ပေးခြင်း မရှိ။ တရားဆုံးဖြတ်ခွင့် အာဏာများကို သားတော်အား ပေးအပ်ထားသည့် အကြောင်းကား သားတော်ယေရှုသည် လူသားတစ်ဦး ဖြစ်သောကြောင့် ဖြစ်သည်။ သင်္ချိုင်းဂူထဲတွင် ရှိနေသော သူများသည် ဘုရားသခင်၏ အသံကို ကြားရ၍ ထွက်လာကြကာ အဆုံးအဖြတ်ကို ခံကြရသည်။ ကောင်းမှုကုသိုလ်များကိုသာ ပြုလုပ်ခဲ့သူ

များသည် ထာဝရအသက်ဖြင့် ထမြောက်လာကြရလိမ့်မည်။ မကောင်းမှု ပြုလုပ်သူတို့ကား စီရင်ချက်ကို ခံယူရန် ရှင်သန်လာကြရလိမ့်မည်။

စီရင်ချက်ကို ခံယူရန် ပလ္လင်တော်ရှေ့၌ မတ်တတ်ရပ်လာကြသူများထဲတွင် ၁၄၄,၀၀၀ ယောက်သော ခရစ်တော်၏ အသင်းတော်သားများ မပါဝင်တော့ပေ။ ထိုသူများကား ပထမဦးဆုံး အကြိမ် ထမြောက်ရာတွင် ပါဝင်ကြရသူများ ဖြစ်လာကြရတော့သည်။ ထိုသူများသည် ထာဝရဘုရားသခင်နှင့် ခရစ်တော်၏ တရားဟောဆရာများအဖြစ် ဆောင်ရွက်ကြရ၍ နှစ်ပေါင်းတစ်ထောင်တိုင်အောင် ဘုရင်များအဖြစ် အုပ်စိုးကြရမည့်သူများ ဖြစ်သည်။

ထိုသူများသည် ပထမအကြိမ် ရှင်သန် ထမြောက်စဉ် ကပင် ဝိညာဉ်ပုဂ္ဂိုလ်များအဖြစ် ကောင်းကင်ဘုံတွင် အသက်ရှင် နေထိုင်ကြရပြီဖြစ်၍ ကျန်လူသားများလို ဘုရားသခင်၏ ပလ္လင်၌ တရားစီရင်ရာတွင် မပါဝင်ကြရတော့ခြင်း ဖြစ်သည်။ တရားစီရင် ဆုံးဖြတ်ခွင့် အာဏာကိုပင်ပေးထားခြင်း ခံရသဖြင့် ကောင်းကင်ဘုံ ပလ္လင်များတွင် နေထိုင်ကြရခြင်းဖြစ်သည်။ လူသားများကို တရားဆုံးဖြတ်ရာတွင် ခရစ်တော်နှင့် အတူတကွ တရားသူကြီး အဖွဲ့ဝင်များအဖြစ် ပါဝင် ဆောင်ရွက်ရခြင်း ဖြစ်သည်။ သက်တမ်းမှာလည်း နှစ်ပေါင်းတစ်ထောင် အချိန်ကာလအထိပင် ဖြစ်သည်။ ထို့ကြောင့် ကောင်းကင်ဘုံသစ်တွင် လူသားများတို့ တရားစီရင်သော အချိန်ကာလသည်လည်း နှစ်ပေါင်း တစ်ထောင်ပင် ကြာလိမ့်မည် ဖြစ်သည်။

၁၄၄,၀၀၀ ကုန်သော တရားသူကြီး အဖွဲ့ဝင်တို့သည် ကောင်းကင်ဘုံ တရားသူကြီးများအဖြစ် အရည်အချင်း ပြည့်ဝစေရန် ကြိုးစား

ကြသေးသည်။ ခရစ်နှစ် ၃၃ ခု ပင်တေကုပွဲနေ့မှစ၍ သေလွန်သည် အထိကြိုးစားကြရသည်။ ခရစ်တော်၏ အသင်းတော်သားများ အဖြစ် အလုပ် လုပ်ကြရသည်။ သေဆုံးကြသောအခါ နောက်ဆုံး စီရင်ချက်ကို ခံကြရပြီး ပထမအကြိမ် ထမြောက်သည် အထိ မှတ်တမ်းတင်ခြင်း ခံကြရသည်။

ခရစ်တော် အနှစ်တစ်ထောင် အုပ်စိုးစဉ်ကာလအတွင်း မိမိ ကိုယ်ကို ကြိုးစား၍ သန့်ရှင်းစင်ကြယ်မှုကို ရရှိလာသူများအဖို့ကား မိမိ၏ အနာဂတ် အဆုံးအဖြတ်ပေးရန်မှာ ထိုသူများကို အစမ်းသပ် ခံစေရန်ပင် ဖြစ်သည်။ အနှစ်တစ်ထောင် စေ့သောအခါ ဖမ်းဆီး ချည်နှောင်ထားခြင်း ခံနေရသော စာတန်မာရ်နတ်နှင့် သူတို့နတ်ဆိုး တို့မှာ လွတ်မြောက်လာကြလိမ့်မည်။ မာရ်နတ်သည် ကမ္ဘာအရပ်ရပ် သို့ လှည့်လည်ကာ စစ်ပြင်ဆင်နိုင်ရန် စည်းရုံးမှုကို ပြုလုပ်လိမ့်မည်။ ဘုရားကို ယုံကြည် လက်ခံသူများအား ဝိုင်းဝန်း ပိတ်ဆို့လိမ့်မည်။ သို့သော် ကောင်းကင်ဘုံမှ ထိုနေရာတွင် မီးတောက်မီးလျှံများ ကျရောက် လာကာ ထိုသူများကို ဝါးမျိုပစ်လိမ့်မည်။ မာရ်နတ်လည်း မီးကန် ထဲသို့ ပစ်ချလိမ့်မည်။ ထိုနေရာတွင် နေ့ရောညပါ အစဉ်သဖြင့် နှိပ်စက် ညှဉ်းပန်းမှုကို ခံကြရသည်။ မီးကန်ထဲ၌ သေခြင်းမျိုးကား ဒုတိယ သေခြင်းမျိုး ဖြစ်သည်။

နှစ်ပေါင်း တစ်ထောင် စေ့သောအခါ ယေရှုခရစ်တော်သည် ဘုရားသခင် နိုင်ငံတော်ကို မြေကြီးပေါ်ရှိ လူသားတို့နှင့်အတူ ယေ ဟောဝါဘုရားထံသို့ အပ်နှံလိမ့်မည်။ အာဒမ် ကျူးလွန်ခဲ့သော အပြစ်မှ လွတ်မြောက်လာကြသည့် လူသားများကို သွေးဆောင် စမ်းသပ်ရန်

မာရ်နတ်နှင့် သူတို့၏ နတ်ဆိုးတို့အား လွှတ်ပေးလိမ့်မည်။ မာရ်နတ်သွေးဆောင်မှုသို့ လိုက်ပါသွားသူများမှာ ပင်လယ်ထဲရှိ သဲလုံးအမျှရှိ၍ ဘုရားသခင်ကို လက်ခံ ယုံကြည်သူများကို ဆန့်ကျင်ကြလိမ့်မည်။ ထိုသူများမှာ ဒုတိယအကြိမ် သေခြင်းမျိုးဖြင့် သေဆုံးကြလိမ့်မည် ဖြစ်သည်။ ဘုရားသခင်သည် လူဆိုးနှင့် လူကောင်းတို့ကို ခွဲခြားပေလိမ့်မည်။ သိုးထိန်းသည် သိုးအုပ်နှင့် ဆိတ်အုပ်ကို ခွဲခြားသကဲ့သို့ သိုးတည်း ဟူသော လူကောင်းများကို ဘုရားသခင်၏ လက်ထက်၌ နေစေလျက် ဆိတ်တည်းဟူသော လူဆိုးတို့ကို လက်ဝဲဘက်၌ ထားရှိကာ စီရင်ချက် ပေးလိမ့်မည်ဖြစ်သည်။

ကောင်းကင်ဘုံ အသစ်နှင့် ကမ္ဘာမြေကြီး အသစ်တို့တွင် ထာဝရ သုခကို ခံစားကြရမည်။ ထိုလောကအသစ်သည် ကမ္ဘာအသစ်တစ်ခုကား မဟုတ်။ ဤကမ္ဘာမြေကြီး၌ပင်လျှင် ကယ်တင်ခြင်းကို ခံကြရသော လူသားတို့သည် ဖြောင့်မတ်မှန်ကန်သော လူ့အဖွဲ့အစည်း၌ နေထိုင်ကြရမည် ဖြစ်သည်။

တောတွင်း၌ နေထိုင်ကြသော သားရဲ တိရစ္ဆာန်တို့သည်လည်း ယဉ်ကျေးလာ၍ ကမ္ဘာဦးခေတ်အခါကဲ့သို့ပင် လူသား၏ မိတ်ဆွေများ အဖြစ် နေထိုင်ကြရလိမ့်မည်။ လူသားတို့၌ ရှိနေသော တိရစ္ဆာန်ကဲ့သို့ ရက်စက်ယုတ်မာသည့် စိတ်ထားတို့ သည်လည်း ပျောက်ကွယ်ကာ လူဆန်သော ဘုရားသခင်၏ အရည်အချင်းများကို ရရှိလာလိမ့်မည်။ ဝံပုလွေနှင့် သိုးငယ်သည် လည်းကောင်း၊ ခြင်္သေ့မင်းနှင့် ကျွဲနွားတို့သည်လည်းကောင်း အတူတကွပင် မြက်၊ သစ်ခြောက်တို့ကို စားကြလိမ့်မည်။ ကမ္ဘာကြီးသည်လည်း စစ်မက်ရေးရာတို့မှ ကင်းလွတ်လိမ့်မည်။ ကုလသမဂ္ဂကဲ့သို့ အသင်းအဖွဲ့များပင် မလိုအပ်တော့ပေ။

ကမ္ဘာလောက တစ်ခုလုံးသည် ယေရှုခရစ်တော်၏ အုပ်စိုးမှု လက်အောက်တွင် အလွန်ပင် သာယာဝပြော၍ ထာဝရဘုရားသခင်ကို ရှိသေလိုက်နာကြသော ပရဒိသုခဘုံအဖြစ် ရောက်ရှိသွားလိမ့်မည်။ မိမိတို့၏ နာမည်များကို ထာဝရအသက်စာရင်းစာအုပ်၌ ပါရှိသူများ သည် ပရဒိသုခဘုံ၌ ထာဝရ အသက်ရှင်ကြသော ခရစ်တော်မှတစ် ဆင့် ထာဝရဘုရားသခင်ကို ချီးကျူး၍ ခံစားကြရလိမ့်မည် ဖြစ်လေ သည်။

## သမ္မာကျမ်းစာ

သမ္မာကျမ်းစာတို့ကား ခရစ်ယာန် ဘာသာ၏ ကျမ်းများပင် ဖြစ်သည်။ သမ္မာကျမ်းဆိုသည်ကား ထာဝရဘုရားသခင်၏ စကားများပင် ဖြစ်၏။ ပရောဖက်များစွာတို့မှတစ်ဆင့် ထာဝရ ဘုရားသခင်သည် မိမိပြောဆိုလိုသော စကားများကို လူသားများသို့ ပြောကြားခဲ့သည်။ သမ္မာကျမ်းစာ အများစုကို ရေးသားခဲ့ကြသူများမှာ ဂျူးလူမျိုးများပင် ဖြစ်သည်။ ဓမ္မဟောင်း ကျမ်းများကား ဂျူးလူမျိုးတို့၏ ဘာသာရေး ကျမ်းများသာ မကသေးဘဲ ယင်းတို့၏ သမိုင်းကျမ်းများအဖြစ်လည်း အသိအမှတ် ပြုကြသည်။

သမ္မာကျမ်းစာအုပ်များမှာ ကက်သလစ်တို့ အလိုအရ ၇၂ အုပ် ရှိ၍ ပရိုတက်စတင့်တို့အရ ၆၆ အုပ် ရှိသည်။ ထိုသို့ ကွဲပြားရခြင်းကား ပရိုတက်စတင့်ဂိုဏ်းကို စတင် တည်ထောင်ခဲ့သူ ခရစ်ယာန် ဘုန်း တော်ကြီး မာတင်လူသာသည် သမ္မာကျမ်းများကို ဂျာမန်ဘာသာသို့

စတင် ဘာသာပြန်ဆိုရာတွင် ကျမ်းစာအုပ် ၇ အုပ်[၁]ကို သမ္မာကျမ်းစာ အဆင့်အတန်း မမီဟုဆိုကာ သမ္မာကျမ်းစာရင်းတွင် မသွင်းဘဲ သီးခြား ဖော်ပြခဲ့သည်ဟု ဆိုသည်။ ယခုလက်ရှိ သမ္မာကျမ်း ၆၆ အုပ်တို့ကား အောက်ပါတို့ ဖြစ်သည်။

### ဓမ္မဟောင်းကျမ်း ၃၉ ကျမ်း

၁။ ကမ္ဘာဦးကျမ်း
၂။ ထွက်မြောက်ရာကျမ်း
၃။ ဝတ်ပြုရာကျမ်း
၄။ တောလည်ရာကျမ်း
၅။ တရားဟောရာကျမ်း
၆။ ယောရှုမှတ်စာ
၇။ တရားသူကြီးမှတ်စာ
၈။ ရုသဝတ္ထု
၉။ ဓမ္မရာဇဝင် ပထမစာစောင်
၁၀။ ဓမ္မရာဇဝင် ဒုတိယစာစောင်
၁၁။ ဓမ္မရာဇဝင် တတိယစာစောင်
၁၂။ ဓမ္မရာဇဝင် စတုတ္ထစာစောင်
၁၃။ ရာဇဝင်ချုပ် ပထမစာစောင်

---

၁။ Tobit. Judith Wisdom. Baruch Ecelesiasticus 1 and 2 maehabees

* The Proverbs

၁၄။ ရာဇဝင်ချုပ် ဒုတိယစာစောင်

၁၅။ ဧဇရမှတ်စာ

၁၆။ နေဟာမိမှတ်စာ

၁၇။ ဧသတာဝတ္ထု

၁၈။ ယောဘဝတ္ထု

၁၉။ ဆာလံကျမ်း

၂၀။ သုခမိန်ကျမ်း

၂၁။ ဒေသနာကျမ်း

၂၂။ ရှောလမုန်သီချင်း

၂၃။ ဟေရှာယအနာဂတ္တိကျမ်း

၂၄။ ယေရမိအနာဝတ္တိကျမ်း

၂၅။ ယေရမိမြည်တမ်းစကား

၂၆။ ယေဇကျေလ အနာဂတ္တိကျမ်း

၂၇။ ဒံယေလ အနာဂတ္တိကျမ်း

၂၈။ ဟောရှေ အနာဂတ္တိကျမ်း

၂၉။ ယောလ အနာဂတ္တိကျမ်း

၃၀။ အာမုတ် အနာဂတ္တိကျမ်း

၃၁။ သြဗဒိ အနာဂတ္တိကျမ်း

၃၂။ ယောနဝတ္ထု

၃၃။ မိက္ခာအနာဂတ္တိကျမ်း

၃၄။ နာဟုံအနာဂတ္တိကျမ်း

၃၅။ ဟဗက္ကုတ်အနာဂတ္တိကျမ်း

၃၆။ ဇေဖနိအနာဂတ္တိကျမ်း
၃၇။ ဟဂ္ဂံအနာဂတ္တိကျမ်း
၃၈။ ဇာခရိအနာဂတ္တိကျမ်း
၃၉။ မာလခိအနာဂတ္တိကျမ်း

## ဓမ္မသစ်ကျမ်း ၂၇ ကျမ်း

၁။ ရှင်မဿဲခရစ်ဝင်
၂။ ရှင်မာကုခရစ်ဝင်
၃။ ရှင်လုကာခရစ်ဝင်
၄။ ရှင်ယောဟန်ခရစ်ဝင်
၅။ တမန်တော်ဝတ္ထု
၆။ ရောမသြဝါဒစာ
၇။ ကောရိန္သုသြဝါဒစာ ပထမစောင်
၈။ ကောရိန္သုသြဝါဒစာ ဒုတိယစောင်
၉။ ဂလာတိသြဝါဒစာ
၁၀။ ဧဖက်သြဝါဒစာ
၁၁။ ဖိလိပ္ပိသြဝါဒစာ
၁၂။ ကောလောသဲသြဝါဒစာ
၁၃။ သက်သာလောနိတ်သြဝါဒစာ ပထမစောင်
၁၄။ သက်သာလောနိတ်သြဝါဒစာ ဒုတိယစောင်
၁၅။ တိမောသေသြဝါဒစာ ပထမစောင်
၁၆။ တိမောသေသြဝါဒစာ ဒုတိယစောင်

၁၇။ တိကုသြဝါဒစာ
၁၈။ ဖီလေမုန် သြဝါဒစာ
၁၉။ ဟေဗြဲသြဝါဒစာ
၂၀။ ရှင်ယာကုပ်သြဝါဒစာ
၂၁။ ရှင်ပေတရု သြဝါဒစာ ပထမစောင်
၂၂။ ရှင်ပေတရု သြဝါဒစာ ဒုတိယစောင်
၂၃။ ရှင်ယောဟန် သြဝါဒစာ ပထမစောင်
၂၄။ ရှင်ယောဟန် သြဝါဒစာ ဒုတိယစောင်
၂၅။ ရှင်ယောဟန် သြဝါဒစာ တတိယစောင်
၂၆။ ရှင်ယုဒ သြဝါဒစာ
၂၇။ ဗျာဒိတ်ကျမ်း

ဓမ္မဟောင်းကျမ်းများမှာ ခရစ်တော် မပေါ်မီ အချိန်က ရေးသားခဲ့သော ကျမ်းများ ဖြစ်သည်။ ပထမဦးဆုံး ကျမ်း ၅ ကျမ်းကို မောရှေသည် ဘီစီ ၁၆ရာစုနှင့် ၁၅ ရာစုအတွင်း ရေးသားခဲ့သည်။ ကမ္ဘာဦးကျမ်းသည် ကမ္ဘာကြီးကို ဘုရားသခင် ဖန်ဆင်းသည့် အချိန်မှ စ၍ လူသားတို့ အခြေအနေကို ရေးသားထားသော ကျမ်းဖြစ်သည်။

ထွက်မြောက်ရာကျမ်းသည် အီဂျစ်ပြည်မှ အစ္စရေးလူမျိုးများ လွတ်မြောက်ခဲ့ပုံ အကြောင်းတို့ ရေးသားသောကျမ်းဖြစ်၍ ဝတ်ပြုရာကျမ်း၊ တောလည်ရာကျမ်း၊ တရားဟောရာကျမ်းတို့သည် အစ္စရေးလူမျိုးများ အီဂျစ်ပြည်မှ လွတ်မြောက်၍ မါလက်စတိုင်း ဒေသတွင် ဝင်ရောက်ခြင်း မပြုမီ ထာဝရဘုရားသခင်နှင့် တွေ့ကြုံ၍ ပညတ်တော် ဆယ်ပါး အပါအဝင် ဥပဒေများကို လက်ခံရရှိပုံများကို ဖော်ပြထားသည်။

## စာပေဟောင်းလေးအိုးကြီး

ယောရှ မှတ်စာကျမ်းမှစ၍ ရာဇဝင်ချုပ် စာစောင်ကျမ်းအထိ ကျမ်းများတို့သည်ကား ပါလက်စတိုင်းသို့ အစ္စရေးများ ဝင်ရောက်၍ အစ္စရေးတို့သည် တရားသူကြီးစနစ်ဖြင့် အုပ်ချုပ်ပုံ၊ ဘုရင်စနစ်ဖြင့် အုပ်ချုပ်ပုံ စသည်တို့ကို ဖော်ပြထားသည်။ ကျန်ကျမ်းများအနက် အများစုမှာ ကယ်တင်ရှင် ပေါ်ပေါက်မည့်အကြောင်း ဟောကြားသော ပရောဖက်တို့၏ အမြင်ကျမ်းများ ဖြစ်သည်။

ဓမ္မသစ်ကျမ်းများကို ခရစ်နှစ် ပထမရာစုအတွင်း ရေးသား ခဲ့ကြသည်။ ပထမလေးအုပ် ဖြစ်သော ရှင်မဿဲ၊ ရှင်မာကု၊ ရှင်လုကာနှင့် ရှင်ယောဟန် ခရစ်ဝင်ကျမ်းတို့သည် ယေရှုခရစ်တော်၏ အတ္ထုပ္ပတ္တိကျမ်းများ ဖြစ်သည်။ ဓမ္မသစ်ကျမ်းများကို ခရစ်တော်၏ တပည့်တော်ကြီးများက သော်လည်းကောင်း၊ ထိုတပည့်တော်ကြီးများ၏ လက်အောက်တွင် လုပ်ကိုင်ခဲ့သူများကသော်လည်းကောင်း ရေးသားခဲ့ကြသည်။

တပည့်တော်ကြီး ရှင်ပေတရု ရေးသော ကျမ်း ၂ ကျမ်း၊ တပည့်တော်ကြီး ရှင်ယောဟန် ရေးသော ကျမ်း ၅ ကျမ်း၊ ခရစ်တော်၏ ညီ ၂ ဦးတို့က တစ်ကျမ်းစီ ရေးသားကြပြီး ရှင်ပေါလု တစ်ဦးတည်းက ရေးသားသော ကျမ်းပေါင်း ၁၄ ကျမ်း ရှိလေသည်။

## ဂိုဏ်းကွဲခြင်း

တပည့်တော်ကြီး ၁၂ ဦးတို့အနက် ရှိမုန်သည် ယေရှုသခင်ကို ခရစ်တော်ဖြစ်ကြောင်း ဦးစွာ သိမြင်ခဲ့သူ ဖြစ်သည်၊ ယေရှုက ရှိမုန်ကို ပေတရု အမည်သို့ ပြောင်းစေကာ တပည့်တော်ကြီးများ အနက်

အကြီးအမှူး အရာကို ပေးသည်၊ ပေတရုသည် ခရစ်တော်ကို ငြင်းပယ်ခဲ့သူပင် ဖြစ်သော်လည်း အခြား တပည့်တော်ကြီးများကို အုပ်ချုပ်မည့်သူအဖြစ် ခန့်အပ်ခဲ့သည်။

ယေရှုခရစ်တော်၏ နောက်ဆုံး ညစာစားပွဲတွင် တပည့်တော်ကြီးများအား ခရစ်ယာန်ဘာသာ ပြန့်ပွားရေးကို ဆောင်ရွက်စေရန်အတွက် ဂိုဏ်းအုပ်များ[၁] အဖြစ် သိက္ခာတင်ပေးခဲ့သည်။ ခရစ်တော် ကောင်းကင်ဘုံသို့ တက်သွားပြီးနောက် ၉ ရက်မျှ ဂျေရုစလင်မြို့တွင် နေထိုင်ကြပြီး တပည့်တော်တို့သည် ခရစ်ယာန်ဘာသာ သာသနာပြုရန် ထွက်သွားကြသည်။

တပည့်တော်ကြီး ပေတရုသည်လည်း ရောမမြို့သို့ သွားရောက်၍ ရောမမြို့၏ ပထမဦးဆုံးသော ဂိုဏ်းအုပ်အဖြစ်ဖြင့် သာသနာပြုလေသည်။ ခရစ်သက္ကရာဇ် ၆၄ သို့မဟုတ် ၆၇ ခုနှစ်တွင် နီရိုးဘုရင်လက်ထက် ရှင်ပေတရုမှာ ကွပ်မျက်ခြင်းကို ခံလိုက်ရသည်။ ထိုအချိန်တွင် ခရစ်ယာန်ဘာသာကို အခြားဘာသာများကဲ့သို့ တရားဝင် ကိုးကွယ်ခွင့် မရရှိသေး။

ရှင်ပေတရု၏နေရာကို ပထမဦးဆုံး ဆက်ခံသောသူမှာ လိနုပ်[၂] ဖြစ်ပြီး ဒုတိယမြောက် ဆက်ခံသူ ကလီတပ်[၃] ဖြစ်သည်။ ကလီတပ်ကို တသမန်[၄] က ဆက်ခံသွားသည်။ ရောမအင်ပါယာ၏ ဗဟိုအချက်အချာ ရုံးစိုက်ရာတွင် ရောမမြို့ဖြစ်၍ ခရစ်ယာန်ဘာသာ ဌာနချုပ်သည်လည်း ရောမမြို့ပင် ဖြစ်သည်။ ခရစ်တော်ကပင် တပည့်တော်ကြီးများအနက်

---

| | |
|---|---|
| ၁။ Bishop | ၃။ Cletus |
| ၂။ Linus | ၄။ Clement |

အကြီးအမှူး ခေါင်းဆောင်အဖြစ် သတ်မှတ်ခံခဲ့ရသော ရှင်ပေတာရမှာ အုပ်ချုပ်ရေး အချက်အချာ ရောမဂိုဏ်းအုပ်အဖြစ် ဆောင်ရွက်ရလေရာ ခရစ်ယာန်ဘာသာတစ်ခုလုံး၏ အကြီးအကဲ ပုတ်[၁] ခေါ် ရဟန်းမင်းကြီး အဖြစ် ရောက်ရှိသွားသည်။ ပုဓ်ရဟန်းမင်းကြီး အဖြစ် ဆောင်ရွက် ရသည်။ ရှင်ပေတရ လက်ထက်မှစ၍ ရဟန်းမင်းကြီး အဆက်ဆက်ဖြင့် အုပ်ချုပ်လာခဲ့ရာ ယခုအခါ ၂၆၃ ဦးပင် ရှိလေပြီ။

ခရစ်နှစ် ၃၁၃ ခုနှစ်အထိ ရောမအင်ပါယာတွင် ခရစ်ယာန်ဘာသာသည် တရားဝင် အသိအမှတ် ပြုထားသော ဘာသာ မဟုတ်၍ ခရစ်ယာန်ဘာသာ ကိုးကွယ်သူနှင့် ဟောပြောသူတို့မှာ နှိပ်စက်ခြင်းကို ခံကြရသည်။ ရှင်ပေါလုသည်လည်း ကွပ်မျက်ခံရ သည်။ ၃၁၃ ခုနှစ်ကျမှ အခြားဘာသာများနှင့် တန်းတူ အခွင့်အရေးကို ရရှိခဲ့ပြီး ၃၈၀ ခုနှစ်သို့ ရောက်သောအခါမှုကား ရောမအင်ပါယာ၏ နိုင်ငံတော် ဘာသာအဖြစ် အသိအမှတ်ပြုခြင်းကို ခံရလေသည်။

ပုပ်ရဟန်းမင်းကြီးသည် ယခုအခါ ကက်သလစ်ဂိုဏ်း၏ အကြီး ဆုံး အမြင့်ဆုံးသော အာဏာပိုင်ပုဂ္ဂိုလ် ဖြစ်သည်။ ကက်သလစ်တို့၏ အလိုအရ ခရစ်တော်သည် ခရစ်ယာန် အသင်းတော်၏ အကြီးဆုံး ဖြစ်သည်။ ခရစ်တော်ကား မမြင်ရသော အကြီးအမှူး ပုဂ္ဂိုလ် ဖြစ်၏။ ရဟန်းမင်းကြီးကား မြင်သာသော အကြီးအမှူး ဖြစ်၏။ ခရစ်တော်၏ လက်ထောက် ပုဂ္ဂိုလ် ဖြစ်၏။ ကမ္ဘာလောကကြီးဆိုင်ရာ ခရစ်တော်၏ ကိုယ်စားလှယ် ဖြစ်သည်။ ရဟန်းမင်းကြီးတို့သည် ခရစ်ယာန်ဘာသာ ယုံကြည်မှုရေးရာနှင့် ဝိနည်းစည်းကမ်းရေးရာတို့ကို စီရင်ဆုံးဖြတ်သော

---

၁။ Pope = Pa Pa = Father

အခါတွင် မမှားနိုင်ချေ။ ဤကိစ္စများနှင့် ပတ်သက်၍ ရဟန်းမင်းကြီး၏ အဆုံးအဖြတ်ကို ကက်သလစ်အားလုံးက မလွဲမသွေ လိုက်နာရသည်။ အခြားကိစ္စများတွင် ရဟန်းမင်းကြီးတို့၏ အယူအဆများ အမှား ပါရှိနိုင်သော်လည်း ဤကိစ္စများကို ဆုံးဖြတ်ရာတွင်ကား ဘုရားသခင်၏ သန့်ရှင်းသော ဝိညာဉ်တော် တန်ခိုးကြောင့် မမှားနိုင်ချေ။

ကက်သလစ်ဘာသာ စည်းရုံးရေးနယ်မြေ တစ်ခုကို ဒိုင်အိုစီ[၁] ဟုခေါ်၍ ထိုနယ်မြေကို ဂိုဏ်းအုပ် တစ်ဦးကျ အုပ်ချုပ်ကာ စီမံခန့်ခွဲသည်။ ဒိုင်အိုစီ နှစ်ခုသုံးခုကို ပေါင်းရုံးကာ ဂိုဏ်းချုပ်[၂] တစ်ဦးက အုပ်ချုပ်သည်။ ဒိုင်အိုစီ နယ်မြေတွင် ပါဝင်သော ခရစ်ယာန် ဘာသာဝင် များပြားလွန်းသဖြင့် ထပ်မံ၍ ဘုရားရှိခိုးကျောင်းအလိုက် Rarish ခေါ် နယ်မြေကလေးများကို ခွဲခြားထားသည်။ ထိုနယ်မြေကို တရားဟောဆရာ[၃] များက ကြီးကြပ်သည်။

ဂိုဏ်းအုပ်များသည် တပည့်တော်များကို ဆက်ခံသူများပင်ဖြစ်၍ ရဟန်းမင်းကြီးပြီးလျှင် ဂိုဏ်းအုပ်များပင် အမြင့်ဆုံး အဆင့်ဖြစ်တော့သည်။ သို့သော်လည်း ကာဒီနယ်များ အဖွဲ့[၄]က ယခုအခါ ဂိုဏ်းအုပ်များထက် အဆင့်မြင့်နေသည်။ မူလကတည်းကပင် ရဟန်းမင်းကြီးတို့တွင် ဂိုဏ်းအုပ်များကဲ့သို့ လက်ထောက်အရာရှိများ ထားရှိသည်။ ဂိုဏ်းအုပ်တို့၏ လက်ထောက်အရာရှိများ လုပ်ကိုင်ရသော အလုပ်မှာ ဒိုင်အိုစီ အတွင်းကိစ္စများသာ ဖြစ်သော်လည်း ရဟန်းမင်းကြီး၏ လက်ထောက်အရာရှိများကား ကက်သလစ်အသင်းတော်

၁။ Diocese ၂။ Archbishop ၃။ Priest
၄။ College of Cardinals

တစ်ခုလုံးနှင့် ဆိုင်သော လုပ်ငန်းများကို လုပ်ကိုင်ရသည်။ တဖြည်းဖြည်း တိုးတက်လာခဲ့ရာ ယခုအခါ ကာဒီနယ်များအဖွဲ့ အဆင့်သို့ ပြောင်းလဲရောက်ရှိခဲ့သည်။

ကာဒီနယ်များအဖွဲ့ကို ရဟန်းမင်းကြီး၏ ဝန်ကြီးအဖွဲ့ဟုပင် ဆိုနိုင်၏။ ကာဒီနယ် အဖွဲ့ဝင်များသည် သီးခြားဌာန တစ်ခုစီကို တာဝန်ယူ ကိုင်တွယ်ရသည်။ ရဟန်းမင်းကြီး၏ နိုင်ငံခြားရေးရာကို ကိုင်သော ဝန်ကြီး၏ ရာထူးအမည်ကို နိုင်ငံခြားရေး ဝန်ကြီး (ဝါ) နိုင်ငံခြားရေး အတွင်းဝန်[၁] ဟု ခေါ်တွင်သည်။

ကာဒီနယ်များအဖွဲ့၏ အရေးအကြီးဆုံးသော တာဝန်မှာ ရဟန်းမင်းကြီး၏ ရွေးကောက်ပွဲကို ကျင်းပပေးရခြင်း ဖြစ်သည်။ အရွေးခံရရှိရန်အတွက် စုစုပေါင်း မဲအရေအတွက်၏ သုံးပုံနှစ်ပုံနှင့် တစ်မဲရရှိရန် လိုအပ်သည်။

ရဟန်းမင်းကြီးသည် နိုင်ငံပေါင်း အတော်များများနှင့် သံတမန် ဆက်သွယ်ထားရှိသည်။

ခရစ်ယာန် အသင်းတော်ကို စတင် တည်ထောင်ခဲ့သည်မှ နှစ်ပေါင်း တစ်ထောင်အတွင်း ဂိုဏ်းဂဏ ကွဲပြားခြင်း မရှိချေ။ နတ်စတိုးရီယံ[၂] ကဲ့သို့သော အသေးစား ကွဲပြားမှုများကား ရှိခဲ့သည်။ နောက်ပိုင်းခေတ်တွင် ပင်မဂိုဏ်းကြီး သုံးဂိုဏ်းအဖြစ် ပေါ်ထွက်လာခဲ့သည်။ ပထမဦးဆုံး အကြိမ် ကွဲပြားခဲ့သည်ကား အေဒီ ၁၀၅၄ ခုတွင် ဖြစ်သည်။ အရှေ့ပိုင်း အိုသိုဒေါက်ခရစ်ယာန်အသင်း[၃] ဂိုဏ်းကြီးသည်

---

၁။ Secretary of State

၂။ Nestorian

၃။ Eastern Othodox Church

အနောက်တိုင်း ရိုမန် ကက်သလစ်ဂိုဏ်းမှ ခွဲထွက်သွားသည်။ အရှေ့တိုင်း ခရစ်ယာန်အသင်း၏ တည်ရာဌာနကား တူရကီနိုင်ငံ ကွန်စတင်တိုင်နိုပိုမြို့ (ယခု အီစတန်ဘူလ်မြို့) ဖြစ်သည်။ ဂိုဏ်းကွဲ ရသည့် အကြောင်းမှာ ပထဝီ အနေအထား၊ ယဉ်ကျေးမှု၊ ဘာသာစကား၊ နိုင်ငံရေး၊ ဘာသာရေး စသည်ဖြင့် ရှုပ်ထွေးနေသည်။

အရှေ့တိုင်း ခရစ်ယာန် အသင်းတော်၌ ပါဝင်သော အသင်းများမှာ အလ်ဘန်နီးယား၊ ဘူဂေးရီးယား၊ ဆိုဗီယက်၊ ဂရိ၊ ပိုလန်၊ ရူမေးနီးယား၊ ဆားဗီးယားနှင့် ဆိုင်းနိုင်း ဒေသရှိ အသင်းများ ဖြစ်သည်။

အနောက်ပိုင်း ရိုမန်ကက်သလစ်ဂိုဏ်းကြီးမှ တစ်ဖန် ဂိုဏ်းကြီး တစ်ခုကို ၁၆ ရာစုတွင် ခွဲထွက်၍ တည်ထောင်လာကြပြန်သည်။ ခရစ်ယာန်ဘာသာဝင်များက ကျူးလွန်ခဲ့သော အပြစ်များကို ခရစ်ယာန် အသင်းတော်က အပြစ်မှ လွတ်မြောက်ခြင်းပြုသည့် ကိစ္စနှင့် ပတ်သက်၍ ဂျာမန် ခရစ်ယာန် ဘုန်းတော်ကြီး မာတင်လူသာသည် ၁၅၁၇ ခုနှစ်တွင် ကက်သလစ်တို့၏ အယူအဆကို ဆန့်ကျင်ဟောပြောရာမှ ပရိုတက်စတင့်ဂိုဏ်းကြီး[၁]ကို ပေါက်ဖွားခဲ့သည်။

ပရိုတက်စတင့် ဂိုဏ်းတွင်လည်း ထပ်၍ ကွဲသွားကြပြန်ရာ ဂျာမနီနိုင်ငံရှိ မာတင်လူသာ တည်ထောင်သော ဂိုဏ်းကို လူသာရန် ဂိုဏ်း[၂] ဟူ၍လည်းကောင်း၊ ပြင်သစ်နိုင်ငံရှိ ဂိုဏ်းကို ကယ်ဗင်ဂိုဏ်း[၃] ဟူ၍လည်းကောင်း၊ အင်္ဂလန်ရှိ ဂိုဏ်းကို အင်ဂလီကန်ဂိုဏ်း[၄] ဟူ၍

၁။ Protestant
၂။ Lutheran
၃။ Calvinistic
၄။ Anglican

လည်းကောင်း၊ စကော့တလန်ရှိ ဂိုဏ်းကို ပရပ်ဘိတာရီနီယံဂိုဏ်း[၁] ဟူ၍ လည်းကောင်း၊ အမေရိကန်ရှိ ဂိုဏ်းကို ဘတ်တစ်ဂိုဏ်း[၂] ဟူ၍ လည်းကောင်း အသီးသီး ခေါ်တွင်ကြသည်။

အထက်ပါ ဂိုဏ်းအသီးသီးမှ တစ်ဖန် ထပ်ဆင့်၍ ကွဲသွားကြပြန်ရာ ဂိုဏ်းဂဏ များပြားလွန်းလှသဖြင့် အမေရိကန် ပြည်ထောင်စု တစ်နိုင်ငံတည်းတွင်ပင် ဂိုဏ်းပေါင်း ၂၅၅ ဂိုဏ်း ရှိသည်ဟု ဆိုသည်။

ရိုမန်ကက်သလစ်ဂိုဏ်းသည်ကား၊ ရဟန်းမင်းကြီး၏ လက်အောက်တွင် နောက်ထပ် ကွဲပြားခြင်းမရှိဘဲ နေခဲ့သည်။ အလယ်ခေတ်တွင် ရဟန်းမင်းကြီးပင်လျှင် နယ်မြေ အများအပြားကို ပိုင်ဆိုင်ထားခဲ့သည်။ ခရစ်နှစ် ၇၅၄ ခုနှစ် ရဟန်းမင်းကြီး ပေပင်[၄] လက်ထက်က စ၍ နယ်မြေများကို ပိုင်ဆိုင်ခဲ့ရာ အီတလီနိုင်ငံကို မြောက်ဘက်မှ အရိုင်းအစိုင်းများ ဝင်ရောက် တိုက်ခိုက်သောအခါ နယ်မြေများ ပိုမိုရရှိလာသည်။ ၁၈၇၀ ပြည့်နှစ်တွင် အီတလီနိုင်ငံ စည်းလုံးညီညွတ်လာသော အခါတွင် ရဟန်းမင်းကြီးပိုင် နယ်မြေများကို အီတလီအစိုးရက သိမ်းယူသွားတော့သဖြင့် အီတလီ အစိုးရနှင့် ရဟန်းမင်းကြီးတို့ မသင့်မတင့် ဖြစ်နေခဲ့ကြသည်။

၁၉၂၉ ခုနှစ်တွင်ကျမှ မူဆိုလီနီသည် ရောမမြို့တွင်းရှိ နေရာအချို့ကို ရဟန်းမင်းကြီးအား ပြန်ပေး၍ ပြေငြိမ်းခဲ့ကြသည်။ ရောမမြို့တွင်းရှိ ထိုနယ်မြေကို ဗက်တီကန်မြို့တော်[၅] အဖြစ် သတ်

---

၁။ Presbytenian ၂။ Baptist

၃။ The Relgions of Man ၄။ Pepin

၅။ Vatican City

မှတ်ကာ ရဟန်းမင်းကြီး၏ အချုပ်အခြာ အာဏာပိုင် နိုင်ငံတစ်ခု အဖြစ် သတ်မှတ်ပေးသည်။

ကက်သလစ်ဘာသာအတွက် လည်းကောင်း၊ ဗက်တီကန်မြို့တော် အတွက် လည်းကောင်း၊ ထူးခြားသောအချက်သည်ကား ၂၅ နှစ်ပြည့်တိုင်း ငွေရတုသဘင်ပွဲကို ကျင်းပကာ ခရစ်ယာန် ဘာသာဝင်များ ကျူးလွန် ခဲ့သည့် အပြစ်များကို အပြစ် လွတ်မြောက်ခွင့်ပေးသည့် အခွင့်အရေးပင် ဖြစ်သည်။

ငွေရတုသဘင်ပွဲ ကျင်းပသည့်နှစ် ခရစ္စမတ် အကြိုနေ့ည သန်းခေါင် မတိုင်မီအချိန်တွင် ရဟန်းမင်းကြီးသည် စိန်ပီတာ (ရှင်ပေတရု) ဘုရားရှိခိုးကျောင်းကြီး၏ ဆင်ဝင်အောက်ရှိ မြင့်မြတ်သော တံခါးပိတ် အုတ်တံတိုင်းကြီးကို ငွေတူဖြင့် ရိုက်ခွဲ၍ ဖွင့်လှစ်ပေးရမြဲ ဖြစ်၏။ ထိုအချိန်မှစ၍ ငွေရတုသဘင်ကို စတင် ကျင်းပကြသည်။

ဤပွဲသဘင်ကို ကက်သလစ် ဘာသာဝင်တို့သည် ခရစ်နှစ် ၁၃၀၀ ပြည့်နှစ်မှစ၍ ကျင်းပခဲ့ကြသည်။ ဥရောပတိုက် နေရာ အနှံ့အပြားမှ ကက်သလစ် ဘာသာဝင်တို့သည် ရောမမြို့တော်သို့ ရောက်လာကြကာ ရဟန်းမင်းကြီးများသာ ပေးပိုင်ခွင့်ရှိသော အပြစ်မှ လွတ်ငြိမ်းချမ်းသာ ခွင့်ကို ခံယူကြသည်။

ထိုလွတ်ငြိမ်းခွင့်ကို ရရှိမှသာလျှင် သေလွန်သောအခါ ဝိညာဉ် များသည် Purgatory ၌ မနေရတော့ဘဲ ကောင်းကင်ဘုံသို့ တိုက်ရိုက် ရောက်ရှိသွားနိုင်မည် ဖြစ်သည်။

၁၂၉၉ ခုနှစ် ကုန်ခါနီးလောက်တွင် ကောလဟာတစ်ခု ဖြစ်ပေါ် လျက် ရှိနေလေသည်။ ၁၃၀၀ ပြည့်နှစ်၌ ရောမမြို့တော်တွင် အပြစ်

လွှတ်ငြိမ်းခွင့် ပေးမည် ဆိုသော ကာလဟာလ ဖြစ်သည်။ ထိုအခွင့်အရေးကို ၁၀၉၅ ခုနှစ်နှင့် ၁၂၁၅ ခုနှစ်များက ပေးခဲ့သော်လည်း ကရူးဆိတ်စစ်ပွဲတွင် ပါဝင်ခဲ့သူများနှင့် တိုက်ပွဲကို ထောက်ခံသူများအတွက် ပေးခဲ့ခြင်း ဖြစ်၏။

ကာလဟာလ မည်သို့ပင် ပေါ်ပေါက်စေကာမူ ရဟန်းမင်းကြီး အဋ္ဌမမြောက် ဘိုနီဖေ့[၁]သည် ငွေရတုသဘင် အစီအစဉ်ကို လက်ခံ၍ ၁၄၀၀ ပြည့်နှစ်ကို မြင့်မြတ်သောနှစ် အဖြစ် တရားဝင် ကြေညာပေးရန် ဆုံးဖြတ်ခဲ့သည်။ နောက်တွင် နှစ်တစ်ရာပြည့်တိုင်း ထိုပွဲမျိုးကို ကျင်းပရန် ရည်ရွယ်သည်။

နောင်တွင် ရဟန်းမင်း တို့သည် နှစ်တစ်ရာမှ လျှော့ချပစ်လိုက်ရာ ၁၄၇၅ ခုနှစ်မှ စ၍ ၂၅နှစ် တစ်ကြိမ်ကျ ကျင်းပခဲ့သည်။ ကမ္ဘာအရပ်ရပ်မှ ဘုရားဖူးပေါင်းများစွာ ရောက်ရှိခဲ့ကြသည်။ ၁၉၅၀ ပြည့်နှစ်ပွဲတွင် ခရီးသည်ပေါင်း ၂ သန်းခွဲအထိ ရောက်ရှိခဲ့ရာ ယခု ၁၉၇၅ ခုနှစ်တွင် ၂ သန်းမှ ၆ သန်းအထိ လာရောက်ကြလိမ့်မည်ဟု ခန့်မှန်းထားကြသည်။

ယခုနှစ်ပွဲတော်ကို ၁၉၇၅ ခု၊ ခရစ်စမတ် အကြိုနေ့ညတွင် အပြီးသတ်လိမ့်မည် ဖြစ်သည်။ အစဉ်အလာအတိုင်း ရဟန်းမင်းကြီးသည် စိန်ပီတာ ဘုရားရှိခိုးကျောင်း၏ မြင့်မြတ်သော တံခါးကြီးကို ပိတ်ရန်အတွက် ပထမဆုံး အုတ်တစ်ချပ်ကို စတင်ပြီးနောက် ကာဒီနယ်များနှင့် အခြားပုဂ္ဂိုလ်များက တံခါးဝ ပိတ်ထားသည်အထိ အုတ်ချပ် တစ်ချပ်စီကို စီကြလိမ့်မည်။ ထိုပိတ်ထားသော တံခါးကို ခရစ်နှစ် ၂၀၀၀ပြည့်နှစ် အထူး မြင့်မြတ်သော ပွဲတော်ကြီးအတွက် ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာလ ၂၄ ရက်နေ့တွင်သာ ဖွင့်လှစ်လိမ့်မည် ဖြစ်လေသည်။

၁။ Poe Boniface VIII

## အစ္စလာမ်နှင့် အိမန်

အစ္စလာမ်ဟူသော စကားမှာ အာရဗီ ဘာသာစကား ဖြစ်၍ "နာခံခြင်း"ဟု အဓိပ္ပာယ်ရ၏၊ အလ္လာဟ်အရှင်၏ အမိန့်တော်များကို နာခံခြင်းဟု အဓိပ္ပာယ် ပြန်ဆိုနိုင်မည် ဖြစ်သည်။

အလ္လာဟ် အရှင်၏ အမိန့်တော်များကို နာခံသော လူသားတို့ကို မွတ်စလင်ဟု ခေါ်သည်၊ လူသားတို့သည်သာလျှင် မဟုတ်သေး၊ နေ၊ လ၊ နက္ခတ်တာရာ စသော အခြား သက်ရှိ သက်မဲ့ အရာဝတ္ထု အားလုံးသည် သဘာဝ နိယာမ တစ်ခုခုနှင့်အညီ တည်ရှိနေရခြင်း၊ သွားလာနေရခြင်းတို့ကြောင့် ယင်းအရာ အားလုံးတို့ကိုလည်း တစ်နည်းအားဖြင့် မွတ်စလင်များဟု ခေါ်ဆိုနိုင်သည်၊ အကြောင်းမူကား ထိုသက်ရှိ သက်မဲ့ အရာဝတ္ထုတိုင်း လိုက်နာရသော သဘာဝ

---

၁။ တမန်တော် အီဘရာဟိမ် (ပရောဖက် အေဗြဟံ)သည် အလ္လာဟ် အရှင်၏ အမိန့်စကားကို နာခံသူ၏သားကို ကုရ်ဘာနီ (စွန့်လှူရန်) စီစဉ်သည်ကို အစွဲပြု၍ အစ္စလာမ Is Lama ခေါ် စကားလုံးမှ အစ္စလာမ် ဖြစ်လာသည်လည်း ဆိုသည်။

နိယာမ အတိုင်းကို အလ္လာဟ်အရှင်ကပင် စီမံ ဖန်တီးထားသော ကြောင့် ဖြစ်သည်။

အစ္စလာမ် ဘာသာတွင် အခြေခံမှုကြီး ၅ ခု ရှိ၏၊ ယင်းတို့ ကား:-

၁။ အလ္လာဟ်အရှင်မှ တစ်ပါး ကိုးကွယ် ဆည်းကပ်ထိုက်သူ မရှိ။

၂။ တစ်နေ့လျှင် ၅ ကြိမ်ကျ မှန်မှန် ဝတ်ပြုရခြင်း။

၃။ ဇကာတ် ဆင်းရဲသားကြေး ပေးရခြင်း။

၄။ ရန်မဇန်လ၌ ဥပုသ်သီလ ဆောက်တည်ရခြင်း။

၅။ ငွေကြေး တတ်နိုင်သူများသည် မိမိတို့ တစ်သက်တာ အတွင်း အနည်းဆုံး တစ်ကြိမ်ခန့် မက္ကာမြို့ ဟာဂျ်အိမ်တော်သို့ သွား၍ ဟာဂျ်ပြုရခြင်းတို့ ဖြစ်သည်။

အီမန်ဟူသော အာရဗီ ဘာသာစကား၏ အဓိပ္ပာယ်ကား သဒ္ဓါ ယုံကြည်မှုပင် ဖြစ်သည်၊ အလ္လာဟ်အရှင်အား အကွင်းမဲ့ ယုံကြည်မှုကို ဆိုသည်၊ အလ္လာဟ် အရှင်ကို ယုံကြည်သဖြင့် ထိုအရှင်ကို နာခံသော အခါ မွတ်စလင် ဖြစ်သွားတော့သည်၊ ဤသို့ဖြင့် အစ္စလာမ်နှင့် အီမန်တို့မှာ အတူတူပင် ဖြစ်သည်၊ အီမန် ခေါ် သဒ္ဓါယုံကြည်မှု မရှိလျှင် စစ်မှန်သော မွတ်စလင် တစ်ဦး မဖြစ်နိုင်ပေ၊ အစ္စလာမ်နှင့် အီမန်တို့သည် သစ်ပင်နှင့် သစ်စေ့တို့ကဲ့သို့ပင်တည်း၊ အီမန် မပါရှိဘဲ အစ္စလာမ် မဖြစ်နိုင်ချေ။

အီမန် ယုံကြည်မှု ၇ မျိုး ရှိသည်၊ အောက်ပါတို့ ဖြစ်၏။

၁။ အလ္လာဟ်အရှင်ကို ယုံကြည်ခြင်း။

၂။ ကောင်းကင်တမန်တို့ကို ယုံကြည်ခြင်း။

၃။ တမန်တော်တို့ကို ယုံကြည်ခြင်း။

၄။ အလ္လာဟ်အရှင်၏ ကျမ်းတော်များကို ယုံကြည်ခြင်း။

၅။ တမလွန်ဘဝကို ယုံကြည်ခြင်း။

၆။ ကောင်းမှု မကောင်းမှု တို့သည် အလ္လာဟ် အရှင်ထံမှ ကျလာသည်ဟု ယုံကြည်ခြင်း။

၇။ သေပြီးနောက် တစ်ဖန် ရှင်သန် ထမြောက်ကာ အလ္လာဟ် အရှင်မြတ် ရှေ့တော်၌ စစ်မေးခြင်း ခံရမည်ကို ယုံကြည်ခြင်း၊ အီမန် ယုံကြည်မှု မရှိသူများအား ငြင်းပယ်သူ (သို့မဟုတ်) ကာဖိရ်[၁]များဟု ခေါ်သည်။

## အလ္လာဟ်အရှင်မြတ်

အလ္လာဟ်အရှင်မြတ်ကား ထာဝရဘုရား ဖြစ်သည်၊ တန်ခိုးတော် အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသည်၊ လူသားနှင့်အကွ ကမ္ဘာလောကကြီး၊ ထိုလောကကြီးရှိ သက်ရှိ သက်မဲ့ အရာအားလုံး တို့ကို အလ္လာဟ် အရှင် ဖန်ဆင်းထားခြင်း ဖြစ်သည်၊ ပထမ၌ အလ္လာဟ်အရှင် တစ်ပါးတည်းသာ ရှိသည်၊ လူသားတို့လည်း မရှိသေး၊ နောက်မှ ဖန်ဆင်းယူခြင်း ဖြစ်သည်။

---

၁။ Kafir

လူသားတို့ကို ဖန်ဆင်းသော အရှင်တစ်ပါးတည်းသာ ရှိသည်၊ ထိုအရှင်သည် သတ္တဝါ အားလုံးကို ဖန်ဆင်းခဲ့သည်၊ သို့သော် ထို သတ္တဝါတို့၏ ဖန်ဆင်းရှင်ကား တစ်ပါးတည်းသာ ဖြစ်၏၊ ထိုအရှင် တွင် တန်းတူရည်တူ ပုဂ္ဂိုလ်ဟူ၍ မရှိ၊ ထိုအရှင်နှင့်တူသော ပုဂ္ဂိုလ် ဟူ၍လည်း မရှိချေ။

ဒုတိယမြောက် အလ္လာဟ်အရှင်ဟူ၍ မရှိပေ၊ ထိုအရှင်သည် ထို ရှေးလွန်လေ ပြီးသော အချိန် အနန္တကာလပင် တည်ရှိနေခဲ့သည်၊ နောင်တွင်လည်း အချိန် အကန့်အသတ်မရှိ အနန္တကာလတိုင်အောင် ရှိလိမ့်ဦးမည်၊ အလ္လာဟ်အရှင်သည် သက်တမ်း ကုန်ဆုံးသွားပြီဟူ၍ မရှိချေ၊ အလ္လာဟ်အရှင်၏ အသက်ကို အစဉ်ထာဝရ လိုအပ်လျက် ရှိသည်သာတည်း။

ထာဝရဘုရားသခင် မရှိတော့ပြီ ဆိုခြင်းသည်ကား မဖြစ်နိုင် သော ကိစ္စမျိုးသာ ဖြစ်၏၊ အလ္လာဟ်အရှင် ရှိနေခြင်းကား သူ့နဂို အတိုင်း ရှိနေခြင်းသာ ဖြစ်သည်၊ အလ္လာဟ် ဘုရားသခင်သည် အခြား မည်သည့်အရာကိုမျှ မလိုချေ၊ အလ္လာဟ်အရှင်ကသာ အခြား မည် သည့် အရာကိုမျှ မလိုလားသော်လည်း ထာဝရဘုရားကို မလိုလားသော မမိခိုရသောအရာ ဟူ၍ကား မရှိနိုင်သည်သာ၊ အလ္လာဟ်အရှင်သည်သ ဘလျှင် အရာရာတိုင်းကို ဖန်ဆင်းကာ ဆက်လက် တည်တံ့နိုင်အောင် ပြုလုပ်ထားခြင်း ဖြစ်သည်။

ထာဝရ ဘုရားသခင်ကား ရုပ်ဝတ္ထုပစ္စည်းကဲ့သို့ ကိုင်၍ ပြနိုင်သော အရာမျိုး မဟုတ်၊ ဝတ္ထုပစ္စည်းမျိုး မဟုတ်ပေ၊ နေရာအားဖြင့်လည်း မည်သည့် နေရာဟု မပြောနိုင်၊ ရုပ်ပစ္စည်းအားဖြင့် တည်ရှိနေခြင်း

မဟုတ်ချေ၊ ပုံသဏ္ဌာန်လည်း မရှိ၊ ထိုအရှင်ကို တိုင်းတာ၍လည်း မရစကောင်း၊ အလ္လာဟ်အရှင်ကို မည်သည့်ပုံသဏ္ဌာန်မျိုး ရှိပါသည် ဟူ၍ မဆိုနိုင်ပေ။

အရာဝတ္ထုတိုင်းသည် အလ္လာဟ်အရှင်၏ ဖန်ဆင်းခြင်းကို ခံရသော သတ္တဝါများသာ ဖြစ်ကြသည်၊ သို့သော် ထိုအရှင်ကား သူ ဖန်ဆင်းထားသော သတ္တဝါများနှင့် မတူပေ။

အလ္လာဟ်အရှင်တွင် တန်ခိုးအာဏာ များစွာ ရှိသည်၊ အသက်ကို ပေးနိုင်ခြင်း၊ အလုံးစုံကို သိနိုင်ခြင်း၊ အရာရာကို ကြားနိုင်စွမ်း ရှိခြင်း၊ အဂ္ဂန့်အသတ် မရှိသော တန်ခိုးတော်ရှိခြင်း၊ ဆန္ဒရှိခြင်း၊ စကားပြောဆိုခြင်း၊ ဖန်ဆင်းနိုင်ခြင်း စသော တန်ခိုးများကို ပိုင်ဆိုင်သည်။

ဤတန်ခိုးတော်များမှာ မည်သည့် အခါတွင်မှ ပြောင်းလဲမှု မရှိဘဲ နိစ္စဓူဝ မြဲ၏၊ အကယ်၍ ပြောင်းလဲမှု ရှိသည်ဆိုအံ့၊ ထာဝရ ဘုရားသခင်၌ ချွတ်ယွင်းချက်ရှိကြောင်း ဖော်ပြရာ ဖြစ်နေပေလိမ့်မည်၊ ထာဝရ ဘုရားသခင်တွင် ချွတ်ယွင်းချက် အားနည်းချက်ဟူ၍ မရှိပေ။

ထာဝရဘုရားသခင်သည် ထိုအရှင်ဖန်ဆင်းထားသော သတ္တဝါတို့ အနက် မည်သည့်သတ္တဝါနှင့်မျှ မတူသော်လည်း ဤကမ္ဘာလောကတွင် ထိုအရှင်ကို သိနိုင်သည်၊ နောင်တမလွန် ဘဝ၌လည်း တွေ့မြင်ဖူးမြော်နိုင်သည်။

ထာဝရ ဘုရားသခင်သည် သတ္တဝါတို့ကို ဖန်ဆင်းရာ၌ မည်သည့် အရာမျှ မရှိသည့်အထဲ ရှိလာအောင် ဖန်ဆင်းခြင်းဖြစ်သည်၊ အလ္လာဟ်

အရှင်သည် မိမိဖန်ဆင်းထားသော စကြဝဠာ လောကကြီး တစ်ခုလုံး၏ မြင့်မြတ်သော အရှင်သခင်ပင် ဖြစ်သည်။

အလ္လာဟ် အရှင်သည် စကြဝဠာ လောကကြီး တစ်ခုလုံးကို ဖန်ဆင်းပေးလိုက်ရုံ ပေးလိုက်ပြီး ပစ်ထားခြင်း မဟုတ်၊ ထိုစကြဝဠာကြီးကို ပြုပြင် ထိန်းသိမ်း စောင့်ရှောက်သူလည်း ဖြစ်၏။

အလ္လာဟ်အရှင်သည် လူသားတို့ကို ဖန်ဆင်းသောအခါ လူသားတစ်ဦးစီ တစ်ဦးစီ ကမ္ဘာလောကကြီး၌ နေထိုင်ရမည့် အချိန်ကာလကိုလည်း သတ်မှတ်ပေးသည်၊ ထာဝရအရှင်သည် လူသားတို့ လိုက်နာရမည့် ဘဝလမ်းညွှန် စည်းမျဉ်းများကိုလည်း ချမှတ်ပြဋ္ဌာန်းပေးသည်၊ သို့သော် လူသားများသည် ထိုဘဝ၌ လမ်းညွှန်ချက်များကို လက်မခံ၊ ဆုံးဖြတ်ရာတွင် မိမိသဘောအရ ဆောင်ရွက်နိုင်ခွင့်ကိုလည်း ပေးထားသည်။

ဘဝလမ်းညွှန် စည်းမျဉ်းကို လိုက်နာရန် ဆုံးဖြတ်သူများမှာ မွတ်စလင်များ ဖြစ်လာ၍ ထိုစည်းကမ်း နည်းလမ်းများကို လိုက်နာရန် ငြင်းဆိုသူများကား မယုံကြည်သူ ကာဖိရ်များ ဖြစ်လာကြသည်။

လူသားများ ရုပ်ဝတ္ထုပစ္စည်းများ လိုအပ်သည်ကို ဖြည့်ဆည်းပေးသည့် အနေဖြင့် ထာဝရ ဘုရားသခင်က သဘာဝ လောကကို ဖန်ဆင်းပေးတော်မူသည်၊ သဘာဝလောကကြီးမှ လူသားတို့ လိုအပ်သမျှကို ထုတ်ယူ အသုံးပြုနိုင်လေသည်။

လူသားတို့၏ ဝိညာဉ်ရေးရာ၊ လူမှုရေးရာနှင့် ယဉ်ကျေးမှုရေးရာကိစ္စများ လိုအပ်ချက်ကို ဖြည့်စွမ်းပေးရာတွင် အလ္လာဟ် အရှင်သည် လူသားတို့အနက်မှပင် တမန်တော်များကို ရွေးချယ်ပေးကာ ယင်း

တို့အား လမ်းမှန်သို့ ပို့ဆောင်ပေးမည့် ဘဝလမ်းညွှန် စည်းမျဉ်းများကိုလည်း ချပေးတော်မူသည်။

အလ္လာဟ်အရှင်က ဤကမ္ဘာ လောကကြီးကို ဖန်ဆင်းရခြင်းမှာ ဤကမ္ဘာလောကကြီး၌ နောက်ဆုံးအချိန်အထိ လူသားများဖြင့် ပြည့်နှက်ကာ စည်ကားသိုက်မြိုက်စေလို၍ ဖြစ်လေသည်။

ဤကမ္ဘာပေါ်၌ အလ္လာဟ်အရှင် ဖန်ဆင်းပေးသော ပထမဦးဆုံး လူသားကား အာဒမ် ဖြစ်၏၊ ကမ္ဘာလောကကြီး၌ အာဒမ်မှ ဆင်းသက်လာသော လူသားများဖြင့် စည်ပင်၍ တင့်တယ်စေရန် ရည်ရွယ်သည်၊ ထာဝရအရှင်သည် တမန်တော်များကို ဖန်ဆင်း၍ ထိုတမန်တော်များအား သာမန်လူများထက် ထူးထူးခြားခြား မြင့်မြတ်ကြောင်း ပြသတော်မူသည်။

တမန်တော် နောဧ လက်ထက်တွင် ရေလွှမ်းမိုးခြင်း ဖြစ်၍ ကမ္ဘာကြီး တစ်ခုလုံး မြုပ်သွားသည်၊ ကမ္ဘာပေါ်တွင် ရှိနေကြသော လူသားများနှင့် တိရစ္ဆာန်အားလုံးတို့မှာ ရေနစ် သေဆုံးကြလေ၏၊ သို့သော် နောဧနှင့်အတူ သင်္ဘောပေါ်တွင် လိုက်ပါခဲ့ကြသော မွတ်စလင်များမှာ အသက်ချမ်းသာကြရသည်၊ ထိုသူတို့မှ ယနေ့ ကမ္ဘာပေါ်ရှိ လူများ ပြန့်ပွားလာခဲ့သည်။

နောဧသည် သင်္ဘောပေါ်တွင် တက်ရောက်ခဲ့စဉ်က တိရစ္ဆာန်များကို အမျိုးလိုက် တစ်စုံစီ ယူသွားခဲ့သည်၊ ထိုတိရစ္ဆာန်များမှ ဆက်လက် ပြန့်ပွားလာခဲ့ခြင်း ဖြစ်သည်၊ နောဧတွင် သားသုံးယောက် ရှိသည်၊ ရှေမ၊ ယာဖတ်နှင့် ဟောမတို့ ဖြစ်ကြသည်၊ ထိုသားသုံးဦးမှ

ဆင်းသက်လာခဲ့ကြခြင်း ဖြစ်သည်၊ ထို့ကြောင့်ပင် တမန်တော် နောဇကို ဒုတိယမြောက် ဖခင်ကြီးဟု ခေါ်ဝေါ်ကြခြင်း ဖြစ်သည်။

တမန်တော် အီဗရာဟိမ်[၁](အေဗြဟံ)တွင် အစ္စမေလ[၂] နှင့် ဇေက်[၃]ဟူ၍ သားနှစ်ဦး ထွန်းကားသည်၊ တမန်တော်ဇေက်၏ သားကား ယာကုပ် ဖြစ်သည်၊ ယာကုပ်[၄]၏သားကား တမန်တော် ယောသပ်[၅]ဖြစ်၏၊ တမန်တော် ယာကုပ်ကို အစ္စရေးဟု ခေါ်သည်၊ အစ္စရေးမှ ဆင်းသက်လာကြသူများကို အစ္စရေး လူမျိုးဟု ခေါ်သည်။

အစ္စရေး လူမျိုးတို့မှ တမန်တော် အများအပြား ပေါ်ထွက်လာခဲ့သည်၊ မူစာ(မောရှေ)၊ ဟရွန် (မောရှေ၏အစ်ကို အေရွန်)၊ ဒေးဗစ် (ဒါဝိဒ်)၊ စုလေမန် (ရှောလမုန်)၊ ဇေကေရိယ (ဇာခရိ)၊ ယာယာ(ယောဟန်)နှင့် အီစာ (ယေရှု)တို့ အပါအဝင် တမန်တော် အများအပြားမှာ အစ္စရေး လူမျိုးများ ဖြစ်ကြသည်။

တမန်တော် အီဗရာဟိမ်၏သား ဇေက်မှ အစ္စရေးလူမျိုးများ ဆင်းသက်လာသကဲ့သို့ပင် အခြား သားတစ်ဦးဖြစ်သူ အစ္စမေလမှ ပေါ်ထွန်းလာသော တမန်တော်ကား မုဟမ္မဒ် သခင်ဖြစ်သည်။

## တမန်တော်များ

အလ္လာဟ်အရှင်သည် လူသားတို့အား လမ်းမှန်ကို ညွှန်ပြရန် အတွက် တမန်တော်များကို ရွေးချယ် စေလွှတ်သည်၊ တမန်တော်များ အနက် အထင်ရှားဆုံးမှာ နောက်ဆုံး တမန်တော် ဖြစ်သော

---

၁။ Abranim ၂။ Ismail ၃။ Isslhak

၄။ Yakub ၅။ Yusnf

မုဟာမ္မဒ်ပင် ဖြစ်သည်၊ အလ္လာဟ်အရှင်သည် ကမ္ဘာပေါ်ရှိ လူမျိုးတိုင်းသို့ တမန်တော်များကို စေလွှတ်သည်။

တမန်တော်တို့သည် လူသားများသာမက ကောင်းကင်တမန်များ၏ ဆရာလည်း ဖြစ်သည်၊ သတ္တဝါတိုင်းသည် တမန်တော်ဟောကြားသည့်အတိုင်း လိုက်နာ၍ တမန်တော်၏ အလေ့အကျင့်အတိုင်း ကူညီအောင် ကြိုးစားကြရသည်။

ရစူလ်[၁]ဆိုသော စကား၏ အဓိပ္ပာယ်ကား တမန်တော်ဟူ၍ ဖြစ်၏၊ ရှရီအတ်တရားတော်[၂] အလိုအရ ရစူလ်ဆိုသော ပုဂ္ဂိုလ်သည် သူ၏ခေတ်ရှိ လူသားတို့ထက် ပညာဗဟုသုတနှင့် အသိဉာဏ်တို့တွင် မြင့်၍ ရှိသေထိုက်သော ပုဂ္ဂိုလ်ဟု ဖော်ပြထားသည်၊ ထိုပုဂ္ဂိုလ်မျိုးသည် မနှစ်သက်ဖွယ်ရာတို့ကို မပြုတတ်ချေ။

တမန်တော်တို့မည်သည် အလ္လာဟ်အရှင်က တမန်တော် ဖြစ်ကြောင်း အသိပေးပြီးသည် ဖြစ်စေ၊ မပေးသေးသည်ဖြစ်စေ အကြီးအသေး မည်သည့် အပြစ်မျိုးကိုမျှ မကျူးလွန်ကြပေ။

တမန်တော်တို့တွင် ထူးခြားသော ဂုဏ်အင်္ဂါ ၇ ပါး ရှိသည်။ ယင်းတို့ကား ၁။ အမျိုးမြိရာ၊ အားထားရာ၊ လဲလျောင်းရာ ဖြစ်ခြင်း။ ၂။ အလ္လာဟ်အရှင်၏ အရေးသာ ဦးစားပေးခြင်း။ ၃။ ဆက်သွယ်မှုရှိခြင်း။ ၄။ တရားမျှတမှု ရှိခြင်း။ ၅။ အပြစ်ကင်းခြင်း။ ၆။ အသိဉာဏ်ပညာနှင့် ပြည့်စုံခြင်း။ ၇။ တမန်တော်အဖြစ်မှ ယုတ်လျော့လျော့ကျခြင်း မရှိခြင်းတို့ ဖြစ်သည်။

တမန်တော်တို့တွင် ကျမ်းဆောင်ပုဂ္ဂိုလ်၊ ကျမ်းမဆောင်ပုဂ္ဂိုလ်ဟူ၍ ရှိသည်။ ရှရီအတ်တရားတော် အသစ်ကို ဆောင်ယူလာခဲ့သော

၁။ Resul ၂။ Sheriat

တမန်တော်ကို ရစူလ် တမန်တော်ဟု ခေါ်သည်၊ ရှရီအတ် တရားတော် အသစ်ကိုကား ဆောင်ယူလာခြင်း မရှိသော်လည်း ယခင်ရှိပြီးသော (သူမတိုင်မီ တမန်တော်တစ်ဦး ဟောကြားသော) တရားတော်ကိုပင် လူအများ လိုက်နာကြရန် တိုက်တွန်း နှိုးဆော်တတ်သော တမန်တော် ကို နဗီ^၁တမန်တော်ဟု သိအပ်၏၊ အလ္လာဟ်အရှင်၏ သဘောတရား တော်ကို လူအများ လိုက်နာကြရန် တိုက်တွန်းဟောကြားမှုတွင်ကား ရစူလ်နှင့် နဗီတမန်တော်များ၌ ကွဲပြားခြားနားမှု မရှိပေ၊ ထိုတမန် တော် နှစ်မျိုးလုံးသည် အမှန်တရားကို ဟောကြားသူများ ဖြစ်၍ ယုံကြည်ထိုက်၏၊ ထိုတမန်တော် အမျိုးမျိုးကို မယုံကြည်သူသည် နှစ်မျိုးစလုံးကို မယုံကြည်သူဟု မှတ်ယူရမည် ဖြစ်သည်။

ဆင်းရဲပင်ပန်းစွာ အစာငတ်ခံ၍ ကျင့်သော်လည်း တမန်တော် အဖြစ်ကို မရရှိနိုင်၊ လွန်စွာ ဝတ်ပြုဆုတောင်းခြင်း သည်လည်း တမန်တော်ဖြစ်ရန် နည်းလမ်း မဟုတ်သေး၊ အလ္လာဟ်ဘုရားသခင်တော် အရှင်က နှစ်သက်အားရ ကျေနပ်၍ ရွေးချယ်မှသာ တမန်တော်အဖြစ် ရရှိနိုင်သည်။

တမန်တော်များမှတစ်ဆင့် ရှရီအတ်တရားတော်များကို ချပေး တော်မူခြင်း၏ ရည်ရွယ်ချက်သည်ကား ဤကမ္ဘာလောကကြီးနှင့် နောင်တမလွန် ဘဝတို့တွင် လူသားတို့ ကောင်းစွာ ကျင့်ကြံနိုင်အောင် ဖြစ်၏၊ မှားယွင်းသော လုပ်ငန်းစဉ် အန္တရာယ်ရှိသော အပြုအမူများကို ရှောင်ကြဉ်နိုင်ရန်နှင့် ပျော်ရွှင် ချမ်းသာမှု၊ ကယ်တင်မှုများကို ရရှိနိုင် စေရန်အတွက် ဖြစ်၏။

၁။ Nebi

တမန်တော်တို့၌ ရန်သူများကား တရားတော်တို့ကို ပြက်ရယ်ပြုတတ်ကြသော်လည်း အလ္လာဟ်အရှင်၏ အမိန့်တော်တို့ကို လူသားတို့အား ဆက်သွယ်၍ အမှန်တရားကို လိုက်နာကျင့်ကြံရန် သွန်သင်ဆုံးမမှုများ ပြုလုပ်ကြသည်မှာ မကြောက်မရွံ့ပင် ဖြစ်သည်၊ တမန်တော်တို့သည် သစ္စာတရားကို ဟောကြားသူများ ဖြစ်ကြကြောင်းကို ပြသရန် အလ္လာဟ်အရှင်သည် တန်ခိုးတော်များကို အသုံးပြု၍ တမန်တော်များအား အကူအညီ ပေးတတ်သည်။

တမန်တော်အား ယုံကြည်လက်ခံသူများကို သူ၏လူများဟု ခေါ်သည်၊ နောက်ဆုံး တရားဆုံးဖြတ်ရာနေ့တွင် တမန်တော်များသည် သူ၏လူများအတွက် ရှေ့နေလိုက်၍ ပြောဆိုပေးလိမ့်မည်၊ အထူးသဖြင့် အပြစ်များ ကျူးလွန်ထားသူများကို ပြောဆိုပေးမည် ဖြစ်သည်၊ တမန်တော်တို့၏ တင်ပြချက်တို့ကို လက်ခံစဉ်းစားလိမ့်မည် ဖြစ်၏၊ တမန်တော်တို့၏ လူများ အနက် ဉာဏ်ပညာ ရှိသူ ဘုရားတရား ကြည်ညိုသူများအတွက် ပြောပေးမည်ဖြစ်ရာ ထိုပြောဆိုချက်တို့ကို အလ္လာဟ်အရှင်က လက်ခံလိမ့်မည် ဖြစ်သည်။

ကျွန်ုပ်တို့ မသိမမြင်နိုင်သော ဘဝမျိုးဖြင့် တမန်တော်တို့မှာ သူတို့၏ သင်္ချိုင်းတွင် အသက်ရှင်လျက် ရှိသည်၊ သူတို့၏ မြင့်မြတ်သော ခန္ဓာကိုယ်များကို ကမ္ဘာမြေကြီး မပုပ်မသိုးစေရအောင် ထားရှိသည်၊ ပိုးမွှားများကလည်း စားသောက်ပစ်ခြင်း မရှိချေ၊ ဤကဲ့သို့သော အကြောင်းကြောင့် "တမန်တော်တို့သည် ဘုရားဝတ်ပြုခြင်းကို ပြုလုပ်ကြသည့် အပြင် မိမိတို့၏ သင်္ချိုင်း၌ပင် ဘုရားဖူးခြင်းကို ပြုလုပ်ကြသည်"ဟု ဟဒီစ်တော်[၁] တစ်ခု၌ ဖော်ပြထားခြင်း ဖြစ်သည်။

၁။ Hadith

တမန်တော်တို့တွင် မျက်စိက အိပ်ပျော်နေသော်လည်း နှလုံးသားမှုကား အိပ်ပျော်ခြင်း မရှိပေ၊ တမန်တော်တို့၏ တာဝန်များကို ထမ်းဆောင်ရာ၌လည်းကောင်း၊ တမန်တော်ဖြစ်ရခြင်း၏ မြင့်မြတ်မှု၌ လည်းကောင်း၊ အားလုံးသော တမန်တော်တို့မှာ အတူတူပင် ဖြစ်သည်၊ ထူးမြတ်သော ဂုဏ်အင်္ဂါ ခုနစ်ပါးတို့သည် တမန်တော်တိုင်းတွင် ရှိစမြဲ ဖြစ်သည်၊ ခြားနားမှု မရှိချေ၊ တမန်တော်အဖြစ်မှ လျော့ကျသွားသည်ဟူ၍ မရှိပေ။

တမန်တော်တို့သည် လူသားများသာ ဖြစ်ကြရသည်၊ ကောင်းကင်တမန်များနှင့် နတ်ဆိုးတို့သည် တမန်တော်အဖြစ်ကို မရရှိနိုင်၊ ယင်းတို့သည် တမန်တော်အဆင့်မျိုးကို မရရှိနိုင်ပေ၊ တမန်တော်တို့တွင် လည်း တစ်ပါးနှင့် တစ်ပါး ဂုဏ်အရည်အချင်းအားဖြင့် သာလွန်မှုများ ရှိသည်၊ နိုင်ငံကျယ်ဝန်း၍ လူဦးရေ များပြားသော နိုင်ငံသို့ စေလွှတ်ခံရခြင်း၊ အသိဉာဏ်ပညာနှင့် လုပ်ရည်ကိုင်ရည်တို့တွင်လည်း ပိုမိုနက်နဲ ကျယ်ဝန်းခြင်း၊ တန်ခိုးပြာဋိဟာ တို့တွင်လည်း သာလွန်ခြင်း၊ ကောင်းချီးပေးခံရရာ၌ မတူညီခြင်း၊ ရှရီအတ် တရားတော်၏ အာဏာစက် ပျံ့နှံ့ရာဒေသ ကျယ်ဝန်းခြင်း စသည်တို့ဖြင့် တစ်ပါးနှင့် တစ်ပါး ကွာခြားတတ်သည်။

ဤအရည်အချင်း စသည်တို့တွင် နောက်ဆုံးပွင့်တော်မူသော တမန်တော် မုဟမ္မဒ်သည် အခြားသော တမန်တော်တို့ထက် သာလွန်မြင့်မြတ်သည်၊ အချို့ တမန်တော်တို့သည်လည်း အမြင့်ဆုံးသော တမန်တော်များအဖြစ် ထင်ရှားခဲ့သေးသည်၊ ရစူလ် တမန်တော်တို့သည် နဗီတမန်တော်တို့ထက် ပိုမို မြင့်မြတ်သည်။

ပွင့်တော်မူလေပြီးသော တမန်တော်တို့၏ အရေအတွက်ကို အတိအကျ မသိရပေ၊ တစ်သိန်းနှစ်သောင်း လေးထောင်ကျော် ရှိသည်ဟု သိရသည်၊ ထိုတမန်တော်များ အနက် ၃၁၃ ဦး (သို့မဟုတ်) ၃၁၅ ဦးတို့မှာ ရစူလ်တမန်တော်များ ဖြစ်သည်၊ ထိုရစူလ် တမန်တော်များအနက်တွင် တမန်တော် ၆ ဦးတို့သည်ကား အမြင့်မြတ်ဆုံးသော တမန်တော်များ ဖြစ်ကြသည်၊ ထိုပုဂ္ဂိုလ်တို့ကို အမြင့်ဆုံးသော တမန်တော်များဟု ခေါ်ကြသည်၊ ထိုတမန်တော်တို့ကား အာဒမ်၊ နောဧ၊ အီဘရာဟိမ်၊ မူစာ(မောရှေ)၊ အီစာ(ယေရှု)နှင့် မုဟမ္မဒ်တို့ ဖြစ်သည်။

၃၃ ဦးသော တမန်တော်တို့ကို လူသိများ၍ ထင်ရှားသော တမန်တော်များ ဖြစ်လာကြသည်၊ ယင်း တမန်တော်တို့၏ အမည်များမှာ အာဒမ်၊ အိဒရိ[၁]၊ ရှိတ်[၂]၊ နောဧ၊ ဟုဒ်[၃]၊ စာလေ[၄]၊ အီဘရာဟိမ်၊ လွတ်(လာဘ)[၅]၊ အစ္စမေလ၊ အစ္စဟာတ်[၆]၊ ယာကုပ်၊ ယောသပ်၊ ယွေတ်[၇]၊ ရှုအတ်၊ မူစာ၊ ဟောရွန်၊ ဟိဒိ[၈]၊ ယုဟာတင်၊ ခုအင်[၉]၊ ဧလိယ၊ ဧလိယသ[၁၀]၊ ဇူကွိဖိ[၁၁]၊ ရှိမွန်[၁၂]၊ အိသမ္မိုင်း[၁၃]၊ ယူနဘင်မိတ[၁၄]၊ ဒေးဗစ်၊ စူလေမန်၊ (ရှောလမုန်)၊ လုပ်မန်[၁၅]၊ ဇေကေရိယ (ဇာခရိ)၊ ယာယာ[၁၆] (ယောဟန်)၊ ဥဇေယ[၁၇]၊ အီစာဘင်မာယံ (ယေရှု)၊ ဇူကာနေယံ[၁၈]နှင့် မုဟမ္မဒ်တို့ ဖြစ်သည်။

---

| | | | |
|---|---|---|---|
| ၁။ Idris | ၆။ Ishaq | ၁၁။ Zutqifl | ၁၆။ Yahhya |
| ၂။ Shit | ၇။ Eyyub | ၁၂။ Shemum | ၁၇။ Uzeya |
| ၃။ Hud | ၈။ Hiadir | ၁၃။ Ishmoil | ၁၈။ Zulkarneyn |
| ၄။ Snalih | ၉။ Yuhabin Nuen | ၁၄။ Yunus Bin Meryem | |
| ၅။ Lut | ၁၀။ Eiyasa | ၁၅။ Lokman | ၁၉။ Habibullah |

တမန်တော် မုဟမ္မဒ်ကား နောက်ဆုံးတမန်တော် တစ်ပါး ဖြစ်၍ သူ၏နောက်တွင် မည်သည့် တမန်တော်မှ ပေါ်ထွန်း လာတော့မည် မဟုတ်တော့ပေ၊ လူသားတို့အနက် ဂုဏ်သရေအရှိဆုံး အဖိုးတန်ဆုံး၊ အမြင့်မြတ်ဆုံးသော တမန်တော် မုဟမ္မဒ်ကား အလ္လာဟ် အရှင်၏ အချစ်တော်ဟူသော ဟဗိဘူလ္လာဟ်[၁၆]ပုဂ္ဂိုလ် ဖြစ်လေသည်။

## မုဟမ္မဒ်

တမန်တော် မုဟမ္မဒ်ကို ၅၇၁ ခု ဧပြီလ ၂၀ ရက် တနင်္လာနေ့ မက္ကာမြို့၌ ဖွားမြင်ခဲ့သည်၊ ဖခင်အမည်မှာ အဗ္ဗဒူလ္လာဖြစ်ပြီး မယ်တော်၏ အမည်မှာ အာမေနတ် ဖြစ်သည်၊ အဗ္ဗဒူလ္လာမှာ မုဟမ္မဒ် ကို မမွေးဖွားမီ ရက်သတ္တပတ် အနည်းငယ်ခန့်တွင် ကွယ်လွန်သွားခဲ့ သည်၊ ဘိုးတော်က တာဝန်ယူ စောင့်ရှောက်ခဲ့သည်။

မုဟမ္မဒ် အသက် ၆ နှစ်ရှိသောအခါ မယ်တော် အာမေနတ်မှာ ကွယ်လွန်သွားခဲ့ပြီး အသက်ရှစ်နှစ်တွင် ဘိုးတော်ပါ ကွယ်လွန်သွား ခဲ့လေသည်၊ ထိုအခါ ဘထွေးတော်က ကောက်ယူ မွေးစားရပြန်သည်။

ဤသို့ဖြင့် တမန်တော် မုဟမ္မဒ်မှာ ငယ်စဉ်က မိဘမဲ့ဘဝဖြင့် ကြီးပြင်း လာခဲ့ရသည်၊ မုဟမ္မဒ်မှာ လိမ္မာယဉ်ကျေးသော လူငယ် ဖြစ်သဖြင့် ဘထွေးတော်က များစွာ ကျေနပ်နှစ်သက်တော်မူသည်၊ ဝမ်းကွဲညီအစ်ကိုများနှင့် တောသို့သွား၍ သိုး၊ ဆိတ်တို့ကို ထိန်းကျောင်း လေသည်။

အကျင့် စာရိတ္တ ကောင်းမွန်ခြင်း၊ ရိုးသား ဖြောင့်မတ်ခြင်း တို့ကြောင့် မုဟမ္မဒ် အသက် ၂၅ နှစ် ရှိသောအခါ မက္ကာမြို့တော်

နီးဝေး တစ်ဝိုက်တွင် ဟိုးဟိုးကျော်လျက် ရှိလေပြီ၊ ဤအချိန်တွင် မုဟာမ္မဒ်သည် ဘထွေးတော်နှင့်အတူ အရပ်ဒေသ အသီးသီးသို့ ကုန်ကူးရောင်းဝယ်ရန် အကြိမ်ကြိမ် သွားရောက်ခဲ့ပြီး ဖြစ်သည်။

အတွေ့အကြုံလည်းရှိ၊ ရိုးသား ဖြောင့်မတ်မှုလည်း ရှိသော မုဟာမ္မဒ်အား ခဒီဂျ အမည်ရှိသော ချမ်းသာ ကြွယ်ဝသည့် မုဆိုးမ တစ်ဦးက သူမ၏ ကုန်ပစ္စည်းများကို ဆီးရီးယားသို့ သွားရောက် ရောင်းချပေးရန် မုဟာမ္မဒ်ကို လွှဲအပ်သည်၊ မုဟာမ္မဒ်ကလည်း သစ္စာရှိစွာ သွားရောက် ရောင်းချ၍ ပြန်လာကာ ယခင်အခါက မရဖူးသော များပြားသည့် အမြတ်အစွန်းများကို ပေးအပ်နိုင်သည်။

မုဟာမ္မဒ်၏ ရိုးသားမှု၊ စိတ်ထားမြင့်မြတ်မှုတို့ကို သဘောကျ သွားသဖြင့် ခဒီဂျသည် မုဟာမ္မဒ်ကို လက်ထပ်ထိမ်းမြားလိုက်သည်။ ထိုအချိန်တွင် ခဒီဂျမှာ အသက် ၄၀ သို့ ရောက်ရှိနေပြီ ဖြစ်သော်လည်း မုဟာမ္မဒ်ကား ၂၅ နှစ်မျှသာ ရှိသေး၏၊ သို့သော် အောင်မြင်သော အိမ်ထောင်တစ်ခု ဖြစ်ခဲ့သည်။

မုဟာမ္မဒ်သည် မိမိ မွေးဖွား ကြီးပြင်း လာခဲ့သော ဒေသရှိ လူများနှင့် လုံးဝ ခြားနားလျက် ရှိသည်၊ ထိုကိုယ်တော်သည် မုသားစကားကို မည်သည့်အခါမျှ မပြောချေ၊ မုဟာမ္မဒ် သစ္စာရှိမှုကို အားလုံးက တညီတညွတ်တည်း ဝန်ခံပြောဆိုကြသည်၊ မုဟာမ္မဒ်ကို ဆန့်ကျင်ကြသော ရန်သူများပင်လျှင် သူတို့၏ တစ်သက်တာအတွင်း မည်သည့်အခါမျှ မုသား မပြောဖူးဟု ပြောဆိုကြသည်၊ မုဟာမ္မဒ်သည် ယဉ်ကျေး သိမ်မွေ့စွာ ပြောဆိုတတ်ပြီး ဖရုသဝါစာ စကားကို မပြောတတ်ပေ။

ရှုချင်စဖွယ်ကောင်းသော ရုပ်သွင်ရှိသဖြင့် မုဟမ္မဒ်နှင့် တွေ့ဆုံ ဆက်ဆံကြရသော သူများ၏ နှလုံးကို ဆွဲဆောင်နိုင်စွမ်း ရှိသည်၊ လူအများနှင့် ဆက်ဆံရသည့် အခါတိုင်း မုဟမ္မဒ်သည် တရားမျှတမှု၊ သူတစ်ပါးကို ထောက်ထားညှာတာမှုတို့ကို လိုက်နာလေ့ ရှိသည်၊ နှစ်ပေါင်းများစွာ ကုန်ကူးသန်း ရောင်းဝယ်ရေး လုပ်ငန်းကို လုပ်ကိုင်ခဲ့သော်လည်း မရိုးမသား လုပ်ကိုင် ဆောင်ရွက်ခဲ့သည်ဟု မကြားရပေ၊ မုဟမ္မဒ်နှင့် ကုန်သွယ်ကြရသော သူများမှာ လုံးဝ စိတ်ကျေနပ်မှုကို ရရှိကြသည်၊ တစ်နိုင်ငံလုံးက မုဟမ္မဒ်အား ယုံကြည်စိတ်ချရသူအဖြစ် အသိအမှတ် ပြုထားကြရသည်။

မုဟမ္မဒ်၏ ရန်သူများပင်လျှင် မိမိတို့၏ အဖိုးတန် ပစ္စည်းများကို လုံခြုံစွာ ထိန်းသိမ်းထားရန် မုဟမ္မဒ်ထံသို့ ပေးအပ်ထားကြသည်၊ မဒီနာမြို့သို့ ဟစ်ဂျရတ် မထွက်ခွာမီ မုဟမ္မဒ်အား လုပ်ကြံသတ်ဖြတ်ရန် အိမ်ကို လာရောက်ဝိုင်းကြသော ရန်သူများ အထဲ၌ မုဟမ္မဒ်ထံ ပစ္စည်း အပ်နှံထားသူများလည်း ပါရှိသည်။

မုဟမ္မဒ်က ထိုသူတို့၏ အဖိုးတန် ပစ္စည်းများကို ဝိုင်းခံရသော အိမ်၌ ကျန်နေရစ်သည့် မုဟမ္မဒ်၏ ဝမ်းကွဲညီတော် အလီထံ အပ်နှံကာ ပိုင်ရှင်များအား ပြန်အပ်လိုက်ရန် လွှဲအပ်ပေးခဲ့သည်။

ဤမျှအထိ မုဟမ္မဒ်သည် သစ္စာတရားကို လက်ကိုင်ထားခဲ့ရသည်။

တကယ့် စံပြပုဂ္ဂိုလ် တစ်ဦး ဖြစ်ပါသည်၊ လောင်းကစားခြင်းနှင့် အရက်သောက်ခြင်းကို မှန်မြတ်သော အလုပ်ဟု လက်ခံထားရှိနေကြသော ထိုခေတ် အာရပ် (အာရေဗျ) ဒေသ၌ မုဟမ္မဒ်မှာ

အရက်ကို အနံ့ပင် မခံဖူးသော ပုဂ္ဂိုလ်၊ လောင်းကစားပွဲသို့ ယောင်၍ပင် မသွားဖူးသော ပုဂ္ဂိုလ်ဖြစ်၏၊ ထိုကိုယ်တော်၏ ပတ်ဝန်းကျင် အသိုက်အဝန်းမှာ မယဉ်ကျေး မသန့်စင်သော အရာများ၌ ပျော်မွေ့နေသလောက် မုဟမ္မဒ်သည်ကား ယဉ်ကျေးမှု အမြင့်မားဆုံး အခြေအနေ၌ ရောက်ရှိနေသူတစ်ဦး ဖြစ်နေသည်၊ လူအများကို ထောက်ထားစာနာသော နှလုံးသား မရှိကြသည့် လူများအလယ်တွင် မုဟမ္မဒ်မှာ လူသားအချင်းချင်း ထောက်ထားစာနာမှု အပြည့်အဝရှိသူ ဖြစ်သည်၊ မိဘမဲ့ကလေးများနှင့် မုဆိုးမတို့ကို ကူညီ စောင်မသည်၊ ခရီးသွားသူတို့အပေါ် ညှော်ဝတ် ပျူငှာသည်၊ သူတစ်ပါးကို အန္တရာယ်ပြုဖို့ဝေး၍ အခြားသူတစ်ပါးအတွက် ဒုက္ခခံသူ ဖြစ်သည်။

စစ်မက် တိုက်ခိုက်ခြင်းကို ပေါင်မုန့် နှင့် ထောပတ်ကဲ့သို့ သဘောထားသော လူ့အသိုက်အဝန်းတွင် မုဟမ္မဒ်မှာ ငြိမ်းချမ်းသာယာမှုကို လိုလားသူဖြစ်၏၊ မျိုးနွယ်စု အတွင်း၌ အချင်းချင်း တိုက်ခိုက်ကြသည်ကို ဖျန်ဖြေပေးလေ့ ရှိသည်၊ ဘုရား အတုအယောင် ရုပ်တုများကို ကိုးကွယ်နေသော ဒေသ၌ တမန်တော် အလောင်းမှာ စိတ်ထားကြည်လင် ပြတ်သားလျက် ကမ္ဘာကြီးတွင် လည်းကောင်း၊ ကောင်းကင်ဘုံတွင် လည်းကောင်း အရှင်တစ်ပါးသာ ရှိသည်၊ ထိုအရှင်ကား ထာဝရဘုရားပင် ဖြစ်သည်ဟု ယုံကြည်နေသူ ဖြစ်သည်။

မုဟမ္မဒ်သည် ငယ်စဉ်တောင်ကျေး ကလေးဘဝကပင်လျှင် အလ္လာဟ်အရှင် ဖန်ဆင်းထားသော သတ္တဝါများကို ရှိမခိုး၊ ရုပ်တုများကို ကပ်လှူပူဇော်ပွဲများ၌လည်း ပါဝင် ဆောင်ရွက်ခြင်း မပြု၊ ထာဝရ ဘုရားသခင်မှ တစ်ပါး အခြားသော ဖန်ဆင်းခြင်းခံရသည့်

သတ္တဝါများအား ပူဇော်ပသခြင်းကို မုန်းတီးသည့်စိတ်များ တဖြည်းဖြည်း တိုးတက် ဖွံ့ဖြိုးလာခဲ့သည်၊ မှောင်မိုက်သော ညတွင် ဆလိုက်မီးထိုးထားသကဲ့သို့ လည်းကောင်း၊ ကျောက်စရစ်ပုံ ထဲတွင် ပတ္တမြားလုံးသည် ကွဲပြားခြားနားစွာ တောက်ပနေသကဲ့သို့ လည်းကောင်းထိုးထွက်တောက်ပနေသော မုဟာမ္မဒ်၏ ကိုယ်အရည်အသွေးများကို သိသာထင်ရှားစွာ တွေ့မြင်နိုင်သည်။

မုဟာမ္မဒ်သည် တဖြည်းဖြည်း ဝိညာဉ်ရေးရာ ကမ္ဘာ့ဒွန်း စီးဖြန်းခြင်းကို နက်ရှိုင်းစွာ အာရုံပြုလာခဲ့သည်၊ မက္ကာမြို့နှင့် ၃ မိုင်ခန့်ဝေးသော အရပ်တွင် လိုဏ်ဂူတစ်ခု ရှိသည်၊ ထိုလိုဏ်ဂူကို ဂါရေဟိုရာဟုခေါ်သည်၊ တမန်တော်လောင်းလျာသည် သောက်ရေနှင့် ဂျုံလှော်တို့ကိုယူကာ ထိုလိုဏ်ဂူသို့ သွားရောက်၍ တရား အားထုတ်လေ့ရှိသည်၊ ရိက္ခာကုန်မှ ပြန်လာလေ့ရှိသည်။

ထိုလိုဏ်ဂူသို့ သွားရောက်၍ တရား အားထုတ်လေ့ရှိသော ၅ နှစ်မြောက်တစ်နေ့ မုဟာမ္မဒ်၏ သက်တော် ၄၀ စေ့၍ တစ်ရက်အလွန် ရန်မဇလ ၂၇ရက် သောကြာနေ့ညဉ့်တွင် ကောင်းကင်တမန် ဂါဗြေလ[၁] သည် ထိုဂူသို့ လာလတ်၍ ထာဝရဘုရား သခင်သည် မုဟာမ္မဒ်အား လူသားတစ်ခုလုံး၏ တမန်တော်အဖြစ် ရွေးချယ်လိုက်ပြီ ဖြစ်ကြောင်းကို ကြေညာ အကြောင်းကြားလေသည်၊ ကောင်းကင်တမန်သည် အလ္လာဟ် အရှင်၏ ပထမဦးဆုံးသော မုက္ခပါဌ်တော်ကို ချပေးလေသည်။

မုဟာမ္မဒ်သည် အိမ်သို့ ပြန်လာကာ ဇနီးအား ပြောပြ၏၊ ဇနီး ခဒီဂျကား ပထမဦးဆုံးသော မွတ်စလင်တစ်ဦး ဖြစ်လာလေသည်။

၁။ Hadrat Gabriel

ပထမဦးဆုံးသော မုက္ခပါဌ်တော်ကို ရရှိပြီးနောက် တမန်တော်သည် ပို၍ ဝတ်ပြုခြင်း၊ ဝိညာဉ်ရေးရာ ကြိုးစား အားထုတ်ခြင်းများကို အားသွန် ခွန်စိုက် အားထုတ်လာသည်၊ ထိုနောက် တစ်ဖန် အလ္လာဟ်အရှင်သည် တမန်တော်အား လမ်းမှန်ကို ညွှန်ပြပေးပြန်သည်၊ မိဘမဲ့ ကလေးများနှင့် အခြေအနေမဲ့များကို ကြည့်ရှု စောင့်ရှောက်ရန် ညွှန်ကြားသည်၊ လူအများတို့အား မကောင်းသော အလုပ်ကို မလုပ်ကြရန်၊ အလ္လာဟ်အရှင် တစ်ဆူတည်းကိုသာ ကိုးကွယ်ကြရန်နှင့် အလ္လာဟ်အရှင် မနှစ်သက်သော မည်သည့်ကိစ္စကိုမျှ မပြုလုပ်ကြရန်အတွက် ဟောပြောကာ သတိပေးရန် တမန်တော့်အား ညွှန်ကြားလေသည်၊ တမန်တော်၏ နီးစပ်သော ဆွေမျိုးများကို သတိပေးရန်လည်း အမိန့်ချမှတ်လေသည်။

တမန်တော်သည် ပထမဦးစွာ မိမိ၏ နီးကပ်စွာ အကျွမ်းဝင်သော မိတ်ဆွေများကို လျှို့ဝှက်စွာ တရားဓမ္မ ဟောပြ ဆုံးမသည်၊ ထိုနောက်တွင် ယင်း၏ မျိုးနွယ်စု အတွင်း၌ လည်းကောင်း၊ ထိုမှ တစ်ဖန် မြို့တော်အတွင်းရှိ မြို့သူ မြို့သားတို့အား ပြောင်ပြောင်တင်းတင်း တရားဟောပြော၍ လည်းကောင်း သာသနာပြုလုပ်ငန်းကို စတင် လုပ်ကိုင်လာသည်။

အလ္လာဟ်အရှင် တစ်ဆူတည်းကိုသာ ကိုးကွယ်ထိုက်ကြောင်း၊ လူသားများ သေဆုံးပြီးနောက် ပြန်လည်ရှင်သန် ထမြောက်ကြောင်း၊ နောက်ဆုံး၌ တရား ဆုံးဖြတ်ကာ စီရင်ကြောင်းများကို သွန်သင် ဟောပြောသည်၊ လူအများအား အလှူအတန်း ပြုလုပ်ကြရန်၊ အများအကျိုးကို သယ်ပိုး ဆောင်ရွက်ကြရန် တိုက်တွန်း ဖိတ်ခေါ်သည်၊

ထာဝရ ဘုရားသခင်ထံမှ ရရှိသော မုက္ခ ပါဠိတော်များကို စာဖြင့် ရေးသား၍ ထိန်းသိမ်းထားရန်နှင့် နှုတ်တိုက်ရအောင် သင်ကြား ထားကြရန် မိတ်ဆွေ အပေါင်းအသင်း တို့အား မှာကြား ပြောဆို လေသည်။

တမန်တော်ကို ယုံကြည် လက်ခံလာသူများမှာ တစ်နေ့တခြား တိုးပွားလာသည်၊ သို့သော် ထာဝရ ဘုရားကို လက်မခံသူများအား ရှုတ်ချ ပြောဆိုမှုများကြောင့် အစဉ်အလာ ယုံကြည်မှုကို စွဲမြဲစွာ လက်ခံနေသူများက ဆန့်ကျင်လာသည်မှာလည်း ပြင်းထန်လာသည်၊ တမန်တော်နှင့် သူ၏ အစ္စလာမ်ဘာသာကို လက်ခံ ယုံကြည်လာသူ များအား ကိုယ်ထိ လက်ရောက် ညှဉ်းပန်းလာသည် အထိ အခြေ အနေမှာ ဆိုးရွားလာတော့သည်၊ ပူလောင်သော သဲပြင်တွင် လှွင့်ပစ်ကာ နာရီပေါင်းများစွာ ဒုက္ခခံစေခြင်း၊ နီရဲအောင် မီးဖုတ်ထားသော သံ တွေခဲဖြင့် လောင်စေခြင်း၊ ခြေချင်းခတ်၍ အကျဉ်းချထားခြင်းများကို ပြုလုပ်လာသည်၊ အချို့သူတို့မှာ ညှဉ်းပန်းမှုဒဏ်ကြောင့် အသက် ကိုပင် စွန့်လွှတ် လိုက်ရသော်လည်း မိမိတို့ လက်ခံထားပြီးသော ဘာသာတရားကိုကား မစွန့်လွှတ်တော့ပေ။

နောက်ဆုံးတွင် တမန်တော်သည် သူ၏ဘာသာကို လက်ခံ ယုံကြည်သူများအား နိုင်ငံမှ ထွက်ခွာ၍ တိုင်းတစ်ပါးသို့ သွားရောက် နေထိုင်ကြရန် တိုက်တွန်းရသည်၊ ထိုခေတ်အခါတွင် အဘိဆီးနီးယား ခေါ် အီသီယိုပီးယားနိုင်ငံကို အုပ်ချုပ်နေသော ဘုရင်သည် တရား မျှတစွာ အုပ်ချုပ်လျက် ရှိနေသည်ဟု ကျော်စောနေသည်၊ ထိုကြောင့် အီသီယိုပီးယားနိုင်ငံသို့ မွတ်စလင် အများအပြား ပြောင်းရွှေ့ သွားကြ

သည်၊ တိုင်းပြည်မှ ထွက်ပြေး သွားကြသူများအတွက် ကျန်ရစ်သူများအား ပို၍ နှိပ်စက်ကြပြန်သည်။

မက္ကာမြို့မှ မွတ်စလင်များ အဘီးဆီးနီးယားနိုင်ငံသို့ ထွက်ပြေးသွားကြသောအခါ မုဟမ္မဒ်ကို ဆန့်ကျင်သော သူများက တမန်တော်မျိုးနွယ်စုကို ရာဇသံ ပေးကာ တမန်တော်အား အဆက်အသွယ်ဖြတ်ရန်နှင့် ဖမ်းဆီး၍ သေဒဏ်ပေးရန်အတွက် သူတို့ထံ ပေးအပ်ရန်တောင်းဆိုသည်၊ တမန်တော်၏ မျိုးနွယ်စုတို့မှာ မွတ်စလင်ဟုတ်သူရော မဟုတ်သူတို့ပါ ဤတောင်းဆိုချက်ကို ငြင်းပယ်လိုက်ကြသည်၊ ထိုအခါ မက္ကာမြို့တော် တစ်ခုလုံးက တမန်တော်၏ မျိုးနွယ်စုတို့ကို သပိတ်မှောက်ထားလိုက်ကြသည်၊ ထိုသူတို့နှင့် စကားပြောဆိုခြင်း၊ ကူးသန်းရောင်းဝယ်ခြင်း၊ လက်ထပ်ထိမ်းမြားခြင်းများ မပြုလုပ်ကြရန်ဖြစ်သည်။

တမန်တော်၏ မျိုးနွယ်စုများစွာ ဒုက္ခနှင့် တွေ့ကြုံခဲ့ရသည်၊ အချို့မှာ သေဆုံးကြရသည်၊ မည်သို့ပင် ဒုက္ခနှင့် တွေ့ကြုံခဲ့ကြရစေကာမူလည်း တမန်တော်ကို ဖမ်းဆီးအပ်နှံမည့်သူကား မရှိချေ၊ သုံးနှစ်တိုင်တိုင် ဒုက္ခခံကြရသည်။

ထိုနောက်တွင်ကား အခြားသော မျိုးနွယ်စုအထဲမှ မွတ်စလင်မဟုတ်သူ လေးငါးဦးတို့သည် ကြေညာချက် ထုတ်ပြန်၍ သပိတ်မှောက်ခြင်းကို မတရားကြောင်း၊ လူမဆန်သော သပိတ်မှောက်ခြင်းဖြစ်ကြောင်း ပြောဆိုလာကြသည်၊ ယင်းတို့၏ ကြေညာချက်ကို မက္ကာမြို့ရှိ ကာဘာ[၁] ဘုရားကျောင်းတော်၌ ကပ်ထားလေရာ မုဟမ္မဒ်၏

၁။ Kaaba (ကအ်ဗဟ်)

ကြိုတင်ပေါ်ထားသည့် အတိုင်းပင် ခြမ်းများ ကိုက်စားပစ်လိုက်သည်တွင် "ထာဝရဘုရားသခင်"ဆိုသော စာလုံးနှင့် "မုဟာမ္မဒ်"ဆိုသော စာလုံးများသာ ကျန်ရစ်ခဲ့သည်။

သပိတ်လက်နက်ကို ရုပ်သိမ်းသွားသည်၊ သို့သော် ဆင်းရဲဒုက္ခဒဏ်ကို ခံခဲ့ရသဖြင့် မုဟာမ္မဒ်၏ဇနီး ခဒီဂျနှင့် ဘထွေးတော် အဘူတလင်တို့မှာ များမကြာမီ ကွယ်လွန် သွားခဲ့ကြသည်၊ ဤကဲ့သို့ အခက်အခဲများနှင့် ရင်ဆိုင်ရသော တမန်တော်တို့မှာ ဂုဏ်ရှိန် ပိုမို မြင့်မားကြရသည်။

ဤအချိန်တွင်း ၌ကား တမန်တော်၏ တစ်သက်တာတွင် အထူးခြားဆုံးသော အတွေ့အကြုံကို တွေ့ကြုံခဲ့ရသည်၊ မိရာဂျ်[၁] ခေါ် ကောင်းကင်ခရီးဖြင့် သွားရောက်ကာ ကောင်းကင်ဘုံ တစ်ခုလုံးသို့ ကြွရောက် သွားခဲ့သော အဖြစ်အပျက်ပင်တည်း၊ သွားရောက်ရပုံကား ဤသို့ဖြစ်၏။

တစ်နေ့တွင် တမန်တော်သည် အိပ်ရာ၌ အိပ်မပျော်ဘဲ နိုးနေစဉ် ကောင်းကင်တမန် ဂါဗြေလသည် တမန်တော်၏ ခန္ဓာကိုယ်ကို ကောင်းကင် ခရီးဖြင့် သယ်ဆောင် သွားလေသည်၊ ပထမတွင် ဂျေရုစလင်မြို့ အလ္လာဟ်အရှင်၏ အိမ်တော် မတ်စ်ဂျစ်ဒီအက်ဆာ[၂] သို့ ခေါ်ဆောင်သွားသည်၊ ထိုမှတစ်ဆင့် ကောင်းကင်သို့ တက်သွားလေရာ ခုနစ်ဆင့် မြောက်သော ကောင်းကင်သို့ ရောက်ရှိလေသည်၊ ထိုနောက် တစ်ဖန် အလ္လာဟ်အရှင်က ခွင့်ပြုသော နေရာများသို့ သွားရောက်ရလေသည်။

---

၁။ Miraj ၂။ Mesjdiagsa

မက္ကာမြို့မှ နေ၍ စိဒရာတုလ်မွန်တေဟာ[၁] အမည် ရှိသော နေရာသို့ ကောင်းကင်တမန် ဂါဗြေလနှင့် သွားရောက် ကြသည်၊ စိဒရာတုလ်မွန်တေဟာ သည်ကား ဆဋ္ဌမမြောက်နှင့် သတ္တမမြောက် ကောင်းကင်ဘုံတို့တွင် တည်ရှိသော သစ်ပင် တစ်မျိုး ဖြစ်သည်၊ ဤနေရာမှ ကျော်လွန်၍ မည်သူမျှ မရောက်နိုင်၊ မသိနိုင်ပေ၊ စိဒရာတွင် တမန်တော်သည် ကောင်းကင်တမန် ဂါဗြေလကို သူ၏ခြောက်ရာသော အတောင်တို့ဖြင့် နဂိုမူလ ပုံမှန်အတိုင်း တွေ့မြင်ရသည်။

ကောင်းကင် ခရီးသို့ ကြွမြန်းရာတွင် တမန်တော်သည် ဗူရောက်[၂] ခေါ် အလွန်လျင်မြန်စွာ သွားလာသည့် လျှပ်တစ်ပြက် အရာ အစီးအနင်းဖြင့် ကြွသွားခြင်း ဖြစ်သည်၊ ယင်းအရာသည် လူ့မျက်စိဖြင့် တစ်ဆုံးမြင်နိုင်သော အကွာအဝေးအထိ ကျယ်ဝန်း သည်။

မုတ်စ်ဂျစ်ဒိအက်ဆာ၌ ညဝတ်နှင့် နံနက် ဝတ်တက်ပွဲတွင် တမန်တော်က ဦးဆောင်ရသည်၊ လွန်လေပြီးသော အတိတ်ကာလ တွင် ပေါ်ထွန်းခဲ့သည့် တမန်တော် အပေါင်း၏ ဝိညာဉ်များသာ ထိုဝတ်တက်ပွဲသို့ မိမိတို့၏ မူလရုပ်သွင်ဖြင့် တက်ရောက်လာကြ သည်၊ ဂျေရုစလင်မြို့မှ သတ္တမမြောက် ကောင်းကင်ဘုံသို့ တက်ရောက် ရာတွင် မိရာဂျ် ခေါ် ထူးဆန်းသော လှေကားဖြင့် တက်ရောက်သည်။

တမန်တော် တက်သွားရာ လမ်းတစ်လျှောက် လက်ဝဲ လက်ယာ တို့တွင် ကောင်းကင်တမန်များက စီတန်း၍ ရှုလ် တမန်တော်ကို ချီးကျူး ဂုဏ်ပြုကြသည်၊ ကောင်းကင်ဘုံ တစ်ခုက တစ်ခုသို့ ရောက်

၁။ Sidretul Mnnteha ၂။ Burak

လာတိုင်း ရောက်လာတိုင်း တမန်တော် ဆိုက်ရောက် လာသည့် သတင်းကောင်းကို ကောင်းကင်တမန်များက ကြေညာ ပေးသည်၊ ကောင်းကင်ဘုံတစ်ခုသို့ ရောက်ရှိလာတိုင်း တမန်တော်တစ်ဦးစီက ယင်းအား ခရီးဦးကြိုဆို နှုတ်ဆက်သည်ကို တွေ့ရသည်။

စိဒရာသို့ ရောက်သောအခါ အံ့ဩ စရာ အများအပြားကို တွေ့မြင်ရသည်၊ သုခဘုံ၌ စည်းစိမ်ခံစား နေကြရပုံများနှင့် ငရဲဘုံတွင် ညှဉ်းပန်းခံနေပုံများကို မျက်ဝါးထင်ထင် တွေ့မြင်ရသည်။

စိဒရာမှ လွန်လျှင် တစ်ပါးတည်းသာ ဆက်လက် သွားရ လေသည်၊ ကန့်လန့်ကာပေါင်း ခုနစ်သောင်းကို ဖြတ်သန်းသွားရ သည်၊ ကန့်လန့်ကာနှစ်ခု အကြား နေရာတွင် နှစ်ပေါင်း ၅၀၀ သွားရသော ခရီး တမျှပင် ရှိလေသည်၊ ထိုမှလွန်လျှင် ရတ်ဖရတ်[၁] ခေါ် သူရိယနေမင်းထက် ထွန်းလင်းတောက်ပသော သလွန်ညောင် စောင်းဖြင့် ဆက်လက်သွားရာတွင် ကုသိ[၂]ကို ဖြတ်ကျော်သွားရသည်။

ယင်းပြီးနောက်တွင်ကား တမန်တော်သည် ကောင်းကင်ဘုံ ခုနစ်ထပ် အပါအဝင် ရုပ်လောက၏ အဆုံးစွန် အရပ် ဖြစ်သော အာရ်(ရှ်)[၃]သို့ ရောက်ရှိလေသည်၊ အာရ်(ရှ်)မှ လွန်မြောက်ပြီးသော အခါ အချိန်ကာလ၊ နေရာဌာနနှင့် ရုပ်လောက တစ်ခုလုံး၏ အပြင် ဘက်သို့ ရောက်ရှိလေသည်၊ အလ္လာဟ်အရှင်၏ နှုတ်ကပါဌ်တော်များကို ကြားနိုင်သော အဆင့်သို့ ရောက်ရှိသွားသည်။

တမန်တော်သည် အလ္လာဟ်အရှင်ကို ဖူးတွေ့ရလေတော့၏၊ အလ္လာဟ်အရှင် မည်သို့ရှိနေသည်ကို ရှင်းပြရန် မလွယ်ကူပေ၊ အချိန်

၁။ Refref ၂။ Kulsi ၃။ Arsh

ကာလနှင့် နေရာဌာနမရှိသော နောင်တမလွန် ဘဝကျမှ အလ္လာဟ် အရှင်နှင့် စကားပြောရသည်၊ ထိုသို့ ပြောဆိုရာတွင် စကားလုံးများနှင့် အသံများ မလိုချေ၊ "အလ္လာဟ် အရှင်သည် ချွတ်ယွင်းချက် အားနည်းချက်တို့မှ ကင်းစင်ကြောင်းကို အကျွန်ုပ် သိရှိပါ၏"ဟု တမန်တော်က ပြောဆိုသည်၊ အလ္လာဟ်သခင်ကို ချီးကျူးသည့် စကားများကို ပြောဆိုသည့် အလ္လာဟ်အရှင်က တမန်တော်အား မရေမတွက်နိုင်သော လက်ဆောင်များ၊ ဂုဏ်ထူးများကို ပေးသည်။

တမန်တော်နှင့် ယင်း၏ နောက်လိုက်များကို အကြိမ် ၅၀ စီ ဝတ်ပြုရန် အမိန့် ချမှတ်ပေးသည်၊ သို့သော် တဖြည်းဖြည်း လျှော့ချလာရာ တစ်နေ့ငါးကြိမ်ကျ ဝတ်ပြုရန် လျှော့ချသည်၊ ဤညွှန်ကြားချက်ကို မချမှတ်မီ ကာလတွင် နံနက်ပိုင်း တစ်ကြိမ်နှင့် မွန်းလွဲ သို့မဟုတ် ညပိုင်း တစ်ကြိမ်ကျစီသာ ဝတ်ပြုကြသည်။

ဤကဲ့သို့ ကြာညောင်း လှသော ခရီးကို သွားရောက်၍ အလ္လာဟ် အရှင်၏ လက်ဆောင်များနှင့် ကောင်းချီးပေးခြင်းကို ခံယူရခြင်း၊ အံ့သြမကုန်နိုင်သော အရာများကို ကြားမြင်ရခြင်းတို့ကို ကြုံတွေ့ရ ပြီးနောက် တမန်တော်သည် မိမိ၏ မူလ အိပ်ရာသို့ ပြန်လာခဲ့သည်၊ အိပ်ရာမှာ အေးစက်ခြင်းပင် မရှိသေးကြောင်း တွေ့ရလေသည်။

တမန်တော် မုဟမ္မဒ်သခင်သည် ကောင်းကင်ဘုံသို့ သွားရောက်ခဲ့ရကြောင်း သတင်းပျံ့နှံ့သွားသူ ထာဝရဘုရားကို မယုံကြည်သူတို့၏ ရန်စမှု များပြားလာသည်၊ ထို့ကြောင့် မိမိ၏ မွေးရပ်ဇာတိကို စွန့်ခွာ၍ အစ္စလာမ်ဘာသာ ပြန့်ပွားရေးကို ဆောင်ရွက်နိုင်မည့် နေရာ

တစ်ခုကို ရှာဖွေရန် ကြိုးလာရသည်၊ တမန်တော်သည် တာအီ[၁]မြို့သို့ ထွက်ခွာသွားခဲ့သော်လည်း ထိုမြို့မှ တမန်တော်အား လက်မခံဘဲ ခဲများဖြင့် ပစ်ပေါက်ကာ ရန်ရှာကြသဖြင့် မက္ကာမြို့သို့ပင် ပြန်လာ ခဲ့ရသည်။

မက္ကာမြို့တော်ရှိ ကာအဘာ (ကအ်ဗဟ်) ကျောင်းတော်သို့ အာရေဗျ ကျွန်းဆွယ် တစ်ခုလုံးမှ လူအများ ဟာဂျ်ပြုရန် လာရောက် ကြရာ တမန်တော်သည် ထိုသူများကို ထာဝရဘုရားသခင်၏ မုက္ခပါဌ် တော်များကို ဖြန့်ဖြူးခွင့် ရရှိသည်၊ တမန်တော်များနှင့် အလ္လာဟ် အရှင်၏ မုက္ခပါဌ်တော် သဘော တရားများကို နားလည်သော ယာသရစ်[၂] မြို့သားတို့နှင့် တမန်တော် မုဟမ္မဒ် ဆက်သွယ်မိသည်၊ ထိုသူများမှာ အစ္စလာမ်ဘာသာသို့ ကူးပြောင်း လက်ခံ လာခဲ့ကြသည်။

တစ်နှစ်ခန့် ကြာသောအခါ ယာသရစ်မြို့သား ၁၂ ဦးတို့ အစ္စလာမ်ဘာသာသို့ ကူးပြောင်းလာကြပြန်ကာ သူတို့ထံသို့ ဘာသာ ရေးဆရာ တစ်ဦးကို စေလွှတ်ပေးရန် တောင်းဆိုကြသည်၊ မူဆတ် အမည်ရှိသူအား စေလွှတ်လိုက်ရာ နောင်နှစ် ဟာဂျ်ရာသီတွင် အစ္စလာမ် ဘာသာဝင် ၇၄ ဦးတို့ကို အသစ်တစ်ဖန် စည်းရုံး ရရှိခဲ့သည်၊ ယာသရစ်မြို့သားတို့သည် တမန်တော်အား မိမိတို့မြို့သို့ လာရောက် နေထိုင်ရန် တိုက်တွန်းပြီး အကာအကွယ်များပေး၍ ကူညီမည်ဖြစ်ကြောင်း ပြောဆိုကြသည်။

မက္ကာမြို့မှ မွတ်စလင်များသည် အဖွဲ့ငယ်များဖွဲ့၍ လျှို့ဝှက်စွာ ထွက်ခွာသွားကြပြီး ယာသရစ်မြို့တွင် နေထိုင်ကြသည်၊ အလ္လာဟ်

---

၁။ Taif ၂။ Yathrib

အရှင်ကို မယုံကြည်သူများသည် မက္ကာမြို့မှ ထွက်ခွာ သွားသော မွတ်စလင်တို့၏ ပစ္စည်းများကို သိမ်းပိုက်၍ မကျေနပ်နိုင်သေးဘဲ တမန်တော်ကို ကွပ်မျက်ရန် ကြံစည်ကြပြန်သည်၊ တမန်တော်မှာ ဆက်လက် နေထိုင်ရန် မဖြစ်နိုင်တော့သော အခြေအနေ ဖြစ်လာသည်၊ ရန်သူများသည် တမန်တော်ကို ဆန့်ကျင်ကြ သော်လည်း တမန်တော်၏ ရိုးသားမှုကို အပြည့်အဝ လက်ခံနေကြသဖြင့် မိမိတို့၏ အဖိုးတန် ပစ္စည်းများကို တမန်တော်ထံ၌ အပ်နှံထားကြသေးသည်။

ရန်သူများ အပ်နှံထားသော ပစ္စည်းများကို မိမိ၏ ဝမ်းကွဲညီ အလီထံ အပ်နှံကာ တမန်တော် မုဟမ္မဒ်သခင်သည် မိမိ၏ သစ္စာရှိသော မိတ်ဆွေ အဘူဘက်ရ်[၁]ကို ခေါ်၍ လျှို့ဝှက်စွာ မြို့မှ ထွက်ခွာသွားခဲ့ကြသည်၊ ထိုညတွင် အစ္စလာမ် ဘာသာကို ဆန့်ကျင်ကြသော လူမျိုးစုတိုင်းမှ လုလင်ပျို တစ်ယောက်စီကို ရွေးချယ်ကာ တမန်တော်၏ အိမ်ကို ဝိုင်းထားပြီး တမန်တော် ဝတ်ပြုရန် ထွက်လာသော အခါ ခုတ်သတ်ရန် စီစဉ်နေကြသည်။

တမန်တော်သည် အလီကို ပစ္စည်းအပ်နှံပြီး မိမိ၏ အိပ်ရာ၌ ခြေရာလက်ရာမပျက် အလီကို အိပ်နေစေပြီး ရပ်ဖျက်၍ ထွက်ခွာသွားခဲ့သည်၊ ထိုနေ့သည်ကား ခရစ်နှစ် ၆၂၃ ခု၊ စက်တင်ဘာလ ၁၃ ရက်၊ ကြာသပတေးနေ့ ဖြစ်သည်၊ အဘူဘက်ရ်ကို သူ၏အိမ်သို့ သွားရောက် ခေါ်ယူပြီးသော ပုဂ္ဂိုလ်နှစ်ဦး တို့သည် ဆောင်းလိုဏ်ဂူသို့ သွားရောက်၍ သုံးညတိုင်တိုင် ပုန်းအောင်း ခိုလှုံနေကြရသည်၊

၁။ Abu Bakr

စတုတ္ထနေ့တွင် အဘူဘက်ရ်၏ အိမ်မှ ကုလားအုတ် နှစ်ကောင် ရောက်ရှိလာသဖြင့် ကုလားအုတ်စီး၍ ခရီး ထွက်ခွာကြလေသည်၊ ကုဖာသို့ ရောက်သောအခါ သုံးရက် တည်းခိုကြသည်၊ ထိုမှ ဆက်လက် ထွက်ခွာသွားခဲ့ကြရာ ယာဘရစ်သို့ ဘေးမသီရန်မခ ရောက်ရှိသွား ကြသည်၊ တမန်တော် မက္ကာမြို့မှ ထွက်ခွာသွားသည့် နေ့မှစ၍ အစ္စလာမ်ဘာသာ ခရစ်နှစ် ဟိဂျရီကို စတင် ရေတွက်သည်၊ ထို အချိန်မှစ၍ ယာဘရစ်မြို့ ကိုလည်း အမည်သစ်ပေးကာ မဒီနာ တွန်နဗီဟု ခေါ်တွင်စေပြီး နောက်တွင် မဒီနာဟု ခေါ်ကြသည်။

တမန်တော်သည် မဒီနာမြို့သားများနှင့် အသစ်ရောက်ရှိလာသူ များအား ညီအစ်ကို ပေါက်ဖော် စိတ်ဓာတ် ထားရှိရန် ပျိုးထောင် ပေးသည်၊ အသက်မွေးဝမ်းကျောင်း အလုပ်ကို အတူ လက်တွဲ လုပ်ကိုင်ကြကာ ဘဝ၏ လုပ်ငန်း အရပ်ရပ်၌ တစ်ဦးကို တစ်ဦးက ဝင်ရောက်ကူညီကြသည်၊ ဤနည်းဖြင့် လူသစ်များအား နေရာချ ထားရေး ကိစ္စကို အောင်မြင်စွာ ဆောင်ရွက်နိုင်လေသည်။

မုဟမ္မဒ်သခင်သည် အုပ်ချုပ်ရေးသမားကောင်း တစ်ဦးလည်း ဖြစ်၏၊ တမန်တော်သည် မွတ်စလင်နှင့် မွတ်စလင် မဟုတ်သူ မဒီနာ မြို့သားတို့ကို ဖိတ်ခေါ်၍ သူတို့၏ သဘောတူညီချက်ကို ရယူကာ မြို့တော် အုပ်ချုပ်ရေး စည်းမျဉ်း တစ်ခုကို ရေးဆွဲသည်၊ မြို့သူ မြို့သား တို့၏ တာဝန် အခွင့်အရေးများ၊ အုပ်ချုပ်သူ အကြီးအကဲ ၏ တာဝန်ဝတ္တရားတို့ကို တိကျစွာ သတ်မှတ်ထားသည်၊ မုဟမ္မဒ် သခင်ကို ကန့်ကွက်သူမရှိဘဲ သူတို့၏ အကြီးအကဲအဖြစ် တင်မြှောက် လိုက်ကြသည်။

တမန်တော်နှင့် သူ၏ အပေါင်းအဖော်တို့အား မဒီနာမြို့မှ မောင်းထုတ်ပစ်ကြရန် မက္ကာ မြို့သား တို့က တောင်းဆိုလာကြပြန်သည်၊ ဟ်ဂျရ ခရစ်နှစ် ၂ ခုနှစ်တွင် တမန်တော် တို့အား တိုက်ခိုက်ရန် မက္ကာမြို့သားတို့သည် အင်အားကောင်းသော တပ်မတော် တစ်ခုကို စေလွှတ် လိုက်ကြသည်၊ မွတ်စလင်တို့ထက် အင်အား သုံးဆမျှ ကြီးမားသော မက္ကာစစ်တပ်ကို မွတ်စလင်တို့သည် ဘဒရ် တိုက်ပွဲ၌ ချေမှုန်းပစ်နိုင်သည်။

တစ်နှစ်တာမျှ စစ်မက် ပြင်ဆင်ပြီး မက္ကာမြို့သားတို့သည် မဒီနာမြို့သို့ လာရောက် တိုက်ခိုက်ကြပြန်သည်၊ ယခုအကြိမ်တွင် အင်အား လေးဆမျှ သာလွန်သည်၊ အုဟုဒ်အရပ်၌ တိုက်ပွဲဖြစ်ပွားရာ တမန်တော် ကိုယ်တိုင်ပင် ဒဏ်ရာ ရရှိသွားသည်၊ စစ်ပွဲမှာ အရှုံးအနိုင် မရှိဘဲ ရပ်စဲသွားခဲ့သည်။

တမန်တော်သည် သူ၏ ရန်သူများက တောင်းဆိုသော အချက်အချို့ကို လိုက်လျောကာ ငြိမ်းချမ်းရေး ဆောင်ရွက်ပေးသည်၊ ငြိမ်းချမ်းရေး ရရှိသော ကာလတွင် အစ္စလာမ် ဘာသာ ပြန့်ပွားရေးကိုလည်း အစဉ်တစိုက် ဆောင်ရွက်လာနိုင်သည်။

များမကြာမီ ရန်သူတို့သည် တမန်တော်နှင့် ချုပ်ဆိုထားသော ငြိမ်းချမ်းရေး စာချုပ်ကို ဖောက်ဖျက်လာခဲ့ကြသည်၊ တမန်တော်၏ မဟာမိတ်လူမျိုးစု တစ်စုကို ထာဝရ ဘုရားအား မယုံကြည်သူများဘက်က ဝင်ရောက် တိုက်ခိုက် ခဲ့ကြသည်၊ ဟုရမ် အတွင်း၌ပင် ဝင်ရောက် သတ်ဖြတ်ခဲ့ကြသည်၊ မသေဘဲ ကျန်ရစ်သူများက တမန်တော် ထံသို့ လာရောက်၍ အကူအညီ တောင်းလေသည်။

ဟိဂျရီ ခရစ်နှစ် ၈ ခု၊ ရန်မဇန်လမြတ် ၁၀ ရက်နေ့တွင် တမန်တော်သည် စစ်သည် တစ်သောင်းကို ဦးဆောင်ကာ မက္ကာမြို့သို့ ချီတက်သွားလေရာ မက္ကာမြို့မှာ အငိုက်မိလေတော့သည်၊ သွေးထွက်သံယိုမှု မရှိဘဲ မက္ကာမြို့တော်ကို သိမ်းပိုက်နိုင်သည်။

မက္ကာမြို့သားများအား စုရုံးစေကာ မိမိတို့သည် လွန်ခဲ့သည့် အနှစ် ၂၀ အတွင်း မကောင်းမှုများကို ကျူးလွန်ခဲ့ကြပုံ၊ ဘာသာရေးနှိပ်စက်ညှဉ်းပန်းမှုများကို ပြုလုပ်ခဲ့ကြပုံ၊ ထွက်ပြေးသူများ၏ ပစ္စည်းဥစ္စာတို့ကို မတရား သိမ်းပိုက်ခဲ့ကြပုံ၊ အစဉ်အမြဲ ကျူးကျော် တိုက်ခိုက်ခဲ့ကြပုံများကို တမန်တော်သည် ဖော်ထုတ် ပြောဆိုပြီးနောက် ထိုလူများ ကျူးလွန်သော အပြစ်များအားလုံးကို လွတ်ငြိမ်းခွင့်ပြု၍ အေးချမ်းစွာ နေထိုင်စေသည်။

မက္ကာမြို့သားတို့မှာ စိတ်ထား ပြောင်းလဲသွားကြသည်၊ မက္ကာခေါင်းဆောင် တစ်ဦးက အစ္စလာမ် ဘာသာကို လက်ခံလာသောအခါ ထိုသူကို မက္ကာမြို့ကို အုပ်ချုပ်ရန် ခန့်အပ်ပေးသည်၊ မက္ကာမြို့ရှိ စစ်သည်တော် တစ်ဦး တစ်ယောက်ကိုမျှ မထားခဲ့ဘဲ တမန်တော်သည် မဒီနာမြို့သို့ ပြန်သွားသည်၊ နာရီအနည်းငယ်အတွင်း မက္ကာတစ်မြို့လုံးကို အစ္စလာမ်ဘာသာသို့ သိမ်းသွင်းလိုက်နိုင်လေသည်။

တမန်တော်သည် ဟိဂျရီ ခရစ်နှစ် ၁၀ ခုနှစ်တွင် မက္ကာမြို့တော်သို့ နောက်ဆုံးအကြိမ် ဟာဂျ်ပြုရန် ထွက်ခဲ့သည်၊ ထိုအချိန်တွင် အာရေဗျ ကျွန်းဆွယ် တစ်ခုလုံးမှာ မွတ်စလင်များလက်သို့ ကျရောက်ခဲ့ပြီး ဖြစ်သည်၊ ထိုမှ ပြန်လာပြီး မကြာမီ ဟိဂျရီသက္ကရာဇ် ၁၁ ခု၊ သက်တော် ၆၃ နှစ်တွင် ကွယ်လွန်ခဲ့လေသည်။

စာပေဟောင်းလေးအိုးကြီး

တမန်တော်သည် ဘုရားသခင်ထံမှ ဆက်သွယ်မှုကို ရရှိပြီးသည့် အချိန်မှစ၍ အစ္စလာမ်ဘာသာကို ဟောပြော သင်ပြခဲ့သည်၊ ရုပ်တုဖြင့် ကိုးကွယ်သော ပူဇော်ပသမှုများကို တားမြစ်သည်၊ မည်သည့် ပုဂ္ဂိုလ် သတ္တဝါ၊ ကြယ်, လ, နက္ခတ်တာရာ၊ သစ်ပင်၊ ကျောက်တုံး၊ ဝိညာဉ်ကောင်တို့မှာ လူသားများ၏ ကိုးကွယ်ဆည်းကပ်မှုကို မခံထိုက်ကြောင်း၊ စကြဝဠာလောကကြီး တစ်ခုလုံးသည် ထာဝရဘုရားသခင်၏ ပစ္စည်းများသာ ဖြစ်ကြောင်း၊ ထာဝရဘုရားသခင် တစ်ပါးတည်းသာလျှင် ဖန်ဆင်းရှင် စကြာဝဠာကြီးကို ပြုပြင် ထိန်းသိမ်းသူအရှင်သခင်ဖြစ်၍ ထိုအရှင်ကိုသာလျှင် ကိုးကွယ် ဝတ်ပြုရန်ထိုက်ကြောင်း၊ ထိုအရှင်၏ အမိန့်ကိုသာလျှင် နာခံလိုက်နာရန် လိုအပ်ကြောင်းကို သွန်သင် ဆုံးမ၍ ဟောပြောသည်။

သူတစ်ပါး လုယက်ခြင်း၊ အနိုင်အထက်ပြုမှုခြင်း၊ သတ်ဖြတ်ခြင်း၊ မတရားပြုမှုခြင်းနှင့် ရက်စက်ကြမ်းကြုတ်ခြင်းတို့သည် ထာဝရဘုရားသခင်၏ အမြင်တွင် ရာဇဝတ်မှု ကျူးလွန်မှုများပင် ဖြစ်သည်၊ အလ္လာဟ်အရှင် မနှစ်သက်သော မကောင်းမှု ပြုလုပ်ခြင်းများကို စွန့်ပယ်၍ အမှန်တရားကို ပြောဆိုကြရန် တရား မျှတမှု ရှိကြရန် တိုက်တွန်း ဟောကြားသည်။

သူတစ်ပါးအသက်ကို သတ်ခြင်း၊ လုယက်ခြင်းများ မပြုလုပ်ကြဘဲ၊ တရားဝင် ရရှိသော အခွင့်အရေးများဖြင့် ရောင့်ရဲတင်းတိမ်ကြရန် သူတစ်ပါးအား ပေးရမည့် ပစ္စည်းကို မှန်မှန်ကန်ကန် ပေးကြရန် တောင်းဆိုသည်။

လူသား အားလုံးသည် ထာဝရ ဘုရားသခင်၏ ရှေ့တွင် တန်းတူ ရည်တူချည်းသာ ဖြစ်ကြသည်၊ မည်သူမျှ အမိဝမ်းတွင်းမှ

မွေးဖွားလာစဉ်ကပင် ရှက်စရာ အလုပ်ကို မကျူးလွန်ခဲ့ကြ သကဲ့သို့ပင် မည်သူတို့တွင်လည်း မွေးဖွားစဉ် ဂုဏ်ကျက်သရေများနှင့် လာခဲ့ကြသည် မဟုတ်ချေ၊ မြင့်မြတ်၍ ဂုဏ်ကျက်သရေနှင့် ပြည့်စုံသော သူသည်ကား ဘုရားကို ရှက်ကြောက်သောသူ၊ ဘုရားတရားကြည်ညိုလေးစားသောသူ၊ မှန်ကန်စွာ ပြောဆိုတတ်သူ၊ မှန်ကန်စွာ ပြုမူတတ်သူသာ ဖြစ်၏။

မွေးဖွားရာ၌ ထင်ရှား ကျော်စောခြင်း၊ မျိုးရိုး၏ အရှိန်အဝါရှိခြင်း တို့သည် ကြီးကျယ် မြင့်မြတ်မှု ဂုဏ်ရှိန် ကြီးမြင့်မှုတို့ကို တိုင်းတာ၍ရသော ပေတံများ မဟုတ်ပေ၊ ထာဝရဘုရားကို ရှက်ကြောက်ခြင်း တည်းဟူသော ဟိရိဩတပ္ပ တရားနှင့် ပြည့်စုံခြင်း၊ ကောင်းသော အမူအကျင့်ရှိခြင်း တို့သာလျှင် အမြင့်မြတ် တကာတို့ထက် အမြင့်မြတ်ဆုံး ဖြစ်သည်။

ဘုရားသခင်၏ မေတ္တာတော်ကို လက်မခံဘဲ ငြင်းပယ်သောသူ မကောင်းမှု ကျူးလွန်ခြင်း၌ ပျော်မွေ့နေသော သူသည်ကား ပျက်စီးရမည်မှာ မြေကြီးလက်ခတ် မလွဲတည်း၊ ယခုဘဝမှ စုတေ၍ သေလွန်သော် နောင်တမလွန် ဘဝတွင် ဘုရားသခင်၏ ရှေ့တော်သို့ ဝင်ရောက်၍ အစစ်ဆေးခံရမည့် နေ့သည် ရှိ၏၊ ထိုနေ့တွင် မိမိတို့ ပြုလုပ်ခဲ့သော ကုသိုလ် အကုသိုလ်များ အားလုံးကို ဖော်ထုတ်၍ အစစ်ခံကြရ၏၊ မည်သူမျှ ဖုံးအုပ်ထား၍ မရချေ၊ ဘဝတစ်လျှောက်လုံးတွင် ပြုလုပ်ခဲ့သမျှသော အလုပ်တို့သည် ဘုရားသခင်၏ ရှေ့တွင် ဖုံးဖိ၍မရ၊ စာအုပ်ကို ဖွင့်ထားသကဲ့သို့ မှတ်တမ်းအားလုံးကို ဘုရားသခင်က သိရှိသည်။

မိမိတို့ ပြုလုပ်ခဲ့သော ကုသိုလ်ကံ၊ အကုသိုလ်ကံတို့၏ အကျိုးအတိုင်း မိမိတို့၏ ကံကြမ္မာကို သတ်မှတ်ခြင်း ခံကြရလိမ့်မည်၊ မှန်ကန်တည့်မတ်သော တရားသူကြီး ဖြစ်တော်မူသော ထာဝရဘုရားသည် တရားကို စီရင်သောအခါ မတရားစီရင်ခြင်းကို ခံကြရသည်၊ မျက်နှာသာပေးခြင်းကို ခံကြရသည် ဟူသော ပြဿနာများ မပေါ် ပေါက်တော့ချေ၊ အလ္လာဟ် အရှင်ကို မည်သူကမျှ လာဘ်ထိုးရန် မတတ်စွမ်းနိုင်ပေ၊ မိမိတို့ ဆင်းသက်ပေါက်ဖွားလာသည့် မျိုးရိုးကိုလည်း ထည့်သွင်း စဉ်းစားလိမ့်မည် မဟုတ်ချေ။

မှန်ကန်သော ဘာသာ တရားကို သက်ဝင် ယုံကြည်ခြင်း၊ ကောင်းသော အပြုအမူကို ပြုမူကျင့်ကြံခြင်း အကြောင်း တို့သည်သာလျှင် ထိုအချိန်တွင် အကူအညီ အထောက်အပံ့ကို ပြုနိုင်လိမ့်မည်၊ ဤတရားများကို ခါးဝတ်ပုဆိုးကဲ့သို့ မြဲမြံစွာ ကျင့်သုံးခဲ့ကြသူများသာလျှင် အစဉ်ထာဝရ ပျော်ရွှင်မှုကို ရရှိနိုင်သော ပရဒိသုခဘုံ၌ နေထိုင်ခွင့်ကို ရရှိမည်ဖြစ်ပြီး ထိုတရားဓမ္မကို မလိုက်နာခဲ့သူတို့မှာကား အစဉ် ဆင်းရဲရသော မီးပုံငရဲသို့ ပစ်ချခြင်းကို ခံရလိမ့်မည်ဖြစ်သည်။

ဤတရားတို့သည်ကား မုဟမ္မဒ်သခင်ကို တမန်တော်အဖြစ် ထာဝရ ဘုရားသခင်က အသိအမှတ်ပြုသည့် အချိန်မှ ကွယ်လွန်သည့် အချိန်အထိ လူအများကို သွန်သင်ဆုံးမ ဟောကြားခဲ့သော ဓမ္မပင် ဖြစ်သည်၊ အစ္စလာမ် ဘာသာဝင် မွတ်စလင်တို့သည် တမန်တော် မုဟမ္မဒ်၏ အမည်ကို နှုတ်မှ ရွတ်ဆိုသည့် အကြိမ်တိုင်း အာရဗီဘာသာဖြင့် ဆွလ္လာဟု အလိုင်ဟိဝ စလ္လမ်ဟု ဆိုကြသည်၊ အဓိပ္ပာယ်

ကား အလ္လာဟ် အရှင်မြတ်၏ ငြိမ်းချမ်း သာယာမှု အပေါင်းနှင့် ကျက်သရေမင်္ဂလာ အဖြာဖြာသည် တမန်တော်မြတ်အပေါ်သို့ ကျရောက်သည် ဖြစ်ပါစေဟူ၍ ဖြစ်လေသည်။

## အစ္စလာမ် ကျမ်းတော်များ

အစ္စလာမ်ဘာသာ၏ အခြေခံ ယုံကြည်ချက်များကို ဖော်ပြထားသော ကျမ်းစာသည်ကား ကုရ်အာန်ကျမ်း ဖြစ်သည်၊ ကုရ်ကျမ်းသည် တမန်တော် မုဟမ္မဒ်၏ တမန်တော် သက်တမ်း ၂၃ နှစ်အတွင်း အလ္လာဟ်အရှင်က ကောင်းကင်တမန် ဂါဗြေလမှ တစ်ဆင့် တမန်တော်သို့ အလီလီ ချပေးခဲ့သော နှုတ်ထွက်စကားများကို စုပေါင်းထားသော ကျမ်းစာဖြစ်သည်။

ကုရ်အာန်ဆိုသော စကားလုံး၏ အဓိပ္ပာယ်မှာ ရွတ်ဖတ်ခြင်းဟု အဓိပ္ပာယ်ရသည်၊ တမန်တော်သည် အလ္လာဟ်အရှင်ထံမှ တရားတစ်ပုဒ်ကို လက်ခံရရှိတိုင်း ရရှိပြီးသည်နှင့် တစ်ပြိုင်နက် သူ၏ မိတ်ဆွေများ ထံသို့ ပြောကြားကာ ထိုတရားတော်ကို နှုတ်တိုက် ရရှိစေပြီး ဝတ်ပြုတိုင်း ရွတ်ဖတ်စေသည်သာ မကသေးဘဲ ထိုတရားတော်ကို စာဖြင့် ရေးထားစေသည်။

ကုရ်အာန်ကျမ်းကို အကြိမ်ကြိမ် အလီလီ ချပေးသော်လည်း ကျမ်းစာ တစ်ခုလုံးမှာ အားလုံး ပြေပြစ် ညီညွတ်လျက် ရှိသည်၊ တရားတော် တစ်ပုဒ်ကို လက်ခံရရှိတိုင်း ထိုတရားတော်ကို ယခင်ရရှိပြီးသော တရားတော်ထဲတွင် သက်ဆိုင်ရာ အခန်း၌ ဖြည့်စွက်ထည့်သွင်း ထားလေ့ ရှိသည်၊ အလ္လာဟ်အရှင်၏ လမ်းညွှန်မှုဖြင့်

တမန်တော်သည် သက်ဆိုင်ရာအခန်း၊ ဂါထာ၊ စကားလုံးနှင့် ဆီလျော်အောင် စီစဉ်ထားသည်၊ ကုရ်အာန်ကျမ်းစာကို အစီအစဉ် ပြုလုပ်ခြင်းမှာ အလ္လာဟ်အရှင်၏ အလိုတော်အတိုင်း ဖြစ်သည်ဟု ဆိုနိုင်သည်၊ ဤနည်းဖြင့် တမန်တော် လက်ထက် သာဝကကြီးများသည် ကုရ်အာန်ကျမ်း တစ်စောင်လုံးကို နှုတ်ငုံဆောင် ရရှိနေသည်သာမက သေးဘဲ ထိုခေတ်က စာရေး ကိရိယာများတွင်လည်း ရေးသားထားခဲ့ကြသည်။

ကုရ်အာန်ကျမ်းကို အခန်းပေါင်း ၁၁၄ ခု ခွဲခြား ထားသည်၊ အခန်းများမှာ အရှည် အတို မတူညီကြချေ၊ အရှည်ဆုံး အခန်းသည် ကျမ်းတစ်ခုလုံး၏ ၁၂ပုံ တစ်ပုံရှိသည်၊ နောက်ဆုံးအခန်း ၃၅ခန်းတို့မှ တစ်ပါး ကျန်အခန်းများကို ခေါင်းစဉ်ခွဲများဖြင့် ခွဲခြား ထားရှိရာ ခေါင်းစဉ်တစ်ခုလျှင် ဘာသာရပ် တစ်ခုကျစီ ပါရှိသည်။

ခေါင်းစဉ်အောက်တွင် ဂါထာများ ပါရှိရာ စုစုပေါင်း ဂါထာ ၆၂၄၀ ရှိသည်။

ကုရ်အာန်ကျမ်းကို နောက်တစ်နည်းအားဖြင့်လည်း ခွဲခြားထားသေးသည်၊ တမန်တော် မက္ကာမြို့၌ နေထိုင်စဉ်ကာလ ၁၃ နှစ်အတွင်း ရရှိသော တရားတော်များနှင့် မဒီနာမြို့သို့ ပြောင်းရွှေ့နေထိုင်သော ၁၀ နှစ်အတွင်း ရရှိသော တရားတော်များ ဟူ၍ ခွဲခြားထားသည်၊ မက္ကာမြို့တွင် နေထိုင်စဉ် ရရှိသော တရားတော်များမှာ အခန်းပေါင်း ၉၂ ခန်းရှိ၍ မဒီနာမြို့သို့ သွားရောက် နေထိုင်ပြီးနောက် ရရှိသော တရားတော်များကား ၂၂ ခန်း ရှိသည်။

ကုရ်အာန်ကျမ်းကို လူမျိုး၊ နေရာ၊ အချိန်ကာလ အားဖြင့် ကန့်သတ်ထားခြင်း မရှိဘဲ လူသားအားလုံးသို့ ပေးပို့ခဲ့ခြင်း ဖြစ်သည်၊

ထို့အပြင် လူ့အမျိုးမျိုး အစားစားအတွက် လည်းကောင်း၊ ကိုးကွယ်ယုံကြည်မှုဆိုင်ရာရော အုပ်ချုပ်သူ အစိုးရအတွက်ပါ တစ်ဦးတစ်ယောက်အနေဖြင့်သော် လည်းကောင်း၊ အစုအပေါင်းဖြင့်သော် လည်းကောင်း၊ လမ်းညွှန်မှု ရရှိစေရန် ရည်ရွယ်ခဲ့သည်၊ အုပ်ချုပ်သူနှင့် အုပ်ချုပ်ခံရသူဆင်းရဲသား၊ ချမ်းသာသူနှင့် ဆင်းရဲသူ၊ ငြိမ်းချမ်းရေးနှင့် စစ်မက်ရေး၊ ဝိညာဉ်ရေးနှင့် ရုပ်ဝတ္ထုအရေး၊ ကူးသန်းရောင်းဝယ်ရေး ဆိုင်ရာအားလုံးအတွက် နည်းပေးလမ်းညွှန်များ ပါရှိသည်။

အလ္လာဟ်အရှင်၏ အမည်နာမ ၉၉ မျိုးကို ဖော်ပြ၍ ဘုရားသခင်၏ ဂုဏ်ပုဒ်တို့ကို ကုရ်အာန်ကျမ်းတွင် ဖော်ပြထားရှိသည်၊ ထိုကျမ်းတွင် လူသားအချင်းချင်း ထားရှိရမည့်တာဝန်၊ အလ္လာဟ်အရှင်အပေါ် ထားရှိမည့် သဘောထား တို့ကိုလည်း ဖော်ပြထားသည်၊ လူသားများကို ဖန်ဆင်းရခြင်းမှာ ဖန်ဆင်းရှင်၏ လိုအင်ဆန္ဒကိုဖြည့်ဆည်းပေးရန်နှင့် လူသားတို့သည် ကျမ်းစာတွင် ပါရှိသော ညွှန်ကြားချက်များနှင့် တမန်တော်၏ သင်ကြားချက်များအတိုင်း မိမိတို့၏ဘဝကို ထိန်းကျောင်းပေးရန် လိုအပ်ပါကြောင်းကို ဖော်ပြပါရှိသည်။

သာဝကကြီးများနှင့် ကျမ်းပြုဆရာကြီး တို့သည် ကုရ်အာန်ကျမ်းကို သစ်ခေါက်များနှင့် တိရစ္ဆာန်သားရေတို့တွင် ရေကူးထားခဲ့ကြသည်။

ကုရ်အာန်ကျမ်းတွင် ခရစ်ယာန်ဘာသာနှင့် ဂျူးဘာသာတို့၌ထင်ရှားသော ပုဂ္ဂိုလ်ကြီးများနှင့် အဖြစ်အပျက်များကို ဖော်ပြထားကြောင်း တွေ့ရှိရသည်၊ ထာဝရ ဘုရားသခင်သည် ပထမဦးဆုံးလူသား အာဒမ်ကို ဖန်ဆင်းသည့် အချိန်မှစ၍ အေဗြဟံတွင် သား

နှစ်ဦး ဖေက်နှင့် အစ္စမေလတို့ ရရှိသည့် အချိန်အထိ သမ္မာကျမ်းစာတွင် ဖော်ပြထားသော အကြောင်းအရာတို့ကို တွေ့ရှိရသည်။

အရှေးပါသော အခန်းကြီး ငါးခန်းတို့၏ အမည်များကို နောဧ၊ ယောန၊ ယောသပ်၊ အေဗြဟံ၊ မာရိဟု ပေးထားသည်၊ သီးခြား အခန်းကဏ္ဍဖြင့် ဖော်ပြထားခြင်း မခံရသော်လည်း အရေးပါသော နေရာများတွင် ဖော်ပြထားခြင်း ခံရသော အခြား အမည်များကား ယေရှု၊ အာဒမ်၊ ဒါဝိဒ်၊ ဂေါလိယက်၊ ယောဘ၊ မောရှေ၊ လောဘနှင့် ရှောလမုန်တို့ ဖြစ်သည်။

ကုရ်အာန်ကျမ်းသည် အလ္လာဟ်အရှင်၏ နှုတ်ကပါဠိတော်များ ဖြစ်သည်ဆိုခြင်းကို သံသယဖြစ်စရာ မရှိပေ။

တမန်တော် မုဟမ္မဒ် ကွယ်လွန်ပြီးနောက် အစ္စလာမ်နိုင်ငံ၏ အကြီးအကဲ ကာလီဖာ[၁]အဖြစ်ကို ပထမဦးဆုံး ဆက်ခံသော သာဝကကြီး အဘူဘကရ်သည် ကုရ်အာန်ကျမ်းကို စာအုပ်အဖြစ် ဖြစ်ပေါ်လာအောင် ပြုလုပ်ရန် ဇတ်အိဘင်ထာဘစ်[၂] ဆိုသူအား တာဝန်ပေးသည်၊ သူသည် နှုတ်တိုက် သင်ယူထားသူများနှင့် ရေးသားထားသော တရားတော်များကို တိုက်ဆိုင် စစ်ဆေး၍ ကျမ်းတစ်စောင် ပေတစ်ဖွဲ့ဖြစ်အောင် ပြုစုထားခဲ့သည်။

တတိယမြောက် ကာလီဖာဖြစ်သော အုစ္စမန်လက်ထက်တွင် ယင်းကုရ်အာန်ကျမ်းကို နှုတ်တိုက် ရရှိနေကြသူများဖြင့် ပြန်လည် စစ်ဆေး အတည်ပြုကာ တည်းဖြတ်လျက် မိတ္တူ ၇ စောင် ပြုလုပ်ပြီး အစ္စလာမ် အင်ပါယာအတွင်းရှိ အရပ်ဒေသ အသီးသီးသို့ ပေးပို့၍

၁။ Caliph ၂။ Zaid iba thabit

ထိန်းသိမ်းထားစေသည်၊ ထိုကျမ်းမိတ္တူ ၇ စောင်အနက်မှ တစ်စောင်မှာ ရုရှနိုင်ငံ တက်ရှကင်မြို့တွင် ယခုတိုင် ရှိနေသေးသည်၊ ရုရှားပြည် ဇာဘုရင် လက်ထက်တွင် ထိုကျမ်းကို မိတ္တူ ကူး၍ ထုတ်ဝေခဲ့ရာ ကမ္ဘာအရပ်ရပ်ရှိ အခြားသော ကုရ်အာန်ကျမ်းများနှင့် ထပ်တူဖြစ်ကြောင်း တွေ့ရှိကြရသည်။

အစ္စလာမ်ဘာသာတွင် ဆွန္နာ[၁]ကျမ်း နှင့် ဟဒီးစ်[၂]ကျမ်းများ လည်း ရှိသည်၊ ဆွန္နာကျမ်းသည် လူအများ မည်သို့ လုပ်ကိုင် ကျင့်ကြံရမည်ကို ဖော်ပြထားသော ကျမ်းဖြစ်၍ ဟဒီးစ်ကျမ်းသည်ကား အဆိုအမိန့်ကျမ်း ဖြစ်သည်၊ တမန်တော်၏ ပြုမူကျင့်ကြံပုံများကို ဖော်ပြထားသောကျမ်းသည် ဆွန္နာကျမ်းဖြစ်၍ သူ၏အဆိုအမိန့်များကို မှတ်သားထားသော ကျမ်းကား ဟဒီးစ်ကျမ်း ဖြစ်သည်၊ သို့သော် ဆွန္နာကျမ်းနှင့် ဟဒီးစ်ကျမ်းတို့ကို ရောထွေး ယှက်တင် ပြောင်းလဲ ခေါ်ဝေါ် သုံးစွဲကြသည်။

ရှရီအတ် တရားတော်တွင် မပါဝင်သော်လည်း ထိုတရားတော် နှင့်အညီ တရားဆုံးဖြတ်ရာတွင် အသုံးပြုသော ကျမ်းသည် ကာအိဂျ် ထိဟတ်[၃] ကျမ်းဖြစ်သည်။ ရှရီအတ် တရားတွင် မပါဝင်သော အစ္စလာမ် တရားဥပဒေရေးရာ ကိစ္စများကို တရားသူကြီးများက ဆုံးဖြတ်ရာတွင် အသုံးပြုရသည်၊ အလ္လာဟ်အရှင်အား ကျေးဇူးတော့်ပြန်သည့် အနေဖြင့် လူသားတို့သည် ကိုယ်စိတ်နှလုံး သုံးပါးလုံးဖြင့် အလ္လာဟ်အရှင်ထံသို့ ဆည်းကပ်ရမည့် တာဝန် ဝတ္တရားကို ရှရီအတ်ဟု ခေါ်သည်။

---

၁။ Sunnah ၂။ Hadith

၃။ Iitihad

အလ္လာဟ်အရှင်က ပေးအပ်ထားသော ကျမ်းစာများကို ယုံကြည်လက်ခံရန် လိုအပ်သည်ဆိုသော အီမန် ယုံကြည်မှု၏ အခြေခံမှုနှင့် ပတ်သက်သော ကျမ်းစာအုပ်များမှာ တမန်တော်အပေါင်းသို့ အလ္လာဟ်အရှင် ချပေးခဲ့သော ကျမ်းစာကို ရေးသား၍ပေးပြီး အချို့ ကောင်းကင်တမန်တို့ပင် မပါစေဘဲ တိုက်ရိုက်ကြားရအောင် ပြုလုပ်ပေးသည်၊ ကျမ်းစာများမှာ ထာဝရရှိနေကြသည်၊ ကျမ်းစာများသည် ဖန်ဆင်း၍ ဖြစ်ပေါ်လာရသော အရာများ မဟုတ်၊ ကောင်းကင်တမန်များ၊ တမန်တော်များ၏ အမှာစကားမျိုးများလည်း မဟုတ်ချေ။

အလ္လာဟ်အရှင်၏ နှုတ်ကပါဌ်တော်များမှာ လူသားတို့ ပြောဆိုရေးသားသော စကားမျိုး မဟုတ်ပေ၊ စကားလုံးနှင့် အသံများ မပါရှိပေ၊ အလ္လာဟ်အရှင် ပေးသနားသော ကျမ်းစာများမှာ တရားမျှတမှုရှိ၍ မှန်ကန်သည်၊ မဟုတ်မမှန်သော စကားနှင့် အမှားအယွင်းများ မပါရှိ။

ကောင်းကင်ဘုံမှ ချပေးသော စာအုပ်ပေါင်း အားလုံး ၁၀၄အုပ်ရှိသည်၊ ကောင်းကင်တမန် ဂါဗြေလက ယူဆောင်ခဲ့ခြင်း ဖြစ်သည်၊ ကျမ်း ၁၀ စောင်ကို အာဒမ်သို့ ပို့ချပေးသည်၊ တမန်တော်ရှစ်[၁]က စာအုပ်ငါးဆယ် ရရှိသည်၊ အိဒရိထံသို့ စာအုပ် ၃၀၊ အီဗရာဟိမ်ထံသို့ ၁၀အုပ်၊ ပညတ်တော်ဆယ်ပါးကို မောရှေသို့လည်းကောင်း၊ သမ္မာကျမ်းစာကို တမန်တော် အီစာသို့ လည်းကောင်း၊ ဇဗ္ဗူရ်[၂]ကို ဒါဝိဒ်ထံသို့လည်းကောင်း၊ ကုရ်အာန်ကျမ်းကို တမန်တော် မုဟမ္မဒ်ထံသို့လည်းကောင်း အသီးသီး ပေးအပ်ခဲ့လေသည်။

---

၁။ Shit ၂။ Zebur

## ကောင်းကင်တမန်များ

အလ္လာဟ်အရှင်တွင် ကောင်းကင် တမန်များ ရှိသည်၊ ကောင်းကင်တမန်များသည် ရုပ်သတ္တဝါများ ဖြစ်ကြ၏၊ သို့သော် အလွန်သိမ်မွေ့နူးညံ့သည်၊ ဓာတ်ငွေ့ထက်ပင် သိမ်မွေ့နူးညံ့သေးသည်၊ ကောင်းကင်တမန်တို့သည် ထွန်းလင်းတောက်ပကြသည်။ အသက်ရှင် နေထိုင်ကြသည်၊ စဉ်းစားဉာဏ်ရှိသော သတ္တဝါများ ဖြစ်ကြသည်၊ လူသားတို့၌ တွေ့ရှိရသော မကောင်းစိတ် တို့သည် ကောင်းကင်တမန်တို့တွင် မရှိပေ။

ကောင်းကင်တမန်တို့သည် ပုံသဏ္ဍာန် အမျိုးမျိုးကို ပြုလုပ်ဖန်ဆင်းနိုင်သည်၊ ဓာတ်ငွေ့တို့သည် အရည်ဘဝ၊ အစိုင်အခဲဘဝဖြင့် ရုပ်အမျိုးမျိုးသို့ ပြောင်းသွားနိုင်သကဲ့သို့ ကောင်းကင်တမန်တို့မှာလည်း လှပသော ရုပ်သွင် အမျိုးမျိုးကို ပြုလုပ်တတ်သည်။

ကောင်းကင်တမန် တို့သည် ထင်ရှားသောလူများ၏ ခန္ဓာကိုယ်မှ စွန့်ခွာ ထွက်သွားကြသော ဝိညာဉ်များ မဟုတ်ကြ၊ စွမ်းအင်ကဲ့သို့ အကောင်အထည်မဲ့ ပုဂ္ဂိုလ်များလည်း မဟုတ်ချေ၊ ယင်းတို့ကို မလေအိကာ[၁]ဟု ခေါ်ကြသည်၊ ကောင်းကင်တမန်တို့တွင် အထီးအမ ခွဲခြား မရှိပေ၊ မလာအိကာ ဟူသော အာရဗီစကား၏ အဓိပ္ပာယ်မှာ တမန်၊ စေတမန်ဟူ၍ ရသည်၊ အခြား သတ္တဝါ အားလုံး တို့ကို မဖန်ဆင်းမီကပင် ကောင်းကင်တမန်များကို ဖန်ဆင်းခဲ့သည်။

ကောင်းကင်တမန်များကို ရှေးဦးစွာ ဖန်ဆင်းခဲ့သဖြင့် ကျမ်းစာများကို မယုံကြည်မီ ကောင်းကင်တမန်များကို ယုံကြည်ရန် ဖြစ်သည်၊

၁။ Melaikeh

ထိုနည်းတူ တမန်တော်များထက် ကျမ်းစာများက အလျင်ကျလာသဖြင့် ကျမ်းစာကို အလျင်ယုံကြည်ရမည် ဖြစ်သည်၊ ဤအစီအစဉ်အတိုင်း ယုံကြည်ရမည့် အရာများကို ကုရ်အာန်ကျမ်း၌ ဖော်ပြပါရှိသည်။ ကောင်းကင်တမန်များကို ယုံကြည်ရန်မှာလည်း ဤအစီအစဉ်အတိုင်းပင် ဖြစ်သည်။

ကောင်းကင် တမန်များသည် အလ္လာဟ်အရှင်၏ ဖန်ဆင်းထားသော သတ္တဝါများသာ ဖြစ်ပါ၏၊ အလ္လာဟ် အရှင်၏ လုပ်ဖော်ကိုင်ဖက်များ သော်လည်းကောင်း၊ သူ၏ သားသမီးများသော် လည်းကောင်း မဟုတ်ကြ၊ အချို့ မယုံကြည်သူများက ထိုသို့ပင် ထင်မှတ်ကြသည်၊ အလ္လာဟ်အရှင်သည် ကောင်းကင်တမန်များကို နှစ်သက်တော်မူသည်၊ သူတို့သည် အလ္လာဟ် အရှင်၏ အမိန့်တော်များကို ရိုသေလိုက်နာကြသည်၊ ထို့ပြင် ပြစ်မှုများကိုလည်း ကျူးလွန်ခြင်း မရှိကြချေ။

ဘုရားသခင်၏ အမိန့်တော်များကို ဖီလာဆန့်ကျင်တော်လှန်မှုများကိုမပြုလုပ်ကြပေ၊ ကောင်းကင်တမန်များ၌ လိင်အင်္ဂါများ မရှိချေ၊ ထိုသူများကား အထီးသော် လည်းကောင်း၊ အမသော်လည်းကောင်း မဟုတ်ကြသောကြောင့် ဖြစ်၏၊ လင်မယားအဖြစ် လက်ထပ် ထိမ်းမြားမှုများလည်း မရှိ၊ ကလေးငယ်များလည်း မရှိ၊ အသက်ရှိသော သတ္တဝါများပင် ဖြစ်သည်။

အလ္လာဟ်အရှင်က လူသားများကို ဖန်ဆင်းရန် စီစဉ်သော အခါ ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်အား ကမ္ဘာလောကကြီးကို ဖျက်ဆီးပစ်မည့် သတ္တဝါတို့ကို ဖန်ဆင်းပေးချင်သလောဟု

မေးမြန်းကြသည်၊ ဤမေးခွန်းမျိုးကို ကောင်းကင်တမန်များက မေးမြန်းကြသည် ဆိုသော်လည်း ကောင်းကင်တမန်တို့သည် အပြစ်ကင်းသောသူများ ဖြစ်ကြသည်ဆိုသော အချက်ကိုကား မထိခိုက်နိုင်ချေ။

အလ္လာဟ်အရှင် ဖန်ဆင်းထားခြင်း ခံရသော သတ္တဝါများအနက် ကောင်းကင်တမန်တို့မှာ အရေအတွက် အများဆုံးဖြစ်သည်၊ ကောင်းကင်တမန်တို့ ဦးရေ မည်မျှ ရှိသည်ကို အလ္လာဟ် အရှင်မှတစ်ပါး မည်သူမျှ မသိနိုင်ပေ၊ ကောင်းကင်ထက်တွင် ကောင်းကင်တမန်များ ဝတ်ပြုနေကြသဖြင့် နေရာလွတ် ဟူ၍ တစ်နေရာမျှ မရှိချေ၊ ကောင်း ကင်ဘုံရှိ နေရာတိုင်းတွင် ကောင်းကင်တမန်တို့၏ ဝတ်ပြုမှုကြောင့် ပြည့်နှက်နေသည်၊ ကောင်းကင်ဘုံများ၊ ကမ္ဘာလောကကြီး၊ မြက်ပင်များ၊ ကြယ်တာရာများ၊ သက်ရှိ သက်မဲ့ ဖန်ဆင်းထားသော အရာဝတ္ထုများ၊ မိုးရေစက်များ၊ သစ်ပင် သစ်ရွက်များ၊ မော်လီကျူးများ၊ အဏုမြူများ၊ တုံ့ပြန်မှုများ၊ လှုပ်ရှားမှုများ နှင့် အရာခပ်သိမ်းတို့တွင် ကောင်းကင် တမန်များ တာဝန်ယူ နေကြရသည်သာ ဖြစ်၏။

ကောင်းကင်တမန်တို့သည် နေရာအနှံ့အပြားတွင် အလ္လာဟ်အရှင်၏ အမိန့်တော်များကို လိုက်နာ၍ တာဝန် ထမ်းဆောင်နေကြရ၏၊ ဖန်ဆင်းရှင် အလ္လာဟ် အရှင် နှင့် ဖန်ဆင်းခံ သတ္တဝါတို့ အကြား စေတမန်များအဖြစ် ထမ်းဆောင်ကြရသည်၊ အချို့ ကောင်းကင်တမန်တို့သည် အခြားသူများအပေါ် အကြီးအမှူးအဖြစ် ဆောင်ရွက်ကြရသည်၊ အချို့မှာ လူသားတို့အတွက် အလ္လာဟ်အရှင်၏ စေခိုင်းချက်တို့ကို တမန်တော်များထံသို့ သယ်ဆောင် ပို့ပေးရသည်။

အချို့သော ကောင်းကင်တမန်တို့သည် လူသားတို့၏ စိတ်နှလုံးထဲသို့ ကောင်းမြတ်သော အတွေးအခေါ် အယူအဆများကို ယူဆောင်လာခဲ့သည်၊ ကောင်းကင်တမန် အချို့ကား လူသားနှင့် သတ္တဝါတို့ ရှိမှန်းကိုပင် သတိမပြုမိကြ၊ အလ္လာဟ်အရှင်၏ လှပတင့်တယ်မှုကို အာရုံပြုနေကြရ၍ သတိမေ့နေကြရသည်၊ ကောင်းကင်တမန်တိုင်းတွင် နေရာ တစ်ခုစီ ရှိကြသည်၊ သူတို့၏နေရာမှ ထွက်ခွာသွား၍မရ၊ အချို့ ကောင်းကင်တမန်တို့မှာ အတောင် ၂ ခုရှိပြီး အချို့ကား ၄ ခုရှိသည်၊ အချို့ကား ထိုထက်များသော အတောင်များပင် ရှိသေးသည်။

ငှက်တစ်ကောင်၏ အတောင်များသည် လည်းကောင်း၊ လေယာဉ်ပျံ တစ်စင်း၏ အတောင်များသည် လည်းကောင်း၊ တစ်ခုချင်း အလိုက် ဖွဲ့စည်း တည်ဆောက်ထားပြီး အခြားသူများ၏ အတောင်များနှင့် မတူညီကြသကဲ့သို့ ကောင်းကင်တမန်တို့၏ အတောင်တို့သည်လည်း တစ်ဦးချင်းအလိုက် ဖွဲ့စည်း တည်ဆောက်ထားခြင်း ဖြစ်သည်။

ကျွန်ုပ်သည် တစ်စုံတစ်ခုသော အခေါ်အဝေါ် အမည်နာမကို ကြားလိုက်ရုံနှင့် ထိုအရာသည် ကျွန်ုပ်တို့ သိနေသော အရာတစ်ခုခုနှင့် တူညီနေလိမ့်မည်ဟု မှတ်ယူလိုက်လျှင် လွဲမှားတတ်သည်၊ ကောင်းကင်တမန်တို့သည် ကောင်းကင်ဘုံ၌ပင် နေထိုင်ကြသည်၊ ထိုကောင်းကင်တမန်တို့၏ အကြီးအမှူး ဖြစ်သူ၏ အမည်ကား ရိဒဗန်[၁] ဖြစ်၏၊ ငရဲဘုံမှ ကောင်းကင်တမန်များကို ဇာဘာနီ[၂]ဟု ခေါ်သည်၊ ငရဲဘုံတွင် သူတို့ကို စေခိုင်းထားသည့်အတိုင်း လုပ်ကိုင်ပေးကြရ၏၊ မီးတို့သည်

၁။ Rildven ၂။ Zabani

ထိုသူတို့အား ဥပါဒ်မပေးနိုင်ပေ၊ ပင်လယ်သမုဒ္ဒရာသည် ငါးတို့ကို အန္တရာယ် မပြုနိုင်သကဲ့သို့ပင် ဖြစ်၏၊ ငရဲဘုံတွင် အရေးကြီးဆုံးသော ဇာဘာနီတို့မှာ ၁၉ ဦး ရှိသည်၊ ယင်းတို့၏ အကြီးအကဲဖြစ်သူ၏ အမည်ကား မာလစ်[၁] ဖြစ်၏။

လူပုဂ္ဂိုလ် တစ်ဦးစီအလိုက် ကောင်းသောအလုပ်နှင့် အကုသိုလ် အလုပ်တို့ကို စာဖြင့် ရေးသား၍ မှတ်တမ်းတင်ရသော အလုပ်ကို လုပ်ကိုင်ရသည့် ကောင်းကင်တမန် လေးဦး ရှိလေသည်၊ ယင်းတို့ အနက် နှစ်ဦးတို့သည် ညဥ့်အခါ လာရောက်ကြပြီး ကျန်နှစ်ဦးတို့မှာ နေ့တွင် လာရောက်ကြသည်၊ သူတို့ကို ဟဖဇကောင်းကင်တမန်များ[၂] ဟု ခေါ်သည်၊ ထိုသူများအပြင် ဟဖဇ ကောင်းကင်တမန်များလည်း အခြားနေရာများတွင် ရှိသေး၏။

လက်ယာဘက်ရှိ ကောင်းကင်တမန်သည် လက်ဝဲဘက်မှ ကောင်းကင်တမန်ထက် မြင့်မြတ်၍ ကောင်းသော အပြုအမူများကို မှတ်တမ်းတင်သည်၊ လက်ဝဲဘက်ရှိ ကောင်းကင်တမန်ကား မကောင်းမှု များကို ရေးမှတ်ရပြီး လက်ယာဘက် ကောင်းကင်တမန်၏ လက် အောက်တွင် လုပ်ကိုင်ရသည်။

အစ္စလာမ်ဘာသာကို မယုံကြည်သူများနှင့် အမိန့်ကို မနာခံ သော မွတ်စလင်များအား သူတို့၏ သင်္ချိုင်းတွင် မေးခွန်းများကို မေးမြန်းရမည့် ကောင်းကင်တမန်များလည်း ရှိသည်၊ မေးခွန်းမေးသော ကောင်းကင်တမန်များကို မွန်ကရ်[၃]၊ နကိရ်[၄]ဟု ခေါ်ကြသည်။

---

၁။ Malik
၂။ Angels of Haphaza
၃။ Munker
၄။ Nekir

ကောင်းကင်တမန်တို့သည် တစ်ဦးထက်တစ်ဦး မြင့်မြတ်မှု ရှိကြသည်၊ အမြင့်မြတ်ဆုံးသော ကောင်းကင်တမန် လေးဦးရှိသည်၊ သူတို့၏အချုပ် ကောင်းကင်တမန်ကား ဂျိဘရိတ်လ် (ဂါဗြေလ)ဖြစ်၏၊ သူ၏တာဝန်ကား ဘုရားသခင်၏ အမိန့်တော်များကို တမန်တော်များထံသို့ ပို့ဆောင်ပေးရခြင်းနှင့် လုပ်သင့်သော ကိစ္စနှင့် မလုပ်ရသည့် တားမြစ်ချက်များကို ဖော်ထုတ် ပြောဆိုရခြင်းတို့ပင် ဖြစ်သည်။

ဒုတိယ အကြီးဆုံးသော ကောင်းကင်တမန်ကား အစ္စရာဖီလ်[၁] ဖြစ်သည်၊ သူသည် နောက်ဆုံးနေ့တွင် တံပိုးခရာ မှုတ်မည့်သူ ဖြစ်၏၊ ထိုအချိန်တွင် နှစ်ကြိမ်တိုင်တိုင် မှုတ်လိမ့်မည်၊ ပထမအကြိမ် မှုတ်လိုက်သောအခါ အလ္လာဟ်အရှင်မှတစ်ပါး အားလုံးသော သက်ရှိ သတ္တဝါတို့သည် သေဆုံးကြရလိမ့်မည်၊ ဒုတိယအကြိမ် မှုတ်လိုက်သောအချိန်တွင် သတ္တဝါ အားလုံးတို့သည် တစ်ဖန် ရှင်သန်ထမြောက်လာကြ လိမ့်မည်။

တတိယအကြီးဆုံး ကောင်းကင်တမန်ကား မိကာအုလ်[၂] ဖြစ်သည်၊ သူ၏တာဝန်ကား အရာဝတ္ထု ဟူသမျှကို ရွေ့လျားသွားအောင်၊ ပေါ်များအောင်၊ ရှားပါးအောင် ပြုလုပ်ရသော တာဝန်ဖြစ်သည်။

စတုတ္ထအကြီးဆုံး ကောင်းကင်တမန် ဖြစ်သူ အစ်ဇရာအီလ်[၃] သည် လူသတ္တဝါတို့၏ ဝိညာဉ်များကို ယူဆောင်ရသူ ဖြစ်သည်။

အကြီးဆုံး ကောင်းကင်တမန် လေးဦး ရှိပြီး နောက်တွင် မြင့်မြတ်သော ကောင်းကင်တမန် လေးမျိုး ရှိသေးသည်၊ အမြင့်ဆုံးသော ကောင်းကင်တမန်များ ဖြစ်ကြသည်၊ တမန်တော်မှတစ်ပါး ကျန်လူအားလုံးထက် မြင့်မြတ်သူများ ဖြစ်ကြသည်၊ ဘုရား တရားကို

---

၁။ Israphil ၂။ Michaei ၃။ Azrael

ကြည်ညိုလေးစားသော မွတ်စလင်တို့မှာ သာမန် ကောင်းကင်တမန်တို့ထက် အဆင့်အတန်း မြင့်မြတ်သည်။

ကောင်းကင်တမန်တို့တွင် အနိမ့်ဆုံးဖြစ်သော သာမန် ကောင်းကင်တမန်တို့သည် သာမန် မွတ်စလင်များဖြစ်သော အမိန့်ကို မလိုက်နာသည့် မွတ်စလင်များ၊ အပြစ်ကျူးလွန်ကြသော မွတ်စလင်များထက် မြင့်မြတ်သည်၊ အစ္စလာမ်ဘာသာကို မယုံကြည်သူများကား သတ္တဝါတို့တွင် အနိမ့်ဆုံးဖြစ်သည်။

တံပိုးခရာကို ပထမဆုံးအကြိမ် မှုတ်လိုက်သောအခါ ဟာမေလိုင်အာရရှ်[၁] နှင့် ကောင်းကင်တမန်ကြီး လေးဦးတို့မှ တစ်ပါး အားလုံးသော ကောင်းကင်တမန်တို့မှာ သေဆုံးကြလိမ့်မည်၊ ယင်းပြီး နောက်မှ ထိုကောင်းကင်တမန်ကြီးများ သေဆုံးကြလိမ့်မည်၊ ဒုတိယ အကြိမ် မှုတ်သောအခါမှ ကောင်းကင်တမန်များ အသက်ပြန်ရှင်လာလိမ့်မည်၊ ကောင်းကင်တမန်ကြီးဟုသည်ကား ဒုတိယအကြိမ်မမှုတ်မီကပင် အသက်ရှင်လာကြပြီး ဖြစ်လိမ့်မည်၊ ဆိုလိုသည်မှာ ဤကောင်းကင်တမန်ကြီးများကို အခြားသော သူများထက် ရှေးဦးစွာ ဖန်ဆင်းခဲ့သဖြင့် သေဆုံးသောအခါတွင်လည်း အခြား သက်ရှိသတ္တဝါအားလုံး သေကြေပျက်ဆုံးကြပြီးမှ သေရခြင်း ဖြစ်လေသည်။

## တမလွန်ဘဝ

တမလွန်ဘဝ၏ အစသည်ကား ယခုဘဝမှ စတေသောနေ့၌ပင် အစပြုလေတော့သည်၊ နောက်ဆုံးနေ့ဟု ဆိုရသည့် အကြောင်းကား

၁။ Hamelei Hrsh

ထိုနေ့နောက်ပိုင်းတွင် ညဆိုသော ကာလရှိတော့မည် မဟုတ်သော ကြောင့် ဖြစ်၏၊ ဟဒီးစ်တော်တွင် ဖော်ပြထားသော နေ့သည် ယခု သိရှိနေကြသော နေ့နှင့် မတူပေ၊ ယခု တွေ့မြင်နေကြသောနေ့၏ အဓိပ္ပာယ်မျိုး မဟုတ်တော့၊ အချိန်သာလျှင် ဖြစ်သည်၊ ကမ္ဘာကြီး မည်သည့် အချိန်တွင် အဆုံးသတ်လိမ့်မည် ဆိုသည်ကို မသိနိုင်ကြ၊ မည်သို့မျှ မခန့်မှန်းနိုင်ကြပေ၊ သို့သော်လည်း တမန်တော် မုဟမ္မဒ် သည် ထိုအချိန် ကျရောက်မည့် အရိပ်လက္ခဏာ အချို့ကို ညွှန်ပြခဲ့ သည်။

ခေါင်းဆောင်မယ်ဒီ[၁] ဆင်းသက်လာလိမ့်မည်၊ တမန်တော် အီစာ(ယေရှု)လည်း ကောင်းကင်ဘုံမှ ဒမစကတ်မြို့သို့ ဆင်းသက် လာလိမ့်မည်၊ ယာဂျုဂျ်[၂]နှင့် မာဂျုဂျ်[၃]အမည်ရှိသူများသည် ကမ္ဘာ တစ်ခုလုံးကို မွှေနှောက်လိမ့်မည်၊ အနောက်ဘက်မှ နေထွက်လိမ့် မည်၊ ကြီးမားပြင်းထန်သော မြေငလျင်လှုပ်လိမ့်မည်၊ ဘာသာတရား တို့ကို မေ့ပျောက် သွားကြလိမ့်မည်၊ မကောင်းမှုကိုကျူးလွန်သူများ တိုးပွားလိမ့်မည်၊ ဘာသာတရားကို မလေးစားသော ကိုယ်ကျင့်တရား ချွတ်ယွင်းသော၊ မသမာသောသူများ ရှေ့တန်းသို့ ရောက်ရှိလာကြ လိမ့်မည်၊ အလ္လာဟ်၏ အမိန့်များကို အတားအဆီး အနှောင့်အယှက် ပြုလိမ့်မည်၊ အလ္လာဟ်အရှင် တားမြစ်ထားသော အပြစ်များကို နေရာ တကာတွင် ကျူးလွန်ကြလိမ့်မည်။

ပင်လယ်သမုဒ္ဒရာနှင့် တောင်တန်းကြီးများမှာ အပိုင်းပိုင်း အစစ ဖြစ်သွားလိမ့်မည်၊ နေနှင့်လတို့ကို အမှောင်ထုက ဖုံးလွှမ်းလိမ့်မည်၊

၁။ Mehdi ၂။ Yajooj [Gog] ၃။ Majooj [ Magog]

ပင်လယ်သမုဒ္ဒရာတို့မှာ တစ်ခုနှင့် တစ်ခု ရောယှက်သွားကာ ဆူပွက် လျက် ခန်းခြောက် သွားလိမ့်မည်။

မကောင်းမှု ပြုလုပ်သူ မွတ်စလင်များနှင့် ဘာသာတရားကို မယုံကြည်သူများ သင်္ချိုင်း၌ပင် ညှဉ်းဆဲနှိပ်စက်ခံကြရလိမ့်မည်၊ သေဆုံး သောသူအား သင်္ချိုင်း၌ မြှုပ်နှံသောအခါ သာမန်လူတို့ မသိနိုင်သော အသက်ဖြင့် ရှင်လာကြသည်၊ ထိုအချိန်တွင် နှိပ်စက်ခံရလျှင် ခံရမည်၊ သို့မဟုတ်က စည်းစိမ်ကို ခံစား ရပေလိမ့်မည်၊ မွန်ကိရ်နှင့် နကိရ် ကောင်းကင်တမန် နှစ်ဦးတို့သည် ကြောက်စရာကောင်းသော သူများ ကဲ့သို့ ရုပ်ဖျက်၍ သင်္ချိုင်းသို့ လာရောက်ကာ မေးမြန်းကြသည်၊ အီမန် ယုံကြည်မှုများကို အခြေပြု၍ မေးမြန်းခြင်းဖြစ်သည်၊ ထာဝရ ဘုရား သခင်၏ အမည်ကား မည်သူနည်း၊ မည်သည့် ဘာသာကို ကိုးကွယ် သနည်း၊ ကျမ်းစာအုပ်ကား အဘယ်ကျမ်းစာနည်း စသည်ဖြင့် မေးမြန်း ခြင်း ဖြစ်သည်။

အတိအကျ အဖြေပေးနိုင်သူများ၏ သင်္ချိုင်းတွင် ကျယ်ဝန်း လာ၍ ဖိရ်ဒေါ့စ်သုခဘုံကို တွေ့မြင်နိုင်သော ပြတင်းပေါက် တစ်ခုကို ဖောက်ထား ပေးလိမ့်မည်၊ နံနက်နှင့် ညနေတိုင်းတွင် သုခဘုံရှိ မိမိတို့နေရာများကို တွေ့မြင်ကြရလိမ့်မည်၊ ကောင်းကင်တမန်တို့၏ မျက်နှာသာ ပေးခြင်းကို ခံရ၍ သတင်းကောင်းတို့ကိုလည်း ပေး လိမ့်မည်။

မေးခွန်းများကို ကောင်းစွာ မဖြေနိုင်သူများအား သံတူဖြင့် ရိုက်နှက်သဖြင့် ငိုကြွေး မြည်တမ်း ကြရလေရာ လူသားများနှင့် နတ်ဆိုးတို့မှ တစ်ပါး အခြားသတ္တဝါ အားလုံး ကြားကြရသည်၊

သူတို့၏ သချိုင်းဂူများမှာ ကျဉ်းမြောင်းသွားကာ အရိုးများ ကျိုးသွား သကဲ့သို့ တွေ့ကြုံခံစား ကြရသည်၊ ငရဲဘုံသို့ မြင်နိုင်သော ပြတင်း ပေါက်တစ်ခုကို ဖောက်လုပ်ပေးထားသည်၊ နံနက်တိုင်းနှင့် ညနေ တိုင်းတို့တွင် ငရဲဘုံရှိ မိမိတို့ နေရာများတွင် တွေ့မြင်ကြရသည်၊ ပြန်လည် ရှင်သန်ထမြောက်သော နေ့ရက်အထိ သင်္ချိုင်းတွင် အမျိုးမျိုး နှိပ်စက်ညှဉ်းပန်းမှုကို ခံကြရသည်။

သေဆုံးပြီးသည်၏ နောက်၌ အသက်ရှင် နေကြရသည်ကို မယုံရန် မဖြစ်ပေ၊ အသားနှင့် အရိုးတို့သည် ပုပ်ပျော်ကာ မြေကြီးနှင့် ဓာတ်ငွေ့အဖြစ်သို့ ကူးပြောင်းသွားပြီးနောက် ထိုအရိုးနှင့် အသား တို့သည် တစ်ဖန် ပြန်လည်၍ ရောက်ရှိလာကာ ဆုံတွေ့ ပူးပေါင်းသွား ကြ၏၊ ဝိညာဉ်တို့သည်လည်း မိမိတို့ သက်ဆိုင်ရာ ကိုယ်ခန္ဓာထဲသို့ ဝင်ရောက်လာကြသည်၊ ထိုအခါ မိမိတို့၏သချိုင်းမှ ထလာ ကြရသည်။

လူတိုင်းသည် နောက်ဆုံး တရားဆုံးဖြတ်ရာ အရပ်သို့ သွားကြ ရသည်၊ မိမိတို့၏ ကောင်းမှု မကောင်းမှုများကို မှတ်တမ်းတင် ထားသော စာအုပ်များသည်လည်း မိမိတို့ ပိုင်ရှင်ထံသို့ ရောက်ရှိ လာကြသည်၊ ဤကိစ္စရပ် အားလုံးကို ဖန်ဆင်းရှင် အလ္လာဟ်က စီမံပေးသည်၊ ဤသို့ ဖြစ်လိမ့်မည်ကို အလ္လာဟ်အရှင်၏ တမန်တော်က ထုတ်ဖော် ပြောကြားခဲ့ပြီး ဖြစ်သည်၊ ထိုပုဂ္ဂိုလ် ပြောသမျှ အမှန်သာ ဖြစ်သည် ဆိုသည် ကိုကား ပြောဖွယ်ရာ မရှိပေ၊ အားလုံး အမှန် ဖြစ်လာလိမ့်မည်၊ အားလုံး ယုံကြည်ရန်သာ ရှိတော့သည်။

ဘုရားတရားကို ကြည်ညို လေးစားသော သူတို့၏ မှတ်တမ်း စာအုပ်ကို သူတို့၏ လက်ယာဘက်မှ ပေးအပ်၍ မကောင်းမှု

ပြုလုပ်ခဲ့သူတို့ စာအုပ်ကို လက်ဝဲဘက်မှ ပေးအပ်လိမ့်မည်၊ ကောင်းသော အလုပ်၊ မကောင်းသော အလုပ်၊ ကြီးသောအလုပ်၊ ငယ်သောအလုပ်၊ တိတ်တဆိတ် လျှို့ဝှက်စွာပြုသော အလုပ်၊ ဗြောင်ကျကျ ပြုလုပ်ခဲ့သော အလုပ် စသော ပြုသမျှအလုပ်တို့ကို ဤမှတ်တမ်းစာအုပ်တွင် ရေးမှတ် ဖော်ပြထားရှိသည်။

ကောင်းကင်တမန်များ မသိနိုင်သော အလုပ်ကို အလ္လာဟ် အရှင်က သိရှိသဖြင့် ဖော်ထုတ် ပြောဆိုလိမ့်မည်၊ မိမိတို့ ပြုလုပ်ခဲ့ သော အလုပ်တစ်ခုစီ အတွက် မေးမြန်း စစ်ဆေးခြင်းကို ခံကြရ လိမ့်မည်၊ အလ္လာဟ်အရှင် လိုအပ်သည်ထင်လျှင် လျှို့ဝှက် ပြုလုပ်ခဲ့ သော အလုပ်များကို နောက်ဆုံး တရား ဆုံးဖြတ်ရာ အချိန်၌ ဖော်ထုတ်လိမ့်မည်။

ကောင်းကင်တမန်တို့အား သူတို့သည် ကောင်းကင်ဘုံနှင့် ကမ္ဘာမြေကြီးပေါ်၌ ရှိစဉ် မည်သည့်အမှုကိစ္စများကို ဆောင်ရွက်ခဲ့ ကြောင်း အမေးခံရလိမ့်မည်၊ တမန်တော်တို့အား အလ္လာဟ်အရှင်၏ အမိန့်တော်များနှင့် ဘာသာတရားများကို လူသားများထံသို့ မည်သို့ မည်ပုံ ဆက်သွယ်၍ ဖြန့်ဝေပေးခဲ့ပုံများကို အမေးခံရသည်၊ လူသား များအား တမန်တော်များနှင့် မည်သို့ ဆက်ဆံခဲ့ကြသည်၊ သူတို့ကို လိုက်နာခိုင်းသည့် ကိစ္စများတွင် မည်သို့ ပြုလုပ်ခဲ့ကြသည်၊ သူတစ်ပါး၏ အခွင့်အရေးကို မည်သို့မည်ပုံ စောင့်ရှောက် ကာကွယ်ပေးခဲ့ကြသည်တို့ကို အမေးခံကြရမည် ဖြစ်သည်။

နောက်ဆုံး တရားစီရင်သည့်ပွဲ၌ အဖြေလှသူများကား ဆုလာဘ် ရရှိကာ ကောင်းချီးပေးခြင်းကို ခံကြရမည် ဖြစ်သော်လည်း အတိတ်က

အကြောင်းကံဆိုးများကို ပြုလုပ်ခဲ့ကြသူများ အဖို့ကား ပြင်းထန်သည့် ဒဏ်ခတ်ခြင်းကို ခံကြရမည် ဖြစ်သည်။

အလ္လာဟ်အရှင်၏ တရားမျှတမှုအရ အပြစ်အနည်းငယ်ကိုပင် ကျူးလွန်သည် ဖြစ်ပါစေ အလ္လာဟ်အရှင်သည် ပြစ်ဒဏ်ခတ်လိမ့်မည် ဖြစ်၏၊ သို့သော် အလ္လာဟ် အရှင် အလိုရှိပါက အပြစ်သည် ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ ခွင့်လွှတ်လိုက ခွင့်လွှတ်လိမ့်မည် ဖြစ်သည်။

အစ္စလာမ် ဘာသာကို မယုံကြည်သည့် ကိစ္စမှ တစ်ပါး အလ္လာဟ်အရှင်သည် လိုအပ်လျှင် အပြစ်တိုင်းကိုပင် လွတ်ငြိမ်းခွင့် ပြုနိုင်၏၊ အနည်းငယ်သော အပြစ်အတွက် ညှဉ်းဆဲလို ကလည်း ညှဉ်းဆဲနိုင်သည်၊ သို့သော် မယုံကြည်သူများကိုကား မည်သည့်အခါမှ ခွင့်လွှတ်တော်မမူချေ။

တမန်တော် မုဟမ္မဒ်သည် လူသားတို့ အားလုံး အတွက် စေလွှတ်သော တမန်တော် ဖြစ်သည်ဆိုသော အချက်ကို မယုံကြည်သူများ၊ တမန်တော် ဟောကြားသော တရားဓမ္မ တစ်ခုခုကို မကြိုက်နှစ်သက်သူများအား ဧကန်မလွဲ ငရဲဘုံသို့ ပစ်ချကာ အမြဲထာဝရ နှိပ်စက်ညှဉ်းပန်းခြင်းကို ခံကြရမည်ဖြစ်သည်။

တရားစီရင်သောနေ့တွင် ကောင်းမှု မကောင်းမှုတို့ကို စစ်ဆေး တိုင်းတာသော စံနှုန်းသည် ရှိ၏၊ ကောင်းကင်နှင့် မြေကြီးတို့သည် တိုင်းတာသော စံနှုန်းပေတံ ဘစ်မျိုး ဖြစ်သည်၊ ကောင်းသော အပြုအမူ၏ လက္ခဏာသည်ကား တောက်ပြောင် ထွန်းလင်းခြင်းနှင့် သုခဘုံ တည်ရှိရာ အာရှ်တော်၏ လက်ယာဘက်သို့ ရောက်ရှိခြင်းတို့

ဖြစ်၏၊ မကောင်းမှု၏ အမှတ်လက္ခဏာကား မှောင်မိုက်ခြင်းနှင့် အာရုံတော်၏ လက်ဝဲဘက် ငရဲဘုံရှိရာ အရပ်သို့ ကျရောက်ခြင်းတို့ ဖြစ်သည်။

အပြုအမူ၊ အပြောအဆို၊ အကြံအစည် စသော ဤကမ္ဘာလောက၌ ပြုလုပ်ခဲ့သမျှသည် ထိုနေရာသို့ ရောက်ရှိသောအခါ ပုံပန်းသဏ္ဌာန် အကောင်အထည်အဖြစ် ပေါ်ပေါက်လာသည်၊ ကောင်းသော အလုပ်တို့မှာ လှပလျက် မကောင်းမှု အလုပ်မှာ မှောင်မိုက်ကာ အကျည်းတန်သည်၊ ဤသည်တို့ကို ထောက်ရှု၍ စီရင်သတ်မှတ်နိုင်သည်။

အလ္လာဟ်အရှင်၏ အမိန့်ဖြင့် ငရဲဘုံ အပေါ်၌ စွိရတ်[၁]တံတားကို တည်ဆောက်လိမ့်မည်၊ လူတိုင်း လူတိုင်းကို ဤတံတားမှ ဖြတ်လျှောက်သွားစေလိမ့်မည်၊ သုခဘုံသို့ ဝင်ခွင့်ရကြသူများသည် ထိုတံတားကို အလွယ်တကူပင် ဖြတ်သန်း ကူးမြောက်နိုင်ပြီး သုခဘုံသို့ ရောက်ရှိသွားကြလိမ့်မည်၊ အချို့သူတို့သည် လျှပ်စီးလက်သကဲ့သို့ လည်းကောင်း၊ အချို့မှာ လေ၏အလျင်မြန်နှုန်းအတိုင်း လည်းကောင်း၊ အချို့မှာ မြင်းဒုန်းစိုင်း သွားသကဲ့သို့ လည်းကောင်း ခဏအတွင်း ကူးဖြတ် သွားနိုင်ကြလိမ့်မည်။

စွိရတ်တံတားသည် ဆံပင်ကဲ့သို့ သေးသွယ်၍ ဓားသွားကဲ့သို့ ထက်မြက်သည်၊ ဤတံတားကို ဖြတ်ကျော် သွားရခြင်းသည် လူ့လောက၌ ရှရီအတ်တရားကို လိုက်နာ ရသည်ကဲ့သို့ပင် တိကျပြတ်သား လှပေသည်၊ ရှရီအတ်တရားကို မလိုက်နာသူများသည် ထိုတံတားကို အောင်မြင်စွာ ဖြတ်ကူးရန် မလွယ်ကူတော့ချေ၊ ငရဲဘုံ

၁။ Sirat Bridge

နှင့်သာ ထိုက်တန်သော သူများကား စွဲရတ်တံတားကို မကူးနိုင်တော့ဘဲ တံတားမှ ကျသွားသောအခါ ငရဲဘုံသို့ ကျရောက်သည်။

တမန်တော် မုဟမ္မဒ်အတွက် သီးသန့်ထားသော ကောင်သရ် ရေကန်[၂] ရှိသည်၊ ထိုရေကန်သည် နွားနို့ထက်ပင် ဖြူဖွေးသော အရောင်ရှိပြီး အလွန်ပင် မွှေးကြိုင်နေသည်၊ ထိုရေကန် ပတ်ဝန်းကျင်၌ ရေခွက်တို့မှာ ကောင်းကင်ရှိ ကြယ်တာရာများထက်ပင် ပေါများသည်၊ ထိုရေကန်မှရေကို တစ်ခါ သောက်ဖူးသူသည် ငရဲဘုံသား တစ်ဦးပင် ဖြစ်စေကာမူ နောင် မည်သည့်အခါမှ ရေသောက်ငတ်ခြင်း မရှိတော့ပေ။

ဂျန္နတ် သုခဘုံနှင့် ငရဲဘုံတို့သည် တကယ်ပင် ရှိသည်၊ သုခဘုံသည် ကောင်းကင်ဘုံ ခုနစ်ထပ်၏ အပေါ်တွင်ရှိ၍ ငရဲဘုံ သည့်ကား လောကတစ်ခုလုံး၏ အောက်တွင် တည်ရှိသည်၊ ကောင်း ကင်ဘုံ ရှစ်ခုနှင့် ငရဲဘုံ ခုနစ်ဘုံ ရှိသည်၊ ဖိရ်ဒေါစ်သုခဘုံသည် ကမ္ဘာမြေကြီး၊ နေနှင့် ကောင်းကင်ဘုံများထက် ကြီးမား ကျယ်ဝန်း သည်၊ ငရဲဘုံမှာ နေထက် ကျယ်ဝန်းသည်။

ရုပ်ဆိုင်ရာ သဘာဝ နိယာမဖြင့် ဖန်ဆင်းထားသော လက်ရှိ စကြဝဠာ စနစ်တစ်ခုလုံးကို တစ်ခါတည်း ဖျက်သိမ်းပစ်လိမ့်မည်၊ ယခု ကမ္ဘာလောကတွင် တွေ့မြင်ရသော ရုပ်ဝတ္ထုများ ကမ္ဘာမြေကြီး နှင့် ကောင်းကင်ဘုံနှင့် မတူ လုံးဝခြားနားသော ကမ္ဘာတစ်ခုဖြင့် အစား ထိုးလိမ့်မည်၊ အလ္လာဟ်အရှင်၏ တရားစီရင်မှုကို ခံယူကြ ရမည့် သူများမှာ ထာဝရ ဘုရားသခင်က စတင် ဖန်ဆင်းသည့် အချိန်

---

၁။ Kevser Pond

ကာလမှစ၍ အသက်ရှင် နေထိုင်ခဲ့သော သူများမှအစ ယခုအချိန်တိုင် အောင် နေထိုင်ကြသူများ ပါဝင်သည်၊ တစ်ဦးချင်း ပြုလုပ်ကြသော အလုပ်များ၏ မှတ်တမ်းတွင် မှားယွင်းခြင်း၊ ကြွင်းကျန်နေသေးခြင်းတို့ လုံးဝ ရှိမည်မဟုတ်၊ လူ့ခန္ဓာကိုယ် အစိတ်အပိုင်းများ ဖြစ်ကြသော နား၊ မျက်စိ စသည်တို့မှာ ယင်းတို့ကို မည်သို့မည်ပုံ အသုံးချခဲ့သည်၊ အလွဲသုံးစား ပြုလုပ်ခြင်း ရှိ, မရှိတို့ကို အစစ်ခံကြရလိမ့်မည်။

## အကောင်းအဆိုး

ကောင်းကျိုး ဆိုးကျိုးများ၊ ချမ်းသာခြင်း၊ အန္တရာယ်ရှိခြင်း၊ အကျိုးကျေးဇူး ရှိခြင်းတို့ကို လူသားများ တွေ့ကြုံ ခံစားကြရခြင်း သည် အလ္လာဟ် အရှင်၏ အမိန့်ကြောင့် ဖြစ်သည်။

တစ်စုံတစ်ခုသော အရာကို အလ္လာဟ်အရှင်သည် ထာဝရ တည်ရှိအောင် ဖန်ဆင်းချင်စိတ် ဖြစ်ပေါ်လာလျှင် ထိုအရာသည် အရှင်၏ ဆန္ဒအရ တည်ရှိတော့မည်မှာ သေချာ၏၊ အလ္လာဟ်အရှင်က ထင်ရှား ရှိစေလိုသော အရာတစ်ခုသည် မရှိဘဲ ပျောက်ကွယ်သွား လိမ့်မည် ဆိုခြင်းကား မဖြစ်နိုင်သော ကိစ္စသာတည်း၊ ထိုနည်းအတိုင်း ပင် ထာဝရ ဘုရားသခင်က မရှိစေလိုသော အရာတို့မှာ ဆက်လက် တည်ရှိလိမ့်မည် ဆိုခြင်းလည်း မဖြစ်နိုင်ပေ။

ဤကမ္ဘာလောကကြီးတွင် တည်ရှိနေကြသော လူ၊ တိရစ္ဆာန်၊ နေ၊ လ၊ ကြယ်၊ တောတောင်၊ သစ်ပင် သက်ရှိ သက်မဲ့ အရာဟူသမျှ သည် အလ္လာဟ် အရှင်မြတ်၏ အလိုဆန္ဒဖြင့်သာ တည်ရှိနေရခြင်း ဖြစ်သည်၊ မည်သည့် အရာဝတ္ထုမျှ အလ္လာဟ်အရှင်၏ ဆန္ဒမှ ကင်း၍

မဖြစ်နိုင် မတည်ရှိနိုင်။ အစ္စလာမ် ဘာသာကို ယုံကြည်ခြင်း၊ မယုံကြည်ခြင်း စသော လူသားတို့၏ ကောင်းသောအလုပ်နှင့် မကောင်းမှု အလုပ်၊ ယင်းလူသားတို့ကိုယ်တိုင် စိတ်ပါ၍ဖြစ်စေ၊ မပါသည်ဖြစ်စေ ပြုလုပ်သော အလုပ်များ အားလုံးတို့ကို အလ္လာဟ်အရှင်က ဖန်ဆင်းခြင်း ဖြစ်သည်။

အလ္လာဟ် အရှင် တစ်ပါးတည်းသာလျှင် ဖန်ဆင်းသည်၊ အရာရာကို ပြုလုပ်နိုင်သည်၊ အရာရာကို ဖန်ဆင်းနိုင်သူကား အလ္လာဟ် အရှင် တစ်ပါးတည်းသာ ဖြစ်၏။ အရှင်သည် အရာရာကို ဖန်ဆင်းသည်၊ ဥပမာအားဖြင့် မီးသည် လောင်ကျွမ်းစေနိုင်သော အရာမျိုး ဖြစ်၏၊ မီးသည် လောင်သောသတ္တိနှင့် မည်သို့မျှ မသက်ဆိုင်ဘဲ တကယ်လောင်စေသူကား အလ္လာဟ်သာ ဖြစ်သည်၊ သို့သော် အလ္လာဟ် အရှင်၏ လုပ်နည်းလုပ်ဟန်ကား မီးသည် တစ်စုံတစ်ခုကို မထိပါဘဲနှင့် လောင်ခြင်းကို မဖန်တီးပေးချေ၊ မီးသည် လောင်ကျွမ်းနိုင်သော အပူရှိန်ထိ အပူပေးနိုင်သည်မှ တစ်ပါး အခြား မည်သို့မျှ မလုပ်နိုင်။

ကာဗွန်ဓာတ်နှင့် ဟိုင်ဒရိုဂျင်ဓာတ်တို့ကို အောက်ဆီဂျင်ဓာတ်နှင့် ပေါင်းစပ်ပေးခြင်း၊ အီလက်ထရွန် ဆက်သွယ်မှုများကို ထုတ်ဆောင် ပေးခြင်းတို့ကို မီးသည် မပြုနိုင်ပေ၊ အမှန်တရားကို မသိသူများကား မီးကြောင့် ထွက်ပေါ်လာရသည်ဟု ထင်ကြသည်၊ မီးလောင်မှုကို ဖြစ်စေသော အရာမှာ မီး၊ အောက်ဆီဂျင်၊ အပူ၊ အီလက်ထရွန် ဆက်သွယ်မှုတို့ မဟုတ်ချေ၊ ထိုသို့တပြီးကာ မည်သူသည် မီးကို လောင်စေသနည်း၊ အလ္လာဟ်အရှင် တစ်ပါးတည်းသာလျှင် မီးကို လောင်ကျွမ်းစေနိုင်သော အရှင် ဖြစ်သည်။

မီးကို အလ္လာဟ်အရှင် မလောင်စေလိုပါက မလောင်တော့ချေ၊ တမန်တော် အီဘရာဟိမ်ကို မီးမလောင်ပေ၊ အကြောင်းကား တမန်တော် အီဘရာဟိမ်ကို အလ္လာဟ်အရှင်သည် အထူး နှစ်သက်တော်မူသောကြောင့် ဖြစ်သည်၊ မီးလောင်ခြင်းကို ကာကွယ် စေသော ဝတ္ထုပစ္စည်းကို အရှင်က ဖန်ဆင်းပေးထားခဲ့ခြင်း ဖြစ်သောကြောင့် ဖြစ်သည်၊ ဓာတုဗေဒပညာရှင်တို့သည် ထိုမီးမလောင်နိုင်သော ဝတ္ထုကို တဖြည်းဖြည်း ရှာဖွေ တွေ့ရှိကြလေပြီ။

အလ္လာဟ်အရှင်သည် လူသားနှင့် ယင်းတို့၏ အပြုအမူ အလုပ်အကိုင် တို့ကိုပါ ဖန်ဆင်းပေးသည်၊ သို့သော် လူသားသည် မလုပ်မနေရ သဘောမပါဘဲ မိမိ၏ သဘောအတိုင်း ဆောင်ရွက်ခွင့်လည်း ရှိသည်၊ လူသားတွင် ရှိနေသော မိမိသဘောအတိုင်း ဆောင်ရွက်လိုသည့် စိတ်ကြောင့် သူ၏ အပြုအမူ အလုပ်များကို မိမိလိုချင်သည်ကို ဖန်ဆင်းရခြင်း ဖြစ်သည်၊ လူသည်သာ လုပ်၍ ရသည်လည်း မဟုတ်ချေ၊ မိမိ မလိုချင်သည့် အရာတို့သည်လည်း ဖြစ်ပေါ်လာရသည်သာ ဖြစ်၏၊ လူသည် မိမိ လိုချင်သည်ကိုသာ လုပ်နိုင်လျှင် ထို့ပြင် မိမိ မလိုချင်သော ကိစ္စကို မဖြစ်အောင် ပြုလုပ်နိုင်လျှင် ထိုလူသည် လူသား မဟုတ်တော့ပေ။

အမှုကိစ္စကို လုပ်လိုစိတ်နှင့် ထိုအမှုကိစ္စကို ပြုလုပ်နိုင်သော အခြေအနေတို့ ပေါင်းစပ်မိသောအခါ ပြုလုပ်လိုစိတ် ဆန္ဒက ပြင်းပြသဖြင့် ထိုကိစ္စ ပေါ်ပေါက် လာအောင် ဖန်ဆင်းခြင်း ဖြစ်ပေါ်လာရသည်။

## ဝတ်ပြုခြင်း

အစ္စလာမ်ဘာသာ၏ အခြေခံ ယုံကြည်ချက် ၅ ချက် ရှိသည့် အနက် တစ်ချက်မှာ အချိန်မှန်မှန် ဝတ်ပြုကိုးကွယ်ခြင်း ဖြစ်သည်၊ ဝတ်ပြုခြင်းသည်လည်း ၅မျိုး ရှိပြန်သည်။

အလ္လာဟ်အရှင်မှတစ်ပါး အခြားကိုးကွယ်ထိုက်သော ဘုရား မရှိဟု ရွတ်ဆိုကာ နှုတ်အားဖြင့် ဝတ်ပြုခြင်း၊ ဆင်းရဲသားများအား ပေးကမ်းထောက်ပံ့၍ ပစ္စည်းအားဖြင့် ဝတ်ပြုခြင်း၊ ရာမ်ဇန်လတွင် အစာရှောင်ကာ သန့်စင်သော ဝတ်ပြုခြင်း၊ ကိုယ်အားဖြင့် ဝတ်ပြုခြင်းနှင့် ပစ္စည်းအားဖြင့် ဝတ်ပြုခြင်း ၂မျိုးကို ပေါင်းစပ်ထားသော မက္ကာမြို့သို့ ဟာဂျ်သွား၍ ပြုခြင်း ဟူ၍ ၅ မျိုး ရှိလေသည်။

ယခု ဝတ်ပြုခြင်း အကြောင်းကား တစ်နေ့ ၅ ကြိမ် ဝတ်ပြုရသော ကိုယ်အားဖြင့် ဝတ်ပြုခြင်း အကြောင်း ဖြစ်၏။ တစ်နေ့ ၅ကြိမ် ဝတ်ပြုခြင်းကို မွတ်စလင်များသည် ရှုးသွပ်သူများမှအပ အရွယ်ရောက်သူ ကျား-မမရွေး လူတိုင်း မပြုမနေရ တာဝန်တစ်ခု ဖြစ်သည်။

တစ်နေ့တာအတွင်း ပထမဦးဆုံး ဝတ်ပြုရသော အချိန်သည်ကား နေထွက်ရာ အရှေ့ဘက် မိုးကုပ်စက်ဝိုင်းမှ လင်းရောင်ခြည် ပေါ်ထွက်လာသည့် အချိန်မှစ၍ နေလုံးကြီး ပြူထွက် လာသည့် အချိန်တိုင်အောင် ထိုအချိန် နှစ်ခု ကြားကာလတွင် ပြုလုပ်ရသည်။

ဒုတိယအကြိမ် ဝတ်ပြုရသော အချိန်သည် နေမွန်းတည့်ချိန်မှ စ၍ အရာဝတ္ထု တစ်ခုခု၏ အရိပ် နှစ်ပြန် ရှိလာသော အချိန်တိုင်အောင် ကာလအကြား၌ ပြုလုပ်ရသည်။ ပူအိုက်သော ရာသီတွင် ဆိုင်းငံ့၍ ပြုလုပ်နိုင်သည်။

တစ်နေ့တာ ကာလအတွင်း တတိယအကြိမ် ဝတ်ပြုရသော အချိန်ကာလသည်ကား ဒုတိယ ဝတ်ပြုရသောအချိန် ကုန်ဆုံးသော ကာလမှစ၍ နေဝင်သည့်တိုင်အောင်သော အချိန်အတွင်း ဖြစ်သည်။ နေရောင်ခြည် မှေးမှိန်၍ ဖျော့တော့သော အချိန်တွင် ဝတ်ပြုရန် မကောင်းပေ။

စတုတ္ထ ဝတ်ပြုရမည့် အချိန်မှာ နေဝင်သည့် အချိန်မှ စ၍ နေဝင်ရာဘက်တွင် ပေါ်ထွက်နေသော အနီရောင် မပျောက်ကွယ်သေးမီ အချိန်ကာလအတွင်း ဖြစ်သည်။ ကြယ်တာရာ ပေါ်ထွက်လာသည့် အချိန်တိုင်အောင် စောင့်ဆိုင်းခြင်းမှာ မကောင်းချေ။

ပဉ္စမမြောက် နောက်ဆုံး ဝတ်ပြုရသော အချိန်သည် စတုတ္ထ ဝတ်ပြုချိန် ပြီးသည်မှစ၍ အရုဏ်တက် လင်းရောင်ခြည် ပေါ်ထွက်လာသည့် အချိန်တိုင်အောင်ပင် ဖြစ်သည်။ သို့သော် သန်းခေါင်ယံလွန်ပြီး ဝတ်ပြုရန် မကောင်းပေ။ ညဥ့်၏ သုံးပုံ တစ်ပုံအနက် ပထမပိုင်းတွင် အကောင်းဆုံး ဖြစ်သည်။

နေ့စဉ် ဝတ်ပြုသော ၅ ကြိမ်အပြင် အထူးဝတ်ပြုချိန်များလည်း ရှိသည်။ ရာမ်ဇန်လ ဝတ်ပြုချိန်သည် ပထမပတ် ဝတ်ပြုချိန် ကာလအပြီးတွင် လည်းကောင်း၊ အစနေ့များ၏ ဝတ်ပြုချိန်သည် နေထွက်၍ လှံတစ်ထောက်ခန့် ကြာသော အချိန်မှ မွန်းမတည့်မီ ကာလအတွင်းတွင် လည်းကောင်း ပြုလုပ်ကြရသည်။

လူအုပ်စုဖြင့် ဝတ်ပြုခြင်းကို ပလီ ဝတ်ကျောင်းတွင် ပြုလုပ်ကြရ၍ အေမမ်ပေါ် ဦးဆောင်ဝတ်ပြုသော ပုဂ္ဂိုလ်၏ နောက်တွင် စုဝေးကြရသည်။ ပလီကျောင်းတော်သို့ ရောက်သောအခါ ခြေလက်

အင်္ဂါ အစိတ်အပိုင်းကို ရေဖြင့် သန့်ရှင်းအောင် ဆေးကြောပြီးနောက် အဆောင်ထဲသို့ ဝင်ရောက်ကာ မက္ကာမြို့ရှိ ကာ့အဘာ(ကအ်ဗဟ်) ကျောင်းတော်ရှိရာသို့ မျက်နှာမူကာ ဝတ်တတ်ကြရသည်။

ဝတ်မပြုမီ ခြေလက်အင်္ဂါများကို သန့်ရှင်းအောင် ပြုလုပ်ကြရာ၌ ကိုယ်ခန္ဓာ မသန့်ရှင်းသူများမှာ ရေချိုးကြရသည်။ မေထုံသံဝါသ ပြုသူများ၊ အမျိုးသမီးများ သားဖွားခြင်း၊ ရာသီလာခြင်း အချိန်များတွင် ဝတ်ပြုခြင်း မပြုလုပ်ရ။ ထိုကိစ္စများပြီးမှ ရေချိုးပြီးမှ ဝတ်ပြုကြရသည်။ ရေချိုးရာတွင် ရေကို လည်ချောင်း ထိအောင် ပလုတ်ကျင်းရခြင်း၊ နှာခေါင်း ဆေးပစ်ရခြင်း၊ တစ်ကိုယ်လုံး အနှံ့အပြားပွတ်တိုက်ဆေးကြောရခြင်းများ ပြုလုပ်ရသည်။

နေထိုင်မကောင်း၍ဖြစ်စေ၊ အခြားအကြောင်းများကြောင့်ဖြစ်စေ ရေချိုးခြင်း၊ ရေဖြင့် သန့်ရှင်းအောင် ပြုလုပ်ခြင်းများ မပြုလုပ်နိုင်သူများသည် ရေအစား မြေကြီးနှင့် မြေကြီး၏ အမျိုးအစားများဖြစ်သော ထုံး၊ အုတ်၊ သဲ၊ ကျောက်၊ ဘိလပ်မြေ စသည်ဖြင့် သုတ်သင်ဆေးကြောနိုင်သည်။ လက်ဝါးနှစ်ဘက်ကို မြေကြီးပေါ်သို့ ရိုက်ချပြီး အနည်းငယ်ခါပြီးလျှင် မျက်နှာ အနှံ့အပြားသို့လည်းကောင်း၊ လက်နှစ်ဘက်တို့သို့ လည်းကောင်း ပွတ်သပ်ပေးကာ ဆေးကြောရသည်။

ကိုယ်ခန္ဓာ သန့်ရှင်းအောင် ပြုလုပ်ပြီးနောက် အခင်းကြီးအခင်း ငယ် သွားခြင်း၊ လေလည်ခြင်း၊ ကိုယ်ခန္ဓာ အစိတ်အပိုင်းတစ်ခုခုမှ သွေး၊ ပြည် စသည်တို့ ထွက်ခြင်း၊ တစ်စုံတစ်ခုကို မှီ၍ဖြစ်စေ၊ လဲလျောင်း၍ဖြစ်စေ အိပ်ပျော်အောင် အိပ်စက်ခြင်း၊ ခံတွင်းပြည့် အစာခံခြင်း၊ ဝတ်ပြုစဉ် အသံထွက်အောင် ရယ်ခြင်းများ

ဖြစ်ပေါ်ခဲ့လျှင် သန့်ရှင်းအောင် ပြုလုပ်ထားခြင်းမှာ ပျက်ပြယ်သွားလေတော့သည်။

တစ်နေ့ ၅ ကြိမ် ဝတ်ပြုခြင်းကို ကျမ်းဂန်များတွင် စွလာတ်သို့မဟုတ် နမာဇ်ဟု ခေါ်သည်။ စွလာတ်သည် လူသားများ အဖို့ ဝတ်ပြုခြင်း ဖြစ်သော်လည်း ကောင်းကင်တမန်များ အတွက်ကား အလ္လာဟ် အရှင်၏ ခွင့်လွှတ်ခြင်းကို တောင်းခံခြင်းကို ခေါ်သည်။ အလ္လာဟ်အရှင် အတွက်ကား သနားကရုဏာတရားကို ပေးခြင်း ဖြစ်သည်။

ဝတ်ပြုရာ၌ ရှေးဦးစွာ ဝတ်ပြုသူသည် နားနှစ်ဘက်ကို လက်တို့ဖြင့် ကိုင်၍ ဆိုရသည်။ ထိုနောက်တွင် ယောကျ်ား ဖြစ်လျှင် လက်နှစ်ဘက်ကို ချက်အောက်၌ ထား၍ အလ္လာဟ် အရှင်သည် ကြီးမား မြင့်မြတ် ပါပေသည်ဟု ရွတ်ဆိုရသည်။ နောက်ဆုံး ထိုင်နေသော ပုံစံဖြင့် ပြီးစီးသော အခါ ဦးခေါင်းကို လက်ယာ၊ လက်ဝဲ ပခုံးများသို့ တိမ်းစောင်း၍ အလေးပြုကာ ဝတ်ပြုခြင်းကို အပြီးသတ်ရသည်။

## ဇာကာတ် ပေးလှူစွန့်ကြဲခြင်း

အစ္စလာမ်ဘာသာ၏ အခြေခံမှုကြီးများ အနက် မလှူမနေရ ဆင်းရဲသားများကို ပေးလှူစွန့်ကြဲရသော တာဝန် တစ်ရပ်လည်း ပါဝင်၏။ အစ္စလာမ်ဘာသာဝင်တို့သည် တစ်နှစ်အတွင်း မိမိတို့၏ ပိုင်ဆိုင်ငွေ နှစ်ပိုင်းတစ်ပိုင်း ရာခိုင်နှုန်းကို မရှိဆင်းရဲသူ မွတ်စလင်များသို့ ပေးဝေ လှူဒါန်းကြရသည်။

လှူဒါန်းမှုတွင် နှစ်မျိုး ရှိသည်။ တစ်မျိုးကား မလှူမနေရ ပေးလှူရခြင်းနှင့် အခြား တစ်မျိုးမှာ မိမိတို့ သဘော အလျောက် လှူဒါန်းခြင်း ဖြစ်သည်။ မလှူမနေရ ပေးလှူရခြင်းမျိုးကား ချမ်းသာသူ များသည် ဆင်းရဲသူများအား မိမိတို့ ပိုင်ဆိုင်ငွေကို အထက်ပါ အချိုးအစားအတိုင်း ပေးလှူရသော ဒါနမျိုး ဖြစ်သည်။

ချမ်းသာသူက ဆင်းရဲသူများကို ပေးလှူခြင်းကြောင့် အလှူရှင် ရော အလှူခံပါ ကောင်းကျိုး ချမ်းသာကို ရရှိသည်သာမက လူ့အဖွဲ့ အစည်း တစ်ခုလုံး၏ ခနဉစ္စာကိုပါ တိုးပွားစေနိုင်သည်။ ထို့ပြင်လည်း ပေးလှူသူ၏ နှလုံးသား ထဲတွင် စွဲကပ်နေသည့် ခနဉစ္စာ ချမ်းသာ ကြွယ်ဝမှု၌ မက်မောသော လောဘကို ထိန်းချုပ်စေနိုင်ပေသည်။ ခနဉစ္စာ ချမ်းသာကြွယ်ဝမှုသည် မရေမတွက်နိုင်သော အပြစ်တို့ကို ကျူးလွန်စေနိုင်သည်။

တမန်တော် မုဟမ္မဒ်က မလှူမနေရ လှူဒါန်းခြင်းကို ချမ်းသာ သူများထံမှယူ၍ ဆင်းရဲသူများကို ပြန်လည် ပေးအပ်သော ဥစ္စာပစ္စည်း ဇကာတ်ဟူ၍ ဖော်ပြခဲ့သည်။

မလှူမနေရ အလှူမျိုးကို လူတန်းစား (၈)မျိုးတို့ကို ပေးကမ်း စွန့်ကြဲနိုင်သည်။ မလှူမနေရ အလှူသည် လေးမျိုး ရှိသည်။ ရွှေနှင့်ငွေကို ပေးလှူရသောအလှူ၊ စီးပွားရေးသုံး ကုန်ပစ္စည်းများကို ပေးလှူ ရသော အလှူ၊ တစ်နှစ်ကာလသော အချိန်အတွင်း ၆ လကျော် စားကျက်များတွင် ကျက်စားကြသော သိုး၊ ဆိတ်၊ ကျွဲ၊ နွား စသော တိရစ္ဆာန်တို့ကို ပေးလှူရသော အလှူနှင့် ကမ္ဘာမြေကြီးပေါ်တွင် ပေါက် ရောက်သည့် အရေးကြီးသော ကောက်ပဲသီးနှံများကို လှူရသော အလှူတို့ ဖြစ်သည်။

ကောက်ပဲသီးနှံ အလှူမှာ ရိတ်သိမ်း ပြီးလျှင်ပြီးချင်း ပေးလှူရသည်။ ကျန်အလှူသုံးမျိုးကား တစ်နှစ်ကြာမှ ပေးလှူရသည်။

## ဥပုသ်သီလ ဆောက်တည်ခြင်း

အစ္စလာမ်ဘာသာ၏ အခြေခံ မဏ္ဍိုင်တစ်ခုကား ရိုဇာ ဥပုသ် ဆောက်တည်ခြင်း ဖြစ်၏။ လကို အခြေခံ၍ တွက်ချက် ထားသော အစ္စလာမ်ပြက္ခဒိန်၏ ၉ လမြောက်သည့် ရာမ်ဇန်လတွင် အစ္စလာမ် ဘာသာဝင် အားလုံးတို့သည် တစ်လလုံးလုံး နေ့အခါ အစာမစားဘဲ ဥပုသ် ဆောက်တည်ကြရသည်။

ရာမ်ဇန်တွင် ပထမဦးဆုံးအကြိမ် လကိုမြင်သော အချိန်မှစ၍ အစာရှောင်ခြင်းကို ပြုလုပ်ကြရရာ နောက်လဖြစ်သော ရှောင်ဝါလတွင် လကို ပထမဦးဆုံး မြင်ရသောအချိန်ထိ ကြာညောင်းသည်။

အစ္စလာမ်ဘာသာနှစ်သည် လကို အခြေခံ၍ ရေတွက်ခြင်း ဖြစ်၍ တစ်လတွင် ၂၉-၃၀ ရက် ပါရှိသည်။ ထို့ပြင် ရာမ်ဇန်လသည် တစ်နှစ်အတွင်း မည်သည့်ရာသီတွင်မဆို ကျရောက်နိုင်သည်။ နေရာကို အခြေပြု၍ ရေတွက်သော နှစ်ကဲ့သို့ နှစ်စဉ် ကျမြဲရာသီတွင် မကျနိုင်ပေ။ တဖြည်းဖြည်း ရွေ့လျားသွားနေသည်။

မွတ်ဆလင်တစ်ဦးသည် လွန်စွာ နေမကောင်းဖြစ်နေခြင်း၊ ခရီးသွား နေရခြင်းနှင့် အခြား အကြောင်း တစ်ခုခုကြောင့် အစာရှောင်သည့် ဥပုသ်ကို မတည်ဆောက်နိုင်လျှင် ထိုတစ်နှစ်အတွင်း တစ်ချိန်ချိန်တွင် ကျန်သော ရက်များကို အစားထိုး၍ စောင့်ပေးရသည်။

ရာမ်ဇန်အတွင်း မွတ်စလင်တို့သည် တစ်နေ့လျှင် ထမင်းတစ်နပ်ကျ မစားဘဲ ရှောင်ကြဉ်နေရသည်။ နံနက်ပိုင်း လင်းရောင်ခြည်လာသည့် အချိန်မှစ၍ နေဝင် မိုးချုပ်သွားသော အချိန်ကာလအတွင်း၌ လုံးဝ မသုံးဆောင်ကြရ။ အရဏ် မတက်မီ အချိန်နှင့် မိုးချုပ်ပြီး နောက်ပိုင်းတို့တွင်သာ စားသုံးနိုင်သည်။

ဥပုသ် ဆောက်တည်နေသော အချိန်တွင် အစားအစာ စားသောက်ခြင်း မပြုရသည်သာမက ရေလည်း မသောက်ရပေ၊ မေထုန်သံဝါသပြုခြင်းကိုလည်း တားမြစ်ထားသည်။

ရာမ်ဇန်လသည် ကုရ်အာန်ကျမ်းစာတွင် စတင်ကျရောက်ရာလ ဖြစ်၍ အလွန်ပင် မြင့်မြတ်သောလ ဖြစ်၏။ မွတ်စလင်တို့၏ အစာရှောင်ခြင်းသည် မိမိကိုယ်ကို ညှင်းဆဲသည့် အလုပ်ကား မဟုတ်ချေ။ အစာရှောင်ခြင်းသည် ဝိညာဉ်ရေးရာနှင့် စိတ်ဓာတ်ရေးရာအရချုပ်တည်း နိုင်သော အလေ့အကျင့်ကို ရရှိစေသည်။ အခက်အခဲအမျိုးမျိုးကို ရင်ဆိုင်ရကာ ရင်ဆိုင်နိုင်ရန် လေ့ကျင့်ထား သကဲ့သို့ဖြစ်သည်။

ရိုဇာဥပုသ် ဆောက်တည်ခြင်းနှင့် ပတ်သက်၍ ကုရ်အာန်ကျမ်းတွင် "သင်တို့ကို လမ်းညွှန်တော်မူသောကြောင့် အရှင်မြတ်၏ဂုဏ်ကျေးဇူးတော်ကို သင်တို့ ချီးကျူးခြင်း၊ ကျေးဇူးတော်ကို သိတတ်ခြင်းတို့ကို လိုလားတော်မူ၏"ဟု ဖော်ပြထားသည်။ (၂:၁၈၆)

အစာရှောင်ခြင်းသည် လူသားတို့အား ရုပ်ဝတ္ထုဆိုင်ရာ စွဲလမ်းတပ်မက်မှုကို ထိန်းချုပ်ပေးရာ ရောက်သည်။ စားခြင်း၊ သောက်ခြင်းနှင့် ကာမဂုဏ် ခံစားခြင်းတို့မှာ အဟိတ်တိရစ္ဆာန်တို့၏ သဘာဝ

တရားပင် ဖြစ်၍ ထိုစွဲလမ်း တပ်မက်မှုများကို ရှောင်ရှားနိုင်လျှင် အခြား အရေးကြီးသော ကိစ္စများကို အာရုံပြုနိုင်မည် ဖြစ်သည်။ ဝတ်ပြုခြင်း၊ စိတ်အာရုံကို သမာဓိရှိအောင် ပြုလုပ်ခြင်း၊ အလှူဒါန ပြုခြင်း တို့ဖြင့်လည်း မိမိ လိုလားသော ပန်းတိုင်ကို ရရှိနိုင်မည် ဖြစ်သည်။

ဝိညာဉ်ရေးရာ သန့်စင်မှု ရရှိနိုင်ရေး အတွက် ပြုလုပ်ရမည့် နည်းနာ နိဿယများကို ပြဋ္ဌာန်းထားသော်လည်း ပို၍ အဆင့်အတန်း မြင့်သော အလုပ်များကိုလည်း ပြုလုပ်နိုင်ရန် သတ်မှတ်ထားရသည်။ ထို့ကြောင့်ပင် မွတ်စလင်များသည် နှစ်စဉ် အစာရှောင်သည့် ဥပုသ် ကို ဆောက်တည်ကြရန် လိုအပ်သည်။ အစာရှောင်သည့် အကျင့် ပြီးစီးသောအခါတွင် ဘုရားသခင်၏ အထူး ကောင်းချီးပေးခြင်းကို ခံကြရသည်ဟု ကတိပြုထားသည်။

အစာရှောင်ခြင်း သီလသည် အစ္စလာမ် ဘာသာက စတင် တီထွင်လိုက်သော အကျင့်သစ်တစ်ခုကား မဟုတ်ပေ။ အစ္စလာမ် ဘာသာ မပေါ်ထွန်းမီကပင် အစာရှောင်သော အကျင့်သည် ရှိနှင့်နေပြီး ဖြစ်သည်။ (ကုရ်အာန် ၂း၁၈၃)

ကမ္ဘာပေါ်ရှိ ဘာသာတိုင်းလိုလိုပင် အစာရှောင်သော သီလသည် ရှိ၏။ အစ္စလာမ်ဘာသာတွင် အရွယ်ရောက်သော မွတ်စလင် မိန်းမ၊ ယောကျာ်းတိုင်းက ကျင့်ကြံကြရသည်။ သို့သော် အစဉ် ထာဝရပင် နာမကျန်းဖြစ်နေသူများ၊ အလွန် အိုမင်းသူများနှင့် ဥပုသ် စောင့်နိုင် လောက်သော အင်အား မပြည့်စုံသူများမှာ အစာရှောင်ခြင်း ဥပုသ်မှ ကင်းလွတ်ကြရသည်။

ရာမ်ဇန်လတွင် မွတ်စလင် အားလုံးတို့မှာ မိမိတို့၏ အဆင့်အတန်းမရွေး တူညီသော ဥပုသ်ကို ဆောက်တည်ကြရသဖြင့် မွတ်စလင် အချင်းချင်း ညီအစ်ကို စိတ်ဓာတ်ကို ရရှိကြသည်။ ကိုယ်ချင်းစာ တရားများကို ရရှိကြသည်။

မွတ်စလင်တို့သည် မိမိတို့ ကျူးလွန်မိသော အပြစ်မှ ကင်းလွတ်စေလို၍ လည်းကောင်း၊ ရာမ်ဇန် ဥပုသ်အပြင် တစ်နှစ်အတွင်း အခြား အစာရှောင်သော ဥပုသ်များကိုလည်း ဆောက်တည်ရသေးသည်။ တမန်တော် မုဟမ္မဒ်က "ရာမ်ဇန်လနှင့် နောက်လဖြစ်သော ရှောင်ဝါလမှ ၆ ရက်တို့ကို တစ်ဆက်တည်း အစာရှောင်ဥပုသ်ကို ဆောက်တည်သူသည် တစ်နှစ်လုံး အစာရှောင် သီလကို ဆောက်တည်သည်နှင့် အတူတူပင်ဖြစ်ကြောင်း" မိန့်ကြားခဲ့သည်။ ကုရ်အာန်ကျမ်း တွင်လည်း "ကုသိုလ် အကျိုး တစ်ခုကို ပြုလုပ်သူသည် ထိုကောင်းကျိုး၏ ဆယ်ဆကို ခံစားရရှိလိမ့်မည်"ဟု ဆိုထားသည်။ (၆:၁၆၁)

လဖြင့် ရေတွက်သော ပြက္ခဒိန်၏ တစ်လတွင် ရက်ပေါင်း ၂၉ ရက်၊ သို့မဟုတ် ၃၀ ရက်စီ ရှိ၏။ တစ်နှစ် ဆိုလျှင် ၃၅၄ ရက် သို့မဟုတ် ၃၆၀ ရက် ရရှိ၏။ ၂၉ ရက် ရှိသောလ နှင့် ၃၀ ရက် ရှိသော လတို့က နောက်ထပ် ၆ ရက်စီ ထည့်ပေါင်းပါက ၃၅ ရက် သို့မဟုတ် ၃၆ ရက် ရရှိသည်။ ထို့ကြောင့် ၃၅ ရက်၏ ဆယ်ဆသည် ရက်ပေါင်း ၃၅၀ ဖြစ်၍ ၃၆ ရက်၏ ဆယ်ဆသည်လည်း ရက်ပေါင်း ၃၆၀ ဖြစ်ရာ တစ်နှစ်တာသော ကာလ၏ ၁၀ ပုံ တစ်ပုံစီဖြစ်ကြောင်း တွေ့ရှိနိုင်မည် ဖြစ်သည်။

ရာမ်ဇန်လ၌ အစာရှောင် ဥပုသ်ကို ဆောက်တည်ရခြင်းကား လူတိုင်းအဖို့ ဖြစ်၏။ အခြား အချိန်များတွင် အစာရှောင်ရခြင်းကား အပြစ်တစ်ခုခုကို ကျူးလွန်ထားသူများ၊ မှုလုပ် မနေရသော သီလ ဆောက်တည်မှုတည်း။ အချို့ အချိန်အခါတွင်မူကား အပြစ်မရှိသော်လည်း ကုသိုလ်ရရှိစေရန် ဤဥပုသ်ကို စောင့်ထိန်းကြသည်။

နှစ်စဉ် အစ်နေ့ နှစ်နေ့ဖြစ်သော ရှောင်ဝါလဆန်းတစ်ရက်နေ့နှင့် ဖွလ်ဟာဂျ်လဆန်း ၁၀ ရက်နေ့ တို့တွင် အစာရှောင် ဥပုသ် စောင့်ထိန်းခြင်းကိုကား တမန်တော် မုဟမ္မဒ်က တားမြစ်ထားသည်။ စောင့်ထိန်းရမည့် အချိန်ကာလထက် ကျော်လွန်၍ ကြာရှည်စွာ စောင့်ထိန်းခြင်းများကိုလည်း တားမြစ်ထားသေးသည်။

နေ့ကို အခြေပြု၍ တွက်ချက်သော ပြက္ခဒိန်ကို အသုံးပြုသော ဘာသာများ၏ အစာရှောင်ဥပုသ် အချိန်သည် ရာသီမှန်မှန် နှစ်စဉ် တစ်ချိန်တည်းတွင် ကျရောက်သည်။ မွတ်စလင်တို့၏ အစာရှောင် ဥပုသ်ကာလဖြစ်သော ရာမ်ဇန်လသည်ကား တစ်နှစ်အတွင်း တဖြည်းဖြည်း ရွေ့ပြောင်းသွားသဖြင့် ရာသီအားလုံးတွင် တစ်လှည့်စီ ကျရောက်သည်။

ကျွန်ုပ်တို့ နေထိုင်ရာ ကမ္ဘာကြီး၏ ဒေသ အသီးသီး၌ ရှိနေသော ရာသီဥတုတို့သည် တစ်နေရာနှင့် တစ်နေရာ တူညီနေကြသည်ချည်း မဟုတ်ချေ။ အချို့အရပ်တွင် အဲလွန် ပူအိုက်၍ အချို့အရပ်၌ အအေး လွန်ကဲသည်။ မက္ကာမြို့ တည်ရှိရာ အရပ်တွင် ဆောင်းရာသီသည် အလွန်မှူတသော အပူရှိန်ကို ရရှိသော်လည်း ဥရောပမြောက်ပိုင်း နိုင်ငံများတွင်ကား ပြင်းထန်သော ရာသီဥတု

ဒဏ်ကို ခံစားကြရသည်။ ဝင်ရိုးစွန်းနိုင်ငံများ အတွက် နွေရာသီသည် အလွန်ကောင်းသော အချိန် ဖြစ်သော်လည်း အီကွေတာ အရပ်ဒေသမှ နိုင်ငံများတွင်ကား ပြင်းထန်သော ရာသီဥတုကို ခံစားကြရသည်။

ကမ္ဘာကြီးတစ်ခုလုံးမှ ကိုးကွယ်ယုံကြည်ကြသော ဘာသာတွင် ရာသီအချိန်ကို အခြေပြု၍ အသေ သတ်မှတ်ထားပါက အချို့ဒေသတွင် အမြဲပင် သက်သက သာသာ အခြေအနေကို ရရှိနိုင်မည်ဖြစ်သော်လည်း အချို့ဒေသတွင်ကား အစာရှောင်သည့် အချိန်သည် အမြဲတမ်းပင် ဆိုးရွားသော ရာသီဥတုဒဏ်နှင့် တွေ့ကြုံ နေရပေလိမ့်မည်။ အစာရှောင် သီလချိန်ကို ရာသီအလိုက် ပြောင်းလဲသွားနိုင်စေပါက ဆိုးရွားသော ရာသီကို ရှင်ဆိုင်ရမှုတို့မှာ တစ်လှည့်စီ ကျရောက်တော့မည် ဖြစ်၍ သတ်မှတ် ထားသော စည်းကမ်းကို လိုက်နာရန် ခက်ခဲလိမ့်မည် မဟုတ်ပေ။

အစာရှောင် ဥပုသ်ချိန် ပြောင်းလဲ ကျရောက်ခြင်း အားဖြင့် မည်သည့် ရာသီတွင်မဆို အစာရှောင် အကျင့်ကို ကျင့်ရန် အလေ့ကို ရရှိသွားနိုင်ပေသည်။ အေးသောရာသီနှင့် ပူအိုက်သော ရာသီတို့တွင် အစာငတ်ခံသော အလေ့အထကြောင့် စစ်ဖြစ်၍ အဝိုင်းခံရသည့်အခါဖြစ်စေ၊ အစားအစာ ရှားပါးသည့် အချိန်ဖြစ်စေ ခံနိုင်ရည် ရှိနိုင်သည်။

ကျန်းမာရေး ရှုထောင့်မှ ကြည့်လျှင်လည်း ဆရာဝန်အချို့သည် ဟုသမှု၏ နည်းပညာ တစ်ရပ်အနေဖြင့် အစာ စားသောက်ခြင်းကို ရှောင်ရှားစေတတ်သည်။ အစာရှောင်သည့် ကာလကိုကား လူနာ၏ အခြေအနေပေါ်တွင် တည်၍ သတ်မှတ်ပေးလေ့ ရှိသည်။

## စာပေဟောင်းလေးအိုးကြီး

÷

လူများ အသက်အရွယ် ကြီးရင့်၍ သေဆုံး ကြရခြင်းသည် ခန္ဓာကိုယ်အတွင်းရှိ သွေးကြောများတွင် အညစ်အကြေးများ ပိတ်ဆို့နေ၍ ဖြစ်သည်။ အသက်အရွယ် ကြီးရင့်၍ သော်လည်းကောင်း၊ အစာအာဟာရ စားသောက်မှုတွင် ချို့တဲ့၍လည်းကောင်း၊ အခြားအကြောင်းများကြောင့် လည်းကောင်း သွေးကြောများ မာကြောကာ ဆွေးမြည့်လာသည်။ အစာ စားသောက်ခြင်းကို ရှောင်ကြဉ်ခြင်းဖြင့် ဤအန္တရာယ်ကို တစ်ဘက်တစ်လမ်းမှ ကာကွယ်ပေးသည်။ အစာရှောင်ခြင်းသည် သွေးကြောများကို နူးညံ့ ပျော့ပျောင်း စေသည်။ သွေးကြောများ နူးညံ့ ပျော့ပျောင်းသောအခါ အရွယ်ကို နုပျိုစေသည်။ အသက်ရွယ်တူသူ နှစ်ဦးတွင် အစာရှောင်သူသည် အစာမရှောင်သူထက် အရွယ်နုပျိုကြောင်း တွေ့ရှိရသည်။

မွတ်စလင်များ အစာရှောင် သီလကို ကျင့်ခြင်းကား ထာဝရဘုရား၏ အမိန့်ကို လိုက်နာသည့်အနေဖြင့် ကျင့်ခြင်း ဖြစ်သည်။

အလ္လာဟ် အရှင်၏ အမိန့်ကို လိုက်နာရာတွင် အစာရှောင်ခြင်း ကြောင့် ရုပ်ဝတ္ထုဆိုင်ရာ အကျိုးကျေးဇူးများလည်း ဆုံးရှုံးမှု မရှိချေ။

အစ္စလာမ် ဘာသာတွင် အစာရှောင်ကြဉ်ရသော အကျင့်၏ ရည်ရွယ်ချက်မှာ လူသား တို့သည် မကောင်းမှုများကို ကြံ့ကြံ့ခံနိုင်ရန် ဖြစ်၏။ ထို့ကြောင့် အစာရှောင်ခြင်းသည် အစားအစာ စားသောက်ခြင်းမှ ရှောင်ကြဉ်ရခြင်း သက်သက်သာ မကဘဲ မကောင်းမှု ဟူသမျှကို ရှောင်ကြဉ်နိုင်ရန်အတွက် ဖြစ်သည်။

စာပေဟောင်းလေးအိုးကြီး

အစာရှောင်ခြင်းသည် အလ္လာဟ်အရှင်က တားမြစ်ထားသော အခြား ရှောင်ကြဉ်ရမည့် မကောင်းမှုများကို ရှောင်ကြဉ်နိုင်အောင် စမ်းသပ်ရာတွင် အဆင့် တစ်ဆင့်သာ ဖြစ်သည်။

အစ္စလာမ်ဘာသာသည် ဤကမ္ဘာလောကကြီး၌ တမန်တော်များမှ တစ်ဆင့် အကြိမ်ကြိမ် ပေါ်ပေါက်လာခဲ့ပြီးသော ဘာသာတရားတို့နှင့် အတူတူပင်ဖြစ်ကြောင်း လက်ခံ ယုံကြည်ကြသည်။ အဓိက တာဝန်မှာ မှန်ကန်သော တရားကို ပြန်လည် ရှင်သန်လာအောင် ပြုလုပ်ရန်နှင့် အမှန်တရားကို ပျက်ပြားစေမည့် နောက်တိုး ဖြည့်စွက်ချက်များကို သုတ်သင် ဖယ်ရှားပစ်ရန် ဖြစ်သည်။

ရာမ်ဇန် လမြတ်တွင် မကောင်းမှုများ ကွယ်ပျောက်၍ ကောင်းမှုကုသိုလ်တို့မှာ ရှေ့တန်းသို့ ရောက်ရှိလာကြသည်။ ထိုအခါ ပတ်ဝန်းကျင် တစ်ခုလုံးသည် ဘုရား တရား ကြည်ညိုလေးစားမှု အပြင်ကင်းစင်မှုတို့ဖြင့် ဖုံးလွှမ်းလျက် ရှိသည်။

အစာရှောင် အကျင့်သီလ စောင့်ထိန်းခြင်းသည် လူသားတို့အား ဒုစရိုက်မှုနှင့် ပျင်းရိဖင့်နွဲ့ခြင်းတို့မှ ကင်းဝေးစေနိုင်သည်။ လူသည် ကောင်းမြတ်ခြင်း၊ သန့်စင်ခြင်းတို့၌ အထုံဝါသနာ ဖြစ်လာသောအခါ မကောင်းမှု ဒုစရိုက်တို့ကိုလည်းကောင်း၊ အကျင့်ဆိုးတို့ကိုလည်းကောင်း ဖယ်ရှားလာနိုင်သည် ဖြစ်၍ ဆိုးရွားသော စိတ်အလိုဆန္ဒ ရမ္မက်တဏှာတို့၏ ကျေးကျွန် မဖြစ်နိုင်တော့ပေ။

## ဟာဂျ်သွားရောက်ခြင်း

အစ္စလာမ် ဘာသာ၏ အခြေခံမှုများ အနက် ပဉ္စမမြောက် မဏ္ဍိုင်သည်ကား မက္ကာမြို့တော်ရှိ ကာအဘာ အိမ်တော်သို့ သွားရောက်

ရခြင်းပင် ဖြစ်သည်။ မက္ကာမြို့တော်သို့ သွားရောက်ရန် အသွားနှင့် အပြန်စရိတ်တို့ကို တတ်နိုင်သူဖြစ်၍ မိမိ နေရပ်တွင် ကျန်နေရစ်ခဲ့သူ့ မိသားစုများအတွက်ပါ စရိတ်ငွေ လုံလောက်စွာ ကျန်ရှိနေသူများ သည် မိမိတို့ တစ်သက်တာ အတွင်း အနည်းဆုံး တစ်ခေါက် မက္ကာမြို့တော်သို့ ဟာဂျ် သွားရောက်ရမည် ဖြစ်သည်။ မက္ကာမြို့တော်သို့ သွားရောက်ရမည့် သူသည် ကျန်းမာ သန်စွမ်းသူ ဖြစ်ရမည့်အပြင် အာရာဖတ်ကွင်းပြင်၌ မတ်တပ်ရပ်၍ သီလများကို စောင့်ထိန်းနိုင် လောက်အောင် ကျန်းမာသန်စွမ်းရန် လိုအပ်သည်။ မက္ကာမြို့ သွားရာ လမ်းတွင် လမ်းခရီး၌လည်း လုံခြုံမှု ရှိရမည် ဖြစ်သည်။

မက္ကာရွှေမြို့တော်ရှိ ကာအဘာ (ကအ်ဗဟ်) ဗိမာန်တော်သို့ သွားရောက်ရသည့် ရည်ရွယ်ချက်မှာ အလ္လာဟ်အရှင်အတွက် မိမိ တို့၏ တိုင်းပြည် အိုးအိမ်တို့ကို ခွဲခွာနိုင်သည့် အကျင့်ကို ရရှိရန် အပေါင်းအသင်း ဆွေမျိုး ဉာတကာများကို ခွဲခွာရ၍ ခံစားရသော ဒုက္ခများကို သိရှိရန် ဖြစ်သည်။ တစ်နည်းအားဖြင့်လည်း အလ္လာဟ် အရှင်၏ အလိုဆန္ဒတော်များ ကျရောက် ပွင့်ပေါ်ရာ ဒေသကို ဂါရဝ ပြုမှု သင်္ကေတလည်း ဖြစ်သည်။

မက္ကာမြို့သို့ သွားရောက်သော ရာသီသည်ကား ဟိဂျရီ သက္ကရာဇ် ရှောင်ဝါ၊ ဇူကွေဒါနှင့် ဇူလ်ဟိဂျာ လများအတွင်း ကာလဖြစ်သည်။ အလ္လာဟ်အရှင်၏ အမိန့်ကို လိုက်နာကြသည့်အနေဖြင့် ကမ္ဘာအရပ်ရပ်မှ အစ္စလာမ်ဘာသာဝင်တို့သည် မက္ကာမြို့တော်သို့ သွားရောက်ကြသည်။

မြင့်မြတ်သော အလ္လာဟ်အရှင် နယ်မြေသို့ ရောက်ရှိသောအခါ ဘုရားဖူး အဝတ်များကို ဝတ်ဆင်၍ လူသားများ ဝတ်ပြု ကိုးကွယ်ရန်

တည်ဆောက်ထားသည့် အလ္လာဟ်အရှင်မြတ်၏ ဗိမာန်တော် ကာအဘာ (ကအ်ဗဟ်)သို့ သွားရောက် ဖူးမြော်ကြရသည်။ ကာအဘာ (ကအ်ဗဟ်)ကို လူသားတို့၏ ပထမဦးဆုံး ဝတ်ပြုသော အဆောက်အအုံ ဖြစ်သည်ဟု ကုရ်အာန်ကျမ်းတွင် ဖော်ပြထားသည်။

အစ္စလာမ် ဘာသာ အစဉ်အလာအရ ဆိုသော် တမန်တော် အာဒမ် တည်ဆောက်ထားခဲ့သော ဝတ်ပြုကျောင်းတော်ကို တမန်တော် အီဘရာဟိမ်က ပြန်လည် တည်ဆောက် ပြုပြင်ခဲ့ကြောင်း သိရှိကြရသည်။ လေးထောင့်ပုံ အဆောက်အအုံကြီးဖြစ်သော ကာအဘာသည် မက္ကာမြို့၌ တည်ရှိ၍ ထိုကာအဘာ(ကအ်ဗဟ်)ကို ပတ်လည်ဝိုင်း၍ ဆောက်လုပ်ထားသော ပလီကြီးမှာ မက္ကာမြို့၏ ဗဟို အချက်အချာ နေရာ ဖြစ်သည်။

မက္ကာမြို့သို့ သွားရောက်ခြင်းကို နှစ်မျိုးနှစ်စား ခွဲခြားနိုင်သည်။ တစ်နှစ်အတွင်း မည်သည့်အချိန်မဆို မိမိ တစ်ကိုယ်တည်း သွားရောက် ဟာဂျ်ပြုခြင်း၊ အွမ္မရာနှင့် အခြား တစ်မျိုးမှာ ဟာဂျ်ရာသီ၌ လူအများ တို့နှင့်အတူ တစ်စုတစ်ဝေးတည်း သွားရောက် ဟာဂျ်ပြုလုပ်သော အချိန် ဟိဂျရီ ၏ ၁၂ လမြောက် လတွင် ဒုတိယအပတ်၌ ကျရောက်သည်။

မည်သည့် အမျိုးအစားဖြင့်ပင် သွားရောက် ဖူးမြော်ကြသည် ဖြစ်စေ ယောကျ်ားတိုင်းမှာ မိမိတို့ ဝတ်ဆင်လာကြသည့် အဝတ်များကို ချွတ်၍ ဟာဂျ်အဝတ်များကို ပြောင်းလဲ ဝတ်ဆင်ကြရသည်။ ဦးထုပ် ဆောင်းခြင်း မပြုကြရချေ။ ခြေထောက် နောက်ဘက်ကို ပိတ်ထားခြင်း မရှိသော ဖိနပ်များကို စီးရသည်။ အမျိုးသမီးတို့မှာကား

မိမိတို့၏ မူလ အဝတ်အစားဖြင့်ပင် ဝင်ရောက်သွားလာခွင့်ကို ရရှိကြသည်။

ဟာဂျ်ပြုရန် မက္ကာမြို့သို့ ဝင်ရောက်ခြင်းမပြုမီ ရေမိုးချိုးကာ ကိုယ်လက် သန့်စင်စေပြီးနောက် ဝတ်ပြုကြရသည်။ မက္ကာမြို့သို့ ဝင်ရောက်သောအခါနှင့် တစ်နေရာ ဖူးတိုင်းဖူးတိုင်း ဝတ်ပြု ဆုတောင်းကြရသည်။ အလ္လာဟ် အရှင်၏ ခွင့်လွှတ်ခြင်း၊ သနား ကရုဏာထားရှိခြင်းကို ရရှိရန် ဆုတောင်းကြရသည်။

နံရံနှစ်ခုတို့ ဆက်စပ်၍ ထောင့်ဖြစ်နေသော အရပ်တွင် တည်ရှိသည့် ကျောက်တုံးအနက်ကြီး ကာအဘာ(ကအ်ဗဟ်) ရှေ့၌ ဟာဂျ်ပြုသူများ မတ်တပ်ရပ်ကြရသည်။ ထိုနေရာသည် လှည့်ပတ်ကာ ဟာဂျ်ပြုခြင်း၏ အစနေရာပင် ဖြစ်သည်။ မိမိကိုယ်အား ဘုရားသခင်ထံ လုံးဝ အပ်နှံကြောင်း အထိမ်းအမှတ်ဖြင့် လက်များကို အပေါ်သို့ မြှောက်တင်ကြရသည်။ အရှင်ဗိမာန်တော်ကို လှည့်ပတ်၍ ဖူးမြော်ရန် ကြံရွယ်ကြောင်း ကိုလည်း ပြောဆိုကြရသည်။ ထိုပြီးနောက်တွင် ကာအဘာ(ကအ်ဗဟ်)ကို လက်ဝဲဘက်၌ထားကာ လှည့်ပတ်ကြရတော့သည်။

ကာအဘာ (ကအ်ဗဟ်)ကို ခုနစ်ပတ် ခုနစ်လီ ပတ်သောအခါ သက်ဆိုင်ရာ ဝတ်ပြုစကားများကို ရွတ်ဆိုကြရသည်။ ကာအဘာကို အနားကပ်၍ လှည့်ပတ်သောသူသည် ခုနစ်ပတ် စေ့သောအခါ ၃၆ ကိုက်တာ ခရီးကို သွားမိပြီး ဖြစ်လိမ့်မည်။ ထိုနောက် အီဘရာဟိမ်၏ စခန်း၌ ဝတ်ပြုကြရပြန်သည်။

**စာပေဟောင်းလေးအိုးကြီး**

ထိုမှတစ်ဖန် ဟာဂျ်ပြုသူသည် အာလ်ဆာဖာ[၁] တောင်ကုန်းသို့ သွားရောက်ပြီး ကာအဘာသို့ ပြန်လာကာ ခုနစ်ကြိမ် ခုနစ်ပတ် သွားလာရန် ရည်ရွယ်ကြောင်းကို ကြေညာရသည်။ ထိုနေရာမှတစ်ဖန် ကိုက် ၄၄၀ မျှ ကွာဝေးသော မာရ်ဝါ[၂] တောင်တန်းသို့ ဆက်သွားရသည်။ အာလ်ဆာဖာမှ မာရ်ဝါသို့ ၄ ကြိမ်နှင့် မာရ်ဝါမှ အာလ်ဆာဖာသို့ အပြန် ၃ ကြိမ် လှည့်ပတ်သွားလာရသည်။ စုစုပေါင်း ခရီး အကွာ အဝေး ၁၄ မိုင်း ၃မိုင်းခန့် ရှိသည်။

ခုနစ်ပတ်လုံးလုံး လှည့်ပတ်သွားနေစဉ်အတွင်း အစ္စလာမ် ဘာသာကို ယုံကြည်ကြောင်း၊ အလ္လာဟ်အရှင်၏ ဂုဏ်တော်များတို့ ချီးကျူးပြောဆိုခြင်းနှင့် အလ္လာဟ်အရှင်က ခွင့်လွှတ်ရန်၊ ကောင်းချီး ပေးရန်တို့ကို ဆုတောင်းရသည်။ ခုနစ်ပတ် စေ့သောအခါ ဆံပင်များကို ဖြတ်ပစ်ခြင်း ပြုလုပ်ရသည်။ အပြစ်များကို စွန့်ပစ်၍ ဘဝအသစ်သို့ အစပြုသည့် အထိမ်းအမှတ် ဖြစ်သည်။

ဟာဂျ်ပြုလာသူများသည် မက္ကာမြို့၌ ရှိနေစဉ် ကာအဘာသို့ အကြိမ်ကြိမ် သွားရောက် ဖူးမြော်နိုင်သည်။ မိမိတစ်ကိုယ်တည်း အထူး သွားရောက် ဖူးမြော်နိုင်သည်သာမက လူစုလူဝေးဖြင့်လည်း သွားရောက်ဝတ်ပြုနိုင်သည်။ အလ္လာဟ်အရှင်ကို အောက်မေ့၍ တရား ကျင့်သည့် နေရာအဖြစ်လည်း အသုံးပြုနိုင်ပေသည်။

ကာအဘာကို လှည့်လည် ဖူးမြော်ခြင်း၊ အာလ်ဆာဖာနှင့် မာရ်ဝါတို့ကို လှည့်လည် သွားလာခြင်းတို့ကို မက္ကာမြို့တွင် ရှိနေစဉ် မိမိ အဆင်ပြေသည့်အချိန်တွင် သွားရောက် ဝတ်ပြုနိုင်၏။ သို့သော်

---
၁။ Alsafa ၂။ Marwash

ဇူလ်ဟာဂျ်လဆန်း ၈ ရက်နေ့တွင်ကား အခြား ဟာဂျ်ပြုသူများနှင့် အတူ အခြားနေရာများတွင် တစ်ပေါင်းတစ်စုတည်း အတူတကွ ဝတ်ပြုကြရသည်။

ဟာဂျ်ပြုသူတို့သည် မက္ကာမြို့အပြင်တွင် ရှိသော မိနာ¹ အရပ်နှင့် ၁၀မိုင်ခန့်ဝေးသော အာရာဖတ် ကွင်းပြင်ဒေသသို့ ထွက်ခွာသွားကြ၍ ဇူလ်ဟာဂျ်ပြု လဆန်း ၆ ရက်နေ့တွင် သဲကန္တာရ ထဲ၌ တဲများဖြင့် စခန်းချ နေကြရသည်။ ဇူလ်ဟာဂျ် လဆန်း ၉ ရက်နေ့ မွန်းတည့်တိတိအချိန်တွင် ဟာဂျ်ပြုသူ အားလုံးတို့သည် အာရာဖတ် ကွင်းပြင်၌ ရောက်ရှိနေကြရသည်။

နေမွန်းစောင်းသွားသည့်အချိန်တွင် မတ်တပ်ရပ်၍ ဝတ်ပြုသည့် လုပ်ငန်း စတင်လေတော့သည်။ ဤအချိန်သည် ဟာဂျ်ပြုသွားခြင်း၏ အရေးအကြီးဆုံး အချိန် ဖြစ်သည်။ ဤအချိန်တွင် ဟာဂျ်ပြုသူ အားလုံး ပါဝင်ကြရသည်။ ဤအချိန်သည် ဟာဂျ်သွားခြင်း၏ အဓိက ရည်မှန်းချက် ဟာဂျ်ပြုရသည့် အချိန်ပင် ဖြစ်သည်။

တမန်တော် မုဂမ္မဒ်၏ အစဉ်အလာ လိုက်နာ၍ ဤနေရာတွင် တရားဟောကာ ဟာဂျ်ပြုသူ အားလုံးတို့မှာလည်း ဆုတောင်း ဝတ်ပြုကြပြီး အလ္လာဟ်အရှင်ကို အောက်မေ့ တရားထိုင်ကြရသည်။ ဤအချိန်တွင် ထိုက်တန်သူများတံသို့ အလ္လာဟ်အရှင်သည် ယင်း၏ ခွင့်လွှတ်ခြင်း၊ သနားကရုဏာ ပေးခြင်းများကို ပေးသည်။ ထိုသူများသည် အလ္လာဟ်အရှင် ရောက်ရှိကြောင်းကို သိရှိကြရလိမ့်မည် ဖြစ်သည်။ ဤအချိန်သည် အမြင့်မြတ်ဆုံးသော အချိန်ကာလပင် ဖြစ်သည်။

၁။ Mina

ထိုနေ့ ညနေပိုင်းတွင် ပြန်လာကြပြီး မူဇဒါလီဖာ[၁] အရပ်၌ ညအိပ်ကြရသည်။ ဤနေရာသည် တမန်တော် မုဟမ္မဒ် ဟာဂျ် သွားစဉ်က ရပ်နား၍ ဟာဂျ် ဝတ်ပြုသော နေရာ ဖြစ်၏၊ ထိုအစဉ်အလာကို လိုက်နာ၍ ယခုလာသူများလည်း ညအိပ်ကာ ပြုကြရခြင်း ဖြစ်သည်။

မိနာသို့ ရောက်သောအခါ အသုံးပြုရမည့် ခဲလုံးကလေးများကို သဲကန္တာရထဲမှ လိုက်လံ ရှာဖွေကြရသည်။ ထိုနေရာမှ တစ်ဖန် မက္ကာမြို့၏ အပြင်၌ရှိသော မိနာသို့ ခရီးဆက်ကြရသည်။ မိနာမြို့တွင် ၃ ရက်တိုင်တိုင် နေထိုင်ကြရသည့်အတွင်း နေ့စဉ်နေ့တိုင်း စာတန်မာရ်နတ်ကို မိမိတို့ ကောက်ယူလာသော ခဲများဖြင့် ပစ်ပေါက်ကြရသည်။ အလ္လာဟ်အရှင်၏ မေတ္တာတော် အတွက် တိရစ္ဆာန် တစ်ကောင်ကို ကုရ်ဘာနီ[၂] ပြုကြရသည်။

မိနာ၌ ရှိနေစဉ်အတွင်း ဝတ်ပြုခြင်း၊ တရားထိုင်ခြင်း တို့ကိုလည်း ပြုလုပ်ကြရသေးသည်။ မိနာရှိ အတ်ခါအိ ခေါ် ပလီမှာ မြင့်မြတ်၍ တမန်တော် မုဟမ္မဒ်သခင်ကိုယ်တိုင် ဝတ်ပြုခဲ့သည်။ အားလုံးသော ဟာဂျ်ပြုသူတို့သည်လည်း ဤပလီတွင် ဝတ်ပြုကြရသည်။

မိနာမှပြန်၍ မက္ကာသို့ ပြန်ရောက်သော အခါ ကာအဘာ (ကအ်ဗဟ်)နှင့် အာလ်ဆာဖာ၊ မာရ်ဝါတို့ကို သွားရောက် ဖူးကြရပြန်သည်။

ဟာဂျ် သွားရခြင်း၏ အမှတ်ညာသည်ကား အာဒမ်နှင့် ဧဝတို့သည် ဂျန္နတ်သုခဘုံမှ လျှောကျခဲ့ပြီးနောက် တစ်ဦးနှင့် တစ်ဦး

၁။ Muzdalifah ၂။ Sactifice

ကွဲကွာကာ တစ်နေရာသို့ ရောက်ရှိသွားကြသည်။ တစ်ယောက်ကို တစ်ယောက် ရှာဖွေရင်း အလ္လာဟ်အရှင်၏ အကူအညီဖြင့် အာရဖတ် အရပ်၌ တွေ့ဆုံကြသည်။

ထာဝရဘုရားသခင်အား ကျေးဇူးတင်သည့် အနေဖြင့် အာဒမ်နှင့် ဧဝတို့၏ အဆက်အနွယ်တို့သည် အာရာဖတ်အရပ်တွင် တွေ့ဆုံကာ အလ္လာဟ်အရှင်တို့ တွေ့သိခွင့်ရ၍ မိမိတို့၏ အတိတ်ကာလမှ အမှားများကို ခွင့်လွှတ်ရန် တောင်းပန်ကာ အနာဂတ်ကာလတွင် အကူအညီပေးရန် ပြောင်းဆိုကြခြင်း ဖြစ်သည်။

စာတန်မာရ်နတ်ကို ခဲဖြင့် ပစ်ပေါက်သည့် ထုံးစံ သည်ကား အီဘရာဟိမ်သည် ထာဝရ ဘုရားကို အခြားအရာတို့ထက် ပို၍ နှစ်သက် မြတ်နိုးသဖြင့် အလ္လာဟ် အရှင်သည် အီဘရာဟိမ်၏ သဘောရိုးဖြောင့်မှုကို စမ်းသပ်လိုသည်။ အီဘရာဟိမ်၏ သားကို ကုရ်ဘာနီပြုရန် အလ္လာဟ်အရှင်က စေခိုင်းသည်။ ဤကိစ္စကို မာရ်နတ်က အီဘရာဟိမ်ထံ လာ၍ သုံးကြိမ်တိုင်အောင် ဖြားယောင်းသည်။ သို့သော် အီဘရာဟိမ်က သုံးကြိမ်စလုံး မာရ်နတ်ကို ခဲပေါက်၍ နှင်ထုတ်ပစ်လေ့ ရှိသည်။ ဤဖြစ်ရပ်သည် မီနာအရပ်တွင် ဖြစ်ပေါ်ခဲ့သည်။

စာတန်မာရ်နတ်၏ သွေးဆောင်ဖြားယောင်းမှုကို တိုက်ခိုက်သည့် အထိမ်းအမှတ်အဖြစ် ဟာဂျ်ပြုသူက ခဲဖြင့် ပစ်ပေါက်ကြခြင်း ဖြစ်သည်။

အီဘရာဟိမ်သည် မိမိ၏ သား အစား သိုးတစ်ကောင်ကို ကုရ်ဘာနီ ပြုခဲ့သည့် ထုံးစံအတိုင်း ဟာဂျ်ပြုသူတို့သည်လည်း မီနာတွင် သိုးတစ်ကောင်ကျစီဖြင့် ကုရ်ဘာနီပြုကြခြင်း ဖြစ်သည်။

အလ္လာဟ်အရှင်၏ ဗိမာန်တော်ဖြစ်သော ကာအဘာ (ကအ်ဗဟ်) သို့ သွားရောက်ခြင်းကား အလ္လာဟ်အရှင်၏ အမိန့်ကို လိုက်နာခြင်း၊ ရိုသေခြင်း၊ မိမိကိုယ်ကို နှိမ့်ချခြင်း သဘောပင် ဖြစ်သည်။ အရာဝတ္ထု တစ်ခုခုကို ပတ်ကာ လှည့်လည်သွားသော အလေ့သည် အလွန် ရှေးကျသော ဓလေ့တစ်ခုဖြစ်၍ မိမိ၏ ကိုယ်ကို မေတ္တာ၊ ကရုဏာ၊ မုဒိတာအတွက် အနစ်နာခံရန် လိုလားကြောင်းကို ပြသသော သဘော ပင် ဖြစ်သည်။

အလ်ဆာဖာနှင့် မာရ်ဝါအကြား ခုနစ်ကြိမ်တိုင်တိုင် သွားလာ ကြရသည့် ထုံးစံမှာ အိဘရာဟိမ်သည် သူ၏ ဇနီး ဟာဂျရာနှင့် သားနို့စို့ကလေး အစ္စမေလတို့ကို ယခု မက္ကာမြို့တည်ရာ အရပ် လူသူမနီး တောကြီးထဲ၌ စွန့်ပစ်ခဲ့ရာတွင် ဒုက္ခသည် ဟာဂျရာမှာ သောက်ရေလည်း ကုန်ခန်းသွားတော့သည်။ ထို့ကြောင့် ဟာဂျရာ သည် ရေကို ပြေးလွှားကာ ရှာဖွေလိုက်၊ မိမိ၏ ကလေးကိုလည်း စိတ်မချ၍ ပြန်ကြည့်ရှုလိုက်ဖြင့် ဒုက္ခများခဲ့ပုံ အထိမ်းအမှတ် ဖြစ် သည်။ ယခု ဟာဂျ်ပြုသူများသည် မိခင်၏ မေတ္တာတရား ကြီးမားပုံကို လေးစားခြင်းနှင့် အလ္လာဟ်အရှင်၏ ကရုဏာထားမှုကို ကျေးဇူးတင်သည့် အနေဖြင့် ဤအစဉ်အလာကို ဆက်လက် ပြုလုပ်ကြခြင်း ဖြစ်သည်။

ဟာဂျ် သွားခြင်းသည် မြင့်မြတ်သော နယ်မြေ၏ သမိုင်း ဖြစ်ရပ်များကို သတိရစေကာ အစဉ်အလာ တစ်ရပ်အနေဖြင့် ပြုလုပ် ကြရခြင်း ဖြစ်သည်၊ ဟာဂျ် သွားခြင်းသည်လည်း အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်ကို နာခံခြင်းနှင့် တမန်တော် မုဟမ္မဒ်၏ သွန်သင်နည်းပြမှုကို လိုက်နာကြခြင်းပင် ဖြစ်သည်။

ဟာဂျ် သွားရာတွင် အရေးကြီးသော အစိတ်အပိုင်း တစ်ရပ် အနေဖြင့် မဟုတ်မူသော်လည်း ဟာဂျ်သူတို့သည် မဒီနာမြို့သို့ သွားရောက်ကြကာ တမန်တော်၏ သင်္ချိုင်းဂူဝသို့ သွားရောက်၍ ဆုတောင်းကြခြင်း၊ တမန်တော်၏ ပလီသို့ သွားရောက် ဝတ်ပြုခြင်းများကိုလည်း ပြုလုပ်ကြသည်။

မဒီနာမြို့ရှိ တမန်တော်၏ ပလီမှာ အစ္စလာမ် ဘာသာတို့၏ ဒုတိယအမြင့်မြတ်ဆုံး ပလီပင်ဖြစ်၍ ဟာဂျ်ပြုသူတို့သည် အစုအသင်း အလိုက် လည်းကောင်း၊ တစ်ဦးချင်း အလိုက် လည်းကောင်း သွားရောက်၍ တရားထိုင်ကြသည်၊ တမန်တော် ရှိနေကြောင်းကို အမြဲ သတိပေးထားသဖြင့် ဟာဂျ်ပြုသူတို့သည် ဝတ်ပြုရာ၌ လည်းကောင်း၊ ကုရ်အာန်ကျမ်းကို ရွတ်ဖတ်ရာ၌ လည်းကောင်း တမန်တော်ကို အရိုအသေပေးသောအားဖြင့် အသံကို နှိမ့်၍ ရွတ်ဖတ်ကြရသည်။

မဒီနာမြို့သည် အစ္စလာမ်ဘာသာ တိုးတက် ထွန်းကားစဉ်က ထင်ရှားသော မြို့တစ်မြို့ပင် ဖြစ်ခဲ့သည်၊ တမန်တော် မုဟာမ္မဒ်၏ သင်္ချိုင်းအုတ်ဂူဘေးဖြင့် ကပ်၍ အစ္စလာမ်နိုင်ငံ၏ ပထမဦးဆုံး အကြီးအကဲနှင့် ဒုတိယမြောက် အကြီးအကဲ ခလီဖာများ ဖြစ်ကြသော အဘူဘကရ်နှင့် အိုမာရ်တို့၏ သင်္ချိုင်းဂူများလည်း ရှိသည်၊ ရှေးအကျဆုံး မွတ်စလင်တို့၏ အုတ်ဂူများ၊ ပလီများလည်း ရှိသည်။

အစ္စလာမ် ဘာသာ၏ မဏ္ဍိုင်ကြီး ၂ ရပ်အနက် အမြင့်မြတ်ဆုံးသော မဏ္ဍိုင်သည်ကား အလ္လာဟ် အရှင်မှ တစ်ပါး အခြားကိုးကွယ် ဆည်းကပ်ထိုက်သောသူ မရှိသော အချက်ပင် ဖြစ်သည်၊ ဒုတိယ အရေးကြီးဆုံးသော မဏ္ဍိုင်ကား တစ်နေ့ ၅ ကြိမ် မှန်မှန်

ဝတ်ပြုရသော တာဝန်ပင် ဖြစ်သည်၊ အစာစားခြင်းမှ ရှောင်ကြဉ်သော အကျင့်သည် တတိယ အမြင့်မြတ်ဆုံး ဖြစ်သည်။

စတုတ္ထမြောက် မဏ္ဍိုင်မှာ မက္ကာရွှေမြို့တော်သို့ ဟာဂျ် သွားရခြင်း ဖြစ်သည်၊ နောက်ဆုံးမြောက်သော တာဝန်ကား မရှိဆင်းရဲသူများသို့ မိမိ၏ ဝင်ငွေအချို့ကို ပေးလှူရသော ကျင့်စဉ်ပင် ဖြစ်သည်။

အမှတ်စဉ်(၁) မဏ္ဍိုင်ဖြစ်သော အလ္လာဟ်အရှင် တစ်ပါးတည်းကိုသာ ကိုးကွယ်ခြင်းသည် အလွန် အရေးကြီးသော တာဝန် ဖြစ်သည်၊ အစ္စလာမ်ဘာသာ စတင် ပေါ်ပေါက်လာကတည်းကပင် ဖြစ်သည်၊ တမန်တော် မုဟမ္မဒ်သည် တမန်တော်အဖြစ်ကို ရရှိပြီး ၁၂ နှစ်အကြာတွင် တစ်နေ့ ၅ ကြိမ် ဝတ်ပြုရမည့် ကျင့်ဝတ်ကို ဘာသာရေးကျင့်ဝတ် တစ်ခုအဖြစ် သတ်မှတ် ပြဋ္ဌာန်းခဲ့သည်၊ ဟိဂျရီသက္ကရာဇ် မစတင်မီ တစ်နှစ်ခန့် အလိုတွင် ဖြစ်၏။

တမန်တော် မုဟမ္မဒ် ကောင်းကင်ဘုံ ရောက်ရှိသွားသော ညတွင် ဖြစ်သည်။

ရာမ်မဇန်လတွင် အစာရှောင်သော အကျင့်ကား ဟိဂျရီ ၂ ခုနှစ် ရှာဗန်လ၌ ဘာသာရေး ကျင့်စဉ်တစ်ရပ်အဖြစ် အသိအမှတ် ပြုခဲ့သည်၊ အစာရှောင်သော ကျင့်စဉ်ကို ဘာသာရေး ကျင့်စဉ်အဖြစ် ကျင့်သုံးသော နှစ်တွင်ပင် မရှိဆင်းရဲသူများကို မိမိ၏ ဝင်ငွေအချို့ကို ပေးလှူရသော ကျင့်စဉ်ကိုလည်း သတ်မှတ်ပေးခဲ့သည်။

မက္ကာမြို့သို့ ဟာဂျ်သွားခြင်း ဓလေ့ကိုကား ဟိဂျရီ ၆၃ နှစ်တွင် အတည်ပြု သတ်မှတ်သဖြင့် မဏ္ဍိုင် ၅ ရပ်တွင် နောက်အကျဆုံး ဖြစ်သည်၊ မြင့်မြတ်မှု အလိုက် အစီအစဉ်တွင် မိမိ၏ ဝင်ငွေကို

ဆင်းရဲသားများသို့ ပေးလှူရသော ကျင့်ဝတ်သည် နောက်ဆုံးဖြစ်၍ ဘာသာရေး ကျင့်ဝတ်အဖြစ် အတည်ပြု သတ်မှတ်သည့် ရှေ့နောက် အစီအစဉ်တွင် ဟာဂျ်သွားခြင်း ကျင့်စဉ်မှာ နောက်ဆုံး ဖြစ်နေလေသည်။

## ကအဘာ (ကအိဗတ်) ဗိမာန်တော်

ထာဝရ ဘုရားကျောင်းတော် ကာအဘာ (ကအ်ဗဟ်)သည်ကား မက္ကာမြို့တော် အလယ်၌ တည်ရှိသော ပလီတော်ကြီးပင် ဖြစ်သည်၊ ကမ္ဘာအရပ်ရပ်ရှိ မွတ်စလင်များ ဝတ်ပြုကြသောအခါ ကာအဘာ (ကအ်ဗတ်) ဗိမာန်တော်ရှိရာ အရပ်သို့ မျက်နှာမူ၍ ဝတ်ပြုကြရသည်၊ မွတ်စလင်တို့သည် အရှေ့အနောက် တောင်မြောက် မည်သည့်အရပ်တွင်ပင် ရှိနေကြသည် ဖြစ်ပါစေ ဝတ်ပြုသောအခါ ကာအဘာ(ကအ်ဗတ်) ရှိရာ ဒေသဘက်သို့ မျက်နှာမူ၍ ဝတ်ပြုကြရသည်၊ ဤဗိမာန်တော်ကို အကြောင်းပြု၍ အစ္စလာမ်ဘာသာဝင် ညီနောင်စိတ်ဓာတ်ကို တိုးပွားစေနိုင်သည်။

ကာအဘာ(ကအ်ဗတ်)ကို အာဒမ်တို့ လက်ထက် အခါကပင် ဝတ်ပြုနိုင်ရန် ရရှိခဲ့ခြင်း ဖြစ်သည်[၁] မြင့်မြတ်သော ဝတ္တက နေရာ အဖြစ် သတ်မှတ်ထားခဲ့ကြသည်၊ တမန်တော် မုဟမ္မဒ်သခင် မပေါ်မီ အာရေဗျကျွန်းဆွယ်၌ နေထိုင်ခဲ့ကြသော ဘုရားအမျိုးမျိုးကို ကိုးကွယ် ယုံကြည်ကြသည့် လူမျိုးစုတို့သည် ကာအဘာ ဗိမာန်တော်ကို မိမိတို့

၁။ အချို့က အိဘရာဟိမ် လက်ထက်တွင် တည်ဆောက်သည်ဟု ယုံကြည်ကြသည်။

ကိုးကွယ် ယုံကြည်ကြသော ဘုရားရုပ်တုပေါင်း ၃၆၀ တို့ကို ပင့်ဆောင်ထား ကိုးကွယ်ခဲ့ကြသည်။

တမန်တော် မုဟမ္မဒ်သည် ဟိဂျရီ ၈ ခုနှစ်တွင် မက္ကာမြို့တော်သို့ အောင်မြင်စွာ ဝင်ရောက် လသောအခါ ဘုရားအမှားများ၏ ရုပ်တုတို့ကို အားလုံး ဖယ်ရှားပစ်ပြီးနောက် တစ်ဆူတည်းသော ထာဝရဘုရား အလ္လာဟ်အရှင်ကို ကိုးကွယ် ဝတ်ပြုသည့်နေရာအဖြစ် သတ်မှတ်ပေးခဲ့သည်။

ကာအဘာ (ကအ်ဗတ်) ဝတ်ကျောင်းတော်သည်ကား ကမ္ဘာအရပ်ရပ်မှ မွတ်စလင်များ ဟာဂျ်ပြုရန် တစ်နှစ် တစ်ခါ လာရောက်ဆုံတွေ့ကြရသည့် ဌာနတစ်ခုပင် ဖြစ်သည်၊ ကမ္ဘာပေါ်တွင် ဝတ်ပြုသူမည်သည့်အခါမှ မစဲသည့် တစ်ခုတည်းသော အရာပင် ဖြစ်သည်၊ ၂၄ နာရီပတ်လုံး ဝတ်ပြုသူများ ရှိသည်။

ကာအဘာ (ကအ်ဗတ်) ဗိမာန်တော်တွင် မိမိတစ်ဦးတည်းသာ ဝတ်ပြုလိုသောသူသည် နှစ်ပေါင်းများစွာ စောင့်နေသည့်တိုင်အောင်ပင် ထိုအခွင့်အရေးကို ရရှိနိုင်စရာ မရှိပေ၊ ဟာဂျ်ပြုချိန်တွင် လူအများဆုံး တစ်ပြိုင်တည်း ဝတ်ပြုကြသည်၊ ထိုအချိန်တွင် ဟာဂျ် ဝတ်ပြုသူ တစ်သိန်းကျော် ရှိသည်၊ ကမ္ဘာတစ်ခုလုံး၌ လူအများဆုံး ဝတ်ပြုသော နေရာ ဖြစ်သည်ကိုကား သံသယဖြစ်စရာ မရှိချေ။

မွတ်စလင်များ ဝတ်ပြုချိန်တွင် မျက်နှာမူရသော အရပ်သည် ကာအဘာ ဖြစ်သည်မှာ မှန်၏၊ သို့သော် ဤကျောင်းတော် အဆောက်အအုံကို ကိုးကွယ် ဝတ်ပြုကြခြင်း မဟုတ်ပေ၊ မွတ်စလင်တို့သည် အလ္လာဟ်အရှင်မှ တစ်ပါး အခြား မည်သည့်အရာကိုမျှ မကိုးကွယ်

ဝတ်မပြုကြ၊ ကာအဘာမှာ မွတ်စလင်များ ဝတ်ပြုရာတွင် မည်သို့ မျက်နှာမူရသည်ကိုသာ ရည်စူးလိုသည့် အထိမ်းအမှတ် တစ်ခု ဖြစ်သည်၊ ကမ္ဘာပေါ်ရှိ မွတ်စလင် အားလုံးတို့သည် ဗဟို အချက်အချာ တစ်ခုသို့ ဦးလှည့်ကာ ကျယ်ဝန်းသော စက်ဝိုင်းကြီး တစ်ခုကဲ့သို့ ရှိနေစေရန် ဖြစ်သည်၊ ကာအဘာသည် ဝတ်ပြု ကိုးကွယ်မှု၏ ပန်းတိုင် မဟုတ်ဘဲ အမှတ်သညာ တစ်ခုသာ ဖြစ်သည်။

ကာအဘာ (ကအ်ဗတ်) အဆောက်အအုံ အနီး၌ သမိုင်းတွင် ထင်ရှားသော ဇမ်ဇမ်[၁]ရေတွင်း ရှိသည်၊ ထိုရေတွင်းသည် လွန်ခဲ့သော နှစ်ပေါင်း လေးထောင်ကျော်လောက်က အိဗရာဟိမ်၏ ဇနီးနှင့် သားဖြစ်သော ဟာဂျရာနှင့် အစ္စမေလတို့ သဲကန္တာရထဲ၌ ရေရှားပါးမှုနှင့် တွေ့ကြုံရစဉ် အသုံးပြုခဲ့သော နေရာ ဖြစ်သည်၊ ဤရေတွင်းကြောင့် မက္ကာရွှေမြို့တော်မှာ သာယာဝပြောလျက် ရှိသည်။

ဤရေတွင်းမှရေများကို တစ်နှစ်ပတ်လုံး အသုံးပြုနိုင်သည့်အပြင် ကမ္ဘာပေါ်ရှိ လူအားလုံး အသုံးပြုကြရသည်၊ လူ သန်းပေါင်းများစွာ အသုံးပြုနိုင်အောင် ထုတ်ပေးနိုင်သော်လည်း မည်သည့်အခါမျှ ရေများ ခန်းခြောက်သွားခြင်း မရှိချေ။

## ဘာသာအတွက် တိုက်ပွဲဝင်ခြင်း

အစ္စလာမ်ဘာသာ၏ အခြေခံများတွင် ဘာသာအတွက် တိုက်ပွဲဝင်ရခြင်းသည်လည်း အချက်တစ်ချက် ပါဝင်လေသည်၊ ဂျီဟတ်[၂]ခေါ် တိုက်ပွဲဝင်ခြင်းကား မွတ်စလင်တို့သည် မိမိတို့ အစွမ်းရှိသမျှ

၁။ Zam Zam ၂။ Jihad

ပါဝင် တိုက်ခိုက်ရခြင်း ဖြစ်သည်၊ မွတ်စလင်တစ်ဦးသည် မိမိ၏ ကာယကံမြောက်အားဖြင့် လည်းကောင်း၊ မနောကံမြောက် အားဖြင့် လည်းကောင်း၊ သို့မဟုတ် မိမိ၏ ပစ္စည်းဥစ္စာအားဖြင့် ကူညီ၍ လည်းကောင်း အလ္လာဟ်အရှင် အတွက် အမှန်တကယ် ပါဝင်ရခြင်းကို ဂျီဟာတ်ဟု ခေါ်သည်။

ရှရီအတ်တရားတော်တွင် အလ္လာဟ်အရှင်အတွက် ကာကွယ် စစ်တိုက်ခြင်းဟု ဖော်ပြထားသည်၊ သို့သော် မိမိကိုယ်ကို ကာကွယ် သည့် အနေဖြင့်လည်းကောင်း၊ သို့မဟုတ် အစ္စလာမ် ဘာသာဝင် များအား မိမိတို့ ယုံကြည် ကိုးကွယ်သည့် ဘာသာကို အကြောင်း ပြု၍ ဖိနှိပ် ညှဉ်းပန်းလျှင် ယင်း ဖိနှိပ်ညှဉ်းပန်းသူများကို တော်လှန် တိုက်ခိုက်သည့် သဘောဖြင့် လည်းကောင်း တိုက်ခိုက်ရသော စစ်မျိုး ဖြစ်သည်။

မိမိတို့ ယုံကြည်ကိုးကွယ်သော ဘာသာကို ကာကွယ်သည့် အနေဖြင့် အသက်ကို အသေခံ၍ တိုက်ပွဲဝင်ရသော တာဝန်ကား မွတ်စလင်တိုင်း လိုက်နာရမည့် တာဝန် တစ်ရပ်ပင် ဖြစ်သည်။

## ရုပ်နှင့်နာမ်

အစ္စလာမ်ဘာသာ၏ ထူးခြားသော အသွင်လက္ခဏာတစ်ခုမှာ လူ့ဘဝကို ရုပ်နှင့်နာမ် (ဝိညာဉ်)ဖြင့် ခွဲခြားမပြထားခြင်းပင် ဖြစ်သည်၊ လူ့ဘဝမှာ ညီညွတ်မှုရှိသည်ဟု မှတ်ယူထားသည်၊ ရုပ်နှင့်နာမ်ဟူ၍ တစ်သီးတခြားစီ ခွဲခြားထားခြင်း မရှိ၊ လူ့ဘဝကို ငြင်းပယ်ရန်မဟုတ်၊ ဖြည့်ဆည်းရန်သာ ဖြစ်သည်။

အစ္စလာမ်ဘာသာသည် ပြင်းထန်စွာ ခြိုးခြံ ကျင့်သော အကျင့်မျိုးကို မယုံကြည်ချေ၊ ရုပ်ဝတ္ထု ပစ္စည်းများအား စွန့်ပစ်ရန် ရှောင်ရှားကြရန် လူအများအား မညွှန်ပြ၊ ဝိညာဉ်လောကသို့ ရောက်ရှိရန်မှာ ကမ္ဘာလောကကြီးကို ငြီးငွေ့ခြင်းဖြင့် မရောက်ရှိနိုင်ဘဲ ခက်ခဲ ကြမ်းတမ်းသော ဘဝခရီးတွင် ဘုရားတရားကို ရှိသေလေးစားခြင်းဖြင့်သာ ရောက်ရှိနိုင်သည်ဟု သင်ပေးသည်။

ထာဝရ ဘုရားသခင်က လူသားတို့အတွက် ဖန်ဆင်းပေးထားသည့် ကောင်းသော ချမ်းသာသုခနှင့် အစားအစာတို့ကို မည်သူက မသုံးဆောင် မစားသောက်ရန် တားမြစ်ထားသနည်းဟူ၍ အလ္လာဟ်အရှင်က ပေးထားသော စည်းစိမ်ချမ်းသာကို ခံစားရန် မလိုလားသူများအား အပြစ်ဆိုထားသည်။ (ကုရ်အာန် ၇း၃၁)

အစ္စလာမ်ဘာသာက "စားပါ၊ သောက်ပါ၊ သို့သော် မလွန်ကျူးစေနှင့်"ဟူ၍ ဆုံးမထားသည်။ (ကုရ်အာန် ၇း၃၁)

ဤနည်းဖြင့် အစ္စလာမ်ဘာသာသည် ရုပ်ဝတ္ထုရေးရာနှင့် ကျင့်ဝတ်ရေးရာတွင် လည်းကောင်း၊ လောကီဘဝနှင့် ဝိညာဉ်ဘဝအရာတွင် လည်းကောင်း တခြားစီ ခွဲခြားထားရန် ခွင့်မပြုပေ၊ လူသားတို့အား မိမိတို့ အင်အားကို ကျန်းမာသန်စွမ်းသော ဘဝခန္ဓာကိုယ် ပြန်လည်တည်ဆောက်ရာတွင် အသုံးပြုရန် တိုက်တွန်းထားသည်။

ရုပ်ဝတ္ထုဆိုင်ရာ အင်အားနှင့် အကျင့်တရားဆိုင်ရာ အင်အားတို့ကို ဆက်စပ်ပေါင်းစည်းပေးရမည်၊ ရုပ်ဝတ္ထုပစ္စည်းများကို အသုံးပြု၍သာလျှင် ဝိညာဉ်ရေးရာ ကယ်တင်မှုကို ရရှိနိုင်ပြီး ခြိုးခြံစွာကျင့်သော ဘဝမျိုးဖြင့် မရရှိနိုင်ကြောင်းကို အစ္စလာမ်ဘာသာက သင်ကြားပေးသည်။

**စာပေဟောင်းလေးအိုးကြီး**

အစ္စလာမ်ဘာသာသည် ရုပ်နှင့်နာမ် (ဝိညာဉ်)ဆိုင်ရာ ဘဝ၏ အခြေခံ အကြောင်းအရင်း နှစ်ခုကို ညီမျှအောင် တည်ဆောက်ပေးသည်၊ ကမ္ဘာလောက၌ ရှိရှိသမျှသော အရာတိုင်းသည် လူသားတို့အတွက်သာ ဖြစ်၏၊ လူသားကိုယ်တိုင်မှာလည်း ထာဝရ ဘုရားသခင်အတွက် ဖြစ်၏။

အစ္စလာမ်ဘာသာ၏ သင်ကြား ပြသမှုသည် လူသားတို့၏ လောကီရေးနှင့် လောကုတ္တရာရေး လိုအပ်ချက်များကို ဖြည့်စွမ်းပေးသည်၊ လူသားအား မိမိ၏ ဝိညာဉ်ကို သန့်စင်အောင် ပြုလုပ်ရန် သင်ကြားပေး၏၊ တစ်ဦးတည်းအနေနှင့် လည်းကောင်း၊ အများစု အနေဖြင့် လည်းကောင်း မိမိ၏ လောကီဘဝကို ပြုပြင် ပြောင်းလဲပေးရန် သင်ကြားပေးပြီး အဓမ္မအပေါ် ဓမ္မက လွှမ်းမိုးရန်၊ မကောင်းမှုအပေါ် ကောင်းမှုက လွှမ်းရန် ဆောင်ရွက်စေသည်၊ ဤသို့ဖြင့် အစ္စလာမ် ဘာသာသည် မဇ္ဈိမပဋိပဒါ လမ်းစဉ်ကို လိုက်နာလေသည်။

## ကာဖိရ်

တစ်စုံတစ်ဦးသော သူသည် အစ္စလာမ် ဘာသာ အခြေခံ မဏ္ဍိုင်ကြီး ငါးခုအနက်မှ တစ်ခုခုကို မယုံကြည်လျှင် သို့မဟုတ် ငြင်းပယ်လျှင် သို့မဟုတ် ရယ်စရာသဖွယ် ပြုလုပ်လျှင် သို့မဟုတ် မရှိမသေ ပြုလုပ်ခဲ့လျှင် ထိုသူသည် ကာဖိရ်ခေါ် အစ္စလာမ်ဘာသာကို မယုံကြည်သော ဒိဋ္ဌိတစ်ယောက် ဖြစ်သည်။

စာပေဟောင်းလေးအိုးကြီး

ထိုနည်းအတိုင်းပင် အများက ကြေညာ၍ထားသော ခွင့်ပြုနိုင်သည့် ကိစ္စများနှင့် တားမြစ်ထားသည့် ကိစ္စများအနက်မှ တစ်ခုခုကို လက်မခံလျှင် သို့မဟုတ် ခွင့်ပြုနိုင်သည့် ကိစ္စများကို တားမြစ်ထားသည့် ကိစ္စများဟု ပြောဆိုလျှင် သို့မဟုတ် တားမြစ်ထားသည့် ကိစ္စများကို ခွင့်ပြုနိုင်သည့် ကိစ္စများဟု ပြောဆိုလျှင် ထိုသို့ ပြောဆိုသောသူသည်လည်း ကာဖိရ် တစ်ယောက်ပင် ဖြစ်သည်။

* * *

# ဘာသာတရားအမျိုးမျိုး

ဤစာအုပ်၏ မူလအစီက ရည်ရွယ်ရင်းကား ဟိန္ဒူဘာသာ၊ ဗုဒ္ဓဘာသာ၊ ခရစ်ယာန်ဘာသာနှင့် အစ္စလာမ်ဘာသာ လေးခု အကြောင်း သာလျှင် ဖြစ်သည်။ ဤဘာသာကြီး လေးခုလောက် ယုံကြည်ကိုးကွယ်မှု မများပြားသော်လည်း ကမ္ဘာ့ပြည်သူများ လက်ခံ ယုံကြည် နေကြသော ဘာသာအချို့လည်း ရှိသေး၏၊ ထိုဘာသာများအကြောင်း အနည်းငယ်မျှကို ဆွေးနွေး တင်ပြ လိုပါသေးသည်၊ အထူးသဖြင့် ဂျူးဘာသာအကြောင်း တင်ပြလိုပါသည်၊ ဤစာအုပ်၌ ဖော်ပြထားသော ခရစ်ယာန်ဘာသာနှင့် အစ္စလာမ် ဘာသာတို့သည် ဂျူးဘာသာနှင့် တစ်နည်းတစ်ဖုံ ဆက်စပ်နေသောကြောင့် ဖြစ်ပါသည်။

ယနေ့ ကမ္ဘာသူ ကမ္ဘာသား အများစု လက်ခံ ကိုးကွယ်နေသော ဘာသာကြီးပေါင်း တစ်ဆယ့်တစ်ခု ရှိသည်၊ ကမ္ဘာ့အရှေ့ပိုင်းတွင် ကွန်ဖြူးရှပ်ဝါဒ၊ တာအိုဝါဒနှင့် ရှင်တို ဘာသာ၊ အာရှ တောင်ပိုင်းမှ ဟိန္ဒူဘာသာ၊ ဂျိန်းဘာသာ၊ ဗုဒ္ဓဘာသာ နှင့် ဆစ်ခ်ဘာသာ၊

အရှေ့အလယ်ပိုင်းဒေသမှ ဂျူးဘာသာ၊ ခရစ်ယာန်ဘာသာ၊ အစ္စလာမ် ဘာသာနှင့် ဖိုရိုအက်စတာ ဘာသာတို့ပင် ဖြစ်သည်။

ဘာသာရေးနှင့် ပတ်သက်၍ အနည်းငယ် ဆွေးနွေးလိုပါသေးသည်၊ လူသားတို့၏ ယဉ်ကျေးမှုတွင် ဘာသာရေး ပါဝင်ခဲ့သော အခန်းကို မည်သူမျှ ငြင်းဆိုနိုင်မည် မဟုတ်ချေ၊ ရှေးဟောင်းသုတေသနနှင့် သမိုင်းမှတ်တမ်းများက သက်သေခံနိုင်ပေလိမ့်မည်၊ ကမ္ဘာပေါ်ရှိ လူမျိုးတိုင်းတွင် မည်မျှ ရှေးကျသော လူမျိုးစုအနွယ်ပင် ဖြစ်နေသည့်တိုင်အောင် ယုံကြည်ကိုးကွယ်မှု တစ်မျိုးမျိုး ရှိတတ်ကြောင်း မနုဿဗေဒ လေ့လာလိုက်စားသူများက ပြောပြနိုင်လိမ့်မည် ထင်ပါသည်။

တိုင်းပြည်အုပ်ချုပ်သူ ဘုရင်တစ်ပါးပါးက သူ၏ အုပ်ချုပ်ခွင့်အာဏာကို ဘုရားသခင်ထံမှရရှိသည်ဟု ပြောဆိုခြင်းမျိုးသည် အလွန်ရှေးကျသော လူ့ယဉ်ကျေးမှု၏ ထူးခြားသော အသွင် လက္ခဏာတစ်ခုပင် ဖြစ်ပါသည်၊ ရောမ အင်ပိုင်ယာတည်ထောင်ရာတွင် ခေါင်းဆောင်လုပ်သူသည် သူ့ကိုယ်သူ ဘုရားသခင်မှ ဆင်းသက်လာသူ ဖြစ်၍ သူ့ကိုပင် ကိုးကွယ် ဆည်းကပ်နိုင်ကြောင်း ပြောဆိုခဲ့၏၊ ဤသို့ဖြင့် သူတို့၏ဘဝ အဖုံဖုံကို နားလည် သဘောပေါက်နိုင်ရန် ဘာသာရေးသည် သော့ချက်နေရာကို ယူထားခဲ့သည်။

နှစ်ဆယ်ရာစု၏ ဒုတိယပဋိပက္ခဖြစ်သော ယနေ့အခြေအနေတွင် ဘာသာရေး၏ အခန်းကဏ္ဍကား မည်သို့ ရှိနေသနည်း၊ အချို့က ယနေ့ယဉ်ကျေးမှုတွင် ဘာသာရေး၏ အခန်းကဏ္ဍသည် အရေးပါသောနေရာမှ လျှော့ကျသွားကာ သေတော့အံ့ဆဲဆဲ ဖြစ်နေသည်ဟု ဆိုကြသည်။

ဘာသာတရား အားလုံးတို့သည် အတူတူချည်းသာ ဖြစ်ကြသည်ဟုလည်း ဆိုကြပါသေးသည်၊ သာမန်ကာလျှံကာ ပြောသော အပြောမျိုးသာ ဖြစ်ဟန်တူပါသည်၊ ဘာသာတရား တို့သည် ရည်မှန်းချက် ပန်းတိုင်များ၌သာ မတူ ကွဲပြားကြသည် မဟုတ်ဘဲ ရည်မှန်းချက် ပန်းတိုင်ကို ရောက်နိုင်ရေး လမ်းစဉ်များတွင်လည်း တစ်မျိုးနှင့် တစ်မျိုး ကွာခြားနေပါသည်။ အချို့ ဘာသာတရား၏ ရည်မှန်းချက် ပန်းတိုင်မှာ လောကီရေးရာ ကိစ္စများသာ ဖြစ်သော်လည်း အချို့ ဘာသာတို့၏ ရည်မှန်းချက်ကား လောကုတ္တရာရေး၊ နောင်တမလွန်ဘဝ အရေးသာ ဖြစ်သည်။

ပန်းတိုင်သို့သွားရာ လမ်းစဉ် အရာ၌မူကား ဘာသာတရား တစ်ခုတည်း အတွင်း၌ပင်လျှင် ဂိုဏ်းဂဏအလိုက် ကွဲပြားမှုများ ရှိပါသည်၊ ဥပမာအားဖြင့် ဂျူးဘာသာတွင် လမ်းရိုးအတိုင်း သွားလိုသော သူများနှင့် လမ်းသစ်အတိုင်း သွားလိုသူများ ခရစ်ယာန် ဘာသာတွင်လည်း ပရိုတက်စတင်နှင့် ရိုမန်ကက်သလစ်များတို့သည် ကွဲပြားခြားနား နေကြပါသည်။

ဘာသာတရားများကို အမျိုးအစား ခွဲခြား၍လည်း ရနိုင်ပါသေးသည်၊ တစ်နည်းအားဖြင့် ဘာသာများကို ခေတ်အလိုက် ခွဲခြား ပြနိုင်ပါသည်၊ ပျောက်ကွယ်သွားပြီးခဲ့သောဘာသာများနှင့် ယနေ့တိုင် ဆက်လက် ရှင်သန်နေသေးသော ဘာသာတရားများ ဟူ၍ ခွဲခြားနိုင်ပါသည်၊ ယနေ့ ပျောက်ကွယ်သွားပြီးခဲ့သော ဘာသာများမှာ ရှေးခေတ်အီဂျစ်၊ ဘေဘီလုံနီးယား၊ ဂရိနှင့် ရောမဘာသာများ ဖြစ်သည်၊ ယနေ့အထိ ရှိနေသေးသော ဘာသာများကိုကား ဖော်ပြနေစရာ မလိုတော့ပါ။

ခေတ်ကိုမှတည်ပြီး ဘာသာ တရားများကို အတန်းအစား ခွဲခြားမှုမျိုးသည် တစ်ခါတစ်ရံ မျက်စိလည်တတ်ပါသည်၊ ခေတ်မမီ မတိုးတက်သေးသော ရှေးခေတ် ဘာသာမျိုးနှင့် ခေတ်မီ တိုးတက်သော ဘာသာမျိုးကို ရောထွေးသွားတတ်ပါသည်၊ ရှေးခေတ် အီဂျစ်၊ ဘေဘီလုံနီးယား စသော ဘာသာတို့သည် ပျောက်ကွယ်သွားခဲ့ပြီးသော ရှေးခေတ် ဘာသာများပင် ဖြစ်သော်လည်း ခေတ်မမီ မတိုးတက်ခဲ့သော ဘာသာများဟု မဆိုသာချေ၊ ယနေ့ အခြေအနေမှာပင် ရှိသော်လည်း အချို့သော လူမျိုးစုများ ကိုးကွယ်သည့် ဘာသာအချို့မှာ ရှေးဆန်သော ခေတ်မမီ မတိုးတက်သော ဘာသာများဟု ဆိုနိုင်မည် ဖြစ်ပါသည်။

ဘာသာများကို မျိုးနွယ်စု တစ်စုက ကိုးကွယ်သော ဘာသာ၊ လူမျိုးတစ်စုလုံး ကိုးကွယ်သော ဘာသာဟူ၍လည်း ခွဲခြားနိုင်ပါသည်၊ ရှေးခေတ် ဘာသာ အများအပြားတို့မှာ မျိုးနွယ်စု တစ်စုကသာ ကိုးကွယ်သော ဘာသာများ ဖြစ်ကြသည်၊ မျိုးနွယ်စု တစ်စု၏ ရိုးရာအစဉ်အလာ၊ ဓလေ့ထုံးစံ၊ ပူဇော် ပသမှုနှင့် ယုံကြည်မှုများသာ ဖြစ်တတ်သည်၊ လူမျိုးငယ်စုများ ပေါင်းစည်း၍ အမျိုးသား အသွင် သဏ္ဌာန် ပေါ်လာသောအခါ အမျိုးသား ဘာသာတရားအဖြစ် ကူးပြောင်း လာတတ်သည်၊ ဣသရေလ လူမျိုးစု ၁၂ စု ပေါင်းစပ် လာခြင်းမျိုး ဖြစ်သည်၊ ရှေးခေတ် အီဂျစ်၊ ဘေဘီလုံနီးယားနှင့် ယခုခေတ် ရှင်တို ဘာသာတို့သည် လူမျိုးတစ်မျိုးကိုသာ ကိုးကွယ် ယုံကြည်သော ဘာသာ မျိုး ဖြစ်သည်။

အချို့ဘာသာတို့ကို ပထဝီ အနေအထားအရ ခွဲခြားနိုင်ပါသည်၊ ဘာသာတရား စတင် ပေါ်ထွန်းရာ အရပ်ဒေသနှင့် ယင်းဘာသာ

ရပ်များ ရှင်သန် ပျံ့နှံ့ရာ အရပ်အလိုက် ခွဲခြား၍ ရပါသည်၊ အထက်တွင် ဖော်ပြထားခဲ့သည့်အတိုင်း အာရှအရှေ့ပိုင်းမှ ဘာသာများ၊ အာရှအရှေ့တောင်ပိုင်းမှ ဘာသာများနှင့် အရှေ့အလယ်ပိုင်းဒေသမှ ဘာသာများဟူ၍ ခွဲခြားနိုင်ပါသည်။

အခြား ခွဲခြားနည်းများလည်း ရှိပါသေးသည်၊ သဘာဝအရ ဖြစ်သော ဘာသာမျိုးလော၊ ဗျာဒိတ်ရသော ဘာသာမျိုးလော၊ ကိုးကွယ်ခံရသော အရာဝတ္ထု၏ သဘောကို လိုက်၍လည်းကောင်း၊ ဘာသာတရားတွင် ပါဝင်သော လူသား အနေအထားအရ လည်းကောင်း ခွဲခြားနိုင်ပါသေးသည်။

## ဂျူးဘာသာ

အနောက်တိုင်း ယဉ်ကျေးမှု၏ သုံးပုံတစ်ပုံခန့်ကို ဂျူးလူမျိုးများ ထံမှ ရရှိခဲ့ကြသည်ကို ခန့်မှန်းခဲ့ကြ ပါသည်၊ အာဒမ်စမစ်၊ နော့ဝေတ်စတာ၊ အေဘရာဟင်လင်ကွန်း၊ ဇေက်နယူတန်၊ ရဗ္ဗက္ကာဝတ်စ် စသော အမည်နာမများတွင်ပင်လျှင် ဂျူးနာမည်များကို ယူထားကြပါသည်။

ဂျူးတို့၏ ယဉ်ကျေးမှုသည် အနောက်တိုင်းကို ဤမျှပင် လွှမ်းမိုးနိုင်ခဲ့သော်လည်း သူတို့၏ ယဉ်ကျေးမှု ပေါ်ထွန်းရာအရပ် သမိုင်းကို လေ့လာကြည့်လျှင် ပို၍ပင် အံ့သြစရာ ကောင်းပါသေးသည်၊ သမိုင်းဓာတ်ခုံတွင် ဂျူးတို့သည် နှောင်းပိုင်းမှ ဝင်ရောက်လာကြသူများသာ ဖြစ်သည်၊ ဘီစီ ၃၀၀၀ ကပင် အီဂျစ်တို့မှာ ပိရမစ်များကို

ဆောက်လုပ်နိုင်ခဲ့ပြီး မိမိတို့၏ ယဉ်ကျေးမှုကို အခြေချနိုင်ပြီး ဖြစ်သည်၊ ဆူမားတို့လည်း ကမ္ဘာ့အင်ပိုင်ယာကို တည်ထောင်နိုင်ခဲ့ပြီး ဖြစ်သည်၊ ဘီစီ ၁၀၀၀ လောက်တွင် ဖွန်နီးရှားတို့မှာလည်း ကိုလိုနီနယ်များ ရရှိနေပေပြီ၊ ဂျူးများမှာ ဘယ်ရောက်နေမှန်း မသိအောင် ရှိနေခဲ့ပါသေးသည်။

"ဂျူးလူမျိုးများ ရှိနေခြင်းသည် ထာဝရ ဘုရားသခင် ရှိနေကြောင်း သိနိုင်သည့် အထင်ရှားဆုံး သက်သေခံပင် ဖြစ်သည်"ဆိုသော မှတ်ချက်ကို ဖရတ်ဒရစ်သဂရိတ်နှင့် နပိုလီယန်လို ပုဂ္ဂိုလ်ကြီး နှစ်ဦးစလုံးက ပြောကြားခဲ့သည်ဟု အဆိုရှိပါသည်၊ ဂျူးတို့က် အယူဝါဒအရလည်း ဤကမ္ဘာကြီး၌ ဂျူးလူမျိုးများ ရှိရသည့် အကြောင်းကို ဤအတိုင်းပင် ဆိုထားသည်၊ တစ်ဆူတည်းသော ထာဝရ ဘုရားသခင်နှင့် လူသားတို့အကြား အဆက်အသွယ် ရှိကြောင်းကို ပြဆိုနိုင်သူများအဖြစ် ဂျူးများကို လက်ခံထားခဲ့ကြသည်။

ဂျူးဘာသာမှ ခရစ်ယာန်ဘာသာနှင့် အစ္စလာမ်ဘာသာ နှစ်ခု ပေါက်ဖွားလာခဲ့သည်၊ ဂျူးဘာသာအခြေခံ ဝတ်ပြုရာတွင် ရှာမာယိဇရေး ခေါ် ဝတ်ပြုစာကို သီဆိုရသည်၊ ခရစ်ယာန် ဘာသာဝင်များနှင့် အစ္စလာမ် ဘာသာဝင်များ ဦးရေနှင့် နှိုင်းယှဉ်လိုက်လျှင် ဂျူးဘာသာမှာ ဘာသာငယ် တစ်ခုသာ ဖြစ်ပေသည်၊ ကမ္ဘာတစ်ခုလုံးရှိ ဂျူးလူမျိုးများ၏ ဦးရေမှာ ၁၃ သန်းခန့်သာ ရှိသည်၊ လွန်ခဲ့သော နှစ်ပေါင်း ၂၀၀ အတွင်း ကမ္ဘာအရပ်ရပ် နေရာတိုင်း လိုလို၌ အစိုးရများသည် ဂျူးများကို နှိပ်စက်ကလူ ပြုခဲ့ကြသည်။

ဂျူးဘာသာတွင် တန်ဖိုးအရှိဆုံး အမွေအနှစ်ကား ထိုရာ*ခေါ် ကျမ်းစာပင် ဖြစ်၏၊ ဓမ္မဟောင်းကျမ်းလာ ပထမငါးကျမ်းကို ဂျူးတို့က ထိုရာဟု ခေါ်ကြသည်၊ ထိုရာကျမ်းသည် ထာဝရ ဘုရားသခင်က မောရှေကို ပေးသော ဗျာဒိတ်စကားများကို ရေးမှတ်ထားသော ကျမ်းဖြစ်သည်၊ လွန်ခဲ့သည့် နှစ်ပေါင်း ၃၀၀၀ ကျော်က ဆိုင်းနိုင်းတောင်ပေါ်တွင် ဘုရားသခင်သည် မောရှေမှတစ်ဆင့် ဂျူးလူမျိုးများကို ပေးခဲ့သော ဗျာဒိတ်စကားများ ဖြစ်သည်။

ဂျူးတို့၏ ကျမ်းစာအရ လူအများအပြား တို့သည် ထာဝရ ဘုရားသခင် ရှိကြောင်းကို သိခဲ့ကြ သော်လည်း မောရှေ တစ်ဦးတည်း သာလျှင် ဘုရားသခင်ကို မျက်ဝါးထင်ထင် တွေ့မြင်ခဲ့ရသူ ဖြစ်သည်။

ထိုရာကျမ်းတွင် ဘုရားသခင်၏ ပညတ်တော်ပေါင်း ၆၁၃ ခု ပါဝင်လေရာ ရုပ်တုလုပ်၍ မကိုးကွယ်ရ၊ သူတစ်ပါးအသက်ကို မသတ်ရ၊ သူတစ်ပါး သားမယားကို မကျူးလွန်စေရ စသော အခြေခံ ပညတ်ချက်များမှအစ ယုန်သားမစားရ စသည်ဖြင့် အသေးအဖွဲ့ဟု ထင်ရသည့် ပညတ်ချက်များအထိ ပါရှိသည်။

ဘာသာတရား ကိုင်းရှိုင်းသော ဂျူးများသည် ဤပညတ်ချက်များကို လိုက်နာကျင့်ကြံရန် ဝန်မလေးချေ၊ ဘုရားသခင်၏ အလိုဆန္ဒအတိုင်း နေထိုင်ရသည်ဟူ၍ပင် ဝမ်းသာနေကြသေးသည်၊ အချို့အပြင်လူများ နားမလည်နိုင်သည့် ကိစ္စများပင် ရှိသေးသည်၊ လူတစ်ယောက်၏ ပညတ်ချက်ကို ခွေးတစ်ကောင် နားမလည်နိုင်သကဲ့သို့

* Torah

ဘုရားသခင်၏ ပညတ်ချက်အချို့ကို လူသားတို့ နားမလည်နိုင်ခြင်းမျိုးသာ ဖြစ်သည်ဟု ဆိုသည်။

ဂျူးဘာသာတွင် ဝိဝါဒ ကွဲပြား ခြားနားမှုများ ရှိနေသည်၊ လမ်းရိုးသမားများဟု ခေါ်သော ရိုးရာအစဉ်အလာ ဓလေ့ကို လိုက်နာရသော ဂျူးများသည် ထိုရာကျမ်းကို ကျမ်းစာပါအတိုင်း လက်ခံထားကြသည်၊ ခေတ်အတွေး၊ ခေတ်အယူအဆများနှင့် မကိုက်ညီသည်များကို တွေ့ရလျှင် ထိုရာ၏ ချွတ်ယွင်း လွဲချော်ခြင်း မဟုတ်ဘဲ လူသားက သဘောပေါက် လွဲမှားခြင်းသာ ဖြစ်နိုင်သည်၊ သိပ္ပံပညာက တွေ့ရှိလာချက် တစ်ချက် တိုးလာတိုင်း ထိုရာကို ပြင်ဆင်ပေးရန်မလို၊ နောက်ဆုံး အခြေအနေကို ပြင်ဆင်ခြင်းမျိုး မဖြစ်စေရ၊ လူသားအားလုံး မိမိတို့၏ တူညီသော မိဘများမှ ဆင်းသက် လာသူများဖြစ်၍ အားလုံး တန်းတူ ဖြစ်စေရမည်ဟူသော စည်းမျဉ်းကို အာဒမ်နှင့် ဧဝတို့ ဇာတ်လမ်းက ချမှတ်ထားပေသည်။

ဂျူးဘာသာ၌ လက်ဝဲအုပ်စုလည်း ရှိသည်၊ ပြုပြင်ပြောင်းလဲမှုကို ကြိုက်သော ပျော့ပျောင်းသော အယူရှိသည့် တိုးတက်သောသူများရှိသည်၊ ယင်းတို့ကို ရှူးပရိုတက်စတန့်ဟု ခေါ်ဆိုနိုင်မည် ဖြစ်၏၊ ဂျူးဘာသာကို အသစ်အသစ် ဖြစ်ပေါ် တိုးတက်ခဲ့သော လူမှုရေး အခြေအနေများ၊ သိပ္ပံပညာ တီထွင်ကြံဆချက်များနှင့် ကိုက်ညီအောင် ပြုပြင်လိုသောသူများက ဆယ့်ကိုးရာစုအတွင်း လှုပ်ရှားခဲ့ခြင်း ဖြစ်သည်၊ ပြုပြင် ပြောင်းလဲလိုသူများသည် ဘာသာရေးတွင် မည်သည့်အရာက အစဉ်ထာဝရဖြစ်ပြီး မည်သည့်အရာက တဒင်္ဂဖြစ်ကြောင်းကို ခွဲခြားကြည့်တတ်ကြသည်၊ ထာဝရ ဘုရားသခင်သည် ပြောကြားလိုသော

ပညတ်များကို လူသားမှတစ်ဆင့် လူသားထံ ပေးပို့ခြင်း ဖြစ်၍ အမှားမကင်းနိုင်၊ ထိုအရာတွင်ပင် အမှားအယွင်း မရှိဟု မဆိုနိုင်၊ ဤကား ပြုပြင် ပြောင်းလဲလိုသူများ၏ အယူအဆ။

ထာဝရ ဘုရားသခင်၏ နှုတ်ထွက်စကားဖြစ်သော 'ပတ္တမြား' နှင့် နှစ်ပေါင်း ၃၀၀၀ ခန့်က အယူအဆများတို့ကို ခွဲခြားပစ်ရန် လိုအပ်သည်၊ ဘုရားသခင်သည် မိမိ၏ ဆန္ဒကို ခေတ်တစ်လျှောက်လုံး၌ သိအောင် လုပ်ခဲ့သည်ဟူသော သဘောဖြင့် ဘုရားသခင်၏ ဗျာဒိတ် စကား မြွက်ကြားသော နှုတ်ထွက်စကားကို တိုးတက်သော အယူ အဆဟု သတ်မှတ်နိုင်သည်။

ထိုရာကျမ်းသည် ဂျူးဘာသာစာပေ၏ အခြေခံသာ ဖြစ်သေး၏၊ ဓမ္မဟောင်းကျမ်းတွင် ပါရှိသော ဗျာဒိတ်ကျမ်းများ၊ သမိုင်းကျမ်းများနှင့် ဆုံးမစာကျမ်းများလည်း ရှိသေးသည်၊ ဤကျမ်းများမှာ ခရစ်တော် မဖွားမီ ကာလကပင် စုဆောင်းထားသော ကျမ်းစာများ ဖြစ်သည်၊ အချို့ကျမ်းများကို ကျမ်းစာအဖြစ် သတ်မှတ်ပြီး အချို့ကျမ်းများကိုမူ ချန်လှပ်ထားခဲ့သဖြင့် မည်သည့်အခြေပေါ် မူတည်ပြီး ခွဲခြား သတ်မှတ် ကြောင်းကို မသိရပေ။

ရှေးဟောင်း အမွေအနှစ် သဘောဖြင့် ရှေးကျသော ကျမ်းစာ များကို ရွေးချယ်ခဲ့ခြင်းမျိုး မဖြစ်နိုင်ချေ။ အဘယ်ကြောင့်ဆိုသော် ဒံယေလကျမ်းကို ရေးသားပြီးစီးသည်နှင့် တစ်ပြိုင်နက် ကျမ်းစာစာရင်း တွင် ထည့်သွင်းခဲ့ကြသောကြောင့် ဖြစ်သည်၊ ဟေရှာယ အနာဂတ္တိကျမ်း များသည် ထိုရာကျမ်းများပြီးလျှင် ဂျူးဘာသာ၌ အရေးကြီးဆုံးကျမ်း ဖြစ်၏။

စာပေဟောင်းလေးအိုးကြီး

ရှေးခေတ်က ပရောဖက်များသာ မပေါ်ခဲ့လျှင် ဂျူးဘာသာသည် မျိုးနွယ်တစ်စုမျှသာ ကိုးကွယ်သော ဘာသာတစ်ခု အဖြစ် ရှိနေမည်ဖြစ်ပြီးလျှင် အမြန် မေ့ပျောက်သွားကြပေလိမ့်မည်၊ ဟောရှာယ အနာဂတ္တိကျမ်း၊ အာမုတ်အနာဂတ္တိကျမ်း၊ ယေရမိအနာဂတ္တိကျမ်းများ၌ ထာဝရ ဘုရားသခင်သည် ဂျူးလူမျိုး တစ်မျိုးတည်းသာ မဟုတ်ဘဲ လူသားအားလုံးအတွက် ဖြစ်ကြောင်း၊ ဂျူးလူမျိုးများကား ထာဝရ ဘုရားသခင်၏ တရားဟောဆရာများပင် ဖြစ်ကြောင်းတို့ကို ဖော်ပြထားရှိသည်၊ ဤအချက်ကို ထိုရာကျမ်း စာစောင်၌ အရိပ်အမြွက်မျှ တွေ့ရှိနိုင်မည် ဖြစ်သော်လည်း ဗျာဒိတ်ကျမ်းစာများ ခေတ်တွင် ရှေ့တန်းနေရာသို့ ရောက်ရှိလာခဲ့သည်။

တောမွတ်[၁]ကျမ်းဟု ခေါ်သော ကျမ်းစာလည်း ရှိသည်။

ဤကျမ်းမှာ များစွာ ကျယ်ပြန့်များပြား၍ ခရစ်နှစ်စောစောပိုင်း ရာစုနှစ်များ အတွင်းက ရေးသား ပြုစုထားခဲ့သော ကျမ်းများဖြစ်သည်။

တောမွတ်ကျမ်းကို ရေးသားသူ လူပုဂ္ဂိုလ် ၂၀၀၀ ခန့်ရှိပြီး စာအုပ်ပေါင်း ၆၃ အုပ် ပါရှိသည်၊ စုစုပေါင်း စာလုံး သုံးသန်းခန့် ရှိသည်၊ ယခင်က မိရိုးဖလာ အစဉ်အဆက် နှုတ်တိုက်မှတ်သားလာခဲ့သော စကားများ၊ ကျမ်းစာများကို ဂျူးဘုန်းကြီးများက အဓိပ္ပာယ် ဖွင့်ဆိုထားချက်များနှင့် ဝေဖန်ချက်များ ပါဝင်သည်၊ လူ့ဘဝ တစ်ခုလုံးကို ခရေစေ့တွင်းကျ လေ့လာထားသော ကျမ်းလည်း ဖြစ်သည်၊ ရှေးခေတ်က ဥရောပ အရှေ့ပိုင်းဒေသမှ ပညာရှင်တို့မှာ ဤကျမ်းကို နှုတ်တိုက် ရရှိထားခဲ့ကြသည် ဆိုသည်။

---

၁။ Talmud

နောက်ပိုင်းတွင်မှ ပြုစုခဲ့သော တောမွတ်ကျမ်းသည်ပင်လျှင် နောက်ဆုံး အခြေအနေနှင့် မကိုက်ညီသေးကြောင်း တွေ့ရှိနိုင်ပေသည်၊ ဤကျမ်းသည် ယောကျ်ားတစ်ယောက် မိန်းမ အများအပြားယူနိုင်သော ဓလေ့ကို လက်ခံထားကြသည်၊ ဤကျမ်းကို ပြုစုပြီး နှစ်ပေါင်းလေးရာ ကြာညောင်းလာခဲ့သည် အထိ ယောကျ်ား တစ်ယောက် မိန်းမအများယူနိုင်သော ဓလေ့ကို တရားဝင် လက်ခံထားကြသေးသည်၊ အလယ်ခေတ် ရူပဗေဒ ဆရာကြီး မိုးဇက်မေမောနိဒတ်က ဂျူးတို့၏ အယူအဆကို တရားဝင် လက်ခံလိုက်ရာ သူ၏ သြဇာအာဏာမှာ ခရစ်ယာန် ဘာသာနှင့် အစ္စလာမ် ဘာသာသို့ ပျံ့နှံ့သွားသည်။

ဤကျမ်းတွင် ဂျူးဘုန်းကြီးတို့၏ ဖြတ်ထုံးအသစ်သစ်များကို အခါအားလျော်စွာ ဖြည့်စွက်ပေးနေရသည်၊ ဂျူးတစ်ယောက်သည် ကမ္ဘာ့ရက်စွဲသတ်မျဉ်းကို ဖြတ်သန်း သွားရသောအခါ သူ့အတွက် ဥပုသ်နေ့ကို မည်သို့ သတ်မှတ်ရမည် ဆိုသော ပြဿနာများအတွက် ဖြတ်ထုံးအသစ်များကို ဂျူးဘုန်းကြီးများက ဆုံးဖြတ်ပေးရ၍ ထို ဆုံးဖြတ်ချက် ဖြတ်ထုံးများကို တောမွတ်ကျမ်း၌ ထည့်သွင်းရသည်။

ဘာသာရေး အစွဲအလမ်းကြီးသော ဂျူးတို့သည် သူတို့၏ ဘာသာတရား လေ့လာခြင်းကို များစွာပင် ကျေနပ်နှစ်သက်ကြသည်၊ သူတို့၏ လေ့လာရန် စာပေကျမ်းဂန်များမှာလည်း အလွန်ပင် ပေါများလှ၏၊ ဘာသာတရားကို လေ့လာသော အတတ်သည် ဘာသာရေးနှင့် ပတ်သက်သောသူတို့၏ အသိုက်အဝန်းနှင့်သာ မလုံလောက်တော့ဘဲ သာမန်လူများလက်သို့ပင် ရောက်ရှိလာတော့သည်။

## စာပေဟောင်းလေးအိုးကြီး

ဂျူးတို့သည် ငွေရရှိရေးကိုသာ ဂရုစိုက်ကြသည်ဟု အပြင်လူများ အနေနှင့် ထင်မှတ် နေတတ်ကြပါသည်၊ မှန်ပါသည်၊ ဂျူးဘာသာတွင် ဤအယူအဆ ရှိပါသည်၊ တရားသဖြင့် ရရှိသော ဓနဥစ္စာကို မဆန့်ကျင်ပါ၊ သို့သော် ချမ်းသာကြွယ်ဝသူများသည် အလှူဒါနပြုရမည်ဖြစ်သည်။

ဘာသာရေးဆိုင်ရ ဥပဒေအရ ဂျူးတစ်ယောက် ဖြစ်ကြောင်းကို မည်သို့မည်ပုံ သတ်မှတ်ရမည်နည်း၊ ဂျူးဘာသာသို့ ကူးပြောင်းလာခြင်းဖြင့် ဂျူးတစ်ယောက်အဖြစ် ခံယူနိုင်ခွင့်တော့ ရှိပါ၏၊ သို့သော် သာမန်အားဖြင့်မူ ဂျူးမိခင်တို့မှ မွေးဖွားလာသူသာလျှင် ဂျူးတစ်ယောက်အဖြစ်ကို ဆက်ခံခွင့် ရှိသည်၊ အမိနှင့် အဖတွင် အဖကိုသာ အရေးပေးသော ဂျူးဘာသာ၌ ဤကိစ္စတွင်ကား အမိကိုသာ အဓိကထားကြောင်း တွေ့ရသည်၊ ဂျူးတစ်ယောက်အဖြစ်ကို မွေးဖွားလာသည့် အချိန်မှစ၍ ရရှိသည်၊ ဘိသိက်ခံယူပွဲမျိုး ပြုလုပ်ရန်မလို။

ဂျူးတို့၏ ဥပဒေအရ ယောကျ်ားလေးကို မွေးဖွားပြီး ရှစ်ရက်မြောက်တွင် အရေပြား လှီးရ၏၊ ဤကိစ္စကို ယခုအခါ ခေတ်မီ ခွဲစိတ်ကုသနည်းမျိုးဖြင့် ပြုလုပ်ကြသည်၊ သို့သော် ဘာသာရေး အစွဲအလမ်းကြီးသော သူများကား ဘာသာရေး အခမ်းအနား ပြုလုပ်၍ မိုဟယ်လ်ခေါ် ကျွမ်းကျင်သူ တစ်ဦး၏ အစီအမံဖြင့် တခမ်းတနား ပြုလုပ်တတ်ကြသည်၊ မိုဟယ်လ် ဆိုသူကား အရေပြားလှီးရာတွင် ကောင်းစွာသင်ကြားတတ်မြောက်ထားသူ ဖြစ်ပြီး မှတ်ပုံတင်ထားသူ ဖြစ်၏။

ထိုအရေပြားလှီးပွဲတွင် ကလေးကို ဘာသာရေး နာမည် တစ်ခုကို ပေးရသည်၊ ထိုနာမည်ဖြင့်ပင် နောင်သောအခါ သူ့ကို ထိုရာ၌

ခေါင်းဆောင်ခြင်းကို ခံရလိမ့်မည်၊ သူ၏ လက်ထပ် ထိမ်းမြားမင်္ဂလာ လက်မှတ်တွင်လည်း ဤနာမကို ဟီဘရူး ဘာသာဖြင့် ရေးသား ဖော်ပြရပြီး သူကွယ်လွန်သော အခါတွင်လည်း သူ၏အုတ်ဂူတွင် ဤနာမည်ဖြင့် ကမ္ပည်းထိုးထားရသည်။

ဘာသာတရား ကိုင်းရှိုင်းသော မိသားစုအတွင်း၌ ကြီးပြင်း လာရသော ကလေးသည် ကလေး ဘဝကပင် ဘာသာတရားကို စိတ်ဝင် စားလာသည်၊ စကား ပြောတတ်သည့် အချိန်မှ စ၍ ရှာဟာယ်ဇရေးကို သင်ရတော့၏၊ ယောကျ်ားကလေး တစ်ယောက် သည် အသက် သုံးနှစ်အရွယ်မှ စ၍ ဘာသာတရားကို လေ့လာ ရမည်ဟု အမိန့်တစ်ရပ်က ဆိုထားသည်။ အစဉ်အလာအရ ယောကျ်ား ကလေးများသည် ဘာသာတရားဆိုင်ရာ ပညာများကိုသာ ယူရပြီး မိန်းကလေးများကား 'ကိုရှာ' အိမ်ထောင် တစ်ခုခုကို မည်သို့မည်ပုံ ထိန်းသိမ်းရမည်ကို သင်ယူရသည်၊ ယခုအခါတွင်မူကား ယောကျ်ား ကလေးများသာမက မိန်းကလေးများပါ ပညာသင်ယူ တတ်မြောက် နေကြပေပြီ။

ကလေးများသည် မိဘများထံမှ ဘာသာတရားကို သင်ယူ တတ်မြောက်ကြရသည်၊ ဂျူးတို့ ဝတ်ပြုပွဲများအနက် အရေးကြီးသော ဝတ်ပြုပွဲများကို နေအိမ်တွင်ပင် ပြုလုပ်ကြသည်၊ မိဘများက ဘုန်းကြီး နေရာမှ ပါဝင် ဆောင်ရွက်ကြရသည်၊ ဤနည်းသည် ကလေး၏ အသိဉာဏ်ကို မြေတောင်မြှောက်ပေးရသည်။

နောင်ကြီးပြင်းလာသောအခါ ဘာသာရေး လုပ်ငန်းများကို မပြုလုပ်တော့ဘဲ နေသည့်တိုင်အောင် ဤကဲ့သို့သော ဘာသာရေး

လုပ်ငန်းများအပေါ် သံယောဇဉ် ရှိနေတတ်သည်၊ ဤကဲ့သို့သော ဂျူးအိမ်ထောင်စုမျိုးကြောင့် နှစ်ရာစုပေါင်း များစွာ သူတစ်ပါး၏ အဖိအနှိပ် အညှဉ်းဆဲခံနေရခြင်း၊ ချုပ်ခြယ်မှုကို ခံခဲ့ရခြင်း၊ ဂျူး ဘာသာ ဂျူးဘဝကို သေးသိမ်အောင် ပြုလုပ်ခံရခြင်းများနှင့် ရင်ဆိုင် ခဲ့ရသည့် တိုင်အောင် ဘာသာနှင့် လူမျိုး အစတုံး မသွားနိုင်ခဲ့ဘဲ ဆက်လက် ရှင်သန်နေခဲ့ရသည့် သာဓက တစ်ရပ် ဖြစ်သည်။

လမ်းရိုးသမား ဂျူးအိမ်ထောင်တွင် အစားအသောက် စားချိန် တိုင်း ဘာသာရေးရိုးရာအတိုင်း လုပ်ကြရသည်၊ အစားအသောက် အားလုံးသည် 'ကိုရှာ' အစားအသောက် ဖြစ်ရမည်၊ ကိုရှာ[၁] အစား အသောက် ဆိုသည်မှာ ဂျူးဘုန်းကြီးတို့က အစဉ်အလာအရ အဓိပ္ပာယ် ဖွင့်ဆိုထားသော ဘုရားသခင်၏ ပညတ်ချက်များနှင့်အညီ ချက်ပြုတ် ရသည့် အစားအစာကို ခေါ်ခြင်းဖြစ်သည်။

ဂျူးတို့၏ ဥပဒေအရ မစားရသော သားငါးနှင့် စားသောက် နိုင်သော သားငါးများ သတ်မှတ်ထားချက် ရှိသည်၊ ဘာသာတရားကို ကိုင်းရှိုင်းသော ဂျူးတို့သည် ဘာသာရေး စည်းကမ်း နည်းလမ်းများ အတိုင်း လုပ်ကိုင် ဆောင်ရွက်သည့် သားသတ်သမားက သတ်ပေးသော တိရစ္ဆာန်တို့၏ အသားများကိုသာ စားသောက်ကြသည်၊ ရှောခေတ်[၂] ခေါ် ထိုသားသတ်သမားတို့သည် သူ၏ ကျွမ်းကျင် တတ်မြောက်မှုနှင့် လူသားဆန်မှုတို့အတွက် ဂုဏ်ယူတတ်ကြသည်။

အသားများမှ သွေးများကို ကုန်စင်အောင် ထုတ်ပစ်ရန်မှာ အလွန်ပင် အရေးကြီးသော ကိစ္စပင် ဖြစ်သည်၊ အရေးကြီးသော

၁။ Kosher ၂။ Shochet

အခြား စည်းကမ်းချက် တစ်ခုကား အသားနှင့် နို့ကို တစ်ပွဲတည်း၌ မကျွေးရခြင်းပင် ဖြစ်သည်၊ ဤစည်းကမ်းသည် ထိုရာကျမ်းတွင် တားမြစ်ထားသော ပညတ်ချက် တစ်ခု ဖြစ်သည်၊ သူ့အမေ၏နို့ဖြင့် ပေါင်းထားသော မည်သည့် တိရစ္ဆာန်ငယ်၏ အသားကိုမျှ မစားရဟု ထိုကျမ်းတွင် တားမြစ်ထားရှိသည်။

လမ်းရိုးသမား ဂျူးအိမ်ထောင်စု၏ မီးဖိုဆောင်တွင် အသားချက်သောအိုးနှင့် နို့ချက်သော အိုးတို့ကို တစ်ခုစီ သီးခြား ထားရှိပြီး ထိုအိုးတို့ကိုလည်း အတူတကွ မထားမိစေရန် အထူး သိထားကြသည်၊ ပသခါပွဲတွင် သုံးသော အိုးတစ်စုံကိုလည်း သီးခြား ထားကြသေးသည်။

ဂျူးတို့မစားရသော အစားအစာများအနက် လူသိအများဆုံးမှာ ဝက်သား ဖြစ်သည်၊ အချို့က ဝက်သားကို တကယ်ရွံရှာ စက်ဆုပ်စရာ ကောင်းသည်ဟု မြင်ကြသည်၊ သို့သော် ဤအမြင်သည် တင်းကျပ်သော ဘာသာရေး တားမြစ်ချက်များနှင့် ကိုက်ညီမှု မရှိသေးချေ၊ ဝက်သားသည် တကယ်ပင် အရသာရှိသော အသားဖြစ်ပြီး ကျန်းမာရေးကို အန္တရာယ် မဖြစ်နိုင်ခြင်း မှာလည်း မှန်ကောင်း မှန်နိုင်ပေလိမ့်မည်၊ သို့သော် ထာဝရဘုရားသခင်က ထိုအသားကို မစားသောက်ကြရန် ဂျူးများကို တားမြစ်ထားခဲ့သည်၊ ထို့ကြောင့် ဝက်သားကို မစားဘဲ ရှောင်ကြဉ်ခြင်းသည် ဘုရားသခင်၏ အမိန့်ကို လိုက်နာကြောင်းပြသည့် သဘောပင် ဖြစ်သည်။

ပြုပြင် ပြောင်းလဲမှုကို နှစ်သက်သော ဂျူးများကား အစားအသောက်နှင့် ပတ်သက်သည့် စည်းကမ်းဥပဒေများကို ပေါ့ပေါ့ပင် ထားတတ်ကြသည်၊ လုံးဝ ဂရုပင်မစိုက်သည်လည်း ရှိသေးသည်၊

ယင်းတို့၏ အယူအဆ တစ်မျိုးအရ ဆိုပါမူ ဤကဲ့သို့သော အစား အသောက်ကို စည်းကမ်း သတ်မှတ်ထားခြင်းသည် အလွန် ရှေးကျသော ဓလေ့တစ်ခုသာဖြစ်ပြီး အမြဲမှန်ကန်နေသည့် ဘုရားသခင်၏ နှုတ်ကပါဌ်တော်ဟု မသတ်မှတ်နိုင်ကြောင်း ပြောဆိုခြင်းပင် ဖြစ်သည်၊ သို့သော်ငြားလည်း မည်သည့် အကြောင်းပြချက်ပေါ်တွင် အခြေခံ၍ အစားအသောက်နှင့် ပတ်သက်၍ ခွဲခြား သတ်မှတ်ထားခြင်းသည် ဘာသာရေးအရ တန်ဖိုးရှိလှသည်သာ ဖြစ်၏။

ပြုပြင်ရေးသမား များသည် ကိုရှာကျမ်းတွင် တားမြစ်ထား သော အစားအစာများကို မသုံးဆောင်ဘဲ ရှောင်ကြဉ်ကြကာ ကိုရှာ အစားအသောက်နှင့် ပတ်သက်သည့် ချုပ်ချယ်ထားသော ဂျူးဘုန်းကြီး တို့၏ ဥပဒေများကိုမူကား လျစ်လျူပြုနေကြသည်။

ဘာသာရေး အစွဲအလမ်းကြီးသော ဂျူးမိသားစု တစ်ခုတွင် ရက်သတ္တပတ်အတွင်း အကြီးကျယ်ဆုံးသော စားသောက်ပွဲမှာ ဥပုသ် နေ့အကြို သောကြာနေ့ည ညစာစားပွဲပင် ဖြစ်သည်၊ ဂျူးဘာသာ၏ ဥပုသ်နေ့ကား သောကြာနေ့ နေဝင်ချိန်မှ စနေနေ့ နေဝင်ချိန်အထိ ဖြစ်သည်၊ နေမဝင်မီ အိမ်တစ်လုံးကို သန့်ရှင်းရေး ပြုလုပ်ပြီး ညနေစာကိုလည်း ချက်ပြုတ် ကြရသည်၊ အကောင်းဆုံး အိုးခွက်၊ ပန်းကန်၊ ခွက်ယောက်က အစ အကောင်းဆုံး စားပွဲခင်းတို့ကို ထုတ်သုံးရသည်၊ မိခင်လုပ်သူက ဥပုသ်နေ့ ဖယောင်းတိုင်ကို မီးထွန်း ကာ ကောင်းချီးစကား ဆိုရသည်။

အစဉ်အလာအရ ဖခင်နှင့် သားများမှာ ဘုရားရှိခိုးကျောင်းသို့ သွားကြရပြီး အမျိုးသမီးများမှာ ညနေစာကို ချက်ပြုတ်နေကြရသည်၊

ကျောင်းမှ ပြန်လာသောအခါ ဖခင်မှ သူ့ကလေးများ အတွက် ကောင်းချီးပေး စကား ပြောရပြီး သူ့ဇနီးကိုလည်း သုတ္တံကျမ်းမှ "မိန်းမတွေဟာ အံ့သြစရာကောင်းတဲ့ အလုပ်တွေကို လုပ်နိုင်ခဲ့ကြတယ်၊ ရှင်မကတော့ သူတို့ထက် အများကြီး သာပါသေးတယ်"ဆိုသော စကားဖြင့် နှုတ်ဆက်စကား ပြောရသည်။

စားသောက်ပွဲ အစတွင် ဖခင်သည် ပေါင်မုန့်နှင့် ဝိုင်အရက်တို့ကို ကောင်းချီးစကား ဆိုကြရပြန်သည်၊ ဤကဲ့သို့ အခါမျိုးတွင် အိမ်ရှင်သည် အထူးပင် ဧည့်ဝတ် ကျေပွန်ရသည်၊ အထူးသဖြင့် မိမိတို့၏ အိုးအိမ်နှင့် ကွာဝေးနေသူများအပေါ် ပျူငှာရသည်။

တရားတော်အတိုင်း လိုက်နာ ဆောင်ရွက် တတ်သော ဂျူးအဖို့ ဥပုသ်နေ့သည် မြင့်မြတ်သော နေ့မြတ်သာမက ပျော်ရွှင်ဖွယ်ကောင်းသော နေ့လည်း ဖြစ်သည်၊ အေးချမ်းသော ဥပုသ်နေ့ ဖြစ်မြောက်ရေး တစ်ယောက်ကို တစ်ယောက်က ဆုတောင်း ပေးကြရသည်။

ဤကမ္ဘာကြီးကို ဂျူးဘာသာက ကျေးဇူးပြုသည့် ကိစ္စတစ်ခုလည်း ရှိသေးသည်၊ ဂျူးလူမျိုးများမှ တစ်ပါး အခြား မည်သည့်လူမျိုးမှ အပတ်စဉ် အနားယူသည့် အလုပ်ပိတ်ရက် ထားရှိရေးကို ကြံစည်ဖန်တီးရန် သတိမရကြချေ၊ ဤအကြံအစည်မျိုးသာ မရှိခဲ့လျှင် အပတ်စဉ် ရက်အား မရှိဘဲ နေလိမ့်မည်ဟု အချို့က တွေးထင်ယူဆလျက် ရှိနေကြသည်။

လူ့အသက်ကို ကယ်ဆယ်ရန် လိုအပ်သည့် ကိစ္စမှတစ်ပါး ဥပုသ်နေ့တွင် မည်သည့် အလုပ်မျိုးကိုမှ မလုပ်ရဟု ပညတ်ထားရှိသည်၊

နေ့စဉ် လှုပ်ရှားနေကြသော လူ့အသက်မွေးမှု လောကမှ ကျပ်ပြည့် တင်းပြည့် အနားယူလိုက်ကာ မိမိ၏ မိသားစုနှင့် ဘာသာရေး အတွက်သာ အာရုံစိုက်ရမည် ဖြစ်သည်။

လမ်းရိုးကြီး သမားများအဖို့ လိုက်နာရန် စည်းကမ်းချက်များ ကား အသေးအဖွဲကလေးကအစ ရှိနေသည်၊ စာမရေးရခြင်း၊ ငွေကြေး ကိုင်သုံးစွဲမှု မပြုရခြင်း၊ မည်သည့် စက်ကိရိယာမျိုးကိုမှ မကိုင်တွယ် ရခြင်း စသည်ဖြင့် တားမြစ်ချက်များ ရှိသည်၊ ဤနည်းဖြင့် ဘုရား ရှိခိုးကျောင်းတွင် အလှူခံမည့်သူ မရှိတော့ပေ၊ ငွေကြေးကဲ့သို့သော လောကီရေးရာ ပစ္စည်းမျိုးကို ကိုးကွယ်မှုနှင့် ဆက်စပ်ထားခြင်းကိုကား ကန့်ကွက်စရာပင် ဖြစ်သည်ဟု ဆိုနိုင်ပါသည်။

ရေးအစဉ်အလာကို မပယ်လိုသော ဂျူးသည် ဘုရားရှိခိုး ကျောင်းနှင့် မဝေးလွန်းသော အရပ်၌ နေထိုင်ရမည် ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် ဥပုသ်နေ့တွင် အများသုံး ယာဉ်မျိုးကို စီး နင်းခြင်း၊ မောင်းနှင်ခြင်း မပြုလုပ်ရ သောကြောင့် လမ်းလျှောက် သွားနိုင်လောက်သော နေရာတွင် နေထိုင်ရမည် ဖြစ်သည်၊ ဤစနစ် ကြောင့် ဂျူးလူမျိုးများကို တစ်နေရာတည်းတွင် စုဝေး နေထိုင်ကြရ သည်ကို တွေ့ရှိနိုင်မည် ဖြစ်သည်၊ ဂျူးယောကျ်ားကလေးများသည် အသက် ဆယ့်သုံးနှစ် ပြည့်လျှင် ဘာသာရေး ဥပဒေ စည်းကမ်းများ လိုက်နာရတော့သည်၊ ဘာသာရေးအရ အရွယ်ရောက်ပြီဟု ဆိုနိုင် သည်၊ အသက် ဆယ့်သုံးနှစ်ပြည့်ပြီးနောက် ပထမဆုံး ကျရောက် လာသော ဥပုသ်နေ့တွင် ဂျူးယောကျ်ားကလေးများသည် အာပတ် ဖြေရသည့်အပြင် ဘုရားရှိခိုးကျောင်းသို့ တက်ရောက်၍ လူအများ

ရှေ့တွင် ပထမဆုံးအကြိမ် ကိုရှာကျမ်းမှ ကျမ်းစာကို ဖတ်ကြားရသည်၊ ထိုသို့ ဖတ်ကြားနိုင်ရန် တစ်နှစ်ခန့် ကြိုတင်ပြီး ပြင်ဆင်လေ့ကျင့်ရသည်၊ အစဉ်အလာအရ ကလေးများသည် ဤအချိန်တွင် ဝတ်ပြုရာ၌ အသုံးပြုသော တဘက်နှင့် ကျမ်းစာအုပ်များကို ရရှိကြရသည်၊ ယင်းပြီးနောက်တွင် မိသားစုများနှင့် မိတ်သင်္ဂဟများကို ပါတီပေးရသည်။

ဂျူးတို့၏ ကိုယ်ကျင့်တရားဆိုင်ရာ ပညတ်ချက်အရ လူများသည် တစ်ပါးသူများအပေါ် မှန်ကန်စွာ ဆက်ဆံရမည်၊ တိုင်းသူပြည်သားကောင်း ပီသစွာ နေထိုင်ကြရမည်၊ အလေး၊ တင်းတောင်းများကို မှန်မှန်ကန်ကန် လုပ်ရမည်ဟူ၍ ကျမ်းစာတွင် ပညတ်ထားရှိသည်၊ ပြဿနာ အသီးသီးကို ဖြေရှင်း ဆုံးဖြတ်ထားသည့် ဂျူးဘုန်းကြီးများ၏ ဖြတ်ထုံးများလည်း ရှိသည်။

ဘုရားသခင်က မောရှေကို ပေးသော နှုတ်ကပါဌ်တော်များတွင် မိမိတို့နှင့် အတူနေထိုင်ကြသည့် ဂျူးမဟုတ်သူများအပေါ် ကောင်းကောင်း မွန်မွန် ဆက်ဆံကြရန် ထပ်တလဲလဲ ညွှန်ပြထားသည်၊ ဤပညတ်ချက်မှာ ဂျူးဘုန်းကြီးများ၏ အစိပ္ပာယ် ကောက်ယူချက် မဟုတ်ဘဲ ဘုရားသခင်၏ အမှာစကားပင် ဖြစ်သည်။

အကြမ်းဖက်ခြင်း၊ လူသတ်မှု ကျူးလွန်ခြင်း၊ စစ်မက် တိုက်ခိုက်ခြင်းနှင့် တိရစ္ဆာန်များအပေါ် အကြင်နာမဲ့စွာ ရက်စက် သတ်ဖြတ်ခြင်းတို့ကို ဂျူးဘာသာက လက်မခံချေ၊ မိမိကိုယ်ကို ကာကွယ်သည့် အနေဖြင့်သာလျှင် သတ်ဖြတ်ခြင်းကို ခွင့်ပြုသည်၊နိုင်ငံတော်က ရာဇဝတ်ကောင်များကို သေဒဏ် ပေးနိုင်ခွင့် ရှိသော်လည်း တရားမျှတသော

စစ်ဆေးမှုများ ပြုလုပ်ပြီးမှသာ ထိုပြစ်ဒဏ်မျိုးကို ချမှတ်နိုင်သည်၊ ယခုလက်ရှိ အစ္စရေးနိုင်ငံသည် သေဒဏ်ပြစ်မှု တစ်ခုသာ ချမှတ်ဖူးသေးသည်၊ ၁၉၆၁ ခုနှစ်တွင် ကြိုးဒဏ်ပေးခြင်း ခံရသော အိပ်ချ်မန်း၏ အမှုဖြစ်သည်။

ဗိုမဆက်ဆံရေး ကိစ္စတွင်လည်း ဂျူးဘာသာတွင် မယုတ်မလွန်ဝါဒက လက်ခံသည်၊ လုံးဝ ရှောင်ရှားရမည်ဆိုသော အယူအဆကိုမူ လက်မခံပေ၊ ကိုရှာကျမ်းတွင် လာရှိသော ရှေးဟောင်း ဂျူးဘာသာတားမြစ်ချက် တစ်ခုမှာ အမျိုးသမီးများ ရာသီလာသောအခါ မသန့်ရှင်းဖြစ်သွားရသည့်အတွက် ရာသီလာချိန် ကာလအတွင်းနှင့် ထိုကာလပြီးနောက် ခုနစ်ရက် အတွင်း မေထုန်သံဝါသ မပြုရချေ။ မိမိ၏ လင်ယောကျ်ားနှင့် မဆက်ဆံမီ အစဉ်အလာ ရေချိုးနည်းများအရ ရေနိုင်နိုင်ချိုးပစ်ရမည်၊ လက်မထပ်မီ သတို့သမီးနှင့် ကလေးမွေးဖွားပြီးသော မိန်းမများသည်လည်း ဤနည်းအတိုင်း ကိုယ်လက်သန့်စင်ပစ်ရသည်။

ရှေးဟောင်း အယူဝါဒ အတိုင်း လက်ခံသူများအဖို့ အမျိုးသမီးများ ကိုယ်ခန္ဓာ သန့်ရှင်းအောင် ပြုလုပ်ရသော တာဝန်သည် ဘုရားကျောင်းကန် လှူဒါန်း ဆောက်လုပ် ရသော တာဝန်ထက် အရေးကြီးသည်၊ တိုးတက်သော အယူအဆကို လက်ခံသော ဂျူးများက ဤအယူဝါဒကို မလိုက်နာကြချေ၊ သို့သော် ရှေးထုံးစံကို မပယ်သူများက လက်မထပ်မီ သတို့သမီးကို ကိုယ်လက် သန့်စင်ပေးခြင်းသည် လက်ထပ်ထိမ်းမြားခြင်းကို ပို၍ သိဒ္ဓိတင်ပေးရာ ရောက်သည်ဟု ယူဆကြသည်။

**တာပေဟင်းလေးအိုးကြီး**

ရှေးယခင် အချိန်များတွင် အိမ်ထောင်မပြုဘဲ တစ်ကိုယ်တည်း နေတတ်သော အပျိုကြီး ဘ၀ကို ကြိုက်သော ဂျူးဘာသာဂိုဏ်းများလည်း ရှိခဲ့သည်၊ သို့သော် အပရိက သဘောလောက်သာ ဖြစ်၏၊ အဓိကကျသော ဂျူးဘာသာ အယူအဆကား အိမ်ထောင်ပြုပြီး မိသားစုဘ၀ဖြင့် နေထိုင်ရေးသာ ဖြစ်သည်၊ ယောကျ်ားများ လိုက်နာရန် ပညတ်တစ်ခုပင် ရှိသေးသည်၊ ဂျူးဘာသာတွင် လူပျိုကြီးဆိုသော စကားလုံး မရှိရချေ၊ အချို့ ဂျူးဘာသာ ဘုန်းကြီး အာဏာပိုင်များက ယောကျ်ားဟူသမျှ အိမ်ထောင်မပြုဘဲ အသက် ၁၈ နှစ်ပြည့်သည့်တိုင်အောင် မနေရဟု ညွှန်ကြားထားရှိသည်။

အံ့ဩစရာ ကောင်းသည်မှာ ဂျူးတို့ဥပဒေအရ လင်မယား ကွာရှင်းမှုရရန် လွယ်ကူလှသည်၊ တရားဥပဒေအရ ကွာရှင်းပုံမှာ လင်ယောကျ်ားသည် မိမိဇနီးကို 'ဂတ်'ခေါ် ကွာစာကို ပေးရမည်၊ 'ဂတ်'ခေါ် ကွာစာမှာ ပုရပိုက်ပေါ်တွင် အာရမစ်ဘာသာဖြင့် ရေးသား ထားပြီး ဥပဒေအရ တရားဝင်အောင် အသိသက်သေ နှစ်ယောက်က လက်မှတ် ရေးထိုးပေးရသည်၊ ကွာစာ လက်ခံသူ အမျိုးသမီးသည် လက်ထပ်စာချုပ်အရ သူမ၏ယောကျ်ားအပေါ် ထားရှိရမည့် တာဝန် ဝတ္တရား အားလုံးမှ လွတ်ကင်းပြီးဖြစ်ကြောင်းကို ကွာရှင်းစာပေါ်တွင် ရေးသား ဖော်ပြထားရမည်။

သို့သော် ကွာစာ ထုတ်ပေးရေး ကိစ္စကို ဂျူးဘာသာ ဝိနိစ္ဆယ ခုံရုံးက ထိန်းချုပ်ထားရှိသည်၊ ဝိနိစ္ဆယရုံးသည် အကြင်လင်မယား နှစ်ယောက်ကို ပြန်ပေါင်းအောင် စေ့စပ် ဖျန်ဖြေ ပေးတတ်သည်၊ ဇနီးလုပ်သူအား အကျင့်စာရိတ္တ ပျက်ပြားနေကြောင်းကို တစ်နည်းနည်း

ဖြင့် သက်သေမပြနိုင်ခဲ့လျှင် ထိုအမျိုးသမီး သဘောမတူဘဲ အတင်း အကျပ် ကွာရှင်းအောင် မလုပ်ရချေ။ ဇနီးဖြစ်သူက လှော်ကြောက်ထားခဲ့လျှင် ဝိနိစ္ဆယ ခုံရုံးသည် အကျင့်စာရိတ္တ ပျက်ပြားသော လင်ယောကျ်ားအား ကွာစာ ထုတ်ပေးရန် အမိန့်ချမှတ်နိုင်သည်၊ ဝိနိစ္ဆယရုံးသည် မယားစရိတ် ပြဿနာများကိုလည်း စဉ်းစား ဆုံးဖြတ်နိုင်ခွင့် ရှိသည်။

တရားဥပဒေအရ လင်မယား ကွာရှင်းရန် မည်သို့ပင် လွယ်ကူ စေကာမူ ကွာရှင်းပြတ်စဲခြင်းကို ဂျူးတို့ဘဝတွင် ဆုံးရှုံးမှုကြီး၊ ကြေကွဲ ဖွယ်ရာ ဖြစ်ရပ်ကြီး တစ်ခုအဖြစ် ယူဆထားကြသည်၊ ဂျူးအိမ်ထောင် တွင် ကွာရှင်း ပြတ်စဲမှုများ ဖြစ်ပွားတိုင်း ယင်းတို့၏ ယဇ်ပလ္လင်က ငိုကြွေးသည်ဟူ၍ပင် ပြောစမှတ်ပြုကြသည်။ (ဤနေရာ၌ "ယဇ်ပလ္လင်" ဆိုသည်ကား တင်စား ခေါ်ဝေါ်သော အမှတ်သညာ တစ်ခုသာလျှင် ဖြစ်သည်၊ လွန်ခဲ့သောနှစ်ပေါင်း ၂၀၀၀-က ဂျေရုစလင်မြို့ရှိ သူတို့၏ ဘုရားသခင် ဗိမာန်တော်တွင် ထားရှိသော ယဇ်ပလ္လင်ကို ရောမများ ဖျက်ဆီးပစ်ခဲ့ပြီး နောက်ပိုင်းတွင် ဂျူးလူမျိုးများ၌ ယဇ်ပလ္လင် မရှိတော့ပေ။

ရှေးအစဉ်အလာအတိုင်း လက်ခံသော ဂျူးတို့သည် ပဋိသန္ဓေ တားခြင်းကိုလည်း မလိုလားကြချေ၊ ဂျူးလူမျိုးတို့၏ ဦးရေ တိုးပွား အောင် လုပ်ရမည်ဆိုသော ဘုရားသခင်၏ ပညတ်ချက်ကို လိုက်သည့် အနေဖြင့် လည်းကောင်း၊ ကမ္ဘာ တစ်ခုလုံးတွင် ခေတ်အဆက်ဆက် အနှိမ်ခံနေရ၍ မျိုးပြုတ်လုမတတ် ရှိနေသော ဂျူးလူမျိုးနှင့် ဘာသာ ကို ထိန်းသိမ်း စောင့်ရှောက် နိုင်စေရန် အတွက် လည်းကောင်း၊ ဂျူးမိသားစုကို များနိုင်သည်ထက် များအောင် လုပ်နိုင်လေ ကောင်း လေဟု သဘောထားကြသည်။

ဂျူးလူနေမှု အဆောက်အအုံသည် ဘာသာရေး လူမှု အဆောက်အအုံ ဖြစ်သည်၊ ဂျူးများသည် အခြားဘာသာဝင်များနှင့် အိမ်ထောင်ပြုခြင်းအားဖြင့် ဘာသာရေး လူမှုအဆောက်အအုံမှ လူမှုရေး လူမှုအဆောက်အအုံသို့ ပြောင်းရွှေ့သွားရသည်၊ ဗြိတိန်နိုင်ငံတွင် ဂျူးလူမျိုးများအနက်မှ လူတစ်ရာလျှင် သုံးဆယ်အား ဂျူးတို့သည် ဂျူးမဟုတ်သော လူများနှင့် အိမ်ထောင် ပြုသွားကြသည်ဟု လေ့လာသိရှိရသည်။

ဂျူးတို့၏ အယူအဆအရ လူ၏ခန္ဓာကိုယ်ကို များစွာ ဂရုတစိုက် အလေးပြုရန် လိုအပ်သည်၊ လူတို့၏ ခန္ဓာကိုယ်သည် ထာဝရ ဘုရားသခင်ထံမှ ရောက်ရှိလာခြင်း ဖြစ်သည်၊ လူအများ သေလွန်သောအခါ ခန္ဓာကိုယ်များသည် ဘုရားသခင်ထံသို့ ပြန်လည် ရောက်ရှိသွားသည်၊ ဂျူးတို့၏ လူနေမှု စနစ်တွင် အရေးကြီးသော ဦးစားပေး လုပ်ငန်းတစ်ရပ်မှာ လူသေများကို တာဝန်ယူ မြှုပ်နှံရေးအဖွဲ့ ထားရှိရေးနှင့် သင်္ချိုင်းကို ဂရုတစိုက် ကြီးကြပ်ရေးတို့ပင် ဖြစ်သည်၊ ဆင်းရဲသူနှင့် ချမ်းသာကြွယ်ဝသူတို့၏ အသုဘကိစ္စများကို ခွဲခြားမှုများ မပြုလုပ်နိုင်ရန် အထူးဂရုစိုက်ရမည် ဖြစ်သည်။

လမ်းရိုးသမား ဂျူးတို့သည် မီးသင်္ဂြိုဟ်ခြင်းကို လက်မခံချေ၊ ယောကျ်ားများအတွက် အစဉ်အလာ ပူဆွေးလွမ်းဆွတ်သည့် အမှတ်အသားမှာ မိမိ၏ အဝတ်အထည်များကို ဆွဲဆုတ်ပစ်ခြင်းမျိုး ဖြစ်သည်၊ ယခုခေတ်တွင် ကွတ်အင်္ကျီရှေ့ဘက် အပေါ်နားကို ဆုတ်ဖြဲတတ်သည်၊ သေဆုံးမှုကို ဝတ်ပြု ဆုတောင်းခြင်းမျိုး မပြုလုပ်ဘဲ ထာဝရ ဘုရားသခင်၏ ဂုဏ်ကို ချီးကျူးသော ဝတ်ပြုပွဲများ ကိုသာ

ပြုလုပ်ကြသည်၊ သေဆုံးသူ မိဘများ အတွက် ဝတ်ပြုပွဲကို သား ဖြစ်သူက ပြုလုပ်ရသည်။

လူသားများ သေဆုံးနိုင်ကြောင်း အယူဝါဒမျိုးကို ထိုရာကျမ်းတွင် မတွေ့ရှိရပေ၊ အခြားကျမ်းစာ အချို့၌သာလျှင် မပြတ်မသား ဖော်ပြထားသည်ကို တွေ့ရှိနိုင်ပါသည်၊ ဂျူးဖြစ်စေ၊ ဂျူးမဟုတ်သူများပင် ဖြစ်စေ ကောင်းမွန်စွာ နေထိုင်ခဲ့ကြဖူးသူများသည် ဘုရားသခင်၏ ထံမှောက်သို့ ရောက်ရှိကြရသည်၊ ကောက်ကျစ်စဉ်းလဲသူများသည် ငရဲသို့ သွားရောက်ကြရလျက် နောက်ဆုံးတွင်မှ ဘုရားသခင်ကို ဖူးတွေ့ကြရသည်၊ အခြား အယူအဆ တစ်ခုအရ မကောင်းသော သူများသည် အပြီးအပိုင် ဆုံးရှုံး ပျက်စီးသွားကြရသည်။

ဂျူးဘုန်းကြီးအချို့၏ အယူအဆမှာ ကယ်တင်ရှင် ရောက်ရှိလာသော အချိန်တွင် သင်္ချိုင်း၌ သေဆုံးနေကြရသူများ အားလုံး အသက်ရှင်သန် ထမြောက် လာကြလိမ့်မည်၊ ခေတ်မီ ဂျူးတို့၏ အယူအဆကား ထာဝရ ဘုရားသခင်က လူသားကို ဖန်ဆင်းရခြင်း၏ ရည်ရွယ်ချက်သည် လက်ရှိဘဝဟစ်ခုတည်း အတွက်သာ မဟုတ်သည်မှာ သေချာကြောင်းကို ယုံကြည်နေကြခြင်းပင် ဖြစ်သည်။

ဂျူးမဟုတ်သူများ ကယ်တင်ခြင်း ခံရရေး အတွက် မည်သို့ လုပ်ဆောင်ရမည်ကို ဂျူးဘုန်းကြီးတို့၏ တိကျသော ပညတ်ချက်ပါရှိသည်၊ ဂျူးမဟုတ်သူများသည် ကယ်တင်ခံရန်အတွက် ရုပ်တုကို ကိုးကွယ်ခြင်း၊ မုသား စကား ပြောခြင်း၊ သူတစ်ပါး အသက်ကို သတ်ခြင်း၊ သူတစ်ပါးပစ္စည်း ခိုးခြင်း၊ သူတစ်ပါး သားမယားကို ကျူးလွန်ခြင်း တည်းဟူသော မကောင်းမှုများမှ ရှောင်ကြဉ်ရမည့်

အပြင် သူတစ်ပါးကို တရားမျှတစွာ ဆက်ဆံခြင်း၊ အသက်ရှင်နေသော တိရစ္ဆာန်များမှ လှီးဖြတ်ယူသော အသားကို မစားသောက်ရခြင်းတို့ကိုပါ စောင့်ထိန်းရန် လိုအပ်သည်၊ နောက်ဆုံး အပိုဒ်တားမြစ်ချက်မှာ တိရစ္ဆာန်များအပေါ် ရက်စက်ခြင်းကို ရှောင်ကြဉ်ရန် ဖော်ပြခြင်း ဖြစ်သည်။

ခေတ်တစ်လျှောက်လုံးနှင့် နေရာဒေသ အနှံ့အပြားတို့တွင် ဂျူးဘာသာမှ တစ်ဆင့် ကူးပြောင်းသွားရေး ဘာသာအဖြစ် ရှိနေခဲ့ရသည်။ လွန်ခဲ့သည့်နှစ် ၂၀၀၀ ခန့်က ခရစ်ယာန်ဘာသာ တိုးတက် ကျယ်ပြန့်လာချိန်တွင် ဤအချက် အထူး မှန်ကန်ကြောင်းကို တွေ့ရှိနိုင်သည်၊ ထိုစဉ်က မြင့်မြတ်သော ဂျူးဘာသာ၏ ဗဟိုတည်နေရာမှာ ယခုအခါကဲ့သို့ပင် ပါလက်စတိုင်းဒေသတွင် ရှိနေခဲ့သော်လည်း ဂျူးဘာသာမှာ ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့သွားခဲ့ရာ မြေထဲပင်လယ် ဒေသဥ္စာမကတော့ဘဲ ထိုထက်ဝေးသော နေရာများသို့တိုင် ရောက်ရှိသွားသည်၊ ဂျူးဘာသာ ဘုရားရှိခိုးကျောင်းများ မှာလည်း စောစောပိုင်း ကာလ ခရစ်ယာန်ဘာသာ သာသနာပြု ဆရာများ၏ အခြေခံစခန်းအဖြစ် အသုံးချခဲ့ရသည်။

ယခုခေတ်ဂျူးတို့သည် နာဇရက်မြို့သား ယေရှုခရစ်တော်ကို လေးစားနေကြပေပြီ၊ အလွန်အဆင့်အတန်းမြင့်သော လူ့ကျင့်ဝတ်ကို သင်ကြား ပြသခဲ့သူတစ်ဦး အဖြစ် အသိအမှတ် ပြုရပေပြီ၊ သို့သော်လည်း ယေရှု ခရစ်တော်သည် အသက်ထင်ရှား ရှိစဉ်က ဂျူးဘာသာ အပေါ် လွှမ်းမိုးနိုင်ခြင်း မရှိခဲ့ချေ၊ ယေရှုခရစ်တော် အသက်ထင်ရှား ရှိစဉ်က ဂျူးဘာသာ ဘုန်းကြီးများ ဖြစ်သော

တီးလယ်နှင့် ဂါမာလီယတို့၏ အဆိုအမိန့်တို့မှာ တောမွတ်ကျမ်း၌ ပါဝင်လျက် ရှိနေပါပြီ။

ထိုခေတ် ဂျူးတို့၏ အလိုအရ ယေရှုသည် ဂျူးဗျာဒိတ်ကျမ်းများ၌ လာရှိသော ထူးဆန်းအံ့သြဖွယ် ကောင်းသည့် ကယ်တင်ရှင် မဟုတ်သည့်အပြင် ဘုရားသခင်လည်း မဖြစ်နိုင်ပေ၊ တစ်နည်းအားဖြင့် ပြောရလျှင် ခရစ်ယာန် ဘာသာနှင့် အစ္စလာမ်ဘာသာတို့သည် ဘုရားသခင်၏ အစီအမံကြောင့် ပေါ်ထွက်လာရခြင်း ဖြစ်နိုင်သည်ဟု ယခုအခါ ယူဆသူများ ရှိနေပေပြီ။

သမိုင်း တစ်လျှောက်လုံး၌ ဂျူးလူမျိုးများတွင် မိမိဘာသာတရားကိုစွန့်ပြီး အခြားဘာသာများသို့ ကူးပြောင်းသွားတတ်သည့် ကြောက်မက်ဖွယ်ရာ အဖြစ်အပျက်များ ရှိခဲ့သည်၊ သို့သော် ဤကဲ့သို့ ကူးပြောင်းသွားခြင်းများသည် ယုံကြည် ကိုးကွယ်မှုရေးရာ၊ စိတ်ရေးရာ အရ ကူးပြောင်း သွားခြင်းမျိုး မဟုတ်မူဘဲ ရုပ်ဝတ္ထုအရ လူမှုရေးအရ ကူးပြောင်းသွားခြင်းမျိုးသာ ဖြစ်သည်။

ဂျူးလူမျိုးများ ကိုယ်တိုင်ကလည်း အခြားဘာသာမှ မိမိတို့၏ ဘာသာသို့ ကူးပြောင်းလာခြင်းကို လက်မခံချေ၊ အားမပေးချေ၊ သို့သော် ကူးပြောင်းလာသူ အနည်းနှင့်အများ ရှိစမြဲပင်။

ဘာသာအချင်းချင်း လက်ထပ်ခွင့် ပြုခြင်းနှင့် ကူးပြောင်းမှုများ ပိုမို၍ တိုးတက် များပြားနိုင်ပေသည်၊ အစဉ်အလာကို လက်ခံသူများ၏ အယူအဆမှာ ဂျူးတစ်ယောက်နှင့် လက်ထပ်ချင်၍ ဂျူးဘာသာဝင် တစ်ယောက် ဖြစ်လာရသည် ဆိုခြင်းမှာ လုံလောက်သော အကြောင်း တစ်ရပ် မဟုတ်ဟု ထင်မြင်ကြသည်။ သီးခြား ဘာသာရေး ယုံကြည်

ချက်ရှိကြောင်း အထောက်အထား ပြသနိုင်ရမည်။ ပြုပြင်ပြောင်းလဲရေးကို ကြိုက်သူများကမူ ဂျူးဘာသာသို့ ကူးပြောင်းလာမည့်သူသည် အခြားဘာသာတစ်ခုကို ယုံကြည်သက်ဝင်နေသူ မဟုတ်လျှင် ဂျူးတစ်ယောက်နှင့် လက်ထပ်လိုသော အကြောင်းဖြင့်ပင် လုံလောက်နိုင်သည်ဟု ယူဆကြသည်။

ဂျူးဘာသာသို့ ကူးပြောင်းလာခွင့် ရရှိရေးနှင့် ပတ်သက်၍ အစဉ်အလာကို လက်ခံသူများ၏ အစီအစဉ်မှာ စနစ်တကျ အချိန်ကြာအောင် ဆွဲထားတတ်သည်။ ဂျူးဘာသာသို့ ဝင်ရောက်လိုသူသည် ဂျူးဘုန်းကြီးတစ်ပါးထံ ချဉ်းကပ်ရသည်။ ဂျူးဘုန်းကြီးက ထိုသူကို ဝိနိစ္ဆယခုံရုံး တရားသူကြီးတစ်ဦးထံ ပို့၍ စစ်ဆေးစေသည်။ ဒါယန်းခေါ် အဆိုပါ တရားသူကြီးသည် ကူးပြောင်းလိုသူ၏ ရည်ရွယ်ချက်ကို မေးမြန်း စစ်ဆေးစေသည်။ ကူးပြောင်းလိုသူ၏ ရည်ရွယ်ချက်သည် လောကီရေးရာ ကိစ္စနှင့်သာ ပတ်သက်နေသည် ဆိုပါက ထိုသူမှာ အပယ်ခံရမည်သာ ဖြစ်သည်။

ဂျူးတစ်ယောက် အနေနှင့် အတူးတာဝန်များ ရှိနေကြောင်းကို ဒါယန်းက ရှင်းပြရသည်။ ဂျူးဘာသာဝင် မဟုတ်သော်လည်း ကယ်တင်ခြင်းကို ခံရနိုင်ပါလျက် အဘယ်ကြောင့် တာဝန်ပိုကြီးသော ဂျူးဘဝကို ရယူချင်သနည်းဟူ၍ မေးကြေ့ာတတ်သည်။

ဂျူးဘာသာသို့ ဝင်လိုသူသည် ပဌမအဆင့်အထိ အောင်မြင်နိုင်ပြီးလျှင် ဖတ်၍ လေ့လာရမည့် စာအုပ်စာရင်း တစ်ခုကို သူ့အား ပေးကာ ပြန်လွှတ်လိုက်တတ်သည်။

နောက်တစ်ကြိမ် တရားသူကြီးနှင့် ပြန်တွေ့သောအခါ ဒါယန်းသည် ဘာသာဝင်လိုသူ ဖတ်ထားသော စာအုပ်မှ အကြောင်းအရာများကို မေးလေတော့သည်။ ဘာသာဝင်လိုသူ၏ မိသားစု၏ သဘောထား မည်သို့ရှိသည်၊ သူ၏ အသက်မွေးဝမ်းကြောင်း အလုပ်သည် ဥပုသ်နေ့တွင် လိုက်နာရမည့် စည်းကမ်းနှင့် လိုက်လျောညီထွေ ဖြစ်မဖြစ် မေးခွန်းများကိုလည်း မေးခံရသည်၊ အိမ်ထောင်ရှင်များတွင် နှစ်ဦးစလုံး အတူတကွ ကူးပြောင်းမှ လက်ခံသည်၊ သို့မဟုတ်ပါက လက်မခံပေ။

ဤအဆင့်အထိ အားလုံး အဆင်ပြေပြန်လျှင် ဘာသာဝင်လိုသူကို ဆရာတစ်ဦးထံ အပ်နှံ၍ ဘာသာရေး သင်တန်းနှင့် ဟီးဘရူးဘာသာ စကားများကို သင်ကြားရသည်။ တစ်ချိန်တည်းတွင် ဂျူးဘာသာ ဘုရားရှိခိုးကျောင်းသို့ တစ်နှစ်ခန့် တက်ရောက်ရကာ ဂျူးတို့ ဘုရားဝတ်ပြုပုံများကို နားလည် သဘောပေါက်အောင် လေ့လာရပြီး တစ်နှစ်အတွင်း ကျရောက်သော အခါကြီး နေ့ကြီးများနှင့် ပွဲတော်များကို တစ်နှစ်လည်အောင် မှတ်သား လေ့လာရသည်။

ရှေးကျသော ဓလေ့အတိုင်း နေထိုင်ကြသည့် အိမ်ထောင်တစ်ခုသို့လည်း သွားရောက် နေထိုင်ရကာ ဂျူးအိမ်ထောင် တစ်ခု၏ ရိုးရာ ဓလေ့ထုံးစံများနှင့် ကိုရှာ အစားအသောက် ချက်ပြုတ်နည်းများကို လက်တွေ့ လေ့လာစေသည်။

တရားသူကြီးနှင့် နောက်ဆုံး တွေ့ဆုံရာတွင် ဘာသာဝင်လိုသူသည် ဂျူးတို့၏ ဓလေ့ထုံးစံ၊ အယူအဆများနှင့် အံဝင်ခွင်ကျ ဖြစ်မဖြစ် စသော အချက်များကို အကဲဖြတ်၍ မေးမြန်းသည်။

ဤအဆင့်ကို အောင်မြင်သော အခါ ဝိနိစ္ဆယရုံးက ထိုသူကို ဂျူး ဘာသာသို့ ဝင်ရောက်ခွင့် လက်မှတ်တစ်စောင်ကို ထုတ်ပေးသည်။ ဘာသာသို့ ဝင်မည့်သူများကို ရေဖြင့် ကိုယ်ခန္ဓာကို စင်ကြယ်အောင် ချိုးပေးပြီး ရေနှစ်ခြင်းဖြင့် ဘိသိက်ခံပေးသည်။ ယောကျ်ားများကို ကြိုတင်၍ အရေပြား လှီးပေးထားသည်။

တိုးတက်သော အယူအဆကို လက်ခံသူတို့၏ လုပ်နည်း လုပ်ဟန်မှာ လွယ်ကူလှသည်။ ဂျူးမိသားစု တစ်စုတွင် အတူနေရန် မလိုဘဲ ကိုယ်ခန္ဓာ စင်ကြယ်အောင် ဆေးကြောရန်လည်း မလိုချေ။ သို့သော် ဂျူးဘာသာဝင် မဖြစ်မီ ဂျူးဘာသာကို ကောင်းစွာ နားလည် ထားရန် လိုအပ်ကြောင်းကိုမူကား ရှေးဟောင်းဓလေ့ထုံးစံကို လက်ခံ သူများကဲ့သို့ပင် အလေးအနက် ထားကြသည်။ လမ်းရိုး အတိုင်း လိုက်နာကြသော ရှေးဟောင်းဝါဒသမားများသည် တိုးတက် ပြောင်းလဲ ပြုပြင်လိုသူတို့၏ ဂျူးဘာသာသို့ ဝင်ခွင့်ပြုရန်မျိုးကို လက်ခံ အသိ အမှတ် မပြုကြပေ။

ခရစ်ယာန်ဘာသာ ရိုမန်ကက်သလစ်ဂိုဏ်းတွင် ပုတ်ရဟန်း မင်းကြီးသည် ထိုဂိုဏ်း၏ ဗဟိုအာဏာပိုင် ဖြစ်သည်။ ဂျူးဘာသာတွင် ဤကဲ့သို့သော ဗဟိုအာဏာပိုင် အဖွဲ့အစည်း မရှိချေ။ မည်သည့် ဂျူးလူမျိုးမဆို စုပေါင်း၍ ဘုရားရှိခိုးကျောင်း ဆောက်လုပ်ကာ တည် ထောင် ဖွဲ့စည်းနိုင်ပေသည်။ အခြားကျောင်းများ၏ အသိအမှတ် ပြုခြင်းကို ခံယူရရှိသည် ဆိုသောကိစ္စမှာ မိမိတို့ကျောင်းသည် မည်သည့် အတိုင်းအတာအထိ ဘာသာဟရားများကို သင်ကြား ပို့ချနိုင်သည်၊ မည်မျှ ဆောင်ရွက်နိုင်သည် ဆိုသော အချက်တွင် တည်နေသည်။

ဘုရားရှိခိုးကျောင်း ဆိုသည်မှာ ကျောင်းအဆောက်အအုံကိုသာ ဆိုလိုသည် မဟုတ်သေးဘဲ ဘာသာဝင် အချင်းချင်း ပူးပေါင်းဖွဲ့စည်းထားသော အသင်းတော်ကို ဆိုလိုသည်။ ရှေးအယူအဆကို တိကျစွာ လိုက်နာကြသူများအတွက် အသင်းတော် တစ်ခုကို တည်ထောင်နိုင်ရန် အနည်းဆုံး အရွယ်ရောက်ပြီးသူ လူဆယ်ယောက် ရှိရသည်။ ဆယ်ယောက်ခန့် ရှိမှသာ အများစုပေါင်း ဝတ်ပြုမှုကို ပြုနိုင်သည်။ သာမည လူဆယ်ယောက်က စုပေါင်း ဝတ်ပြုပွဲကို ပြုလုပ်နိုင်သော်လည်း ဘုန်းကြီးများ ဖြစ်နေကြသည့်တိုင်အောင် ကိုးယောက်တည်း ဖြစ်နေပါက ထိုပွဲမျိုးကို မပြုလုပ်နိုင်ပေ။ ချမ်းသာ ကြွယ်ဝသော ဂျူးများအသိုက်အဝန်းတွင် "စုပေါင်းဝတ်ပြုပွဲလူ" များကို ငှားရမ်းထားကြသည်။ "စုပေါင်းဝတ်ပြုပွဲလူ" ဆိုသည်မှာ အသင်းတော်၌ လိုအပ်သော ဦးရေပြည့်စေရန် နေ့စဉ် တက်ရောက်နိုင်မည့် ဂျူးများကို ငွေပေး၍ ငှားရမ်းထားသော သူများ ဖြစ်သည်။

ဂျူးဘုန်းကြီးများကို အသင်းတော်တိုင်းက လစာပေးထား၍ တရားဟောဆရာ အဖြစ် ဆောင်ရွက်ကြရသည်။ လက်ထပ်ပွဲများနှင့် အသုဘပွဲများကို ကြီးမှူးပေးရသည်။ အင်္ဂလန်နိုင်ငံရှိ ဂျူးဘုန်းကြီး တစ်ဦး၏ လစာငွေမှာ အစတွင် တစ်နှစ် ပေါင်စတာလင် ၂၇၁၀ ပေါင် ရရှိပြီး ၃၄၀၅ ပေါင်အထိ တိုးမြှင့် ရရှိနိုင်သည်။ နေအိမ် အခမဲ့လည်း ရရှိသည့်အပြင် အခြား ခံစားခွင့်များလည်း ရရှိသည်။ လိုအပ်သော ပညာ အရည်အချင်းမှာ တက္ကသိုလ်တစ်ခုခုမှ ဘွဲ့ရရှိသူ ဖြစ်ပြီး ဂျူးဘာသာကျောင်းမှ သင်တန်း အောင်မြင်ထားပြီးသူ ဖြစ်သည်။

ခရစ်ယာန်ဘုန်းကြီးများကဲ့သို့ ဂျူးဘုန်းကြီးများ လစာငွေ ရရှိကြသော ဓလေ့မှာ ယခုခေတ်ကျမှ ရရှိကြခြင်း ဖြစ်သည်။ ရှေးယခင်က ဂျူးဘုန်းကြီးများမှာ အခြား အလုပ်များကို လုပ်၍ အသက်မွေးကြရသည်။ ထိုဂျူးဘုန်းကြီးများသည် ယင်းတို့၏ လူ့အဖွဲ့အစည်း၌ ပညာတတ် ပုဂ္ဂိုလ်များ အဖြစ် အသိအမှတ်ပြုထားခြင်းကို ခံရသူများဖြစ်၍ အခြေခံအားဖြင့် ဘာသာရေးဆိုင်ရာ တရားသူကြီးများအဖြစ် ဆောင်ရွက်ပေးကြရသည်။ ဂျူးဘုန်းကြီးတစ်ဦးအနေဖြင့် တရားဟောရခြင်းမှာ အထူးကိစ္စတစ်ရပ်သာ ဖြစ်သည်။

လွန်ခဲ့သော နှစ်ပေါင်း ၂၀၀၀ က ဂျေရုစလင်မြို့ရှိ ဘုရားသခင်၏ ဒုတိယမြောက် ဗိမာန်တော်ကို ဖျက်ဆီးခြင်း မခံရမီ အချိန်က အစဉ်အလာ ဘုန်းကြီးများ ကျင့်သုံးခဲ့သော ဓလေ့ထုံးစံ အကြွင်းအကျန်များကို ယနေ့ ရှေးဟောင်း အစဉ်အလာကို လိုက်နာသော ဂျူးများ၏ဘဝတွင် တွေ့ရှိနိုင်သေးသည်။ ယခုအခါ ကိုဟန်း[၁] ဟူသော အမည်ကို ရရှိထားသူများသည် ရှေးခေတ် ဂျူးဘုန်းကြီးများ၏ အဆက်အနွယ်ဖြစ်သည်ဟု အဆိုရှိသည်။ သို့သော် ထိုအမည်ကိုရရှိထားသူ မည်သူမျှ မိမိတို့ မည်သို့ ဆင်းသက်လာခဲ့သည်ကို မရှင်းပြနိုင်တော့ချေ။ ယနေ့ ကိုဟန်း အမည်ကို ခံယူထားသူများသည် အခြားသူများအား ကောင်းချီးပေးနိုင်ခွင့်ကို ရရှိထားသော်လည်း သူ့အသင်းတော်ရှိ အခြားသော အသင်းဝင်များကဲ့သို့ပင် သာမန်အသင်းသား တစ်ဦးသာ ဖြစ်နေသည်။ ဘုရားသခင်၏ ဗိမာန်တော် ပျက်စီး ဆုံးရှုံးသွားခဲ့သဖြင့် ကိုဟန်းတို့၏ အလုပ်တာဝန်များပါ လက်လွတ်ဆုံးရှုံးသွားခဲ့ရပြီး ဘာသာရေး

---

၁။ Cohen

ဆိုင်ရာ ခေါင်းဆောင်မှုနေရာကို ရပ်ဘိ[၁]ခေါ် ဂျူးဘုန်းကြီးများက ဆက်ခံလာခဲ့သည်။

မည်သို့ပင်ဖြစ်စေကာမူ ယနေ့အချိန်တွင် ဂျူးဘာသာ ဘုရားရှိခိုးကျောင်းများ၌ ဘုရားဝတ်ပြုပွဲများကို ကြီးကြပ်ပေးရမည့် တာဝန်သည် ရပ်ဘိတို့၏ တာဝန် မဟုတ်သေးပေ။ ဤဝတ်ပြုပွဲများကို အသင်းသား အားလုံးကပင် ကြီးမှူးကြရ၍ ရပ်ဘိတို့မှာလည်း သာမန်အသင်းသား တစ်ဦးကဲ့သို့ပင် ပါဝင်ကြရသည်။ ဝတ်ပြုပွဲများကို ကန်တို[၂] ခေါ် သာသနာရေးဝန်ထမ်း အချို့က ဦးဆောင်ကြရသည်။ ရပ်ဘိခေါ် ဘုန်းကြီးများသည် ဘာသာရေးဆိုင်ရာ ဥပဒေကို ကျွမ်းကျင်သူများ ဖြစ်သကဲ့သို့ ကန်တိုများသည် ဓမ္မဂီတနှင့် ရိုးရာပွဲများ ကျင်းပသည့် လုပ်ငန်းကို ကျွမ်းကျင်ကြသည်။

အသင်းတော်များ၌ ကန်တိုကောင်းများ ရှိရန် အရေးကြီးလှသည်။ အထူးသဖြင့် ဓမ္မသီချင်းများ ဆိုရာတွင် ကိရိယာများ မပါဝင်ရသည့် ရှေးဟောင်း အယူအဆသမားများ၏ ကျောင်း၌ အဆိုပိုင်နိုင်သူကန်တိုများကို အလိုရှိကြသည်။ အမြင့်ဆုံးအဆင့်တွင် ကန်တိုဟောင်းများသည် အော်ပရာစတားများ အဆင့်သို့ ရောက်ရှိသွားတတ်ကြသည်။ သို့သော် အစဉ်အလာအရမူ ကန်တိုတစ်ယောက်သည် သား သမီးများပြီး ဆင်းရဲသူ ဖြစ်ရမည်ဟု ဆိုသည်။ ဤအခြေအနေမျိုးတွင်မှ ခံစားချက် အပြည့်အဝဖြင့် ဆုတောင်းနိုင်မည် ဖြစ်သည်။

စနစ်ဟောင်းကို ပြုပြင်ပြောင်းလဲလိုသောသူများ၏ အသင်းတော်များတွင် မူကား တူရိယာ အတီးအမှုတ်များလည်း ပါသည်။

---

၁။ Rabbi ၂။ Cantor

ဝတ်ပြုပွဲကိုလည်း အကျဉ်းရုံးထားသည်။ တိုင်းရင်းသား ဘာသာ စကားဖြင့်လည်း ဝတ်ပြုခွင့် ပေးသည်။ ရှေးဟောင်း အယူအဆ အတိုင်း လက်ခံသော အသင်းတော်၌ တူရိယာဝိုင်း ပါခဲ့သည့် တိုင်အောင် ထိုတူရိယာဝိုင်းကို မင်္ဂလာဆောင်ပွဲတွင်သာ တီးခတ် ကြရသည်။

လက်ရိုးကြီးသမားတို့၏ ဥပုသ်နေ့ နံနက် ဝတ်ပြုပွဲတွင် အချိန် နှစ်နာရီ သုံးနာရီထိ ကြာတတ်သည်။ သို့သော် တစ်ချိန်လုံး ပရိသတ် အားလုံးမှာ ငြိမ်သက်စွာ နေကြခြင်း မဟုတ်ဘဲ ထွက်ချီ ဝင်ချီ လုပ်နေတတ်ကြသည်။ ပြုပြင်ပြောင်းလဲရေးသမားတို့က ယောကျ်ား နှင့် မိန်းမ အတူတကွ ထိုင်ကြရသည်။ ရှေးအယူကို မပယ်လိုသူ များတွင် အမျိုးသားနှင့် အမျိုးသမီးတို့ ခွဲခြားထားသည်။ အမျိုးသမီး များကို အပေါ်ထပ်တွင် ထားရှိတတ်ကြသည်။ ယင်းတို့၏ ဝတ်ပြုပွဲ တွင် ယောကျ်ားများသာ ဟီးဘရူး ဘာသာဖြင့် လိုက်ဆိုကြရပြီး အမျိုးသမီးများကား စာအုပ်တွင် လိုက်ကြည့်ရသည်။

ယခုအခါ အစွဲအလမ်းကြီးသူများ၏ အသင်းများတွင် အမျိုး သမီး ဘုန်းကြီးတစ်ဦး ရှိနေလေပြီနောက် အမျိုးသမီး နှစ်ယောက် လည်း ဂျူးဘာသာရေး ကောလိပ်တွင် ဘုန်းကြီး အရည်အချင်း ပြည့်ဝရေးကို လေ့လာသင်ကြားလျက် ရှိနေသည်။

လက်ဝဲအစွန်း ဟယူသန် တိုးတက်ပြောင်းလဲမှုကို လက်ခံသော အုပ်စုမှတစ်ပါး ကျန်အသင်းတော် အားလုံးက လက်ခံထားသော အခြေခံကျသည့် ဓလေ့ ထုံးတမ်းတစ်ခု ရှိသေးသည်။ ထိုဓလေ့ကား ယောကျ်ားတိုင်းသည် ဘုရားရှိခိုးကျောင်းထဲသို့ ဝင်ရောက်သောအခါ

ဘုရား ဝတ်ပြုသောအခါနှင့် ထိုရာကျမ်းစာကို ဖတ်ကြားနေသော အခါတို့တွင် မိမိ၏ ဦးခေါင်းကို ဖုံးအုပ်ထားရသော ဓလေ့ ဖြစ်၏။ ဘာသာရေးစာပေတိုင်းလိုလို၌ပင် ထိုရာကျမ်းစာမှ ကောက်နုတ်ချက်များ ပါရှိနိုင်၍ ကျမ်းစာ ဟူသမျှတို့ကို ဖတ်သောအခါတွင်လည်း ဤဓလေ့သို့ လိုက်နာရန် လိုအပ်မည်သာ ဖြစ်သည်။ အလွန်တရာ ဘာသာရေးကို ကိုင်းရှိုင်းသည့် ဂျူးများသည် မတော်တဆ ထိုရာကျမ်းမှ ကောက်နုတ်ချက် တစ်ပိုဒ်တလေကိုမျှ ကြားရနိုးနိုးဖြင့် တစ်နေ့လုံး ကက်ဦးထုပ်ကို ဆောင်းထားတတ်ကြသည်။ ဤဓလေ့သည် နှစ်ပေါင်း ၁၅၀၀ သာ ရှိသေးသည့်အတွက် အလွန် နောက်ကျပြီးမှ လက်ခံကြသော အယူအဆ တစ်ရပ်ပင် ဖြစ်သော်လည်း အထင်ရှားဆုံး ထုံးစံတစ်ခု ဖြစ်နေပေပြီ။

ဂျူးဘာသာ၏ အခါကြီး နေ့များနှင့် ပွဲတော်ကြီး များကို ဂျူးဘာသာရေး ပြက္ခဒိန် အတိုင်း ကျင်းပ ကြသည်။ ဂျူးတို့၏ ဘာသာရေး ပြက္ခဒိန်သည် အရပ်သုံး ပြက္ခဒိန်နှင့် မကိုက်ညီချေ။ ဘာသာရေး ပြက္ခဒိန်ကို ဘုရားသခင်က ကမ္ဘာလောကကြီးကို စတင် ဖန်ဆင်းသည့် အချိန်မှစ၍ ရေတွက်ထားသည်။ ဂျူးဘာသာ၏ ၅၇၃၄ ခုနှစ်သည် ၁၉၇၄ ခုနှစ်အတွင်း ကျရောက်ပြီး ၅၇၃၅ ခုနှစ်၏ နှစ်သစ်ကူးနေ့သည် ၁၉၇၄ ခုနှစ် စက်တင်ဘာလ ၁၇ ရက်နေ့တွင် ကျရောက်ခဲ့သည်။

ဂျူးတို့၏ နှစ်ကူးနေ့ကို ရိုရှ်ဟာရှာနာဟု ခေါ်သည်။ အဓိပ္ပာယ်မှာ "နှစ်၏ဦးခေါင်း" သို့မဟုတ် နှစ်၏အစဟု ဆိုလိုသည်။ နှစ်သစ်၏ ပထမ ဆယ်ရက်သည် အရေးကြီးသော နေ့ရက်များ ဖြစ်၍

ဘုရားရှိခိုးကျောင်းတွင် သိုးဦးချိုများကို မှုတ်ကြသည်။ ဤနေ့ရက်များသည် ဝိညာဉ်ရေးရာ စာရင်း စစ်ဆေးသော နေ့များ ဖြစ်ပြီး မိမိတို့၏ ဘုရားသခင်နှင့် ဆက်ဆံရေးကို ပြန်လည် ဆန်းစစ်ရသော နေ့များ ဖြစ်သည်။ အမှားအယွင်း လုပ်မိသည်များကို တွေ့ရှိခဲ့လျှင် မှန်အောင် လုပ်ဆောင်ကြရသည်။

ဆယ်ရက်၏ နောက်ဆုံးနေ့သည်ကား ယွန်းကစ်ပူး[၁] ခေါ် အာပတ် ဖြေသော နေ့ပင်တည်း။ ဤနေ့တွင် ဘုရားရှိခိုးကျောင်းများ၌ ပရိသတ်များ ပြည့်လျှံသွားသည်သာမက အခြား ခန်းမကြီး၌ပင်လျှင် ဝတ်ပြုပွဲများကို ကျင်းပရသည်။ ဤနေ့သည် ဂျူးများအဖို့ အလွန် မြင့်မြတ်သည့် နေ့ရက် ဖြစ်ကြောင်းကို အပြင်လူများအဖို့ နားလည်ရန် ခဲယဉ်းလှသည်။ အာရပ်နိုင်ငံတို့သည် အစ္စရေးနိုင်ငံကို ၁၉၇၃ ခုနှစ် ယွန်းကစ်ပူးနေ့၌ စစ်ကို စတင် တိုက်ခိုက်ခဲ့သည့်အတွက် ဂျူးများမှာ မခံမရပ်နိုင်အောင် ဒေါသဖြစ်သွားကြပြီး ဤကိစ္စမျိုးကို ခရစ်ယာန် ဘာသာရေး ခေါင်းဆောင်များက ကန့်ကွက်ပြောဆိုခြင်း မပြုသည့်အတွက် ခရစ်ယာန် ခေါင်းဆောင်များကို မကျေမနပ် ဖြစ်ကြပြန်သည်။

ဂျူးတို့၏ အာပတ်ဖြေသော ယွန်းကစ်ပူးနေ့သည် ခရစ်ယာန်တို့၏ အီစတာနေ့ကဲ့သို့ပင် လျှို့ဝှက် ဆန်းကြယ်လှ၏။ အီစတာနေ့မှာ လွန်ခဲ့ပြီးသော အဖြစ်အပျက်ကို အမှတ်တရ ကျင်းပသော နေ့သာ ဖြစ်သည်။ ယွန်းကစ်ပူးနေ့ကား ထာဝရ ဘုရားသခင်နှင့် ဂျူးလူမျိုးတို့ ထားသော ကတိကဝတ်ကို နှစ်စဉ် ပြန်လည် အတည်

၁။ Yem Kippur

ပြုပေးသောနေ့၊ တကယ် လက်တွေ့ ကျသောနေ့ပင် ဖြစ်သည်။ ထာဝရ ဘုရားသခင်နှင့် ဂျူးလူမျိုးများသည် ဆိုင်းနိုင်းတောင်ပေါ်တွင် နှစ်ဦးနှစ်ဖက် သဘောတူညီမှု ကတိကဝတ် ပြုခဲ့ကြသည်။

အစဉ်အလာအရ ယွန်းကစ်ပူးနေ့တွင် ဂျူးတို့သည် ၂၄ နာရီလုံးလုံး အစားအစာ မစားသောက်ရဘဲ ရှောင်ကြဉ် ကြရသည်။ ထိုနေ့မတိုင်မီတွင် အစားအသောက်ကို ကောင်းကောင်း စားသောက်ထားကြရန်ကိုလည်း ညွှန်ကြားထားသည်၊ ဘုရားရှိခိုးကျောင်းတွင် ယောကျ်ားများသည် "ကစ်တယ်" ခေါ် အဝတ်ဖြူရှည်ကြီးကို ဝတ်ဆင် ကြရသည်။ ထိုသူ သေဆုံးသော အခါတွင်လည်း ဤအဝတ်ကို ဝတ်ကာ မြှုပ်နှံလိုက်ရသည်။

ယွန်းကစ်ပူးနေ့တွင် ဂျူးများ ဘုရားဝတ်ပြု ရှိခိုးသောအခါ ဒူးထောက်ရသည်။ အခြား ဝတ်ပြုချိန်များတွင်မူကား မတ်တပ်ရပ်၍ ဝတ်ပြုရသည်။ အယူအဆဟောင်းများအရ ဝတ်ပြုသော ဂျူးတို့မှာ ကိုယ်ခန္ဓာကို ရှေ့နှင့် နောက်ဘက်သို့ ယိမ်းနွဲ့ပေးကြရသည်။ တစ်နေ့လုံး ဝတ်ပြုပြီးသောအခါ ဘာသာရေးစိတ်ဓာတ် ပြင်းထန်သော ဂျူးများအဖို့ အသစ် ပြန်လည် မွေးလာသူပမာ ဖြစ်လာကြသည်။

အာပတ် ဖြေသောနေ့ လွန်မြောက်ပြီး ၅ ရက် အကြာတွင် ဆက်ကော့ခေါ် တဲနန်းတော် ပွဲသဘင်ကို ခုနစ်ရက်တိုင်တိုင် ကျင်းပကြသည်။ အစဉ်အလာအရဆိုပါမူ ဤနေ့ရက်များတွင် ဂျူးတို့သည် သစ်သားတဲအတွင်း၌ နေထိုင် စားသောက်ကြရသည်။ ဘာသာတရား ကိုင်းရှိုင်းသူများမှာ မိမိတို့၏ ဥယျာဉ်တွင်း၌ တဲထိုးနေထိုင်ကြသည်။ ဂျူးလူမျိုးများသည် တောထဲတွင် နှစ်ပေါင်း လေးဆယ် တိုင်တိုင်

လှည့်လည် သွားလာနေခဲ့ရကြောင်း ကျမ်းစာလာ ရှိသည်ကို သတိရသည့် အထိမ်းအမှတ် ပွဲတော် ဖြစ်သည်။ တဲများကို သံမပါဘဲ သစ်ကိုင်း သစ်ခက်များဖြင့် ဆောက်လုပ်ရပြီး ညအခါများတွင် ကြယ်မြင်လမြင် ဖြစ်အောင် အမိုးကို ကျိုးတဲကျဲတဲ မိုးထားပေးရသည်။ ဂျူးတို့၏ ဘဝ ဖြတ်သန်းလာရပုံကို သရုပ်ဖော်ထားခြင်း ဖြစ်ပေသည်။

တဲနန်းတော် ပွဲသဘင်ပြီးနောက်တွင် ဥပဒေဖတ်ပွဲ ရှိသည်။ တစ်နှစ်လုံးအတွင်း စနေနေ့တိုင်း ထိုရာကျမ်း အပိုင်းလိုက် ဖတ်ပွဲကို ဘုရားရှိခိုးကျောင်းများတွင် ကျင်းပကြသည်။ ကျမ်းစာ ဖတ်ပွဲတွင် ထိုရာကျမ်း၌ ပါဝင်သည့် ဓမ္မဟောင်း ငါးကျမ်းမှ နောက်ဆုံးကျမ်း ဖြစ်သော တရားဟောရာကျမ်း၏ နောက်ဆုံး ဂါထာကို ဖတ်လိုက်၊ ပထမဦးဆုံးကျမ်း ဖြစ်သည့် ကမ္ဘာဦးကျမ်းမှအစ ဂါထာကို ပြန်ဖတ်လိုက်နှင့် လှည့်ပတ် ကြရသည်။ အလွန် ပျော်ကြသည့် ပွဲတော် ဖြစ်သည်။

ခရစ်ယာန်တို့၏ ခရစ္စမတ်ပွဲနှင့် တစ်ချိန်တည်းလောက်တွင် ဂျူးလူမျိုးများ၏ မီးထွန်းပွဲကို ကျင်းပကြသည်။ ချနုကာ ခေါ် မီးထွန်းပွဲကို တစ်ပတ်ခန့် ကျင်းပကြသည်။ အစဉ်အလာအရ ဂျူးလူမျိုးများသည် မိမိတို့၏ နေအိမ် ပထမနေ့၌ ဖယောင်းတိုင် တစ်ချောင်းထွန်းပြီး ဒုတိယနေ့တွင် နှစ်ချောင်း၊ တတိယနေ့တွင် သုံးချောင်း စသည်ဖြင့် ထွန်းညှိ ကြသည်။ ဖယောင်းတိုင်များကို ပြတင်းပေါက်ဝတွင် ထွန်းညှိကြသည်။ ဂျေရုစလင်မြို့ရှိ ထာဝရဘုရားသခင်၏ ဗိမာန်တော်ကို ဂျူးဘာသာဝင် မဟုတ်သူများက

ညှိုးနွမ်းအောင် ဖျက်ဆီး ပစ်ခဲ့ပြီးနောက် ပြန်လည် သတိရသည့် သဘောဖြင့် မီးထွန်းပွဲကို ကျင်းပကြခြင်း ဖြစ်သည်။

မတ်လလောက်တွင် ကျရောက်သော ပူရင်း ခေါ် ပွဲတော်မှာ အပျော်ရွှင်ဆုံး ပွဲတော် ဖြစ်သည်။ လွန်ခဲ့သော နှစ်ပေါင်း ၂၃၀၀ ခန့်က ပါရှား အင်ပိုင်ယာ အတွင်းရှိ ဂျူးလူမျိုးများကို မျိုးပြုတ်အောင် ကြံစည်သည့် လူယုတ်မာ ဟာမန်၏ အကြံအစည်ကို ပျက်စီးအောင် ကြံဆောင်နိုင်သူ ဂျူးအမျိုးသမီး အစ္စသာကို ဂုဏ်ပြုကျင်းပသော ပွဲဖြစ်သည်။ မိမိကိုယ်မိမိ မထိန်းနိုင်လောက်အောင် အရက်သောက်ခွင့် မပြုသော အစဉ်အလာကို ရရှိခဲ့သည်။ ဤနေ့တွင် ဆင်းရဲသားများအား ပေးကမ်း စွန့်ကြဲခြင်းများ ကိုလည်း ပြုလုပ်ရသည်။

ခရစ်ယာန် ဘာသာဝင်တို့၏ အီစတာ ပွဲနေ့လောက်တွင် ကျရောက်သော ဂျူးတို့၏ ပွဲတော်ကား အထင်ရှားဆုံး ပွဲတော်ဖြစ်သော ပသခါ ပွဲပင်တည်း။ ပသခါ စားသောက်ပွဲတွင် မိသားစုတစ်ခုလုံး စုရုံးကြရပြီး ရိုးရာအစဉ်အလာ ချက်ပြုတ် စားသောက်ကြကာ သီချင်းဆိုခြင်း၊ အီဂျစ်ပြည်မှ ဂျူးများ လွတ်မြောက်လာခဲ့ပုံကို ပြောဟောခြင်းများ ပြုလုပ်ကြသည်။ စားသောက်ပွဲတွင် ထိုင်ခုံအလွတ်တစ်ခုကိုလည်း ထားရှိပြီး ဝိုင်အရက်တစ်ခွက်ကိုပါ တည်ချထားရသည်။ ကယ်တင်ရှင်ခေတ် ရောက်လာပြီ ဖြစ်ကြောင်းကို ပရောဖက်လေီယာက လာရောက် ပြောကြားနိုင်အောင်ထားရှိပေးခြင်း ဖြစ်သည်။ သူစိမ်းလူများနှင့် ဆင်းရဲသူများကိုလည်း ဖိတ်ခေါ်ကျွေးမွေးသည်။

ခုနစ်ပတ်တိတိ လွှမ်းဆွတ်ကြေကွဲပွဲကို ကျော်လွန်ခဲ့ပြီး နောက်ဆုံးနေ့ကား ပင်တေကုတ်ပွဲနေ့ ဖြစ်၏။ ခရစ်နှစ် ဒုတိယရာစုနှစ်အတွင်း ရောမတို့၏ လက်အောက်မှ ရုန်းထွက်ရန် တော်လှန်ပုန်ကန်ခဲ့ရာတွင် ကျဆုံးသွားခဲ့သော ဂျူးများနှင့် ထိုအချိန်လောက်တွင်ပင် ဂျူးဘုန်းကြီး အာကီဘာ၏ ကျောင်းသားငယ် ၂၄,၀၀၀ တို့မှာ ပလိပ်ရောဂါကြောင့် သေဆုံးခဲ့ရသည့် အတွက် ဝမ်းနည်းကြောင်း အထိမ်းအမှတ် ကျင်းပသောပွဲ ဖြစ်သည်။ ပင်တေကုတ်ပွဲတော်ကို ဆိုင်းနိုင်းတောင်ပေါ်တွင် ဘုရားသခင်၏ ပညတ်တော်များကို လက်ခံရရှိသည့် အထိမ်းအမှတ်ဖြင့် လည်းကောင်း၊ ကောက်ဦးကောက်သီး စားပွဲ အထိမ်းအမှတ်ဖြင့် လည်းကောင်း ကျင်းပသေးသည်။ ဘုရားရှိခိုးကျောင်းကို သစ်ပင်ပန်းမန်တို့ဖြင့် ဆင်ယင် ကျင်းပမြဲပင် ဖြစ်သည်။

အေဒီ ၇၀ ခုနှစ်တွင် ရောမတို့ ဖျက်ဆီး၍ ပျက်စီး ခဲ့ရသော ဂျေရုစလင်မြို့ရှိ ဘုရားသခင် ဗိမာန်တော် ဆုံးရှုံးမှုကို ဝမ်းနည်းသည့် အမှတ်ဖြင့် ကျင်းပသည့် ပွဲသည် ဇူလိုင်၊ ဩဂုတ်လ လောက်တွင် ကျရောက်သည်။ အလှအပ တန်ဆာဆင်ထားခြင်းတို့ကို ဘုရားရှိခိုးကျောင်းမှ ဖယ်ရှားပစ်ပြီး အစွဲအလမ်းကြီးသော ဂျူးတို့သည် အစာရှောင်ခြင်း၊ ငိုခြင်းများ၊ သီဆို မြည်တမ်းခြင်းများကို ပြုလုပ်တတ်ကြသည်။

အပြင်လူများအဖို့ ဘုရားသခင်၏ ဗိမာန်တော် ပျက်စီးရသည့် အတွက် ဤမျှ ပူဆွေး သောက ရောက်ကာ ငိုကြွေးနေခြင်းများ ဆက်တိုက် ပြုလုပ်နေခြင်းကို နားမလည်နိုင်အောင် ဖြစ်ကောင်း

ဖြစ်ပေလိမ့်မည်။ ရှေးအစဉ်အလာအရ လုပ်ကိုင်ခဲ့ကြသော ဘုန်းကြီးများ၏ ဘဝ ပုံသဏ္ဌာန်နှင့် တိရစ္ဆာန်များကို သတ်၍ ယဇ်ပူဇော်သော ဓလေ့ တို့မှာ အလွန်ရှေးကျသော ဘာသာ အဖြစ်သာ ရှိနေပေလိမ့်မည်။

ဗိမာန်တော် ပျက်စီး ဆုံးရှုံးသွားရသည့်အတွက် နောင်ကာလကျမှ အသစ်တည်ထောင်လာခဲ့သော အသင်းတော်သည် ပို၍ ဝိညာဉ်ရေးနှင့် နီးစပ်သော ဘာသာ ဖြစ်မြောက်လာအောင် ပျိုးထောင်ပေးလာနိုင်ခဲ့သည်။ အသက်သတ်၍ ယဇ်ပူဇော်သော ဓလေ့နေရာတွင် ဂုဏ်ပြုပွဲများအဖြစ် အစားထိုး လာနိုင်ခဲ့သည်။ ဤအတိုင်းဆိုလျှင် ဗိမာန်တော် ဆုံးရှုံးသွားခဲ့ခြင်းပင်လျှင် တစ်နည်းအားဖြင့် ကောင်းသေးသည်ဟု ပြောရမလိုလို ဖြစ်နေတော့သည်။ ခေတ်သစ်အယူရှိသော ဂျူးများသည် ဗိမာန်တော်ကို ပြန်လည် တည်ဆောက်နိုင်ရေး ဆုတောင်းခန်းကိုပင် စွန့်ပစ်ခဲ့ပြီး ဖြစ်သည်။

ရှေးဆန်သော ဂျူးဘာသာဝင်များကမူ ဗိမာန်တော် ဆုံးရှုံးရမှုအတွက် ဝမ်းနည်းကြေကွဲမဆုံး ဖြစ်နေကြဆဲပင် ရှိသေးသည်။ ယခု ဂျေရုစလင်မြို့၏ "အနောက်ဘက်" တံတိုင်း သို့မဟုတ် "ငိုကြွေးမည်တမ်း"သည့် တံတိုင်းမှာ ဘုရားသခင် ဗိမာန်တော်မှ ကြွင်းကျန်နေသော အစိတ်အပိုင်း တစ်ခုဖြစ်၍ ကမ္ဘာအရပ်ရပ်မှ ဂျူးများ ဘုရားဖူးလာရောက်သည့် အဓိက ရည်မှန်းချက်ပင် ဖြစ်နေပေသည်။ သို့သော် ယခုအချိန်တွင် ထိုဗိမာန်တော်ကို ပြန်လည် တည်ဆောက်လိုသော ဆန္ဒ မရှိကြချေ။

၁၉ ရာစု အတွင်းက ဂျေရုစလင်မြို့တွင် တိရစ္ဆာန်များကို သတ်၍ ယဇ်ပူဇော်ပွဲကို ပြန်လည် အသက်သွင်းရန် ကြံစည်ခဲ့ကြသော်လည်း ဂျူးဘုန်းကြီး အများစု၏ သဘောထားမှာ ယဇ်ပူဇော်ခြင်းသည် သူ့အသက်ကို သတ်ခြင်းနှင့် ဆိုင်သည့် မကောင်းမှုသာ ဖြစ်သည်ဟု ယူဆခဲ့ကြသည်၊ ဗိမာန်တော်ကို ကယ်တင်ရှင် လာရောက်သည့် ခေတ်တွင်သာ ပြန်လည် တည်ဆောက်နိုင်မည် ဖြစ်သည့်အပြင် ဘုရားသခင်၏ တိုက်ရိုက် အမိန့်တော်ဖြင့်သာ ဆောက်လုပ်ရမည် ဖြစ်သည်။

ဂျူးတို့၏ သမိုင်းခေတ် တစ်လျှောက်တွင် ကယ်တင်ရှင်ခေတ် ရောက်လာပြီဟု ပြောဆိုကြသည့် အခါပေါင်းလည်း မနည်းတော့ပေ။ ခရစ်နှစ် ဒုတိယရာစုအတွင်း ဆိမွန်ဘားကိုချဘာ ဆိုသူသည် ပါလက်စတိုင်းမှနေ၍ ရောမတို့ကို တော်လှန်သောအခါ သူ့ကို ဂျူးလူမျိုးများ၏ ကယ်တင်ရှင်ဟု သမုတ်ခဲ့ကြသည်၊ လွန်ခဲ့သော နှစ်ပေါင်း ၃၀၀ ခန့်ကလည်း လောကီပညာကို ကျွမ်းကျင်သော ဝိဇ္ဇာဆရာ တစ်ဦးဖြစ်သူ ဆာဘာတိုင်ဇ္ဇီ ဆိုသူသည် သူ့ကိုယ်သူ ကယ်တင်ရှင်ဟု ဆိုပြန်ရာ ဥရောပတိုက်ရှိ ဂျူးများမှာ လှုပ်လှုပ်ရွရွ ဖြစ်လာခဲ့ပြန်သည်။ ၁၉ ရာစုတွင် ဥရောပ အနောက်ပိုင်းရှိ နိုင်ငံများမှ ဂျူးလူမျိုးများမှာ အကန့်အသတ် အချုပ်အချယ်တို့မှ လွတ်မြောက်လာကြပြီး နိုင်ငံသားတစ်ဦး၏ တန်းတူရည်တူ အခွင့်အရေးများကို ရရှိလာကြသဖြင့် ကယ်တင်ရှင်ခေတ်သို့ ရောက်ရှိလာကြပြီဟု သတ်မှတ်ကြသည်။ တိုးတက် ပြောင်းလဲရေးကို လိုလားသော ဂျူးအုပ်စု၏ မူလလှုပ်ရှားမှုများမှာ ဤအခွင့်အရေးအတွက် လှုပ်ရှား

ခဲ့ခြင်း ဖြစ်သည်။ အထူးသဖြင့် ဂျာမနီနိုင်ငံတွင် လှုပ်ရှား ခဲ့ကြသည်၊ ၁၉၃၃ ခုနှစ်မှ ၁၉၄၅ ခုနှစ်အတွင်း တွေ့ကြုံခဲ့ရသော ဂျူးလူမျိုးများ၏ ဘေးဒုက္ခကို စဉ်းစားကြပြန်သောအခါ မူလအယူအဆကို ပြောင်းပစ်ကြရပြန်သည်။

ယနေ့တွင် ဘာသာရေး စိတ်ဓာတ် ပြင်းထန်သော ဂျူးများသည် အစ္စရေးနိုင်ငံ တည်ထောင်ခြင်းကို ကယ်တင်ရှင်ခေတ်သို့ တက်လှမ်းနိုင်မည့် ပထမ အဆင့် တစ်ရပ်သဖွယ် ယူဆ ထားလာကြပြန်သည်။

မူလ ထမတွင် ဇီယွန်ဝါဒသည် ဘာသာရေးနှင့် ဆိုင်သော လှုပ်ရှားမှု မဟုတ်ခဲ့ပေ။ ဇီယွန်ဝါဒကို စတင်ခဲ့သူ အများအပြားတို့မှာ ဘာသာတရားကို ဆန့်ကျင်ခဲ့သူများသာ ဖြစ်သည်။ ဘာသာရေးသမားများသည် ဇီယွန်ဝါဒကို သံသယ မျက်စိဖြင့် စောင့်ကြည့်နေကြသည်ဟု ဇီယွန်ဝါဒီတို့က ယူဆ ထားခဲ့ကြသည်။ ပြုပြင်ပြောင်းလဲမှုကို လက်ခံသော ဂျူးဘာသာဝင်များ၊ ဂျူးလူမျိုးများသည် မိမိတို့ နေထိုင်ကြသည့် အရပ်ဒေသတွင် လူမှုရေး အရသာ စုစုစည်းစည်း နေထိုင်ရေးကို အဓိကထားပြီး သီးခြားနိုင်ငံ တစ်နိုင်ငံအနေဖြင့် တည်ထောင်ရန် အစီအစဉ် မရှိခဲ့ချေ၊ ဘုရားသခင်၏ဆန္ဒကို လူသားများက ကြိုတင် အကောင်အထည် ဖော်ထားရန် မသင့်ဟူ၍ ရှေးထုံးစံ ရှိသေသူများက ယူဆကြသည်။ ကယ်တင်ရှင်သည်သာလျှင် ဂျူးလူမျိုးအတွက် နိုင်ငံတော် ဖွဲ့စည်း တည်ထောင်ပေးနိုင်ပေသည်။ လက်ယာအစွန်းရောက် ရှေးဟောင်းအယူ လက်ခံသူလူနည်းစုက ဤအယူအဆကို လက်ခံထားရှိဆဲပင် ရှိနေသည်။

အခြား တစ်ဖက်မှ ကြည့်ပြန်လျှင် ဂျူးလူမျိုးတို့သည် ပါလက်စတိုင်းဒေသကို စိတ်ဝင်စားသည်။ သူတို့၏ နိုင်ငံအဖြစ် ရယူလိုသည် ဆိုသော ကိစ္စကို အငြင်းပွားစရာ မရှိချေ။ ထိုရာကျမ်းအရ ဆိုပါမူ ပါလက်စတိုင်း ဒေသကို ဂျူးလူမျိုးများ နေထိုင်ရန် ထာဝရ ဘုရားသခင်က ပေးအပ်ခြင်း ဖြစ်သည်။ ဂျူးဘာသာသည် ဤဒေသ၌ နှစ်ပေါင်း ၃၀၀၀ ခန့် တစ်ဆက်တည်း ရှင်သန်စေခဲ့သည့် အပြင် ဂျေရုစလင်မြို့သည်လည်း ဤကာလမှ အချိန်အတွင်း ဂျူးတို့၏ မြို့တော်အဖြစ် ရှိနေခဲ့သည်။

၁၉ ရာစုတွင် ဂျူးအစဉ်အလာ ကစ်ရပ် ပေါ်ထွက်လာခဲ့သည်။ ဘာသာရေး အစွဲအလမ်း ကြီးသော ဂျူးလူမျိုးများသည် အသက်အရွယ် ကြီးပြင်းလာသောအခါ သူတို့၏ မြင့်မြတ်သော နိုင်ငံတော်သို့ သွားရောက်၍ သေလွန်ကြသည်။ ယင်းတို့သည် ယခုလက်ရှိ ဂျေရုစလင်မြို့သစ်ကို တည်ထောင်ခဲ့ကြသည်။

ဂျူးလူမျိုးများအပေါ် ဟစ်တလာ၏ ရက်စက်မှု ဖြစ်ပေါ်ပြီးနောက်တွင် အစ္စရေးနိုင်ငံကို တည်ထောင်လိုက်မှုကြောင့် ဘာသာရေးစိတ် ပြင်းပြသော ဂျူးလူမျိုးတို့သည် ဤကိစ္စကို ထာဝရ ဘုရားသခင်၏ လုပ်ရပ်အဖြစ် လက်ခံလာကြသည်။ ယုတ်စွအဆုံး စဉ်းစားလျှင်ပင် ဂျူးဘာသာကို ထိန်းသိမ်းသွားရန် တည်တံ့အောင် ဆောင်ရွက်ရန် လိုအပ်လာသည်။ "ဆယ့်တစ်ပါးမြောက်"ဖြစ်သော ပညတ်တော်မှာ "မျိုးမပြတ်အောင် နေထိုင်တတ်ရမည်" ဟူသတည်း။

မည်သို့ပင် ရှိစေကာမူ ကယ်တင်ရှင် လာမည့် ခေတ်ကား ရောက်ရှိ လာပေဦးမည်။ ရှေးဟောင်း အယူဝါဒ လက်ခံသူများ

ယူဆထားကြသည်မှာ ကယ်တင်ရှင်သည် တန်ခိုးဣဒ္ဓိပါဒ်နှင့် ပြည့်စုံသူ ခေါင်းဆောင်တစ်ဦး ဖြစ်မည်။ လူသားတစ်ဦးပင် ဖြစ်မည်ဟု ဆိုထားသော်လည်း လူအများ အာရုံစိုက်နေကြသည့် အချက်ကား ထိုကယ်တင်ရှင်ကို ပုဂ္ဂိုလ်အရ စွဲလမ်းမှုမျိုး မဟုတ်ဘဲ ထိုပုဂ္ဂိုလ် ဦးဆောင်မည့် ကယ်တင်ရှင် ခေတ်ကာလကိုသာလျှင် ဖြစ်သည်။ ထိုခေတ်သည် ကမ္ဘာတစ်ခုလုံးအတွက် အလွန်ကောင်းသော ကာလ ဖြစ်ပေလိမ့်မည်။ လူသားများ၏ အလုပ်ကိုလိုက်၍ ဘုရားသခင်၏ တုံ့ပြန်မှုကို ရရှိကြလိမ့်မည်။

လူသားအားလုံးသည် ထာဝရ ဘုရားသခင်ကို အသိအမှတ်ပြုလာကြမည်ဖြစ်ပြီး ဂျူးလူမျိုးများက ဘုရားသခင်၏ တရားဟောဆရာများအဖြစ် ဆောင်ရွက်ကြရလိမ့်မည်။ အခြေအနေ အသေးစိတ်မည်သို့ ဖြစ်ပေါ်မည်ကို မည်သူမျှ မပြောနိုင် သော်လည်း တစ်နေ့တွင် ခေတ်ကောင်းနှင့် ကြုံကြိုက်ရမည် ဆိုခြင်းကိုမူကား မြဲမြဲကြီး လက်ခံတ်မလွဲ ယုံကြည်နိုင်သည်။

ဤကဲ့သို့ဖြင့် ဂျူးဘာသာတွင် အတော မသတ်နိုင်သော အကောင်းမြင် ဝါဒများ ရှိပါလေသည်။

## ဂျိန်းဘာသာ

ဂျိန်းဘာသာ–ဘုရားကို တိရတ္ထင်္ကရဟု ခေါ်သည်၊ ဂျိန်းဘာသာအရ တိရတ္ထင်္ကရ နှစ်ဆယ့်လေးဆူ ရှိသည်။ လွန်ခဲ့သော ကာလမှစ၍ နောက်ဆုံး မဟာဝီအရ အထိ နှစ်ဆယ့်လေးဆူ ဖြစ်သည်။ ပထမဦးဆုံး

တိရတ္ထံကရမှာ ရာသသဒေဝ အမည်ရှိသည်။ နောက်ဆုံးဖြစ်သော မဟာဝီရ၏ အမည်မှာ ဝဒ္ဓမာနဖြစ်၏။

မဟာဝီရ၏ အဓိပ္ပာယ်ကား သူရဲကောင်းကြီးဟုရ၍ တိရတ္ထံကရ၏ အဓိပ္ပာယ်ကား ဆရာသမားဟူ၍ ဖြစ်သည်။ မဟာဝီရသည် ဘီစီ ၆ ရာစုနှစ်လောက်တွင် ပွင့်တော်မူခဲ့သဖြင့် ဗုဒ္ဓနှင့် ခေတ်ပြိုင်လောက်ကျသည်။

မဟာဝီရ မတိုင်မီက နောက်ဆုံး ပွင့်ခဲ့သော တိရတ္ထံကရမှာ ပါရရွနာထဖြစ်ပြီး ဘီစီ ၉ ရာစုတွင် ဖွင့်ခဲ့သည်။ ကျန် ၂၂ ပါးသော တိရတ္ထံကရတို့မှာ ရာဇဝင်သမိုင်း မတင်မီ ခေတ်ကာလတွင် ပွင့်ခဲ့ကြသည်ဟု ဆိုသည်။

ဂျိန်းဘာသာကို ဇိနဝါဒ ဟူ၍လည်း ခေါ်ကြသည်။ အောင်မြင်သူဟူ၍ အဓိပ္ပာယ်ရသည်။ ၂၄ ပါးသော တိရတ္ထံကရတို့ကို ဇိနဟူ၍ ခေါ်ဆိုကြသည်။ ယင်းတို့ အားလုံးသည် ရာဂဒေါသ အားလုံးကို အောင်မြင်၍ အနှောင်အဖွဲ့မှ လွတ်မြောက်ကာ မောက္ခသို့ ရောက်ရှိသွားသောကြောင့် ဖြစ်သည်။

ဂျိန်းဘာသာသည် ထာဝရ ဘုရား အယူဝါဒကို လက်မခံချေ၊ ဂျိန်းဘာသာကို တည်ထောင်သော တိရတ္ထံကရများ ကိုသာ ကိုးကွယ်ကြသည်။ တိရတ္ထံကရများသည် တစ်ခါက အနှောင်အဖွဲ့၌ ကျင်လည်နေခဲ့ရသူများ ဖြစ်ပြီး ကြိုးစားသဖြင့် လွတ်မြောက် လာသူများဖြစ်သည်။ လွတ်မြောက်လာသောအခါ သဗ္ဗညုတဉာဏ်ကိုရလျှင် အရာရာကို ပြီးမြောက်စေနိုင်သော တန်ခိုးဣဒ္ဓိပါတ်များဟုလည်း ရရှိသွားသည်။

ယခု အနှောင်အဖွဲ့၌ နေကြရသော ဓိဝခေါ် ဝိညာဉ်တိုင်းသည်လည်း ဇိနတို့၏ နည်းအတိုင်း လိုက်နာ ကျင့်ကြံခြင်းအားဖြင့် လွတ်မြောက်နိုင်ပြီး တန်ခိုးအာဏာများ ရနိုင်သည်ဟု ဂျိန်းဘာသာဝင်များက ယုံကြည်ကြသည်။ ဤကဲ့သို့သော အကောင်းမြင် ဝါဒကြောင့် ဂျိန်းဘာသာဝင်တိုင်းတွင် ကိုယ့်ကိုယ်ကို ယုံကြည်မှု အပြည့်အဝ ရရှိစေနိုင်သည်။

ကိုယ်တိုင် ကြိုးစားခြင်းဖြင့် လွတ်မြောက်နိုင်ပုံကို အဆက်ဆက် ပွင့်တော်မူခဲ့သော ဇိနများက ညွှန်ပြသွားခဲ့သည်။

အချိန်ကာလ ကြာမြင့်လာသောအခါ ဂျိန်းဘာသာမှာ ဂိုဏ်းကြီးနှစ်ဂိုဏ်း ကွဲထွက်လာခဲ့သည်၊ သေတမ္ဗရဂိုဏ်းနှင့် ဒိဃမ္ဗရဂိုဏ်းတို့ဖြစ်သည်။ ဂိုဏ်းကွဲရခြင်း အကြောင်းကား အခြေခံ အယူဝါဒအရမဟုတ်ပေ။ ကျင့်ပုံကျင့်နည်းများတွင် ကွဲပြားခြင်းသာ ဖြစ်သည်၊ ဇိန၏ အဘိဓမ္မာကို နှစ်ဂိုဏ်းစလုံးကပင် လက်ခံကြသည်၊ ဒိဃမ္ဗရဂိုဏ်းမှာကား တင်းကျပ်သော ဝိနည်းများ ထားရှိပြီး သေတမ္ဗရဂိုဏ်းမှုကား ပုထုဇဉ်လူသားများနှင့် ကိုက်ညီအောင် ခွင့်ပြုထားသည်။ ဒိဃမ္ဗရဂိုဏ်း အလိုအရ တရားကျင့်ကြံသူတို့သည် အဝတ်အစားကဲ့သို့သော ကိုယ်ပိုင် ပစ္စည်းများပင်လျှင် စွန့်နိုင်ရသည်ဟု ဆိုသည်။ သေတမ္ဗရတို့ကမူ အဝတ်ဖြူကို ဝတ်ဆင်နိုင်သည်ဟု လက်ခံထားကြသည်။

ဒိဃမ္ဗရတို့ အယူကား သိဒ္ဓိပြီးမြောက်သော သူတော်စင်တို့သည် အစားအသောက်ကိုပင် စားသောက်ခွင့် မရှိတော့ပေ၊ အမျိုးသမီးတို့သည်လည်း ယောကျ်ား ဘဝဖြင့် ပြန်၍ မဖြစ်ကြရလျှင်

လွတ်မြောက်မှုကို မရရှိနိုင်။ သေတမ္ဗရတို့ကား ဤအယူအဆမျိုးကို လက်မခံချေ။

ဂျိန်းဘာသာ၏ စာပေကျမ်းဂန် အများအပြားကို ပရာကရစ် ဘာသာဖြင့် ရေးသားထားရှိသည်။ ဂိုဏ်းအားလုံး လက်ခံလာသော ဤစာပေကျမ်းဂန်များမှာ နောက်ဆုံး ဇိန ဖြစ်သော မဟာဝီရ၏ ဟောကြားချက်များပင် ဖြစ်သည်။ စာပေကျမ်းဂန်များမှာ များလွန်း၍ ဖော်ပြရန်ပင် မလွယ်ကူပေ၊ စောစောပိုင်း စာပေကျမ်းဂန် အများအပြားမှာ ပျောက်ဆုံးခဲ့ကြပြီး ဖြစ်သည်။

ဂျိန်းဘာသာသည် အခြားဘာသာများ၏ စွပ်စွဲ ဝေဖန်ချက်များကို ခုခံကာကွယ် ရေးသားကြသဖြင့် ထိုသို့ ရေးသားချက်များကို သက္ကဋ ဘာသာဖြင့် ထားရှိသည်။ ဤနည်းဖြင့် သက္ကဋ ဘာသာတွင်လည်း ဂျိန်းဘာသာ စာပေကျမ်းဂန်များကို တွေ့ရှိနိုင်သည်။

ဂျိန်းဘာသာတွင် အရာဝတ္ထုတိုင်းကို သက်ရှိနှင့် သက်မဲ့ ဟူ၍ နှစ်မျိုး ခွဲခြားထားကြသည်။ သက်ရှိ သတ္တဝါတိုင်းသည် ကိုယ်ခန္ဓာ မည်သို့ မည်ပုံပင် ရှိနေကြသည်ဖြစ်စေ ဇီဝ ခေါ် ဝိညာဉ်ကလေး တစ်ခုလောက်တော့ ရှိစမြဲပင်။ သူတစ်ပါးအသက်ကို မထိခိုက်စေရသော အကျင့် အဟိံသသည် ဂျိန်းဘာသာတွင် အရေးကြီးသော ပညတ်ချက် တစ်ခုပင် ဖြစ်သည်။ သူတစ်ပါးအသက်ကို မသတ်ရသော အကျင့်နှင့်အတူ အခြားသူများ၏ သဘောထားကိုပါ ရိုသေလေးစားရသော အကျင့်လည်း ပါလာခဲ့သည်။

ဇီဝ ခေါ် ဝိညာဉ်သည် သိတတ်သော စိတ်ရှိပြီး လောကီ အနှောင်အဖွဲ့ထဲ၌ ဒုက္ခအပေါင်းကို ခံနေရသည်။ အနှောင်အဖွဲ့မှ

လွတ်မြောက်အောင် လုပ်နိုင်လျှင် ဝိညာဉ်များသည် အကန့်အသတ်မရှိသော အသိဉာဏ်၊ အကန့်အသတ်မရှိသော တန်ခိုးအာဏာနှင့် အကန့်အသတ်မရှိသော ကောင်းကျိုးချမ်းသာများကို ခံစား စံစားနိုင်ပေသည်။

ကောင်းကင်ပြင်၌ မိုးတိမ် မိုးသားများနှင့် မြူခိုးများ ရှင်းလင်းသွားသောအခါ နေ၏အလင်းရောင်သည် ကမ္ဘာလောကကြီး တစ်ခုလုံးသို့ ထွန်းလင်း တောက်ပနိုင်သကဲ့သို့ အနှောင့်အယှက် အတားအဆီးများကို ဖယ်ရှားပစ်နိုင်သောအခါ ဝိညာဉ်သည်လည်း သဗ္ဗညုတဉာဏ်ကို ရရှိနိုင်သည်။ ဝိညာဉ်များ လွတ်မြောက်ခြင်းကို မရနိုင်ကြသည်မှာ ရုပ်ကြောင့်ဖြစ်သည်။ ရုပ်က ဝိညာဉ်၏ မူလအရည်အသွေးများကို အုပ်စီးထားသည်။ ဝိညာဉ်မလွတ်မြောက်နိုင်အောင် ချုပ်နှောင်ထားသူကား မိမိ၏ ရုပ်ခန္ဓာကိုယ်ပင် ဖြစ်သည်။

ခန္ဓာကိုယ် ပုဂ္ဂလဟု ခေါ်သော ရုပ်ဝတ္ထု အငိုင်အခဲများဖြင့် ဖွဲ့စည်း တည်ဆောက် ထားသည်။ ရုပ်ခန္ဓာကိုယ် တစ်မျိုးမျိုးကို ရုပ်ဝတ္ထု အစိုင်အခဲ အမျိုးအစား တစ်မျိုးမျိုးဖြင့် စုစည်းထားသည်။

ရုပ်ခန္ဓာကိုယ် ဖြစ်ပေါ်လာရေးတွင် ဝိညာဉ်၏ စိတ်သည် အရေးကြီးသော ပဓာနကျသည့် အခန်းမှ ပါဝင်သည်၊ ဝိညာဉ်သည် မိမိ၏ စိတ်တွင် လိုလားသော ခန္ဓာကိုယ်မျိုးကို ရရှိလာခြင်း ဖြစ်သည်။

ဝိညာဉ်၏ လွန်ခဲ့သော ဘဝက ကံတရားများ ဖြစ်သော မနောကံ၊ ဝစီကံနှင့် ကာယကံတို့ အားလုံး ပေါင်းရုံး၍ ယခုဘဝကို လိုချင်အောင် စီမံပေးသည်။ ထိုကံတရားသည်ပင်လျှင် ယခုဘဝ၌

ရုပ်ခန္ဓာကိုယ် ရအောင် ဆောင်ကျဉ်းပေးသည်။ ဝိညာဉ်နှင့် မိမိ၏ စိတ် သို့မဟုတ် ကံတရားတို့သည် ရုပ်ခန္ဓာကိုယ် ဖြစ်ပေါ်လာအောင် စေ့ဆော်သူ ဖြစ်ကြောင်းနှင့် ပုဂ္ဂလ ဟူသော ရုပ်သည်ကား ရုပ်ခန္ဓာကိုယ် ဖြစ်ပေါ်လာရေး အတွက် အခြေခံပစ္စည်းပင် ဖြစ်ကြောင်း ဂျိန်းဘာသာက ယူဆသည်။

ဝိညာဉ်ရရှိလာသော ကိုယ်ခန္ဓာ အဖွဲ့အစည်းတွင် ရုပ်သဘော ရုပ်ခန္ဓာကိုယ်သာ မကသေးဘဲ အာရုံငါးပါးစိတ်နှင့် ဝိညာဉ်တန်ခိုး အာနိသင်များကို ထိန်းချုပ်ထားနိုင်သော အခြား အင်အားစုများလည်း ပါဝင်လေသည်။

မိဘများထံမှ ရရှိလာသော ရုပ်ခန္ဓာကိုယ်သည် အလိုလို မမျှော်လင့်ဘဲ ရရှိလာခြင်းမျိုး မဟုတ်ချေ။ မိမိတို့ မွေးဖွားရမည့် မိသားစုကိုပါ ကံတရားက ရွေးချယ် သတ်မှတ် ပေးသည်သာ မက မိမိ ရရှိမည့် ခန္ဓာကိုယ်၏ အရောင်အဆင်း၊ အရပ် အနိမ့်အမြင့်၊ ပုံပန်းသဏ္ဌာန် အသက်အပိုင်းအခြားနှင့် အာရုံပေါက်များ၏ အခြေအနေ တို့ကိုပါ သတ်မှတ်ပေးသည်။

ဝိညာဉ်ကို အနှောင်အဖွဲ့သို့ ကျရောက်စေသည့် စေတသိက် တို့ကား ဒေါသ၊ မာန၊ လောဘနှင့် မောဟတို့ပင် ဖြစ်သည်။ ဤစိတ်များကို စေးကပ်သောဝတ္ထုဟု ခေါ်သည်။ အဘယ်ကြောင့် ထိုသို့ခေါ်ရသနည်းဟူမူ ယင်းတို့သည် ဝိညာဉ်နှင့် ရုပ်ဝတ္ထုတို့ကို မကွဲကွာအောင် ကပ်ထားနိုင်သောကြောင့် ဖြစ်သည်။

ဂျိန်းဘာသာ၏ အနှောင်အဖွဲ့ တရားကား စိတ်စေတသိက် ယှဉ်သော ဝိညာဉ်သည် ကမ္မတရားအတိုင်း ရုပ်ဝတ္ထုကို လက်ခံရယူ

လိုက်၍ ဖြစ်ပေါ်လာရခြင်း ဖြစ်သည်။ ဝိညာဉ်၏ စိတ်စေတသိက်သည် အနှောင်အဖွဲ့ ကျရောက်ရခြင်း၏ အခြေခံကျသည့် အတွင်းအကြောင်းရင်း ဖြစ်ပြီး ဝိညာဉ်ဆီသို့ ရုပ်ဝတ္ထု ကပ်ရောက်လာခြင်းမှာ အကျိုးတရားသာ ဖြစ်သဖြင့် ဂျိန်းဘာသာ ပညာရှင်များက ဝိညာဉ်အချုပ်အနှောင်သို့ ကျသွားရခြင်း၏ အဓိက မူလ တရားခံမှာ စိတ်သာလျှင် ဖြစ်သည်ဟု ဆိုကြကုန်သည်။

ဝိညာဉ်၏ အနှောင်အဖွဲ့ ကျရောက်ရခြင်းသည် ရုပ်ဝတ္ထုနှင့် ဆက်သွယ် ပေါင်းစပ်မှုကြောင့် ဖြစ်ရသည်ဟုဆိုလျှင် ဝိညာဉ်နှင့် ရုပ်ဝတ္ထုတို့ လုံးဝ ခွဲထုတ်ပစ်နိုင်သော လွတ်မြောက်မှုကို ရရှိနိုင်မည်ဖြစ်သည်။ ဤအတိုင်းသာဆိုလျှင် ဝိညာဉ်သို့ ရုပ်ဝတ္ထု အသစ်သစ်တို့ ဝင်ရောက်လာခြင်းကို ရပ်စဲပစ်ရမည့်အပြင် ရှိနေပြီး ရုပ်ဝတ္ထုများကိုပါ လုံးဝ ရုပ်သိမ်းပစ်ရန် လိုအပ်နေပေသည်။

ဝိညာဉ်နှင့် ရုပ် တွယ်ကပ်မိခြင်းသည် ဝိညာဉ်၏ စိတ်စေတသိက်များကြောင့် ဖြစ်၏၊ စိတ်စေတသိက် ဖြစ်ပေါ်ရခြင်း၏ အကြောင်းရင်းသည် အဝိဇ္ဇာခေါ် အသိအလိမ္မာမဲ့မှုကြောင့် ဖြစ်လာရကြောင်းကို တွေ့ရှိရပြန်သည်။ ဝိညာဉ်နှင့်တကွ အခြား မည်သည့် အရာကိုမျှ အမှန်အတိုင်း မသိမှုကြောင့် လောဘ၊ ဒေါသ၊ မောဟ၊ မာနတို့ ဖြစ်ပေါ်လာရသည်။ အသိအလိမ္မာမဲ့မှု၊ ဝိဇ္ဇာကို အသိအလိမ္မာရှိမှု ဝိဇ္ဇာဖြင့်သာလျှင် ဖယ်ရှားပစ်နိုင်သည်။ ထို့ကြောင့် ဂျိန်းဘာသာသည် အမှန်တရားကို သိမြင်နားလည်ရေးကို အလေးပေးထားသည်။ အမှန်တရားကို သိမြင်နားလည်ရန်မှာ သဗ္ဗညုတဉာဏ်ကို ရရှိသွားခဲ့ကြသော တိရတ္ထင်္ကရ ဆရာများ၏ ဟောပြော ဆုံးမချက်မှုများကို

ဂရုတစိုက် လေ့လာနိုင်မှ ရရှိနိုင်သည်။ ဤသို့ နားလည် သဘော ပေါက်နိုင်မှလည်း အခြားသူများ အနှောင်အဖွဲ့မှ လွတ်မြောက်အောင် နည်းလမ်း ပြပေးနိုင်မည် ဖြစ်သည်။ ဗိနဲဘုရားများ ဟောကြားသော စာပေ ကျမ်းဂန်များကို မလေ့လာမီ ယင်းတို့၏ အယူဝါဒကို ယုံကြည် သက်ဝင်ရန်နှင့် အရေးကြီးသော အချက်များကို သိထားရန် လိုအပ်သည်။

တရားတော်များကို တတ်သိနားလည်ထား၍ မှန်ကန်စွာ သဒ္ဓါ ယုံကြည်မှု ရှိလာသောအခါ မှန်ကန်သော အသိဉာဏ်ကို လက်တွေ့ အသုံးမချလျှင် ထိုအသိဉာဏ်ကား အချည်းနှီးသာ ဖြစ်နေလိမ့်မည်၊ ထို့ကြောင့် မှန်ကန်စွာ ပြုမူ ကျင့်ကြံနိုင်ရေးသည်လည်း အနှောင်အဖွဲ့မှ လွတ်မြောက်ရေးအတွက် တတိယမြောက် အရေးကြီးသော အချက် တစ်ရပ် ဖြစ်သည်။

မှန်ကန်စွာ ပြုမူ ကျင့်ကြံရာတွင် မကောင်းသော စိတ်စေတသိက် များ၊ အာရုံများ၊ ကာယကံ၊ ဝစီကံ၊ မနောကံများ အားလုံးကို မှန်ကန်သော အသိဉာဏ်က ထိန်းအုပ် ပေးနိုင်မည် ဖြစ်သည်။ ဤသို့ဖြင့် ကံအသစ်လည်း ထပ်မဝင်လာနိုင်ဘဲ ရှိပြီး ကံများလည်း အမြစ်ပြတ်သွားကာ ဝိညာဉ်ကို အနှောင်အဖွဲ့သို့ ရောက်စေသော ရုပ်ဝတ္ထုကို တဖြည်းဖြည်း ပပျောက်သွားစေနိုင်မည် ဖြစ်သည်။

မှန်ကန်သော သဒ္ဓါယုံကြည်မှု၊ မှန်ကန်သော အသိဉာဏ်နှင့် မှန်ကန်သော ပြုမူကျင့်ကြံ နေထိုင်မှု တို့သည် ဂျိန်းဘာသာ၏ ရတနာသုံးပါးဟု ခေါ်ဆိုကြသည်။ ဂျိန်းဘာသာ၏ ပထမဦးဆုံးသော သုတ္တန်ကျမ်းတွင် ဤရတနာသုံးပါးကို ဖော်ပြထားသည်။ အနှောင်

အဖွဲ့မှ လွတ်မြောက်ရာ မဂ္ဂင်လမ်းသည်ကား ဤရတနာသုံးပါးပင် ဖြစ်သည်။ သံသရာမှ လွတ်မြောက်မှုသည် ဤသုံးပါး၏ ပေါင်းစပ်မှု ကြောင့် ရအပ်သော အကျိုးရလာဒ်သာတည်း။

## ကွန်ဖူးရှပ်ဘာသာ

ကွန်ဖူးရှပ်၏ နာမည် အမှန်မှာ ကွန်ဖူရှာသာ ဖြစ်သည်။ အဓိပ္ပာယ်မှာ ဆရာကြီးဟု ရသည်။ တရုတ်တို့သည် ကွန်ဖူးရှပ်က လက်ဦးဆရာဟု ခေါ်ကြသည်၊ ထိုသို့ ခေါ်ရခြင်းမှာ ကွန်ဖူးရှပ် မတိုင်မီက ဆရာတစ်ယောက်မျှ မရှိခဲ့၍ ခေါ်ကြခြင်း မဟုတ်ဘဲ ရှိသမျှ ဆရာများ အနက် ကွန်ဖူးရှပ်က ထိပ်ဆုံးမှ ပြေးနေကြ သောကြောင့်သာ ဖြစ်သည်။

ကွန်ဖူးရှပ် တစ်ဦးတည်းက တရုတ်ယဉ်ကျေးမှုကို ပျိုးထောင် ပေးခဲ့သည်ဟု မည်သူကမျှ မဆိုပေ။ သူကိုယ်တိုင်ကလည်း သူ့ကိုယ်သူ "ရှေးဟောင်းအမွေအနှစ်ကို ကြိုက်နှစ်သက်သူ"ဟူ၍ ပြောရသည်ကို ကြိုက်သည်။ ကွန်ဖူးရှပ်သည် တရုတ်ယဉ်ကျေးမှုကို မွေးထုတ်ပေးခဲ့သူ မဟုတ်သော်လည်း တည်းဖြတ်ပြင်ဆင်ပေးသူ ဟူ၍ကား ခေါ်ဆိုနိုင်သည်။ သူ့ခေတ်မတိုင်မီက ရှိနေပြီးသော ယဉ်ကျေးမှုကို စစ်ဆေးပြင်ဆင်၍ သူ့ခေတ် အခြေအနေနှင့် ညှိနှိုင်းကာ ပျိုးထောင် ပေးလိုက်သည်မှာ နှစ်ပေါင်း ၂၅၀၀ ခန့် ကြာသည် အထိ လုံးဝ ပြင်ဆင်ရန် မလိုဘဲ အသုံးပြုလာခဲ့ကြသည်။

ယခုခေတ် ရှန်တုန်မြို့နယ်ရှိ ထိုစဉ်က လူ့နယ်တွင် ကွန်ဖူးရှပ်ကို ဘီစီ ၅၅၁ ခုနှစ် ပတ်ဝန်းကျင်၌ မွေးဖွားခဲ့သည်။ သူ၏ မိဘမျိုးရိုး

အခြေအနေကို အတိအကျ မသိရသော်လည်း ငယ်စဉ်တောင်ကျေး ဘဝတွင် ကောင်းမွန်စွာ နေခဲ့ရသည်ဟု ယူဆကြသည်။

ကွန်ဖူးရှပ်သည် အသက် သုံးနှစ် မပြည့်မီ သူ၏ဖခင်မှာ သေဆုံးသွားခဲ့သည်၊ ဖခင် မရှိတော့၍ ငယ်စဉ်ကပင် အလုပ်လုပ်၍ ဝမ်းကျောင်းခဲ့ရသည်။ ငယ်စဉ်က ဆင်းရဲပင်ပန်းခဲ့ရသည့် အတွက် ဆင်းရဲသားများနှင့် လက်ပွန်း တတီး နေထိုင်ခဲ့ရရာ နောင်အခါ သူ၏အတွေးအခေါ်တွင် သူ၏ အတွေ့အကြုံများ ရောင်ပြန်ဟပ်ခဲ့လေသည်။

သူ၏ ငယ်စဉ် ဘဝတွင် အမဲလိုက်ခြင်း၊ ငါးမျှားခြင်းနှင့် လေးအတတ် သင်ကြားခြင်း အကြောင်းများကို ဖော်ပြထားကြောင်း တွေ့ရှိရသည့် တိုင်အောင် ကွန်ဖူးရှပ်သည် ငယ်စဉ်မှစ၍ ပညာသင်ကြားခဲ့ရသည်ကိုလည်း သိရှိရသည်။ "အသက် ဆယ့်ငါးနှစ်ထဲ ရောက်လာတော့ ကျွန်ုပ်ဟာ စာပေသင်ကြားရတာကို စိတ်ပါလာတော့တယ်"ဟု ဖော်ပြထားသည်။

အသက် နှစ်ဆယ်ကျော်ကျော်လောက်တွင် အစိုးရ ရာထူး အချို့၌ ဝင်ရောက် လုပ်ကိုင်ခဲ့ပြီး အိမ်ထောင် ပြုခဲ့သည်။ ထိုနောက်တွင်ကား လူငယ်များအား စာပေ သင်ကြား ပြသသော အလုပ်ကို လုပ်ကိုင်နေသည်။ ဤအလုပ်သာလျှင် သူ၏ အသက်မွေးဝမ်းကျောင်း အလုပ် ဖြစ်လာခဲ့သည်။ သူ၏ ကျော်စော သတင်းများ ပျံ့နှံ့သွားရာ တပည့်တပန်းများ ဝိုင်းဝိုင်းလည်နေတော့သည်။

အသက် ၅၀ အရွယ်မှစ၍ ကွန်ဖူးရှပ်သည် ပြည်နယ်တစ်ခုမှ တစ်ခုသို့ လှည့်လည်သွားလာကာ သူ၏ အယူအဆများကို လက်ခံ

နိုင်မည့် ဘုရင်တစ်ပါးပါးကို တွေ့နိုးနိုး ရှာဖွေလျက် ရှိနေသည်။ ကွန်ဖူးရှပ်သည် အစိုးရ အုပ်ချုပ်ရေး ပညာများကို သင်ကြား ဟောပြောနေသော်လည်း မည်သူမျှ သူ၏ အယူအဆကို လက်တွေ့ အကောင်အထည် မဖော်လိုကြပေ။

တစ်ခါတွင် ချန်ပြည်နယ်ရုံးတော်မှ ဖိတ်ကြားသဖြင့် လိုက် သွားရာ သူ့ကို ဖိတ်ခဲ့သူမှာ အစိုးရကို တော်လှန်ပုန်ကန်နေကြောင်း တွေ့ရှိရ၍ အမှုမပတ်စေလိုသဖြင့် ဖိတ်ခေါ်ချက်ကို ငြင်းပယ်ကာ တပ်ခေါက် ပြန်ခဲ့ရသည်။ ကွန်ဖူးရှပ်မှာ တစ်နိုင်ငံမှ တစ်နိုင်ငံသို့ ပြေးလွှား သွားလာနေရ၍ လူများက ဝေဖန် ပြောဆိုကြကုန်သည်။ လူတစ်ယောက်က "ကွန်ဖူးရှပ်ဟာ တကယ် လူတော်တစ်ယောက်ပါ ပဲဗျာ၊ သူဟာ ဘာသာတိုင်းကို တတ်ပေမယ့် ဘယ်ဘာသာမှ မထူးချွန်ဘူး" ဟူ၍ မှတ်ချက်ပြုခဲ့သည်။

သူ၏ပြည်နယ်၌ အစိုးရအုပ်ချုပ်ရေး အပြောင်းအလဲဖြစ်ပြီး နောက် ပြန်လည် ရောက်ရှိသွားသည်။ သို့သော် အစိုးရ ဝန်ထမ်း ဝင်ရောက်ရန် အသက်ကြီးလွန်းနေပြီဖြစ်၍ မည်သည့် ရာထူးကိုမျှ မရရှိဘဲ မသေမီ ငါးနှစ်လုံးလုံးကို စာပေသင်ကြားခြင်း၊ စာပေ ကျမ်းဂန်များကို တည်းဖြတ် ပြင်ဆင်ခြင်းများ ပြုလုပ်နေလေတော့ သည်။ ဘီစီ ၃၇၉ ခုနှစ် အသက် ၃၇ ခုနှစ်တွင် ကွယ်လွန်ခဲ့လေသည်။

နိုင်ငံရေးအရ အောင်မြင်သူတစ်ယောက် မဟုတ်ခဲ့သော်လည်း အောင်မြင်သော ကမ္ဘာ့အတွေးအခေါ်ရှင်ကြီး တစ်ယောက် အဖြစ် ထင်ရှားခဲ့သည်။ သမိုင်း၊ ကဗျာ၊ အစိုးရ အုပ်ချုပ်ရေးပညာ၊ ပစ္စည်း ပိုင်ဆိုင်ခွင့် ပညာ၊ သင်္ချာ၊ ဂီတ၊ ဘာသာရေးနှင့် အားကစား

ဘာသာရေး တို့ကို သင်ကြား ပို့ချနိုင်ခဲ့ရာ အနောက်တိုင်းမှ ဆိုကရေးတီးကဲ့သို့ လူတစ်ဦးတည်း တက္ကသိုလ်မျိုးပင် ဖြစ်သည်၊ ကျောင်းသားများကို သင်ပြပုံမှာလည်း ဆိုကရေးတီး သင်ပြပုံအတိုင်း ဖြစ်သည်။ သာမန် စကားပြောရင်း ဆိုရင်း သင်ပြ သွားတတ်ရာ စာပြနေသည်ဟူ၍ပင် မထင်မှတ်ကြဘဲ သူ့ကပည့်များ မေးမြန်းသော ပြဿနာများကို အပြန်အလှန် ဆွေးနွေးရင်း သင်ပြသွားသည်။

လူတစ်ယောက်သည် တစ်စုံတစ်ခုကို မလုပ်မီ သုံးကြိမ်သုံးခါ စဉ်းစားပြီးမှ လုပ်သင့်သည်ဟု တစ်ယောက်သောသူက ကွန်ဖူးရှပ်ကို တင်ပြရာ "နှစ်ကြိမ်နှင့်ပင် လုံလောက်ပြီ" ဟု ဖြေဆိုခဲ့ဖူးသည်။ သူကိုယ်တိုင် မှားနိုင်ကြောင်းကို ဝန်ခံရန် ဝန်မလေးပေ။ အကြိမ်ပေါင်းများစွာပင် သူကိုယ်တိုင် မှားခဲ့ကြောင်းကိုလည်း တွေ့ရှိရသည်။

ကွန်ဖူးရှပ်သည် ဆင်းရဲသား အဖိနှိပ်ခံ ဘက်မှ အမြဲတမ်း ပါဝင် တိုက်ခိုက်ခဲ့လေ့ ရှိသည်။ ဆင်းရဲ၍ ကျောင်းစရိတ် မပေးနိုင်သူ ကျောင်းသားများကို အခမဲ့ စာသင်ပေးသည်။

တိုင်းပြည်အုပ်ချုပ်သော ပညာနှင့် ပတ်သက်၍ ကွန်ဖူးရှပ်က သင်ကြားပေးရာတွင် တိုင်းပြည်အုပ်ချုပ် မင်းလုပ်သူ တို့သည် ဓူဝံကြယ်လို ကျင့်ရမည် ဖြစ်ကြောင်း၊ ဓူဝံကြယ်ကို စံထား၍ အခြားကြယ်တာရာများ လှည့်လည်နေရသလို မင်းလုပ်သူ သည်လည်း တိုင်းသူပြည်သားများ အတွက် စံပြ ဖြစ်စေသင့်ကြောင်း သင်ကြားပေးသည်။

လူနယ် ဘုရင်က ကွန်ဖူးရှပ်အား တိုင်းပြည်ကို မည်သို့ အုပ်ချုပ်ရမည်နည်းဟု မေးရာ ကွန်ဖူးရှပ်က "တိုင်းပြည် အုပ်ချုပ်တယ်

ဆိုတာ ဖြောင့်မတ်စွာ ကျင့်တာပဲ။ အသင် ဘုရင် ကိုယ်တိုင်က ဖြောင့်မတ်စွာ ကျင့်ခဲ့ရင် တိုင်းသူ ပြည်သားတွေက ဘယ်မှာလာပြီး သွေဖည်ရဲပါ့မလဲ”ဟု ပြောဆိုခဲ့သည်။

ကွန်ဖူးရှပ် ဝါဒကို ဘာသာရေးလော၊ လူ့ကျင့်ဝတ်လော၊ လောကနီတိလောဟု မဝေခွဲတတ်၍ မေးမြန်းသူများလည်း ရှိသည်။ အဖြေကား ဘာသာရေး ဆိုသော စကား၏ အဓိပ္ပာယ်ကို မည်သို့ မည်ပုံ ရှင်းလင်းရမည်ဆိုသော အချက်တွင် များစွာ တည်နေပေ သည်။ ကွန်ဖူးရှပ်သည် လူ့အဖွဲ့ဝင်တို့ကို ကြည့်မြင် သုံးသပ်ရာတွင် အခြား ဘာသာများနှင့် မတူသည့် ရှုထောင့်မှ ကြည့်ရှု သုံးသပ်ခဲ့သည်။ သို့သော် ဘာသာတစ်ခု အဖြစ်မှ ပြောင်းလဲမသွားခဲ့ပေ။ ဘာသာရေး ဆိုသည်မှာ လူသားတို့၏ အန္တိမရည်မှန်းချက်နှင့် ပတ်သက်သည့် အသက်မွေးမှုဟုသာ အဓိပ္ပာယ် ဖွင့်ဆိုခဲ့လျှင် ကွန်ဖူးရှပ် ဝါဒသည် လည်း ဘာသာ တရား တစ်ခု ဖြစ်နိုင်ပေလိမ့်မည်။

ကွန်ဖူးရှပ်၏ အယူဝါဒကို သိနားလည်ရန်အတွက် ရှေးခေတ် တရုတ်ပြည်၏ ဘာသာရေး ကျောထောက်နောက်ခံ အခြေအနေကို လေ့လာကြည့်ရန် လိုအပ်နေသည်။

ရှေးခေတ် တရုတ်တို့၏ ဘာသာရေး အယူအဆမှာ လူ့ပြည်နှင့် နတ်ပြည်ကို တစ်ဆက်တည်း ရှိသည်ဟု ယူဆကြသည်။ နတ်ပြည် တွင် နေထိုင်သူများမှာ လူ့ပြည်ရှိ နေသူများ၏ ဘိုးဘွား မိဘများ ဖြစ်ပြီး ယင်းတို့ကို အကြီးအကဲ တစ်ဦးက အုပ်ချုပ်သည်။ နတ်ပြည်သို့ ရောက်ရှိနေသူများမှာ လူ့ပြည်ရှိ လူများထက် စောစွာ နတ်ပြည်သို့ ရောက်ရှိသွားကြသူ များ ဖြစ်၍ လူ့ပြည်ရှိ လူများလည်း မကြာမီ

နတ်ပြည်သို့ သွားရောက်ကြရမည် ဖြစ်သည်။ ဤသို့ဖြင့် လူ့ပြည်နှင့် နတ်ပြည်တို့မှာ အပြတ်အတောက်မရှိ တစ်ဆက်တည်း ရှိနေလျက် သေခြင်းတရား မှုကား လူ့ပြည်မှနေ၍ ထိုထက် ပိုမို မြင့်မြတ် ကောင်းမွန်သော အဆင့်သို့ တက်သွားရာ အထစ်သဖွယ် ဖြစ်သည်။

လူ့ပြည်နှင့် နတ်ပြည်သည် အမြဲမပြတ် ဆက်သွယ်မှု ရှိနေ သည်။ နတ်ပြည်သည် လူ့ပြည်၏ သာယာဝပြောရေးကို စောင့်ရှောက် ထားရှိသည်။ နတ်ပြည်တွင် လိုအပ်သည် တို့ကိုလည်း လူ့ပြည်က ယဇ်ပူဇော်ပွဲများ ပြုလုပ်၍ ထောက်ပံ့ ကူညီရပြန်သည်။ လူ့ဘုံနှင့် နတ်ဘုံအနက် နတ်ဘုံမှာ ပို၍ အရေးကြီးသည်။ နတ်ပြည်ရှိ နတ်သား တို့၏ သြဇာအာဏာမှာ ပို၍ ကြီးမား ထက်မြက်သည်။ ယင်းတို့သည် လူ့ပြည်သားတို့ ရှိသေအောင် စွမ်းဆောင်နိုင်သည်။

ဘုံနှစ်ဘုံသည် တစ်ဘုံပေါ်က မှီခိုနေရသည့်အတွက် ယင်းတို့ အကြား ဆက်ဆံရေးမှာ မေတ္တာတရားအပေါ် အခြေခံသည်ထက် အလိုဆန္ဒပေါ် တွင်သာ အမှီပြုနေရသည်။ လူ့ပြည်သည် မိမိ၏ ဆန္ဒကို ယဇ်ပူဇော်ပွဲဖြင့်သာ ပြနိုင်ပေသည်၊ လူ့ပြည်၏ ကောင်းမှု များကို တစ်ခါက လူ့ပြည်၌ နေထိုင်ခဲ့ကြသည့် မိမိတို့၏ ဘိုးဘေး ဘီဘင်များနှင့်အတူ ခွဲဝေခံစား လိုသည်မှာ ဓမ္မတာသာ ဖြစ်၏။ ရှေးခေတ် ကျေးရွာတိုင်း ယဇ်ပူဇော်ပွဲ ပြုလုပ်သော တောင်ပို့ တစ်ခုစီ ရှိသည်။ တစ်နိုင်ငံလုံးကို အုပ်ချုပ် မင်းလုပ်မည့်သူကို ရွေးချယ် လိုက်သောအခါ ထိုသူသည် သူ့ကိုယ်သူ "နတ်သား"ဟူသော အမည်ကို ခံယူကာ ဘိုး ဘေး ဘီ ဘင်များအတွက် စုပေါင်း ယဇ်ပူဇော်ပွဲများကို ပြုလုပ်ပေးသည်။ ကွန်ဖြူးရှပ်ခေတ်သို့ ရောက်လာသည့် တိုင်အောင်

အစဉ်အလာအရ ရှေးမိဘများကို ပူဇော်ပွဲ ပြုလုပ်ရန် ပျက်ကွက်သော အစိုးရတို့ကို ဆက်လက် အုပ်ချုပ်ပိုင်ခွင့် မရှိတော့ဟု ယူဆကြခဲ ရှိသည်။

လူ့ပြည်သားတို့က နတ်ပြည်သို့ မိမိဆန္ဒကို ပြောလိုသော အခါ ယဇ်ပူဇော်ပွဲဖြင့် ပြသရပြီး ဗေဒင်ပညာ၊ နတ်ကတော်တို့မှ တစ်ဆင့် မိမိတို့က တစ်ဖန် နာခံကြရပြန်သည်။ ရှေးမိဘတို့သည် သူတို့နေထိုင်လာခဲ့သော လူမျိုးတစ်ခုလုံး အကြောင်းကို နှောကြေ အောင် သိရှိထားသူများ ဖြစ်၍ ထိုလူမျိုး တို့၏ အနာဂတ်ကို ကောင်းကောင်းပင် ခန့်မှန်းနိုင်ကြသည်။ မိမိတို့၏ ဘိုးဘွား မိဘများက မိမိတို့ လူမျိုးများ၏ အနာဂတ်အရေးကို မည်သို့ စီမံ ဖန်တီးပေးထား ကြောင်းကို လူ့ပြည်သားတို့က ဗေဒင်ပညာ၊ နတ်ကတော်မှ တစ်ဆင့် ကြားဖြတ်၍ သိရှိထားနိုင်ခွင့် ရရှိကြသည်။

နတ်ဘုံရှိ မိဘဘိုးဘွားများက လူ့ပြည်ရှိ ယင်းတို့၏ သားမြေး များကို ဆက်သွယ်သည့် လက္ခဏာ အမှတ်အသားများလည်း ရှိသေး သည်။ အချို့မှာ လူတို့၏ ခန္ဓာကိုယ်တွင် ဖြစ်ပေါ် တတ်သည့် အသားလှုပ်ရှားမှုများ၊ ယားနာခြင်း၊ နှာချေခြင်းများဖြစ်၍ အချို့မှာ ပြင်ပ လက္ခဏာများဖြစ်သော လျှပ်စီးလက်ခြင်း၊ မိုးခြိမ်းခြင်း၊ ကြယ် တာရာ သွားလမ်း ပြောင်းလဲခြင်း၊ ပိုးမွှားတိရစ္ဆာန်တို့၏ အပြုအမူ များကို ကြည့်ရှုနားလည်ကြသည်။

တရုတ်ပြည်၏ ရှေးခေတ် ဘာသာရေး အယူအဆတွင် လူတို့၏ ဘိုးဘွားဘီဘင်များ၊ ယဇ်ပူဇော်ပွဲများနှင့် ဗေဒင် အတတ် ပညာများကို အလေးပေးထားကြသည်။ လူ့ဘုံနှင့် နတ်ဘုံတို့တွင်လည်း

လူ့ပြည်အရေးထက် နတ်ပြည်အရေးကို အလေးပေးထားကြသည်။ ဤနေရာတွင် ကွန်ဖူးရှပ်၏ အယူဝါဒကို နားလည် သဘောပေါက်နိုင်ရန်အတွက် ကွန်ဖူးရှပ်သည် နတ်ဘုံအရေးထက် လူ့ဘုံအရေးကို ပို၍ အရေးထားကြောင်း၊ နတ်ပြည်အရေးကိုလည်း လုံးဝ စွန့်ပစ်ထားလိုက်ခြင်း မဟုတ်ကြောင်းကို သတိပြု ကြည့်ရှုရန် လိုအပ်သည်။

ကွန်ဖူးရှပ်သည် သူ့ခေတ်တွင် အငြင်းပွားနေသော ပြဿနာကို ရှင်းလင်း အဖြေပေးခဲ့သည်။ ထိုခေတ်လူများ မဆုံးဖြတ်နိုင်ဖြစ်နေသော ပြဿနာမှာ လူများ၏ အရေးကိုလည်း ရှေ့တန်းတင်ရမည်လော၊ သို့တည်းမဟုတ် ယဇ်ပူဇော်ပွဲများဖြင့် ပသသည့် နတ်လောကအရေးကိုပင် ရှေ့တန်းတင်ရမည်လော ဟူသော ပြဿနာ ဖြစ်သည်။ ကွန်ဖူးရှပ်က ဖြေရှင်းလိုက်သည်မှာ နတ်လောကကို လုံးဝ ပစ်ပယ်ရန် မဟုတ်သော်လည်း လူ့အရေးကို ပထမဦးဆုံး ရှေ့တန်းတင်ရမည်ဟု ဆိုခြင်းပင် ဖြစ်သည်။ ဤသို့ဖြင့် ကွန်ဖူးရှပ်၏ ဝါဒမှာ လောကုတ္တရာ အရေးထက် လောကီအရေးကို ဦးစားပေးထားကြောင်းကို တွေ့ရှိရခြင်း ဖြစ်သည်။

ကွန်ဖူးရှပ်သည် နတ်ဘုံထက် လူ့ဘုံကို အရေးပေးပုံ ပြောင်းလဲသွားသည့် အနေဖြင့် ဘိုးဘေးဘီဘင် ကိုးကွယ်မှုအစား သားသမီးများကို သနားကရုဏာ ထားရှိရေးကို သွန်သင် ဆုံးမလေသည်။ ရှေးခေတ်က တရုတ်တို့သည် သေဆုံးသွားသူများကို အမှန်တကယ်ပင် ကိုးကွယ်ခဲ့ကြသည်။ ရှေးဟောင်း အယူအဆများကို လက်ရှိအတိုင်းပင် ဆက်လက် ထားခွင့် ပြုသည့်အတွက် ကွန်ဖူးရှပ်တွင် ထိုအယူအဆများ ရှိသေးကြောင်း သိရှိနိုင်ပေသည်။

သေဆုံးသူများ၏ ဝိညာဉ်များမှာ ဆက်လက်ရှိနေကြောင်းကို ကွန်ဖူးရှပ် မငြင်းဆိုချေ။ ထိုဝိညာဉ်များကို "သူတို့ အသက်ရှင်နေကြသကဲ့သို့" ဆက်ဆံကြရန်ကိုပင် တိုက်တွန်း ပြောဆိုသေးသည်။ တစ်ချိန်တည်းမှာပင် အသက်ရှင် နေထိုင်ကြသော မိသားစု ကိုသာ ဦးစားပေးရေးကိုလည်း ညွှန်ပြဆုံးမလေသည်။ သွေးသားချင်း တော်စပ်သော ဆွေမျိုးများ ရင်းနှီးချစ်ခင်ရေးသည် မြင့်မြတ်သည့် ချစ်ကြည်ရေးပင် ဖြစ်ကြောင်းကိုလည်း ဟောပြောသည်။ ယခု အသက်ရှင်လျက် ရှိနေသေးသော မိသားစုအချင်းချင်း တစ်ယောက်အပေါ် တစ်ယောက် ထားရှိရမည့် တာဝန် ဝတ္တရားသည် သေဆုံးခဲ့ပြီးသူများအပေါ် ထားရှိရမည့် တာဝန်ထက် ပို၍ အရေးကြီးသေးကြောင်းကို ပြောဆိုလေသည်။

နတ်လောကထက် လူ့လောကကို ကွန်ဖူးရှပ်က အရေးထားသည် ဆိုသော်လည်း လောကီရေးနှင့် လောကုတ္တရာရေးကို မျှတအောင် ဆောင်ရွက်စေခဲ့ကြောင်းကိုကား မျက်ခြည် မပြတ်သင့်ပေ။ လူသားနှင့် ကောင်းကင်ဘုံကြား အဆက်အသွယ်ကို လုံးဝ ဖြတ်တောက်ခဲ့ခြင်း မရှိခဲ့၊ သူ၏ခေတ်တွင် တစ်လောကလုံး ယုံကြည်လက်ခံထားသည့် အယူအဆကို မည်သည့် အခါကမျှ မငြင်းဆိုခဲ့ချေ။ ထာဝရ ဘုရားသခင် ဖန်ဆင်းသော နတ်ဘုံနှင့် လူ့ဘုံတို့သည် တစ်ခုကား ရုပ်လောကဖြစ်၍ အခြားတစ်ခုမှာ ရုပ်လောကမဟုတ်ကြောင်းနှင့် လောက နှစ်ခုစလုံးကို မြင့်မြတ်သော တန်ခိုးသတ္တိရှင်က အုပ်ချုပ် နေကြောင်းကို ထိုခေတ်လူများ ယုံကြည်ထားခဲ့ကြသည်။

ကွန်ဖူးရှပ်သည် သဘာဝထက် လွန်ကဲသော အယူအဆများ နှင့် ပတ်သက်၍ ရေငုံနှုတ်ပိတ် နေခဲ့သော်လည်း ထိုအယူအဆကို လုံးဝ ယုံကြည်၍ မပယ်နိုင်ပေ။ အမှန်တရားဘက်မှ ရပ်တည် နေသော တန်ခိုးရှင် တစ်ပါးပါးသည် စကြဝဠာကြီးထဲ တစ်နေရာ ရာ၌ ရှိရမည်။ မှန်ကန်သော သစ္စာတရား ပျံ့နှံ့ရန် လိုအပ်သည်။ သူတော်ကောင်းများ ကြောက်ကြသည်ကား ကောင်းကင်ဘုံမှ ကျရောက် လာနိုင်သည့် ဒေါသပင် ဖြစ်ကြောင်းကို ယုံကြည်ခဲ့သည်။

ကွန်ဖူးရှပ်သည် သူ၏ အယူအဆများ ပျံ့နှံ့အောင် လုပ်ရန် သူ့မှာ တာဝန်ရှိသည်ဟု ယုံကြည်ခဲ့သည်။ နှစ်ရှည်ခဲ့လများ လှည့်လည် သွားလာနေစဉ် ကွမ်မြို့၌ သူ့အား တိုက်ခိုက် ဝေဖန်ကြသောအခါ သူ့နောက်လိုက် များအား ပြောပြသည်မှာ "ဒိဝါဒ ဟောကြားဖို့ နတ်ပြည်က ကျွန်ုပ်ကို တာဝန်ပေးခဲ့တာ ဖြစ်တယ်။ ကျွန်ုပ် တာဝန် ကို ထမ်းဆောင်ပြီးတဲ့ အထိ ကွမ်မြို့သားတွေ ကျွန်ုပ်ကို ဘာမှ မလုပ်နိုင်ပါဘူး"ဟူ၍ ဖြစ်သည်၊ လူအများက သူ့ကို ဂရုမစိုက် ကြောင်း သတိပြုမိသဖြင့် "ကျွန်ုပ်အကြောင်းကို နတ်ပြည်က သိမှာ တာပဲ"ဟူ၍ သူ့ကိုယ်သူ နှစ်သိမ့်စကား ဆိုရလေသည်။ ဘာသာရေး နှင့် ပတ်သက်၍ ခေတ်တစ်လျှောက်လုံး ကိုးကား ပြောဆိုရသည့် စကားပုံတစ်ခုလည်း ကွန်ဖူးရှပ်၏ နှုတ်ဖျားမှ ထွက်လာခဲ့သည်။ "နတ်တွေကိုတောင် စော်ကားတဲ့ လူအတွက်တော့ အခြား ကိုးကွယ် စရာလဲ မရှိတော့ဘူး"ဟူသော စကားပင် ဖြစ်သည်။

သမိုင်း တစ်လျှောက်တွင် ကွန်ဖူးရှပ်၏ အယူဝါဒလောက် ထောက်ခံမှု ရခဲ့သော အခြား အတွေးအခေါ်များကို မတွေ့ရပေ။

နှစ်ပေါင်း ၂၀၀၀ ကျော် ကာလတစ်လျှောက် သူ၏ အယူဝါဒကို ကမ္ဘာကြီးရှိ လူဦးရေ၏ လေးပုံ တစ်ပုံခန့်က လက်ခံထားခဲ့ကြသည်။ ဘီစီ ၂၀၉ ခုနှစ်မှ အေဒီ ၂၂၀ ခုနှစ်အထိ စိုးစံခဲ့သော ဟန်မင်းဆက် လက်ထက်တွင် ကွန်ဖြူးရှပ်ဘာ ဒသာကို တရုတ်ပြည်၏ နိုင်ငံတော် ဘာသာအဖြစ် အသိအမှတ် ပြုခဲ့လေသည်။

ဘီစီ ၁၃၀ ခုနှစ်မှစ၍ ကွန်ဖြူးရှပ်ဝါဒကို အစိုးရ အရာရှိများ သင်တန်းအတွက် သင်ခန်းစာအဖြစ် အသုံးပြုလာခဲ့ရာ အေဒီ ၁၉၁၂ ခုနှစ်တွင် တရုတ် သမ္မတနိုင်ငံကို တည်ထောင်သည့် အချိန်အထိ ဆက်လက် အသုံးပြုခဲ့ကြသည်။ အေဒီ ၅၉ခုနှစ်တွင် စာသင်ကျောင်း များ၌ ကွန်ဖြူးရှပ် အတွက် ယဇ်ပူဇော်ပွဲများကို ကျင်းပစေခဲ့သည်။ ခုနစ်ရာစုနှင့် ရှစ်ရာစု အတွင်းက တရုတ် ဧကရာဇ် အင်ပိုင်ယာ နိုင်ငံအတွင်းရှိ ခရိုင်များတွင် ကွန်ဖြူးရှပ်နှင့် သူ၏ တပည့်ကြီးများ အတွက် ဗိမာန်များကို ဆောက်လုပ်စေခဲ့သည်။

ဆွန်မင်းဆက် လက်ထပ်တွင် ကွန်ဖြူးရှပ်၏ စာပေကျမ်းဂန် များကို ကျောင်းသုံးစာအုပ် အဖြစ်သာ အသုံးပြုခြင်း မဟုတ်ဘဲ ပညာရေးနှင့် ပတ်သက်သော စာအုပ်တိုင်းက အခြေခံ ပြုရသော စာပေများအဖြစ် တည်ရှိနေခဲ့သည်။ ၁၉၃၄ခုနှစ်တွင် သူ၏ မွေးနေ့ကို တရုတ်အမျိုးသား ရုံးပိတ်ရက် အဖြစ် ကြေညာခဲ့လေသည်။

## တာအိုဘာသာ

အစဉ်အလာအရ ဆိုပါမူ တာအိုဘာသာကို လာအိုဇူ ဆိုသူက စတင် ဖော်ထုတ်ခဲ့ခြင်း ဖြစ်သည်။ ဘီစီ ၆၀၄ခုနှစ်တွင် မွေးဖွားခဲ့သော ပုဂ္ဂိုလ်ဖြစ်သည်။ အချို့ ပညာရှင်များက လာအိုဇူ၏ မွေးသက္ကရာဇ်ကို ယခု ဖော်ပြထားသော သက္ကရာဇ်မှ နှစ်ပေါင်း ၃၀၀လောက် နောက်ကျပြီးမှ မွေးဖွားခဲ့သည်ဟု ခန့်မှန်းကြသည်။ အချို့ကမူ လာအိုဇူ ဆိုသောပုဂ္ဂိုလ် မရှိခဲ့ဟု ဆိုသည်။

ထိုပုဂ္ဂိုလ်ကြီး တကယ်ပင် အသက်ရှင် နေထိုင်ခဲ့လျှင်လည်း ထိုပုဂ္ဂိုလ်ကြီး အကြောင်းကို မသိရတော့ပေ။ သူ၏ နာမည်ရင်းကိုပင် မသိရချေ။ လာအိုဇူဆိုသော အမည်၏ အဓိပ္ပာယ်မှာ "အဘိုးကြီး" (ဝါ) "ဆရာကြီး"ဟုရ၏။ ဤအမည်မှာ ထိုပုဂ္ဂိုလ်ကြီးနှင့် ရင်းနှီး၍ လေးစားသည့် အနေဖြင့် ပေးထားသော နာမည်မျိုး ဖြစ်နေလေသည်။ သူ့အကြောင်းနှင့် ပတ်သက်၍ ယခုခေတ် သိရှိသမျှ တို့မှာကား ဒဏ္ဍာရီဆန်သော အဖြစ်အပျက်များသာ ဖြစ်သည်။

လာအိုဇူ၏ ဘဝ အကြောင်းကကား တကယ်ပင် ပုံပြင်ဆန်လှပါသည်။ ဥက္ကာပျံ တစ်ခုကြောင့် သူ့ကို ပဋိသန္ဓေ ရခဲ့သည်ဟု ဆိုသည်။ သူ့မိခင်၏ ဝမ်းဗိုက်ထဲ၌ ရှစ်ဆယ့်နှစ်နှစ်တိုင် နေခဲ့ရသည်။ မွေးဖွားလာသော အခါ ဆံပင်များပင် ဖြူနေပြီး ပညာရှိ တစ်ဦးအဖြစ် ရောက်ရှိနေပြီး ဖြစ်သည်။

အချို့ အချက်အလက် များကား မှန်ကန်နိုင်ဖွယ် ရှိသည်။ လာအိုဇူ၏ အလုပ်အကိုင်မှာ သူ့မွေးရပ်မြေ အနောက်ပိုင်း ပြည်နယ်တွင် အမျိုးသား မော်ကွန်းတိုက် အုပ်ချုပ်ရေးမှူးဟု ဆိုသည်။ ဤ

အလုပ်ကို လုပ်ရင်း ရိုးရိုးကုပ်ကုပ်ပင် နေထိုင်ခဲ့သည်။ လာအိုဇူ၏ ပုဂ္ဂိုလ်ရေးရာနှင့် ပတ်သက်၍ တစ်စောင်တည်းသော မှတ်တမ်းကိုသာ မိုငြမ်းပြုကြ ရသည်။ ထိုမှတ်တမ်းကို လေ့လာ၍ လာအိုဇူသည် တစ်ကိုယ်တည်း တရားကမ္မဋ္ဌာန်း စီးဖြန်းနေလိမ့်မည်ဟု မှန်းဆကြသည်။

လာအိုဇူအကြောင်း သတင်းကို ကြားရသော ကွန်ဖူးရှပ်သည် တစ်ခါတွင် အလည်အပတ် သွားရောက်ခဲ့သည်။ ကွန်ဖူးရှပ်၏ ဖော်ပြချက်အရ ဆိုလျှင် လာအိုဇူသည် သူ့ထံသို့ အဝေးခရီးမှ တကူးတကန့် လာရောက် ဖူးတွေ့သူကြောင့်ပင် အနှောင့်အယှက် ဖြစ်သွားပုံ ရသည်ဟု ဆိုသည်။ "ငှက်တွေမှာ ပျံနိုင်ဖို့ အတောင်တွေ ရှိတယ်။ ငါးတွေမှာလဲ ရေထဲမှာ ကူးခတ် သွားနိုင်ဖို့ ဆူးတောင်တွေ ရှိတယ်။ တိရစ္ဆာန် အရိုင်းတွေမှာလဲ ပြေးလွှားဖို့ ခြေတွေ ပါတယ်။ ခြေထောက်ရှိတဲ့ သတ္တဝါတွေကို ဖမ်းဆီးဖို့ ထောင်ချောက်တွေ ရှိတယ်။ ဆူးတောင်ရှိတဲ့ ငါးတွေ အတွက်လဲ ပိုက်ကွန်တွေ ရှိတယ်။ အတောင်ရှိတဲ့ ငှက်တွေကို ဖမ်းဆီးဖို့ လေးနဲ့မြားတွေ ရှိတယ်။ ဒါပေမယ့် နဂါးတွေကျတော့ လေထုနဲ့ တိမ်တိုက်တွေကို ဖြတ်ပြီး ကောင်းကင်ဘုံကို ဘယ်လိုလုပ် သွားတယ် ဆိုတာကို ဘယ်သူမှ မသိကြဘူး။ ဒီနေ့ ကျွန်ုပ်ဟာ လာအိုဇူကို တွေ့ရပြီ။ ဒီနေ့ ကျွန်ုပ် နဂါးတစ်ကောင်ကို မြင်ဖူးပြီ"ဟူ၍ ကွန်ဖူးရှပ်က သူ၏ တပည့်များကို ပြောပြဖူးလေသည်။

လူ့သဘာဝ၏ ကောင်းသော အချက်များကို ပြုစု ပျိုးထောင်ပေးရန် ဟူသော သူ၏ သွန်သင်ချက်များကို လူအများက မလိုက်နာကြသည့် အတွက် စိတ်ညစ်၍ လည်းကောင်း၊ သူ့ဘဝကို နောက်ပိုင်း

နှစ်များတွင် တဖြည်းဖြည်း တစ်ဦးတည်း နေရန် ကြိုးစားချက် အရ လည်းကောင်း၊ လာအိုဇူသည် နောက်ဆုံးတွင် ကျွဲတစ်ကောင် စီးကာ ယခု တိဗက်ဟု ခေါ်သော အနောက်ဘက် ဒေသသို့ ထွက်ခွာ သွားခဲ့သည်ဟု ဆိုသည်။

ဟန်ကောင် တောင်ကြားလမ်း၌ တာဝန် ကျနေသော အရာရှိ သည် ဆရာကြီး၏ တမူ ထူးခြားသော အပြုအမူကို သတိပြုမိသဖြင့် သွားခွင့် မပြုဘဲ မိမိနေရပ်သို့ ပြန်ပါရန် တောင်းပန် လေသည်။ ဆရာကြီးက လက်မခံသဖြင့် ဆရာကြီး စွန့်ပစ်ခဲ့သည့် လူ့အဖွဲ့ အစည်း အတွက် သူ၏ အယူအဆ မှတ်တမ်းတစ်စောင် တလေမျှ ထားခဲ့ပါရန် တာဝန်ကျ အရာရှိက ဆရာကြီးကို တောင်းဆိုပြန်လေ သည်။ ဤအဆိုကို လာအိုဇူက သဘောတူခဲ့လေသည်။

ဆရာကြီးသည် သုံးရက်တိတိ ပျောက်သွားပြီး ပြန်လည် ရောက်ရှိလာသော အခါ စာလုံးရေ ၅၀၀၀ ပါဝင်သော ကျမ်းတစ်စောင် ကို ယူဆောင်လာခဲ့သည်။ ထိုကျမ်း၏ နာမည်ကား "တာအိုတေချင်" ဖြစ်ပြီး အဓိပ္ပာယ်မှာ "လမ်းစဉ်နှင့် ယင်း၏ အာဏာ"ဟု ရသည်။ စကြာဝဠာ အတွင်း၌ လူသားများ နေထိုင်မှု သာယာပုံ အကြောင်း ဖြစ်သည်။ ဤကျမ်းစာကို ½နာရီဝက် လောက်နှင့် ဖတ်လျှင်လည်း ပြီးနိုင်သည်။ တစ်သက်လုံး ဖတ်သော်လည်း မကုန်နိုင် ဖြစ်ရာသည်။ ယနေ့အထိ တာအို ဘာသာ၏ အခြေခံ ကျမ်းစာအဖြစ် ရှိနေပေ သည်။

လာအိုဇူ၏ ဘဝကား ဘာသာ တစ်ခုကို တည်ထောင်သူ အနေဖြင့် တကယ် ထူးခြား ဆန်းကြယ်လှ ပါပေသည်။ သူသည်

တရားမဟောခဲ့၊ ဘာသာရေး အသင်းအဖွဲ့ ဘည်ထောင် ခြင်းလည်း မရှိခဲ့၊ စာပေ ကျမ်းဆို၍ အနည်းငယ်သာ ရေးသားခဲ့သည်။ ကွဲစီးပြီး ထွက်သွားသည်။ သူ့အတွက် ဆိုပါမူ အပြီးအပိုင် ထွက်ခွာသွားခြင်းပင် ဖြစ်မိပေသည်။

လာအိုဇူသည် ကွန်ဖူးရှပ်ကဲ့သို့ အရပ်တကာ လှည့်လည်၍ သူ့အယူဝါဒကို ဖြန့်ရန် ခြေကုပ်စခန်း ရှာဖွေခြင်း မပြုခဲ့ပေ။ သူ၏ အယူအဆများ လူ့အဖွဲ့အစည်းများ အတွင်း၌ အောင်မြင်စွာ အခြေ စိုက်နိုင်ခြင်း ရှိမရှိကိုလည်း စိုးစဉ်းမျှ မစိုးရိမ်။ သူ၏ အနာဂတ် ကောင်းစားရေးနှင့် ဂုဏ်သတင်း ကျော်စောရေး အတွက် ဆောင် ရွက်ရေး ဆိုသည်မှာ ဝေလာဝေး။ မရှင်းမလင်းသော မေးခွန်းများကို ဖြေဆို ရှင်းလင်းပြရန် အတွက်ပင် မနေခဲ့။ သူ၏ ဘဝဇာတ်လမ်းမှာ ဒဏ္ဍာရီလား၊ ပုံပြင်လား ဆိုသည်ကို အသာဘေးချိတ်၍ တာအိုဝါဒ ၏ အဖိုးတန် ရတနာများကား ဘာသာတစ်ရပ် အနေဖြင့် ထာဝစဉ် ရှိနေမည် ဆိုသည်မှာ အမှန်ပင် ဖြစ်သည်။

တာအိုဘာသာတွင် အပိုင်း သုံးပိုင်း ပါရှိသည်။ တွေးခေါ် မြော်မြင်ရေး ဆိုင်ရာ အဘိဓမ္မာ၊ တိုင်းရေးပြည်ရာ အုပ်ချုပ်ရေး ပညာနှင့် ဘာသာယုံကြည်ချက်တို့ ဖြစ်သည်။

တွေးခေါ် မြော်မြင်ရေး အပိုင်းတွင် ဤစကြဝဠာ ကမ္ဘာလောက ကြီး အတွင်း၌ နေ၊လ၊ကြယ်၊ နက္ခတ်တာရာတို့ လှည့်လည် သွား လာပုံ၊ ထိုဂြိုဟ်နက္ခတ်တို့၏ လှည့်ပတ် သွားလာသည့် အတွက်ကြောင့် ကမ္ဘာ မြေပြင်ကြီးတွင် အဖြစ်အပျက်များ၊ ပြောင်းလဲမှုများ ဖြစ်ရ ကြောင်း တို့ကို ပြဆိုထားသည်။

တာအိုသည် ကောင်းကင်ပြင် အာလယ်၌ ရှိသည်။ တာအိုသည် တန်ခိုး သတ္တိ တည်ရာ ဗဟို အချက်အချာ ဖြစ်၏။ ဤကမ္ဘာလောကကြီး တစ်ခုလုံး၌ ဖြစ်ပျက်နေသော အခြင်းအရာ အားလုံးကို နောက်ကွယ်မှ ကြိုးကိုင်နေသော အင်အားတစ်ရပ်ပင် ဖြစ်သည်။ တစ်နည်းအားဖြင့် ဆိုလျှင် တာအိုသည် ကိုယ်ခန္ဓာ ရုပ်ဓာတ် မရှိသော ထာဝရ ပုဂ္ဂိုလ်ပင် ဖြစ်သည်။

တာအိုသည် ဖိုဓာတ်နှင့် မဓာတ်ကို ဖန်ဆင်းသည်။ သဘာဝ၌ ဖိုနှင့် မဓာတ် ရှိစမြဲပင် ဖြစ်၏။ ဖိုဓာတ်နှင့် မဓာတ် ပေါင်းစပ်၍ ကောင်းကင်နှင့် မြေကြီး ဖြစ်ပေါ်လာရသည်။ ကောင်းကင်နှင့် မြေကြီးက တစ်ဖန် သက်ရှိ သတ္တဝါများကို ဖြစ်စေခဲ့သည်။ တာအိုသည် လူသားများ၏ ကောင်းကျိုးကို ဆောင်ရွက်ပေးသည်။

ကျံတာအိုလင် အမည်ရှိသော သူက တာအို ဘာသာကို ဟောပြောခဲ့ပြီး စနစ်တကျ အုပ်ချုပ်စီမံ ခဲ့လေသည်။

## ဆစ်ခ်ဘာသာ

ဆစ်ခ် ဘာသာကို စတင် တည်ထောင်သူမှာ ဂုရုနာနတ် ဆိုသူဖြစ်၏။ ဟိန္ဒူဘာသာမှ ခွဲထွက်ပြီး တည်ထောင်လိုက်သော ဘာသာတစ်ရပ် ဖြစ်သည်။ သို့သော် ထာဝရ ဘုရားကိုမူ လက်ခံထားရှိသည်။ ဆစ်ခ်ဘာသာ၏ ထာဝရ ဘုရားကို အကာလ ပုရိသဟု ခေါ်သည်။

## စာပေဟောင်းလေးအိုးကြီး

ကမ္ဘာပေါ်ရှိ သက်ရှိ သက်မဲ့ ဟူသမျှကို ဘုရားသခင်က ဖန်ဆင်းထားသဖြင့် ဘုရားသခင်သာ ပိုင်ဆိုင်သည်။ အခြား မည်သူမျှ မပိုင်ချေ။ မိမိကိုယ်ကို မိမိလည်း မပိုင်ကြချေ။

ဟိန္ဒူတို့၏ ထာဝရ ဘုရားများကိုလည်း ဆစ်ခ်တို့က လက်မခံပေ။ ယင်းတို့၏ ဂုရုများကိုသာ လက်ခံသည်။ ဂုရုများမှာ ဂုရုနာနတ်မှ စ၍ ဂုရုဂိုဗင် ဆဒင်အထိ တစ်ကျိပ်ရှိသည်။ ဂုရုများသည် လူ့ပြည်၌ ထာဝရ ဘုရား၏ ကိုယ်စားလှယ်တော်များ ဖြစ်သည်ဟု ယုံကြည်ကြသည်။ လူသားများသည် ကိုယ်ရော စိတ်ပါ သန့်မာထွားကျိုင်းမှု ရှိစေရန် လိုအပ်၍ အကျင့်စာရိတ္တ ကောင်းမွန်ရန် လိုအပ်ကြောင်းကို ဂုရုများက ဟောကြား ကြသည်။

ဂုရုများသည် လူ့လောက၌ နေထိုင်၍ ထာဝရ ဘုရားနှင့် လူသား တွေ့ဆုံနိုင်ရေး အတွက် ဆောင်ရွက်ရသူများ ဖြစ်သည်။ ကောက်စိတ် ပျောက်ကင်းရေး၊ အတ္တစိတ် ပျောက်ကင်းရေး များကို ဟောပြောသဖြင့် သူတော်ကောင်းနှင့် စစ်သူကြီး စိတ်ဓာတ်များ ပြည့်ဝလာစေရန် ရည်သန်သည်။

ဆစ်ခ်တို့၏ ထာဝရ ဘုရား ဖြစ်သော အကာလ ပုရိသသည် အခြားသော ထာဝရ ဘုရားများ ကဲ့သို့ပင် အတုမရှိသော တန်ခိုးအာဏာများနှင့် ပြည့်စုံတော် မူသည်။ ကမ္ဘာလောကကြီးနှင့် တကွ အရာဝတ္ထု အားလုံးကို ဖန်ဆင်းပြီး ထိန်းသိမ်း စောင့်ရှောက်ပေးသည်။ အမှန်တရားကို လိုက်နာခြင်းသည် အမြင့်မြတ်ဆုံးသော အလုပ်ဖြစ်၍ အမှန်တရားကို ထာဝရဘုရား အဖြစ် ကိုးကွယ်ကြသည်။

ဆစ်ခ်ဘာသာဝင်များသည် ခန္ဓာကိုယ် တစ်ခုလုံး၌ ပေါက်သော အမွေးများကို မရိတ်ဖြတ်ဘဲ ထားရှိသည်။ ဆံပင် ဖြီးရန် ဘီးငယ် အမြဲ ဆောင်တတ်သည်။

ပထမမြောက် ဂုရုကြီး ဖြစ်သော ဂုရုနာနတ်သည် ဆစ်ခ်ဘာသာ နိဗ္ဗာန်ရောက်ကြောင်း တရားကို ဟောကြားရာတွင် ဓမ္မခန္ဓ၊ ဂိယံခန္ဓ၊ ရှရန်ခန္ဓ၊ ကမ္မခန္ဓနှင့် တစ္စခန္ဓဟူ၍ အပိုင်းကြီး ငါးပိုင်းဖြင့် ဟောကြားလေသည်။

## ရှင်တိုဘာသာ

ရှင်တိုဘာသာသည် ထာဝရ ဘုရား ကိုးကွယ်မှုနှင့် သဘာဝ ဓမ္မတရားကို ကိုးကွယ်မှု တို့ကို ပေါင်းစပ်ထားသော ဘာသာ ဖြစ်သည်။ ကာမိနိမိကျိ ဟူ၍ လည်းကောင်း၊ လောကုတ္တရာလမ်း ဟူ၍ လည်းကောင်း ခေါ်သည့် ရှင်တိုဘာသာသည် ရှေးခေတ်ဂျပန်တို့၏ ဘာသာတရား တစ်ခု ဖြစ်သည်။

ဂျပန်နိုင်ငံသို့ ဗုဒ္ဓဘာသာနှင့် ကွန်ဖူးရှပ် ဘာသာတို့ ရောက်ရှိ မလာမီက ရှင်တိုဘာသာမှာ သဘာဝ တရားဓမ္မနှင့် ထာဝရ ဘုရား တို့ကို ကိုးကွယ်သော ဘာသာဖြစ်၏။ ဗုဒ္ဓဘာသာနှင့် ကွန်ဖူးရှပ် ဘာသာတို့ ရောက်လာသော အခါ ယဉ်ကျေးမှု ဩဇာ လွှမ်းမိုးနေခဲ့သည်။

ရှင်တိုဘာသာတွင် တစ်ဆူတည်းသော ထာဝရ ဘုရားရှိသည်ဟု ယုံကြည်မှု အပြင် သဘာဝ တရားကို ရှိခိုးခြင်း၊ သက်မဲ့ ရုပ်တို ကိုးကွယ်ခြင်းများလည်း ရှိသေးသည်။

ရှေးခေတ် ရှင်တိုဘာသာဝင် တို့သည် နေ၊ လ၊ နက္ခတ်တာရာ နှင့် မိုး၊ လေ၊ မြေ၊ မီးတောင်၊ ပင်လယ်က အစ ဝံပုလွေ၊ ယုန် စသော တိရစ္ဆာန်များနှင့် သစ်ပင် နွယ်ပင်များ တို့ကိုပင် ရှိခိုး ပူဇော်ခဲ့ကြသည်။ အလွန် ကြီးမားသော ကျောက်ဆောင်၊ ကျောက် တုံး များကိုလည်း သက်မဲ့ ရုပ်တု ဆင်းတုများ အဖြစ် ကိုးကွယ် ခဲ့သည်။

ရှင်တိုဘာသာဝင်တို့သည် သဘာဝ တရားကိုသာ ကိုးကွယ် ကြသည် မဟုတ်သေး။ လူစွမ်းကောင်းများကိုလည်း ကိုးကွယ်ကြ သေး၏။ ထူးချွန် ပြောင်မြောက်သော သူရဲကောင်းများကို အသက် ထင်ရှား ရှိစဉ်အခါနှင့် ကွယ်လွန်ပြီးသော အခါများတွင် မြင့်မြတ် သော နတ် (ဝါ) ကာမိဟု အမည်ပေးကာ ကိုးကွယ်ကြသည်။ ထို သူရဲကောင်းများ မသေမီပင် သူတို့အတွက် ဆောက်လုပ်သော ရှင်တိုဘုရားကျောင်းများလည်း ရှိသည်။

ရဲစွမ်းသတ္တိရှိသော သူရဲကောင်းများကို လူအသွင် ဖန်ဆင်း နေသော နတ်များ ဟူ၍ပင် ယုံကြည်နေကြသည်။ ဘိုးဘေးဘီဘင် အဆက်အနွယ်များကို ကိုးကွယ်မှုနှင့် ဧကရာဇ် ဘုရင်မင်းမြတ်၏ အသုံးအဆောင် များကိုလည်း သက်မဲ့ ဆင်းတုအဖြစ် ကိုးကွယ်ကြ သေးသည်။

ဘုရင် ကေရာဇ်ကိုလည်း နေနတ်အနွယ်မှ ဆင်းသက်လာသူ ဟု ယုံကြည်ခဲ့ကြသဖြင့် မျက်မှောက်ခေတ်သို့ တိုင်အောင် ဘုရင် ကေရာဇ်တို့သည် နိုင်ငံရေး အရသာ ခေါင်းဆောင် အကြီးအမှူး တစ်ဦး ဖြစ်သေးသည် မဟုတ်၊ ဘာသာရေး၌လည်း တစ်ဦးတည်း ကိုယ်စားလှယ် ဖြစ်သည်။

ရှင်တိုဘာသာတွင် သဘာဝမှ ကိုးကွယ်မှု၊ အဝိညာဏက သက်မဲ့ ဝတ္ထု ကိုးကွယ်မှုနှင့် သူရဲကောင်း ကိုးကွယ်မှုများမှာ နောက်ပိုင်းတွင် ပြောင်းလဲလာခဲ့ပြီး ထိုကိုးကွယ်ခဲ့သော အရာအားလုံး တို့သည် ထာဝရ ဘုရားပင် ဖြစ်သည်ဟု တစ်ဆူတည်းသော ဘုရား အဖြစ်သို့ အဆင့်ဆင့် တိုးတက်လာခဲ့လေသည်။

## ပါရစီဘာသာ

ပါရစီ ဘာသာကား ရှေးခေတ် အီရန် (ပါရှား) တို့၏ ဘာသာဖြစ်သည်။ ဤဘာသာကို တည်ထောင်ခဲ့သူမှာ ဇရသူစတြ ဟူ၍လည်း အမည်တွင်သည့် ဇိုရိုအက်စတား ဖြစ်သည်။ ဇိုရိုအက် စတားသည် ခရစ်မပေါ်မီ နှစ်ပေါင်း ၈၀၀ခန့်က ပါရှားပြည်တွင် ပေါ်ပေါက် ခဲ့သည်။

ဇိုရိုအက်စတား ဟောကြား ဆုံးမခဲ့သော တရားများကို ဇင်းဒအဝက်စတား ဟူသော အမည်ဖြင့် စုပေါင်း ထားရှိခဲ့သည်။ ပါရစီ ဘာသာ၏ အခြေခံကျမ်းပင် ဖြစ်သည်။

ဗိုရှိအက်စတား အသက်ထင်ရှား ရှိနေသော ခေတ်တွင် ရုပ်တုဆင်းတု ကိုးကွယ်သော ဓလေ့သည် အလွန် လူကြိုက်များပြီး ခေတ်စားနေချိန် ဖြစ်လေသည်။ ထိုခေတ်တွင် ဗိုရှိ အက်စတားသည် တစ်ဆူတည်းသော ထာဝရ ဘုရား အယူဝါဒကို ဟောကြား သွန်သင်ခဲ့သည်။ စုန်း၊ နတ်၊ တစ္ဆေနှင့် သဘာဝ ဓမ္မတို့ကို ကိုးကွယ်သော အလေ့ပျက်အောင် ကြိုးစားခဲ့သည်။

ဗိုရှိ အက်စတား ဟောကြားခဲ့သော တရား၏ အဆီအနှစ်ကို ထုတ်ယူလိုက်သော် ကမ္ဘာတစ်ခုလုံး တိုးတက်ရေး ဆိုသော အဓိပ္ပာယ် ထွက်လာသည်။ ဤအဓိပ္ပာယ်ကြောင့် မျက်မှောက်ခေတ် ပညာရှင်များက ဗိုရှိအက်စတားကို ချီးကျူး ပြောဆိုကြကုန်သည်။ နောင်ခေတ်များ၌ ပေါ်ပေါက်မည့် ပရောဖက်တို့သည် ကမ္ဘာ ကောင်းစားရေး လုပ်ငန်းများကို ဆောင်ရွက်လိမ့်မည်ဟု ယင်းက ဆိုသည်။

ကမ္ဘာ တိုးတက်ရေးသာမက ကမ္ဘာ့ ငြိမ်းချမ်းရေး အတွက်ကိုပါ ထိုပုဂ္ဂိုလ်ကြီးက ဟောပြော ခဲ့သေးသည်။ ကမ္ဘာ၌ ငြိမ်းချမ်းရေး ရရှိနိုင်ရန် အတွက် ဘာသာအသီးသီး၏ ထူးခြားမြင့်မြတ်သော စံနမူနာ အယူဝါဒများကို လိုက်နာ ကျင့်ကြံရန် လိုအပ်ကြောင်း တိုက်တွန်း ပြောဆိုခဲ့သည်။

ဓမ္မနှင့် အဓမ္မ၊ အကောင်းနှင့်အဆိုး စစ်ဘက် ပြိုင်ဆိုင်ကြပုံများကိုလည်း ဟောကြားခဲ့သည်။ နောက်ပေါ် ပါရစီ ပညာရှင်တို့သည် အကောင်းနှင့် အဆိုးကို အကောင်းဘက် ကြည့်သော ဘုရားမျိုးနှင့် မကောင်းဘက် ကြည့်သော ဘုရားများ အဖြစ် ရုပ်လုံးဖော်

အသက်သွင်းပေး ခဲ့ကြသည်။ ပါရစီတို့၏ ဘုရားကား အဟုရမဇဒ အမည်ရှိ၏။

ပါရစီတို့၏ ဇင်းဒအဝက်စတား ကျမ်းတွင် လောကီကျင့်ဝတ်များ၊ ဆုတောင်းမေတ္တာစာများ အပြင် နက္ခတ်ဗေဒနှင့် ဆေးပညာများလည်း ပါရှိလေသည်။

ပါရစီတို့သည် မီးကိုလည်း များစွာ ရိုသေပြီး ရှိခိုး ပူဇော်ကြသည်။ ခရစ်နှစ် ရှစ်ရာစုတွင် ပါးရှားပြင်ကို မူဆလင်များ လွှမ်းမိုးသော အခါ ပါရစီ ဘာသာဝင်တို့မှာ အိန္ဒိယ နိုင်ငံသို့ ထွက်ပြေးလာကြပြီး အိန္ဒိယ အနောက်ပိုင်း ဒေသများတွင် အတည် တကျ အခြေချ နေထိုင်ခဲ့ကြလေသည်။

ညိုသောင်း

## ဒုတိယအကြိမ်ထုတ် အမှာစာ

ဤစာအုပ်ကို ပထမအကြိမ် ရိုက်နှိပ် ထုတ်ဝေပြီး သုံးလအတွင်း ဒုတိယအကြိမ် ရိုက်နှိပ်ရန် လိုအပ်လာပါသည်။ သို့သော် အကြောင်း အမျိုးမျိုးကြောင့် ထုတ်ဝေနိုင်ခြင်း မရှိခဲ့ဘဲ ယခုမှ ဒုတိယအကြိမ် ရိုက်နှိပ် ထုတ်ဝေရပါသည်။

ပထမကြိမ် ထုတ်ဝေသည့် စာအုပ်တွင် အမှားအယွင်း နည်းနိုင်သမျှ နည်းအောင် အထူး လုံ့လ ပြုခဲ့သော်လည်း ပုံနှိပ်ရာတွင် မှားယွင်းမှုများ ပါရှိနေသေးပါသည်။ ယင်းအမှား အယွင်းများကို ယခုအကြိမ်တွင် ဂရုတစိုက် ပြင်ဆင်ထားပါသည်။

ယခင် ထုတ်ဝေစဉ်က စက္ကူ အခက်အခဲကြောင့် အနည်းငယ် ချန်ထားခဲ့ရပါသည်။ နောက်ပိုင်း၌ ဖော်ပြပါရှိသည့် အခြားသော ဘာသာတရားများ၏ အကြောင်းတရား အကျဉ်းအခန်းမှ တာအိုဘာသာ၊ ဆစ်ခ်ဘာသာ၊ ရှင်တိုဘာသာ၊ ပါရစီ ဘာသာများကို ချန်ထားခဲ့ရပါသည်။ ယခု ဒုတိယအကြိမ် ထုတ်ဝေရာတွင် ထည့်သွင်း ရိုက်နှိပ်ပေးလိုက်ပါသည်။ အနည်းငယ် ဖြည့်စွက်ရန် လိုအပ်သည့် အခန်းအချို့မှ အပ မူလပထမအကြိမ် ရိုက်နှိပ်ထုတ်ဝေခဲ့သည့် အတိုင်း ထားရှိပြီး စာသားများ ထုတ်ပယ်ခြင်း၊ ပြင်ဆင်ခြင်း လုံးဝ မပြုဘဲ ထားရှိသည်။

ညိုသောင်း
၈-၈-၇၆

## ကျမ်းကိုးစာရင်း


1. The Brahma Sutra by Radhakrishnan, George Allen and Unwin Ltd; London, 1960.
2. Bhagavadgita by Radhakrishnan.
3. The Vedic Age Edited by RC. Majumdar, Bharatiya Vidya Bhavan, Bombay, 1965.
4. Ramayana by C. Rsjagopalachars.
5. Mahabharata by C. Rajagopalachari.
6. An Introduction to Indian Philosophy by Chatterjee and Dattn, Universitp of Calcutta, 1954
7. A Handbook of the Catholic faith by Dr. N.G.M Van Doornik and others, Image Books, New York, 1962.
8. This is Catholicism by John Walsh S.J, Image Books, Nwe York 1959.
9. New World Translation of the Holy Sriptures Watch Tower bible and Tract Society, New York, 1961.
10. Things in Which it is impossible for God to Lie, Watch Tower Bible and Tract Society, New York, 1965.
11. Ambassdor Collage Correspondence Course, Lesson 8, Passadena, California U.S.A.

12. Christian News from Israel Vol, No. 34 [7-8] 1878, Jerusalem.
13. What Anglicans Believe by David L, Edwards, Mowbrays, Landon, 1974.
14. Reader's Digest, March' 75.
15. Iman Islam - Belief and Islam by Halid E, Bagdadee, Hikmet Gazetecilik Ltd. sti, Istanbul, Turkey, 1972.
16. The way of Ehl-i-Sunnet bp Husenyi HilmiIsik, Istaubul, Turkey 1970.
17. The Religio of Islam bp Khurshid Ahmed Islamic Publication Ltd, Lahore, 1900.
18. The Propect of Islam by S. Abul & La Maududi Islamic Publication Ltd: Lahore, 1970.
19. Life after death by S. Abul & La Maududi, Islamic Publication Ltd. Lahore. 1970..
20. Islam An-Introduction Begum Aisha Bawany Wakf, Karachi, 1971.
21. Islam Our Choice, Begum Aisha Bawany Wakf, Karachi, 1970.
22. Islam & Christianity, by Begum Aisha Bawany Wakf; Karachi, 1970.
23. The Journa of Muslim World League (Voll; No. 12) (Sept. '74) Dept, of Press & publications, Sabitatnal Aalami Islami Mecce.
24. AL Islam (Vol. 4, No. 1) Jan. March' 73 Maulavi M.H. Babu Singapore.

25. Yaqueen International (Vol XXI, No. 12) Oct, 22, 1972, Parkistan.
26. Religion in Modern Life by George G;Haokman & Others, The Mac millan Ce New York, 1958.
27. The Religions of Man by Huston Smith Harpar & Row, New York & London, 1964.
28. The new Information Please Almanac 1966.
29. Observer 10 November 1974.
၃၀။ ဟိန္ဒူ ဓမ္မအပိုင်း(၁) ဟိန္ဒူဓမ္မ သင်ကြားရေးကော်မိတီ၊ ရန်ကုန်။
၃၁။ ဝိပဿနာ တက္ကသိုလ်ကျမ်းကြီး၊ ဉာဏစာရီ ဆရာတော်၊ ရန်ကုန်၊ ၁၉၆၅ ဓမ္မမိတ်ဆွေ။
၃၂။ ဒါနာဒီပနီ၊ စတုသစ္စဒီပနီ၊ နိယာမ ဒီပနီ၊ လယ်တီ ဆရာတော်၊ ဟံသာဝတီ၊ ရန်ကုန် ၁၉၅၇။
၃၃။ အဘိဓမ္မာ ဉာဏ်ရောင်ကျမ်း၊ အရှင် ကေသရမောဠိ ပညာရောင်ခြည်၊ ရန်ကုန်။
၃၄။ ဝိပဿနာရှုနည်း အကျဉ်းချုပ်၊ မဟာစည် ဆရာတော် သာသနာ့ရိပ်သာ ရန်ကုန် ၁၉၇၄။
၃၅။ နိဗ္ဗာန်၊ ဦးသော်ဇင် ဥယျာဉ်မှူးစာပေ၊ ရန်ကုန်၊ ၁၉၇၃။
၃၆။ ဓိနတ္ထပကာသနီကျမ်း၊ ကျီးသဲလေးထပ် ဆရာတော် ရန်ကုန်၊ သုဓမ္မဝတီ ၁၃၃၄။
၃၇။ အင်္ဂုတ္တရနိကာယ တိကနိပါတ ပါဠိတော်နှင့် ဂဏန်းပြ မြန်မာပြန် (ပထမလတ်)။
၃၈။ ဗုဒ္ဓဘာသာ ဟူသည်နှင့် အရိယာ ဟူသည်၊ တည်တော ဆရာတော်၊ စိန်မြစာပေ ရန်ကုန် ၁၉၇၃။
၃၉။ သတ္တာဝါအစ ဖြစ်ပုံ၊ တည်တော ဆရာတော်၊ စိန်မြစာပေ ရန်ကုန် ၁၉၇၃။

စာပေဟောင်းလေးအိုးကြီး